

# ဗုဒ္ဓကိုယ်တိုင်

## ဖြေကြားခဲ့ရသော

## မေးခွန်းနှင့်ပြဿနာများ

ပေါင်းချုပ်

ဒဂုန် ဦးစန်းငွေ

ဆဋ္ဌမအကြိမ်

ဗုဒ္ဓမြတ်စွာသည် ဘုရားဖြစ်တော်မူသည်မှစ၍
ပရိနိဗ္ဗာန်ပြုသည့်တိုင်အောင် (၄၅)ဝါ၊ ကာလပတ်လုံး
အမျိုးမျိုးသော မေးခွန်း၊ ပုစ္ဆာ၊ ပြဿနာများကို
ပြေလည်အောင် ဖြေကြားတော်မူခဲ့သည် . . .

# ဗုဒ္ဓကိုယ်တိုင် ဖြေကြားခဲ့ရသော

# မေးခွန်းနှင့် ပြဿနာများ

( ၁၊ ၂၊ ၃ ပေါင်းချုပ် )

ဒဂုန် ဦးစန်းငွေ ပြုစုသည်။

၂၀၀၀

# မာတိကာ

## မာတိကာ (ခ)

| အကြောင်းအရာ | စာမျက်နှာ |
|---|---|

## မာတိကာ (ဂ)

အကြောင်းအရာ — စာမျက်နှာ

## မာတိကာ (ဃ)

# မင်္ဂလာ စကားဦး

အတ္တဝါဒဖြင့် တင်းမာနေသော အိန္ဒိယပြည်ကြီး၌ အနတ္တဝါဒ ပေါ်ပေါက်လာသည်နှင့် တစ်ပြိုင်နက် မီးဂါတန် ၅၀ ဖုံး ကျလိုက်သလို တုန်လှုပ်ချောက်ချား ဝက်ဝက်ကွဲသွားပေသည်။ အတ္တဝါဒနှင့် အနတ္တဝါဒကား အဝိုင်းနှင့် လေးထောင့်လို ဘယ်နည်းနှင့်မျှ အံဝင်ခွင်ကျ စရေးစွပ်မရသည့် ဝါဒနှစ်ခု ဖြစ်သည့်အတိုင်း ထောင့်တိုင်း ထောင့်တိုင်းတွင် ပြဿနာများ ပေါ်၍လာရပေသည်။

အတ္တအစွဲအလမ်း ကြီးမားလှသည့် ဘာသာရေးထောင့်၊ လူမှုရေးထောင့်၊ စီးပွားရေးထောင့်၊ အိမ်ထောင်ရေးထောင့် အစရှိသော ထောင့်တိုင်းတွင် အနတ္တဝါဒ ဝင်ရောက်လာသောအခါ၌ ပြဿနာများ၊ မပြေလည်မှုများ ဖြစ်ပေါ်လာရခြင်းမှာ စင်စစ် သဘာဝကျလှသည်ဟုပင် ဆိုရမည်။ ထိုပေါ်ပေါက်လာသော ပြဿနာများကို ကြေညက်အောင် ဖြေရှင်းပေးနိုင်မှု ရှိ မရှိသည် ထိုအခါက အတ္တဝါဒနှင့် အနတ္တဝါဒရှင်တို့၏တာဝန် ဖြစ်လာသည်။

ထိုသို့ ပေါ်ပေါက်လာသော ပြဿနာများကို ကြေညက်အောင် ဖြေရှင်းပေးနိုင်လေလေ ထိုဝါဒရှင်တို့အဖို့ စည်းရုံးရေး ကောင်းလေလေပင် ဖြစ်သည်။ ကျွန်တော်တို့၏ ဗုဒ္ဓကြောင့် အနတ္တဝါဒ ပေါ်ပေါက်လာရခြင်းဖြစ်ရာ ဗုဒ္ဓသည် အနတ္တဝါဒရှင် ဖြစ်သည့်အတိုင်း ထောင့်တိုင်းမှ ပေါ်လာသော ပြဿနာများကို ဒိုင်ခံဖြေရှင်းပေးခဲ့သည်။ ဗုဒ္ဓဖြေရှင်းသည့်အတိုင်းလည်း ကျေလည်သည်။ ကျေလည်သလောက်လည်း စည်းရုံးရေးကောင်းလာသည်။ စည်းရုံးရေးကောင်းသလောက်လည်း ဗုဒ္ဓ၏ အနတ္တဝါဒသည် အောင်မြင်မှုရှိခဲ့ပေသည်။

ဗုဒ္ဓသည် ဘုရားဖြစ်ပြီးသည့်အချိန်မှစ၍ ၄၅–နှစ်အတွင်း 'စရထ ဘိက္ခဝေ စာရိကံ၊ ဒေသေထ ဘိက္ခဝေ ဓမ္မံ' ဟု ၎င်း၏ တပည့်ရဟန်းများကို ညွှန်ကြား

## မင်္ဂလာစကားဦး

သလို ၎င်းကိုယ်တော်တိုင်လည်း မနေမနား ဒေသစာရလှည့်လည်ကာ အနတ္တ ဝါဒကို ဟောပြတည်ဆောက်ခဲ့သည်။ ပေါ်လာသော ပြဿနာများကို ဖြေရှင်း ခဲ့သည်။

ရာဇဝင်မျက်စိနှင့် ကြည့်လျှင် ၄၅–နှစ်ဆိုသည်မှာ တိုတောင်းလှသော ကာလပင်ဖြစ်သည်။ ထိုမျှတိုတောင်းလှသော အချိန်ကာလအတွင်း အနတ္တဝါဒ ကြီးသည် ကမ္ဘာအရပ်ရပ်တွင် အောင်ပွဲခံနိုင်အောင် ပျံ့နှံ့သွားရခြင်းမှာ ဗုဒ္ဓ၏ ပြဿနာများကို ကိုင်တွယ်ရာ၌ နူးညံ့မှု၊ ကျင်လည်မှု၊ နည်းပရိယာယ် ကောင်းမွန် မှုများကြောင့်ဖြစ်သည်။

ထိုအချိန်က အိန္ဒိယပြည်ကြီး၌ အတ္တဝါဒသာ တင်းမာနေသည်မဟုတ်သေး။ ဝိသာခါ၊ အနာထပိဏ် စသော မြေရှင်ကြီးများ၏ အင်အားကလည်း မသေးလှပေ။ အရက်မူးအောင်သောက်ပြီး ဗုဒ္ဓဘက် ခြေထောက်ထားကာ ဖွတ်တရွတ်အိပ်နေ တတ်သည့် ရှင်သာဂတ ကဲ့သို့သော သူများကလည်း မရှားပေ။

သို့သော် ဗုဒ္ဓအနေဖြင့် နိဗ္ဗာန်သို့ပို့ဆောင်ရာ၌ အရှင်ရှင်၊ မြေရှင်ကြီးများပဲ ဟူ၍ ၎င်းတို့ကိုလည်း ချန်လှပ်ထား၍ မဖြစ်၊ ဖွတ်တရွတ် မိုက်ကန်းကန်းလုပ်သူ များပဲဟူ၍ ၎င်းတို့ကိုလည်း မျက်နှာလွှဲထားခဲ့၍ မဖြစ်။

ဗုဒ္ဓ၏ မဟာကရုဏာတော်ကား ကြီးမားလှပေသည်။ ကြီးမားသည့်အတိုင်း ဗုဒ္ဓသည် ဆင်းရဲချမ်းသာ၊ လူဖြူလူမည်း၊ လူမိုက်လူလိမ္မာ ခွဲခြားတော့်မမူဘဲ ၎င်း၏ အနတ္တဝါဒဖြင့် ဝေနေယျ(=ချွတ်ထိုက်သူ)မှန်သမျှကို တာဝန်အနေဖြင့် နိဗ္ဗာန်သို့ ပို့ပေးတော်မူခဲ့သည်။ ထိုတာဝန်ကို ထမ်းဆောင်ရန် ဘုရားမဖြစ်မီ လေးသင်္ချေ နှင့် ကမ္ဘာတစ်သိန်းကတည်းက ဗုဒ္ဓသည် ရည်ရွယ်ခဲ့ပြီးဖြစ်သည်။

ထိုသို့ ရည်ရွယ်ရင်းရှိသည့်အတိုင်းလည်း ပြဿနာများကို ဖြေကြား၍ အပြီးတွင်–

(က) ထိုထိုပြဿနာရပ်များ ဖြစ်ပွားလာရသော ဆင်းရဲမှုကိုလည်းကောင်း၊

(ခ) ထိုဆင်းရဲမှုပေါ်ပေါက်ရာ၊ မြစ်ဖျားခံရာ အကြောင်းရင်းကိုလည်း ကောင်း၊

(ဂ) ထိုဆင်းရဲမှုမှ လွတ်မြောက်ရာ နိဗ္ဗာန်ကိုလည်းကောင်း၊

(ဃ) ထိုနိဗ္ဗာန်သို့သွားရာ လမ်းခရီးကိုလည်းကောင်း–

လက်ညှိုးထိုးပြရင်း နိဂုံးချုပ်လေ့ရှိသည်။ ဤသည်လျှင် အနတ္တဝါဒ၏ အနှစ်သာရဖြစ်၍ ဗုဒ္ဓ၏ လိုလားချက်အကျဆုံးလည်း ဖြစ်သည်။ ဤလေးပါးကို သစ္စာလေးပါးဟူ၍ ခေါ်သည်။

# မင်္ဂလာစကားဦး

ဗုဒ္ဓသည် ပြဿနာတစ်ရပ်ရပ်ကို ဘယ်လိုကိုင်တွယ်၍ ဘယ်လိုဖြေရှင်းကာ ပြဿနာ၏ နိဂုံး၌ သစ္စာလေးပါးဖြင့် ဘယ်ကဲ့သို့ချုပ်လိုက်ကြောင်း မျက်မြင်ကိုယ်တွေ့ အများဆုံးတွေ့မြင်ခဲ့သူကား အရှင်အာနန္ဒာဖြစ်သည်။ ဗုဒ္ဓက ၎င်းပရိနိဗ္ဗာန်ပြုမည့် နေ့ကို ကြေငြာသောနေ့ (=အာယုသင်္ခါရ လွှတ်သောနေ့)၌ အရှင်အာနန္ဒာသည် ရှိုက်ကြီးတငင် ငိုကြွေးတော်မူသည်။ နောက်ထပ်ပေါ်လာမည့် ပြဿနာများကို ဘယ်သူက ဒိုင်ခံဖြေရှင်းပါတော့မည်နည်းဟု အရှင်အာနန္ဒာအနေဖြင့် အားငယ် ဝမ်းနည်းသွားဟန် တူသည်။

ထိုအခါ ဗုဒ္ဓက "ယော ဝေါ အာနန္ဒ မယာ ဓမ္မောစ ဝိနယောစ ဒေသိတော ပညတ္တော၊ သော ဝေါ မမစ္စယေန သတ္ထာ (=အာနန္ဒာ၊ ငါဘုရား မရှိသောအခါ၌ ငါ၏ဓမ္မနှင့် ဝိနယသည် သင်တို့၏ဆရာအဖြစ်ဖြင့် ပြဿနာရပ် များကို ဖြေရှင်းပေးလိမ့်မည်) ဟူ၍ မှာကြားတော်မူခဲ့သည်။

ဗုဒ္ဓမှာကြားတော်မူခဲ့သည့်အတိုင်းလည်း ဗုဒ္ဓမရှိသည့်နောက် နှစ်ပေါင်း ၂၅၀၀ ကျော်လာပြီးဖြစ်သည့် ယခုအချိန်တိုင်အောင် ဗုဒ္ဓကိုယ်စား ဒိုင်ခံဖြေရှင်း ပေးခဲ့သည်။ သို့သော် ဗုဒ္ဓ၏ဓမ္မနှင့် ဝိနယမှာ ပါဠိဘာသာဖြစ်နေသဖြင့်လည်းကောင်း၊ အကယ်၍ မြန်မာပြန်များ ရှိနေသည့်တိုင်အောင်လည်း လူထုနှင့် နီးစပ်သည့် ဝေါဟာရ စကားလုံးများ မဟုတ်သဖြင့်လည်းကောင်း လူများစု လေ့လာဖတ်ရှု နားလည်ရန် မလွယ်ကူလှပေ။

ယခု ဒဂုန်ဦးစန်းငွေ ပြုစုသည့် **"ဗုဒ္ဓကိုယ်တိုင်ဖြေကြားခဲ့ရသော မေးခွန်းနှင့် ပြဿနာများ"** စာအုပ်မှာ ဗုဒ္ဓ၏ ဓမ္မနှင့် ဝိနယ (=နိကာယ် ငါးရပ်)မှ ဗုဒ္ဓ ဖြေရှင်းပေးခဲ့သည့်ပြဿနာများအနက် လောလောဆယ်သိသင့်သည့် ပြဿနာများကို ထုတ်နုတ်တင်ပြထားခြင်းဖြစ်ရာ ပါဠိဘာသာကို မကျွမ်းကျင်သူများ၊ ခက်ခဲသည့် မြန်မာပြန်များကို မလေ့လာနိုင်သူများအဖို့ လက်ကမ်းကြိုဆိုသင့်သော စာအုပ်ဟုပင် ဆိုရမည်။

ဒဂုန်ဦးစန်းငွေမှာ လူနည်းစုနားလည်အောင် မြန်မာဝေါဟာရများကို ရွေးချယ် ရေးသားမှု၌ ကျွမ်းကျင်သူအဖြစ်ဖြင့် ကွယ်လွန်သူ လယ်တီပဏ္ဍိတ ဆရာဦးမောင်ကြီး၊ ပုပ္ပားဦးကျော်ရင် အစရှိသော ပညာရှိကြီးများကပင် ချီးကျူးခဲ့ရသူဖြစ်သည်။

ဤ "ဗုဒ္ဓကိုယ်တိုင် ဖြေကြားခဲ့ရသော မေးခွန်းနှင့် ပြဿနာများ" စာအုပ် ကို လေ့လာရာ၌ ပြဿနာပြေလည်ရုံလောက်တွင် မလေ့လာမူဘဲ ပြဿနာပြေလည်

## မင်္ဂလာစကားဦး

သည့် နောက်ဆုံး၌ (က) ဤပြဿနာများ ဖြစ်ပွားလာရသော ဆင်းရဲမှုကိုလည်း ကောင်း၊ (ခ) ဤဆင်းရဲမှုများ၏ မြစ်ဖျားခံရာအကြောင်းရင်းကိုလည်းကောင်း၊ (ဂ) ထိုဆင်းရဲမှုမှ လွတ်မြောက်ရာ နိဗ္ဗာန်ကိုလည်းကောင်း၊ (ဃ) ထိုနိဗ္ဗာန်သို့ သွားရာလမ်းခရီးကိုလည်းကောင်း၊ သိအောင် မြင်အောင် လေ့လာကျင့်ကြံနိုင်ကြမည်ဆိုလျှင်ကား သာလွန်၍ ဗုဒ္ဓအလိုကျ ဖြစ်လိမ့်မည်ဖြစ်ကြောင်း မင်္ဂလာစကားဦးအဖြစ်ဖြင့် မှာထားလိုပေသည်။

မြင့်ဆွေ
၁၉–၆–၆၈

# နိဒါန်း

ကျွန်ုပ်တို့၏ ဘုရားသခင် ဗုဒ္ဓဂေါတမသည် ပြိုင်ဘက်ကင်းစွာ ကျွတ်ကျွတ်လွတ်လွတ်၊ အေးအေးလူလူ ပွင့်တော်မူလာခဲ့ရသည် မဟုတ်၊ တောရိုင်းထွင်ရသည့် ပမာ ခဲခဲယဉ်းယဉ်း ပွင့်တော်မူလာခဲ့ရ၏။

အခါသမယကား ရှေးဟောင်း ဗြာဟ္မဏမင်းကြီးတို့၏ 'ဥပနိသျှဒ်' ကျမ်းများဆိုင်ရာ အယူအစွဲများ လွန်လွန်မင်းမင်း ပြင်းပြင်းထန်ထန် လွှမ်းမိုးနေချိန်ဖြစ်လေသည်။ လူတို့သည် ထိုအချိန်၌ မိမိတို့စွဲလမ်းရာ အယူအစွဲများအရ နတ်ကို လှိုက်လှိုက်လှဲလှဲ ပသလျက် ရှိကြကုန်၏။ သိကြားကို အားကိုးနေကြကုန်၏။ ဗြဟ္မာကို အလုပ်အကျွေးပြုလျက် ရှိနေကြကုန်၏။

နတ်ဝါဒ၊ ဗြဟ္မာဝါဒများ ထွန်းကားလျက်ရှိနေသော ထိုခေတ် ထိုအချိန်၌ ဘုရားပွင့်လာတော်မူမည်ဟူသော ဗုဒ္ဓကောလာဟလကလည်း ဖြစ်နေလျက် ရှိလေရာ 'ရောင်တော်ပြန်နှင့် ရောချလွှတ်' ဆိုသကဲ့သို့ ပူရာဏကဿပ၊ မက္ခလိဂေါသာလ၊ အဇိတကေသကမ္ဗလ၊ ပကုဓကစ္စာယန၊ နိဂဏ္ဌနာဋပုတ္တနှင့် သဉ္စယဗေလဋ္ဌပုတ္တ၊ ဤပုဂ္ဂိုလ်ကြီး ခြောက်ဦးတို့သည် ကိုယ့်ကိုယ်ကို 'ဘုရား' ဟု သမုတ်လျက် အထင်အရှား ဘုရားလုပ်နေကြလေသည်။

ယင်း ဘုရားကြီးခြောက်ဆူတို့အနက် မက္ခလိဂေါသာလကဆိုလျှင် အဟေတုက ဝါဒကို တွင်တွင်ကြီးဟောလျက် လူတို့ကို သိမ်းသွင်းနေ၏။ ထို့အတူ အဇိတက ဥစ္ဆေဒ ဝါဒကိုလည်းကောင်း၊ ပကုဓ အကတဝါဒကိုလည်းကောင်း၊ နိဂဏ္ဌက စတုယာမသံဝရ ဝါဒကိုလည်းကောင်း၊ သဉ္စယက အနိစ္ဆိတ ဝါဒကိုလည်းကောင်း လက်ကိုင်ပြုကာ မိမိတို့ဝါဒပြန့်ပွားမှုကို ရှေးရှု၍ အပတ်တကုတ် စည်းရုံးလုံးပန်းလျက် ရှိနေကြကုန်၏။

သူတို့၏နောက်၌ သူတို့ကို ယုံမှတ်ကိုးကွယ်နေသော တပည့်သာဝကများလည်း အထိုက်အလျောက် အသီးသီး သူ့အုပ်စုနှင့်သူ ရှိနေကြသည်ဖြစ်ရာ

## နိဒါန်း

ထိုအချိန်က မဇ္ဈိမဒေသတွင် ဘုရားခြောက်ဆူမှ လွတ်သောနေရာဟူ၍ မရှိသလောက်ပင် ဖြစ်ခဲ့သတည်း။

ကျွန်ုပ်တို့ ဗုဒ္ဓရှင်တော်မြတ်ဘုရားသည် ထိုဘုရားကြီးများ လွှမ်းမိုးကြီးစိုးနေသောကြားမှ ခဲခဲယဉ်းယဉ်းထွက်ပြူကာ ပွင့်တော်မူလာခဲ့ရပေသည်။ ပွင့်တော်မူနှင့်ပြီးဖြစ်သော ထိုဘုရားကြီးများကို ထောက်လျှင် ဗုဒ္ဓဂေါတမမှာ နောက်မှ ပွင့်တော်မူလာသော 'ဗုဒ္ဓအသစ်'ဖြစ်နေခြင်း၊ ဝါအားဖြင့်လည်း အနုဆုံးဖြစ်ခြင်း၊ ဘုရားခြောက်ဆူ ဂိုဏ်းဂဏ၏ ဝါဒများမှာလည်း ထိုအချိန်၌ အတော်ပင် အခြေစိုက်မိနေပြီ ဖြစ်ခြင်းတို့ကြောင့် သာမန်ပုဂ္ဂိုလ်သာဖြစ်ပါမူကား ထိုဘုရားကြီးများကို ထိုးဖောက်ကျော်လွှားနိုင်ရန်မှာ အလွန်မလွယ်ကူသော ကိစ္စကြီးဖြစ်လေသည်။

သို့သော် ဝါနုခြင်း၊ ဝါရင့်ခြင်း၊ ရှေးဖြစ်ခြင်း၊ နောက်ဖြစ်ခြင်းသည် အကြောင်းမဟုတ်။ စစ်မှန်၍ အနှစ်သာရပြည့်ဝသော သစ္စဓမ္မသည်သာ လိုရင်းပဓာနဖြစ်၏။ ဗုဒ္ဓပွင့်တော်မူလာလျှင်ပင် ရှေးဦးစွာ ဓမ္မစက္ကခေါ်သော တရားစက်ရုံကြီး တည်ဆောက်တော်မူကာ၊ ပဝတ္တနဉ်ဟိုတရားစက်ရုံကြီးကို လူသိနတ်ကြားသစ္စာလေးပါး သော့ချက်ဖြင့်ဖွင့်၍ ကမ္ဘာထက်ဝန်းကျင်၌ လည်စေတော်မူသောအခါမှစ၍ ဗုဒ္ဓ၏ကျော်စောသတင်းများသည် လေ၏အလား လွင့်ပါးလျက် အရပ်ထက်ဝန်းကျင်ပြန့်၍ စွဲတည်လေ၏။

ဘုရားခြောက်ဆူ ဂိုဏ်းအုပ် ဂိုဏ်းချုပ်တို့ကား မိမိတို့၏ ဂိုဏ်းဂဏပြန့်ပွားရေးကိုသာ ရှေးရှုလျက် ကိုယ့်ဘက်သို့ ကိုယ်ယက်ကာ သိမ်းသွင်းနေကြကုန်သော်လည်း ဗုဒ္ဓဂေါတမမူကား ကိုယ့်ဘက်သို့ကိုယ်ယက်ခြင်း မပြု။ လူတစ်ဖက်သားအားကိုယ့်ဘက်ပါအောင် အဓမ္မသိမ်းသွင်းခြင်းမရှိ။ မည်သည့်အယူအဆ၊ မည်သည့်သဘောတရားမျိုးမဆို တစ်ဆင့်ကြားစကားမျှဖြင့် 'ဟုတ်လှပြီ'ဟု ယောင်ဝါးဝါးမယူလေနှင့်၊ လက်မခံလေနှင့်။ ဤကား ခေတ်အဆက်ဆက်က ဆင်းသက်လက်ခံလာခဲ့သော အယူဝါဒဖြစ်သည်ဟူ၍လည်းကောင်း၊ ကျမ်းဂန်အဆိုအမိန့်နှင့်ကိုက်ညီသည်ဟူ၍လည်းကောင်း၊ ကိုယ့်ယူဆချက်နှင့် သူ့ဝါဒ နီးနှောမိသည်ဟူ၍လည်းကောင်း၊ ဤသည်ကား ငါတို့ လေးစားအပ်၊ မြတ်နိုးအပ်သော ဆရာကြီးများ၏ စကားဟူ၍လည်းကောင်း၊ ဤသို့ ဤသို့သော အကြောင်းပြချက်မျိုးဖြင့် မည်သည့်အယူဝါဒကိုမျှ လက်မခံသင့်။

အကြင်သဘောတရားတစ်ခု၊ အကြင်အယူဝါဒတစ်ခုသည် ကောင်းမြတ်၏။ ယင်း အယူဝါဒကို လိုက်နာကျင့်သုံးခြင်းဖြင့် အကျိုးစီးပွားဖြစ်ထွန်း၏။ ကိုယ့်အတွက်လည်းကောင်း၊ အများအတွက်လည်းကောင်း ချမ်းသာသုခကို ပွားတိုးစေ၏။ ထိုအယူဝါဒ၊ ထိုသဘောတရားကိုသာ လက်ခံထိုက်ပေသည်ဟု မိမိကိုယ်ပိုင်ဉာဏ်ဖြင့်

# နိဒါန်း

လွှတ်လပ်စွာတွေးခေါ်ခွင့်၊ ယူပိုင်ခွင့်ကို လောကသားတို့အား တံခါးဖွင့်ပေးထားသော ဝါဒဖြစ်သောကြောင့် ဗုဒ္ဓ၏ ယင်းဝါဒကို "ဗုဒ္ဓိဝါဒ= အသိဉာဏ်ပညာပေးဝါဒ"ဟူ၍ လောကသား များစွာတို့က နှစ်ခြိုက်စွာ လက်ခံလာကြလေသည်။

ဤမျှသာမက ဗုဒ္ဓဂေါတမသည် အဂ္ဂေါ=အမြတ်ဆုံး ဆိုပါကလား၊ သေဋ္ဌော=ပူဇော်အထူးခံ ပုဂ္ဂိုလ်ဆိုပါကလား၊ ဇေဋ္ဌော=အကြီးဆုံးဆိုပါကလား၊ ဗုဒ္ဓေါ=သူ မသိတာ ဘာမျှမရှိ၊ အရာခပ်သိမ်းကို အကြွင်းမဲ့ အကုန်သိဆိုပါကလား။ ဤကျော်စောသံများသည် ဘဝဂ်မဆုံ လွှမ်းမိုးဖြန့်လျက် ပျံ့နှံ့၍ တက်သွားလေရာ ဤသည်တို့ကြောင့်လည်း လက်ရှိဘုရား ခြောက်ဂိုဏ်းမှ ဘုရားကြီးများနှင့်တကွ ယင်းတို့၏ အသိုင်းအဝိုင်းတို့ကား အလိုအလျောက် ဖိမ့်ဖိမ့်တုန်အောင် ချောက်ချား ကုန်ရလေသည်။

ဗုဒ္ဓဂေါတမသည် သူ မသိတာ ဘာမျှမရှိဘူးတဲ့၊ အရာခပ်သိမ်းကို သူ သိတော်မူသတဲ့ဟူသော ကျော်စောလာမှုသည် ဗုဒ္ဓထံမှောက်သို့ ပြဿနာရှင်များစွာတို့ ရောက်ရှိလာအောင် ဖိတ်ခေါ်လိုက်သကဲ့သို့ ဖြစ်လာသည်။ ထို့ကြောင့် ဟိုက လာမေး၊ သည်က လာမေး၊ မရေမတွက်နိုင်အောင် များပြားစွာသော မေးခွန်းတွေ ဗုဒ္ဓထံ ရောက်လာကုန်လေတော့သည်။

(၁) အချို့က သိချင်လှ၍ ရိုးသားစွာ မေးလာ၏။
(၂) အချို့က ပညာစမ်းလို၍ မေးလာ၏။
(၃) အချို့က ကျင့်ကြံအားထုတ်လို၍ မေးလာ၏။
(၄) အချို့က ကိုယ့်အတွက် မေးလာ၏။
(၅) အချို့က အများအတွက် မေးလာ၏။
(၆) အချို့က ပစ္စည်းဥစ္စာကို တရားနှင့်အညီ သုံးစွဲနည်း ဓမ္မအကြောင်းကို မေးလာ၏။
(၇) အချို့က အာရုံခံစားမှု၊ သုံးဆောင်ခြင်း ကာမ အကြောင်းကို မေးလာ၏။
(၈) အချို့က ဥစ္စာကို ထာဝရဇာဂ်မ ထားသိုနည်းဟု ဆိုအပ်သော အတ္တအကြောင်းကို မေးလာ၏။
(၉) အချို့က နိဗ္ဗာန်ဟု ဆိုအပ်သောမောက္ခ အကြောင်းကို မေးလာ၏။
(၁၀) အချို့က ရုပ်နာမ်အကြောင်းကို မေးလာ၏။

ဤသို့လျှင် လူအထပ်ထပ်၊ နတ်အဖြာဖြာ၊ ဗြဟ္မာအခန်းခန်း၊ ရဟန်း အသီးသီးတို့ မေးလာသမျှသော မေးခွန်းပြဿနာရပ်များကို ဗုဒ္ဓသည် ပြီးပြေ အောင် ဖြေဆိုတော်မူခဲ့လေသည်။

စပယ်ဦးစာပေ

# နိဒါန်း

မေးကြသည်။ ဖြေ၏။ မေးသည်။ ဖြေကြ၏။ ဤသို့အားဖြင့် ဗုဒ္ဓနှင့် လူသားများ၊ ဗုဒ္ဓနှင့် နတ်ဗြဟ္မာများ၊ ဗုဒ္ဓနှင့် ဘိက္ခု၊ ဘိက္ခုနီများ အပြန်ပြန်အလှန်လှန် မေးဖြေပြုချက်များကို တစ်ပေါင်းတည်း စုစည်းလိုက်သောအခါ ပိဋကတ်တော်များ ဟူ၍ ဖြစ်လာသည်။

ဗုဒ္ဓအမြင်ကို လေ့လာလိုသူ၊ ဗုဒ္ဓစကားတော်ကို လေ့လာလိုသူ၊ ဗုဒ္ဓ၏ ကြံစည်တွေးခေါ်မှုကို လေ့လာလိုသူများသည် ပိဋကတ်တော်များကို ကြည့်ရှုရှာဖွေ ကြရ၏။ ပိဋကတ်တော်များကို ကြည့်ရှုရှာဖွေကြရ၏။ ပိဋကတ်တော်များမှအပ ဗုဒ္ဓကိုလည်းကောင်း၊ ဗုဒ္ဓ၏အမြင်ကို လည်းကောင်း ရှာဖွေတွေ့ရှိနိုင်သည်မဟုတ်။

သိပ္ပံပညာများ ထွန်းကားလျက်ရှိသော ယနေ့ခေတ်၌ မည်သည့်အရာ မျိုးကိုမဆို သိပ္ပံနည်းကျကျ လေ့လာပြီးမှ လက်ခံသင့်လျှင် လက်ခံ၍ ပယ်သင့်လျှင် ပယ်ကြရ၏။ အရမ်းကာရော ယုံကြည်ခြင်း၊ လက်ခံခြင်း မပြုကြချေ။

ယနေ့ခေတ်၌ ဗုဒ္ဓကိုလေ့လာသူများ အတော်ပင် များပြားလာသည်ကို တွေ့ရသည်မှာ ဝမ်းမြောက်ဖွယ်ပင်ဖြစ်ပေသည်။ ပိဋကတ်တတ်ကျွမ်းသူများအနေဖြင့် ဗုဒ္ဓကို လေ့လာရန် မခဲယဉ်းသော်လည်း မကျွမ်းကျင်သူများအဖို့ လွယ်ကူစွာ လေ့လာနိုင်ခြင်းငှာလည်းကောင်း၊ ဗုဒ္ဓသည် လောကသားတို့အတွက် အဘယ်မျှ အကျိုးသက်ရောက်စွာ စွမ်းဆောင်တော်မူခဲ့ပုံကို သိရှိကြစေခြင်းငှာလည်းကောင်း၊ ယနေ့ သုတေသီတို့နှင့် အထူးသင့်လျော်မည်ထင်ရသော အချက်အလက်များကို ပိဋကတ်တော်၌ လာရှိသည့် အထွေထွေသော ပြဿနာရပ်များမှ ရွေးထုတ်ပြီးလျှင် "ဗုဒ္ဓကိုယ်တိုင် ဖြေကြားခဲ့ရသော မေးခွန်းနှင့်ပြဿနာများ" ဟူသော အမည်ဖြင့် ဤစာအုပ်ကို ရေးသားအပ်ပါသည်။ ရေးသားရာ၌ ခေတ်သုံးစကားလုံးဖြင့်ချည်း ဖော်ပြရန် စိတ်ကူးကြည့်မိ၏။ သို့ရာတွင် အရိုးကို အရွက်မဖုံးစေလိုသဖြင့် အချို့အချို့တို့ကို မူလသုံးဝေါဟာရအတိုင်းထား၍ သုံးသွားပါသည်။ ဤနေရာတွင် ဝေါဟာရဆန်းသစ်ခြင်းထက် ဗုဒ္ဓအလိုကျ ဆိုလိုရင်း အနက်အဓိပ္ပာယ်ကို နားလည် လွယ်မှု၊ သိမှုသည်သာ ပဓာနဟု ယူဆသဖြင့် အလွန်အကျွံချဲ့ကားမှုမပြုပါ။

ဤစာအုပ်ဖြင့် ကျေးဇူးရှင် ဆရာများကိုလည်းကောင်း၊ မိဘများကိုလည်း ကောင်း ရိုသေစွာ ကန်တော့ပါ၏။

အဂ္ဂန်ဦးစန်းငွေ
ရန်ကုန်မြို့။

၁၉၆၈-ခု၊ ဇွန်လ ၁၆-ရက်။

စပယ်ဦးစာပေ

နမောတဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

# ဗုဒ္ဓ၏ အမည်နာမတော်

**ပြဿနာ = တင့်တယ်သော ရုပကာယ။**

**မေးလျှောက်သူ = ဥပက (တက္ကတွန်း)။**

နောင်အချိန်တွင် မဆာဝါနှင့် ညား၍ မုဆိုးကြီး၏ သမက်ဖြစ်လတ္တံ့သူ ဥပကအမည်ရှိသော ဦးပြည်းခေါင်းတုံးနှင့် ဖန်ရည်ဆိုးသောအဝတ်ကို ဝတ်ထားသူ တက္ကတွန်းသည် ဂယာသီအရပ်မှ မဟာဗောဓိဘက်သို့ ရှေးရှု၍ တစ်ယောက်တည်း လျှောက်လာနေသည်။

ထိုအချိန်မှာပင် ဘုရားအဖြစ်သို့ရောက်တော်မူ၍ လ,သားမျှသာ ရှိသေးသော မြတ်စွာဘုရားကလည်း မဟာဗောဓိမှ မိဂဒါဝုန်တောရှိရာ ဗာရာဏသီဘက်သို့ တစ်ပါးတည်း ထွက်ကြွတော်မူလျက် ရှိနေသည်။

တစ်နေရာ၌ ဗုဒ္ဓမြတ်စွာနှင့် ဥပကတို့ ဆုံမိကြလေ၏။ အသွင်တော် တစ်မျိုးဖြင့် ပြိုးပြိုးပြက်ပြက် တလက်လက် ရောင်ခြည်တော် ကွန့်မြူးကာ အထူး တင့်တယ်သပ္ပာယ်လှသော ဗုဒ္ဓ၏အသွင်တော်ကို ဖူးမြင်ရသောအခါ ဥပကတက္ကတွန်း သည် ရွှန်းရွှန်းစားစား ငေးကြည့်နေမိသည်။ ဤသို့သောအသွင်ထူးကို တစ်ခါဖူးမျှ မတွေ့ဖူးသဖြင့် အလွန်လည်း အံ့သြနေမိသည်။ နောက် သူကပင် စတင်၍ နှုတ်ခွန်းဆက်လေ၏။

မေး။ ငါ့ရှင်ရဟန်းကြီး၊ သင်ကား ကျန်းမာ့ရှိစွ။ သင်၏အသွင်သည် လွန်စွာတင့်တယ်၍ ကြည်ညိုဖွယ်ကောင်းလေစွ။ ပလျှမ်းတောက်ပြောင်သော ကိုယ်ရောင်ကိုယ်ဝါလည်း ရှိပေ၏။ အသင်သည် အဘယ်သူကို ရည်မှန်း၍ ရဟန်းပြုဘိသနည်း။ သင်၏ဆရာကား အသူဖြစ်ပါသနည်း။

ဖြေ။ အိုဥပက၊ ငါကား မကြာသေးသောအချိန်က ကိလေသာကို တွန်းလှန်၍ အောင်ပွဲခံလာခဲ့သူတည်း။ တဏှာ၏ကုန်ရာ နိဗ္ဗာန်ဘုံကို အာရုံပြု

ပြီးသော ငါ၊ သစ္စာလေးပါးကို ငါ၏ ထိုးထွင်းဉာဏ်ဖြင့် အမှန်သိပြီးသော ဘုရားစင်စစ်ဖြစ်သောကြောင့် ငါက အဘယ်သူ့ကို ဆရာတင်မည်နည်း။ ငါ့မှာ ဆရာမရှိ။ လောကဓာတ်ဝန်းကျင်၌ ငါနှင့်တူသူ တစ်ယောက်မျှ မရှိ။

အို-ဥပက၊ လောက သုံးပါး၌ ပူဇော်အထူးခံ ဘုရားရဟန္တာတည်း။ ရိုင်းပျ ရုန့်ကြမ်းသူတို့အား ယဉ်ပါးလာအောင် ငါဆုံးမနိုင်၏။ နတ်၊ လူ၊ ဦးခိုက် ဆရာ ကား ငါဖြစ်၏။ ငါ့ကို တုဘက်ပြိုင်နိုင်သူမရှိ။ ပြိုင်ဘက်မပြု ငါကား တစ်ဆူတည်းသော ဘုရားဖြစ်သည် ဥပက။

(ထိုစဉ်အခါ ဥပက ခေါင်းညိတ်၍-)

မေး။ ဩ-ဟုတ်ပေလိမ့်မည်။ အသင်၏ရုပ်လက္ခဏာကို ထောက်သော အားဖြင့် အသင်ဆိုသော စကားသည် မှန်လောက်စရာ ရှိပါသည်။ ဒါထက် ငါ့ရှင်၊ သင်၏အမည်နာမကို ပြောမပြနိုင်ပေဘူးလား။ ကျွန်ုပ် သိချင်ပါသည်။ သင့် အမည်က ဘယ်လိုခေါ်ပါသလဲ။

ဖြေ။ အို-ဥပက၊ ဘုရားအဆူဆူ ပွင့်တော်မူသွားကုန်ပြီ။ ငါကဲ့သို့ပင် ဘုရားနှင့်နှင်ဖြစ်ကုန်သော ထိုမြတ်ဘုရားတို့၏ အမည်တော်ကား 'ဇိန'ဟူ၍ တွင်ကုန်၏။ ငါသည် မာရ်ငါးပါးကို အောင်နိုင်သူဖြစ်ရကား ရှေးဘုရားတို့၏ အမည်နာမတော်နှင့် အလားတူ ငါ့အမည်သည်လည်း 'ဇိန'မည်ပေသတည်း။

မေး။ ဩ-ဦးဇိန၊ ဟုတ်စ။

ဖြေ။ မှန်၏ ဥပက၊ ငါ့အမည် ဦးဇိန။

မေး။ အရှင်ဦးဇိန၊ ယခု ဘယ်ကြွမည်လို့ပါနည်း။

ဖြေ။ အို-ဥပက၊ ငါ မိဂဒါဝုန်တောသို့ သွားအံ့။ ပဉ္စဝဂ္ဂီရဟန်းတို့အား ငါသွား၍ တရားဟောအံ့။

မေး။ နောက်တစ်နေ့တွင် ငါ့ရှင်နှင့် တွေ့လိုပါသေး၏။

ဖြေ။ ကောင်း၏ ဥပက၊ သင် တွေ့လိုသောအခါ ငါ့ထံလာခဲ့လော့။

ဤသို့ မေး ဖြေ ပြုကြပြီး ဗုဒ္ဓနှင့် ဥပက ထိုနေရာမှ လမ်းခွဲကြလေ၏။

(ဝိနယပိဋက မဟာဝါပါဠိတော်။ မဟာခန္ဒက)

# ဘုရား ရဟန္တာနှင့် ငါဟူသော ဝေါဟာရ

**ပြဿနာ = ဘုရား ရဟန္တာ၌ အတ္တစွဲ ရှိသလော။**

**မေးလျှောက်သူ = တောနီး နတ်သားတစ်ဦး။**

တစ်ဦးသော နတ်သားသည် တစ်ခုသော တောအုပ်ကြီး၌ နေ၏။ သူနေသော တောအုပ်ထဲသို့ ရဟန္တာကြီးများ လာရောက်နေထိုင်ကြလေရာ ထိုနတ်သားသည် ရဟန္တာကြီးများ အချင်းချင်းပြောကြသော စကားများကို ကြားနေရ၏။

ထိုအခါ ယင်းရဟန္တာကြီးများ ပြောစကားကို အကြောင်းပြု၍ ထိုနတ်သားသည် ရဟန္တာကြီးများအပေါ်တွင် ယုံမှားသံသယဖြစ်လာသည်။

ရဟန္တာကြီးများ ပြောဆိုကြသည့် စကားများကား၊ "ငါစားသည်၊ ငါသောက်သည်၊ ငါအိပ်သည်၊ ငါ့ပစ္စည်း၊ ငါ့ဟာ၊ ငါ့သပိတ်၊ ငါ့သင်္ကန်း" ဤသို့စသည်ဖြင့် အတ္တစွဲ ငါ၊ ငါ ဟူသော စကားများဖြစ်သတည်း။ ထိုစကားကို အကြောင်းပြု၍ နတ်သားသည် တွေးမိလာ၏။ "အစက ဤကိုယ်တော်ကြီးများကို ရဟန္တာဟု ငါမှတ်ထင်ခဲ့သည်။ ရဟန္တာတို့ မည်သည် ငါ, ငါဟူ၍ အတ္တစွဲနှင့် စပ်သောစကား၊ အတ္တစွဲမကင်းသော စကားကို ဆိုကြ၊ ပြောကြရာသလော၊ မဆိုမပြောရာသလော"ဟု သို့လော သို့လော တွေးတော ဒွိဟ သံသယ ဖြစ်လာသည်။

တစ်နေ့သ၌ ထိုနတ်သားသည် မိမိ၏ ယုံမှားသောသံသယ ကင်းပခြင်းငှာ ဘုရားအထံတော်သို့ ချဉ်းကပ်ပြီး ထိုပြဿနာရပ်ကို တင်ပြလျှောက်ထားကာ မေးမြန်းခြင်းပြုလေ၏။

မေး။ လူ၊ နတ်၊ ဗြဟ္မာတို့၏ ဆရာဖြစ်တော်မူသော မြတ်စွာဘုရား၊ အကြင်ရဟန်းသည် ရဟန္တာဆိုပါက၊ ရဟန်းကိစ္စပြီးစီးသော ပုဂ္ဂိုလ်မှန်ပါက၊ အာသဝေါကုန်ခန်းပြီး ဖြစ်ပါက၊ တစ်ဖန် ပဋိသန္ဓေနေရခြင်း မရှိသော နောက်ဆုံး ခန္ဓာဝန်

အတ္တဘောရှိသည်ဆိုပါက ထိုရဟန်းသည် "အဟံ ဝဒါမိ=ငါပြောသည် ဟူ၍လည်းကောင်း၊ အဟံ ပိဝါမိ=ငါသောက်၏ဟူ၍လည်းကောင်း၊ မမစီဝရံ=ငါ့သင်္ကန်းဟူ၍ လည်းကောင်း" အတ္တစွဲ ငါဟူသောစကားကို ဆိုရာပါသလော။

ဖြေ။ အချင်း ဒါယကာနတ်သား၊ မှတ်သားနာယူလော့။ အကြင်ရဟန်းသည် ကုန်ပြီးသော အာသဝေါတရား လေးပါးလည်းရှိ၏။ ပြီးပြီးသောရဟန်းကိစ္စ ၁၆-ပါးလည်း ရှိ၏။ နောက်ထပ်တစ်ဖန် ပဋိသန္ဓေနေခြင်းမရှိသော နောက်ဆုံး ခန္ဓာဝန်ကိုလည်း ဆောင်၏။ ထိုရဟန်းသည် အဟံ ဝဒါမိတိပိ=ငါပြောသည်၊ ငါဆိုသည်ဟူ၍လည်းကောင်း၊ မမံ=ငါ့ကို ပရေ=တစ်ပါးသောသူတို့က၊ ဝဒန္တိ တိပိ=ပြောကုန်သည်၊ ဆိုကုန်သည်ဟူ၍လည်းကောင်း ပြောဆိုပေရာသည်။ ခန္ဓာလောက၌ လိမ္မာသောရဟန်းကား လူ့ဝေါဟာရ၊ လူ့အသုံးအနှုန်းကို သိတော်မူ၏။ သိသောကြောင့် လောက ဝေါဟာရမျှဖြင့် ဆိုရာသည်၊ ဆိုနိုင်ပေသည်၊ ဆိုကောင်းသည် မှတ်ရာ၏။

အချင်း ဒါယကာနတ်သား၊ ငါ ထင်ရှားစွာဆိုဦးအံ့။ ခန္ဓာငါးပါးတို့သည် သွားကုန်၏၊ စားကုန်၏၊ ရပ်ကုန်၏၊ နေကုန်၏။ ခန္ဓာငါးပါးတို့သည် အိပ်ကုန်၏၊ သောက်ကုန်၏ဆိုခဲ့သော်လည်းကောင်း၊ ဤသင်္ကန်းကား ခန္ဓာငါးပါး၏သင်္ကန်းတည်း။ ဤသပိတ်ကား ခန္ဓာငါးပါး၏ သပိတ်တည်းဟု ဤသို့သော ဝေါဟာရဖြင့် ဆိုခြင်း၊ ပြောခြင်း၊ သုံးနှုန်းခြင်းပြုခဲ့သည်ရှိသော်လည်းကောင်း၊ လောက ဝေါဟာရ အစဉ်အလာ ပြောရိုး၊ ဆိုရိုး၊ လူ့အသုံးအနှုန်း ပျက်လေ၏။

အချင်း ဒါယကာနတ်သား၊ ယင်းသို့ ခန္ဓာငါးပါး သွားသည်၊ ခန္ဓာငါးပါး စားသည် စသည်ဖြင့် မဆိုဘဲ လူ့ဝေါဟာရ၊ လူ့အသုံးအနှုန်းဖြင့်သာလျှင် (လူ့ဝေါဟာရနှင့် မဆန့်ကျင်သော စကားဖြင့်) ရဟန္တာပုဂ္ဂိုလ်သည် ဆိုပေရာ၏။ လောကဝေါဟာရ လူ့အသုံးအနှုန်း မပျက်စေခြင်းငှာ၊ နားလည်စေခြင်းငှာ ငါသွားသည်၊ ငါစားသည်၊ ငါ့သင်္ကန်းဟူ၍ ဘုရားပစ္စေကဗုဒ္ဓါတို့သည်လည်း ဆိုကုန်၏။ ရဟန္တာတို့သည်လည်း ဆိုပေကုန်၏။ အတ္တစွဲဟူ၍ ဆိုသည်မဟုတ်။

(သဂါထာဝဂ္ဂ သံယုတ်ပါဠိတော်နှင့် ၎င်းအဋ္ဌကထာ)

# သဗ္ဗညုတ

**ပြဿနာ = ဘုရား၌ သဗ္ဗညုတဉာဏ် ရှိ မရှိ။**

**မေးလျှောက်သူ = ပဉ္စေ့နုဒီ ကောသလမင်း။**

ကောလာဟလ[၁] ငါးပါးရှိ၏။ ငါးပါးဟူသော်ကား–

(၁) ကပ္ပ ကောလာဟလ၊
(၂) ဗုဒ္ဓ ကောလာဟလ၊
(၃) စက္ကဝတ္တိ ကောလာဟလ၊
(၄) မင်္ဂလာ ကောလာဟလ၊
(၅) မောနေယျ ကောလာဟလ
ဤငါးပါးတည်း။

## (၁) ကပ္ပ ကောလာဟလ

ထိုငါးပါးတွင် ဤနှစ်မှ အနှစ်တစ်သိန်းထက်၌ ကမ္ဘာပျက်လတ္တံ့။ မေတ္တာ၊ ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာ ဟူသော ဗြဟ္မဝိဟာရ တရားလေးပါးကို ပွားစေကြကုန်ဟု လောကဗျူဟာနတ်သို့ လမ်းဆုံလမ်းမတို့၌ ကြွေးကြော်ခြင်းသည် ကပ္ပ ကောလာဟလ မည်၏။

## (၂) ဗုဒ္ဓ ကောလာဟလ

ဤနှစ်မှ အနှစ်တစ်ထောင်ထက်၌ သဗ္ဗညုဘုရား ထင်ရှားပွင့်တော်မူလိမ့်မည်။ ဓမ္မာနုဓမ္မပဋိပဒါကို ရိုသေစွာ ကျင့်ကြကုန်သော သံဃာရတနာအပေါင်းကောင်းစွာခြံရံလျက် ဒေသနာအမြိုက်ဆေးကို တိုက်ကျွေးတော်မူလို၍ ဒေသစာရီ

၁။ ကောလာဟလ = အုတ်အုတ်ကျက်ကျက် တစ်ခဲနက် ကြွေးကြော်ခြင်း။

ကြွချီတော်မူလတ္တံ့ဟူ၍ ဤသို့ နတ်တို့ကြွေးကြော်ခြင်းသည် ဗုဒ္ဓကောလာဟလ မည်၏။

## (၃) စက္ကဝတ္တိ ကောလာဟလ

ဤနှစ်မှ အနှစ်တစ်ရာထက်၌ လေးကျွန်းလုံးကို အစိုးရသော၊ ရတနာ ခုနစ်ပါးနှင့်ပြည့်စုံသော၊ တစ်ထောင်အလွန်ရှိသော သားရတနာအပေါင်း ခြံရံလျက် စကြာဝတေးမင်း ဖြစ်လတ္တံ့ဟူ၍ ဤသို့ နတ်တို့ကြွေးကြော်ခြင်းသည် စက္ကဝတ္တိ ကောလာဟလ မည်၏။

## (၄) မင်္ဂလာ ကောလာဟလ

ဤနှစ်မှ ဆယ့်နှစ်နှစ်အထက်၌ မင်္ဂလာတရား ထွန်းကားလတ္တံ့ဟူ၍ ကြွေးကြော်ခြင်းသည် မင်္ဂလာ ကောလာဟလ မည်၏။

## (၅) မောနေယျ ကောလာဟလ

ဤနှစ်မှ ခုနစ်နှစ်အထက်၌ မောနေယျအကျင့်ကိုကျင့်သူ ထွန်းကားလတ္တံ့ ဟူ၍ ကြွေးကြော်ခြင်းသည် မောနေယျ ကောလာဟလ မည်၏။

ဤငါးပါးသော ကောလာဟလတို့တွင် (၁) ပုရာဏကဿပ၊ (၂) မက္ခလိ ဂေါသာလ၊ (၃) နာဋမည်သောသူ၏ သား နိဂဏ္ဌ၊ (၄) ဗေလဋ္ဌ၏သား သဉ္စယ၊ (၅) ကစ္စာယနအနွယ်ဖြစ်သော ပကုဓ၊ (၆) လူတို့၏ ဆံမျှင်ဖြင့်ရက်သော ကမ္ဗလာ ကိုဝတ်သော အဇိတ၊ ဤတိတ္ထိကြီး ခြောက်ယောက်တို့သည် ဗုဒ္ဓ ကောလာဟလကို ကြားကြကုန်သည်ရှိသော် မိမိတို့ ဆရာအထံသို့ ကပ်ကြပြီးလျှင် စိန္တာမဏိမန္တန် စသည်ကို သင်ကြလေကုန်၏။

ထိုသို့ သင်ယူကြကုန်ပြီးနောက် ငါတို့ကား သဗ္ဗညုဘုရားဟူ၍ ကိုယ့်ကိုယ် ကို ဘုရားဖြစ်ကြောင်း ကြွေးကြော်ကြကုန်ပြီးလျှင် နောက်လိုက်နောက်ပါ အခြွေ အရံ တပည့်များစွာခြံရံလျက် ထိုထိုဇနပုဒ်တို့သို့ လှည့်လည်ကြလေကုန်၏။ ယင်းသို့ လှည့်လည်ကြရင်းမှ သာဝတ္ထိပြည်သို့ ရောက်သွားကြလေသည်။

ယင်းတိတ္ထိဆရာကြီးများ၏ တပည့်များကတစ်ဆင့် လူတွင် ထင်ရှား ဘုရားခြောက်ဆူပွင့်တော်မူနေပြီ ဖြစ်ကြောင်းကို သာဝတ္ထိပြည့်ရှင် ဘုရင် ကောသလ မင်းတရား၏ ရွှေနားတော်ပေါက်ကြားအောင် လျှောက်ထားလေကုန်၏။

ထိုအခါ ကောသလမင်းက သင်တို့ဆရာ ဘုရားများကို ငါဖူးမြော်လို ပေသည်။ သင်တို့ကိုယ်တိုင် ငါ၏ နန်းတော်သို့ ပင့်ခဲ့ကြပါကုန်ဟု စေလိုက်သော

အခါ ထိုသူတို့သည် သူတို့၏ဆရာ 'ဘုန်းကြီး' များကို နန်းတော်သို့ ဆွမ်းစားကြွတော်မူပါရန် ပင့်ကြလေကုန်၏။

ထိုရောအခါ၌ကား တိတ္ထိဘုရားကြီးများက ငါတို့ နန်းတော်ကို မလိုက်လိုကြကုန်ဟု ငြင်းဆိုကြလေ၏။ ငြင်းဆိုလိုက်ခြင်းကား ဘုရင်နှင့် မျက်နှာချင်းမဆိုင်ဝံ့ မဆိုင်ရဲသောကြောင့် ဖြစ်လေသည်။ သို့ရာတွင် သူတို့ကို အသည်းစွဲကြည်ညိုနေကြသူများက ခဏခဏ ထပ်တလဲလဲပင့်နေကြသောအခါ မသွားပြန်လျှင်ညံ့ရာကျမည်က တစ်ကြောင်း၊ ၎င်းအပြင် ပင့်လျှောက်သူတို့၏ စေတနာ သဒ္ဓါတရားကို ငဲ့၍ နန်းတော်သို့ လိုက်လာခဲ့ကြလေ၏။ နန်းတော်ထဲသို့ ရောက်သွားကြလေ၏။

နန်းတော်ပေါ်သို့ ရောက်လာသော အဆိုပါ ဘုရားကြီးများအား ပသေနဒီကောသလမင်းသည် နေရာကိုခင်း၍ မပေးလေဘဲ မိမိနှင့် သင့်လျော်လျောက်ပတ်သော နေရာ၌ နေတော်မူကြကုန်ဟူ၍ ဆိုတော်မူ၏။

ထိုအခါ ဘုန်းရှိသော မင်း၏ တန်ခိုးအငွေ့သည် ဂုဏ်မရှိသော၊ ဂုဏ်မဲ့သော တိတ္ထိတို့၏ကိုယ်၌ အနှံ့တွေ့လေရကား မြတ်သောနေရာတွင် မနေရဲ၊ မထိုင်ရဲ ကြလေကုန်။ ပျဉ်ချပ် ကြမ်းပြင်များပေါ်တွင်လည်းကောင်း၊ မြေပေါ်၌လည်းကောင်း နေကြလေကုန်၏။

ကောသလမင်းကား အကင်းပါးတော်မူလှ၏။ မြတ်သောနေရာ၌ မနေရဲ၊ မထိုင်ရဲသည်ကို မြင်သော် ဤလူတို့ထံ၌ အနှစ်သာရဟူ၍ မရှိ။ မြတ်သောတရားဟူ၍ မရှိဟု တတ်အပ်သိတော်မူလေ၏။

ထို့ကြောင့် ကောသလမင်းသည် ယင်းတိတ္ထိဘုရားဆိုသူများအား တစ်စုံတစ်ခု ခဲဖွယ်သောခဉ်ကိုမျှ ကျွေးမွေးခြင်းမပြုစေဘဲ ထန်းပင်မှကြွေကျသော ထန်းသီးကို ဆောင်ပုတ် (ဝါ) တင်းဘုတ်ကြီးဖြင့် ထုရိုက်ခွဲလိုက်သည့်ပမာ အောက်ပါပုစ္ဆာတစ်ပုဒ်ကို ထုတ်၍ မေးတော်မူသတည်း။

ကောသလ။ အချင်းတို့၊ သင်တို့ကား ဘုရား ဟုတ်ကြကုန်သလော၊ မဟုတ်ကြကုန်သလော။

ထိုသို့ ခရီးရောက်မဆိုက် မေးခွန်းထုတ်လိုက်သောအခါ တိတ္ထိတို့သည် အကျပ်ရိုက်ကာ ဤသို့ကြံကြလေကုန်၏။ ငါတို့ကား ဘုရားစင်စစ်ဖြစ်ကုန်၏ဟု ဝန်ခံလိုက်ပါချေသော် ဤမင်းသည် ငါတို့အား ဘုရားအရာ၌ထား၍ များစွာသော ပြဿနာများကို မေးမြန်းခြင်းပြုလတ္တံ့။ မေးသည်ရှိသော် ငါတို့ မဖြေနိုင်ရှိလတ္တံ့။ မဖြေနိုင်ခဲ့သော် သင်တို့ကား ဘုရားမဟုတ်ပါဘဲလျက် လူအပေါင်းကို လှည့်စား

ကား ဘုရားဟု ပြောဆိုပြီးလျှင် လှည့်လည်သွားလာစားသောက်ဘိသည်ဟု ငါတို့၏ လျှာကို လှီးဖြတ်ရာ၏။ အကျိုးမဲ့ကိုသော်လည်း ပြုရာ၏ဟု ကြံကြကုန်ပြီးသော်–

တိတ္ထိများ။ မြတ်သောမင်းကြီး၊ ငါတို့ကား ဘုရားမဟုတ်ပါကုန်။

ကောသလမင်းကို မလိမ်ဝံ့ကြလေသဖြင့် ဟုတ်တိုင်းမှန်ရာအတိုင်း ဖြောင့်ဆိုဝန်ခံကြလေရာ ကောသလမင်းသည် ထိုတိတ္ထိတို့အား နန်းတော်အပြင်သို့ ဆွဲထုတ်စေလေ၏။ တိတ္ထိဘုရားကြီးများသည်လည်းကောင်း၊ ယင်းတို့၏ တပည့်များသည်လည်းကောင်း၊ နန်းတော်အပြင်သို့ ရောက်သွားကြသောအခါ အရိုးစွဲအောင် ကြည်ညိုလာခဲ့သော ဒါယကာများက သူတို့ဆရာ ဘုရားကြီးများအား ဤသို့ ဆိုကြကုန်လေသတည်း။

"အရှင်ဘုရားတို့၊ အသို့ပါနည်း။ ကောသလမင်းက မေးခွန်းပုစ္ဆာများ လျှောက်ထားမေးမြန်းပြီးနောက် ပူဇော်သက္ကာရများ ပြုလိုက်ပါ၏လား"ဟူ၍ မေးကြလေကုန်၏။ ထိုအခါ တိတ္ထိဘုရားကြီးများက–

"ချစ်သားတို့၊ ကောသလမင်းက ငါတို့အား ဘုရားလောဟူ၍ မေးပေ၏။ ငါတို့ကား ဘုရားဟူ၍ မင်းထံ၌ ဝန်မခံခဲ့ကြကုန်။ အကြောင်းသော်ကား ငါတို့က အကယ်၍ 'ဘုရား'ဟု မှန်သောအတိုင်း ဝန်ခံလိုက်ခဲ့သော် ထိုမင်းသည် ငါတို့အား ဘုရားအရာ၌ထား၍ ပြဿနာမေးတော့အံ့။ ထိုအခါ ငါတို့က ဖြေဆိုလိုက်သည်ကို ကောသလမင်းသည် မယုံမကြည်ဖြစ်လတ္တံ့။ ယင်းသို့ မယုံကြည်ခြင်းကား ငါတို့အား ပြစ်မှားရာကျသောကြောင့် မင်းကြီး၌ အကုသိုလ်ပွား၍ အပြစ်များလတ္တံ့သည်ကို ငါတို့မြင်လေသောကြောင့် မင်းကြီးအား သနားသောအားဖြင့် ဘုရားမဟုတ်ဟူ၍ ငါတို့ဖြေဆိုခဲ့ကြရခြင်း ဖြစ်ပေသည်။ စင်စစ်သော် ငါတို့ကား ဘုရားဆိုမှ တကယ့် ဘုရားစစ်စစ်ဖြစ်သတည်း။"

တိတ္ထိတို့သည် ဤသို့ပင်လျှင် တပည့်များအား ဘုရားဟူ၍ လှည့်ဖျားကြပြန်လေကုန်၏။ ကောသလမင်းသည် ပုရာဏကဿပ အစရှိသော တိတ္ထိကြီးများ ပြန်သွားကြသော်လည်း 'ဘုရားဟူ၍ လူတို့အား လိမ်လည်လှည့်ဖျား၍ စားသောက်နေကြပုံကို တအံ့တွေးတွေး တွေးမိနေ၏။ ထိုအကြောင်းကို ဘုရားသခင်အား လျှောက်ထားလိုသော်လည်း မြတ်စွာဘုရားသည် အခြားဒေသများသို့ ဒေသစာရီ ကြွချီတော်မူဆဲဖြစ်၍ ဘုရားသခင် ကြွအလာကိုသာ စောင့်မျှော်၍ နေတော်မူ၏။

အခါတစ်ပါးတွင် မြတ်စွာဘုရားသည် သာဝတ္ထိပြည်သို့ ကြွတော်မူလာပြီးလျှင် ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးနေတော်မူ၏။ ထိုအခါ ကောသလမင်းသည် ဘုရားသခင်ထံတော်သို့ ချဉ်းကပ်ပြီးလျှင် အောက်ပါပုစ္ဆာဖြင့် မေးလျှောက်ခြင်း ပြုလေသည်။

မေး။ ဘုန်းတော်သခင် မြတ်ရှင်ပင်ဘုရား၊ အရှင်မြတ်ဘုရားသည် အတုမရှိသော သဗ္ဗညုတဉာဏ်တော်ကို သိတော်မူပြီဟူ၍ ဝန်ခံတော်မူပါသလား၊ ဘုရားဟူ၍ ဝန်ခံတော်မူပါသလား၊ သို့မဟုတ် ဝန်မခံဘဲ ရှိပါသလား ဘုရား။

ဖြေ။ ဒကာတော်မင်းကြီး၊ ငါဘုရားအား အတုမရှိသော သဗ္ဗညုတဉာဏ်တော်ကိုထိုးထွင်း၍ သိတော်မူပြီဟူ၍ အကြင်သူသည် ဆို၏။ ထိုသို့ဆိုသောသူသည် ကောင်းစွာဆိုသည်မည်၏။ ငါဘုရားသည် အတုမရှိသော သဗ္ဗညုတဉာဏ်တော်ကို ထိုးထွင်း၍ သိတော်မူသည်မှာလည်း အမှန်ပင်ဖြစ်ပေ၏။

ကောသလ။ အရှင်မြတ်ဘုရား၊ ပုရာဏကဿပ၊ မက္ခလိဂေါသာလ၊ နိဂဏ္ဌ၊ သဥ္စယ၊ ပကုဓ၊ အဇိတ ဤဂိုဏ်းဆရာကြီးများကား များသော အခြံအရံလည်း ရှိကြပါကုန်၏။ အလိုနည်းသည်၊ ရောင့်ရဲလွယ်သည်ဟူ၍လည်း ကျော်စောပါကုန်၏။ အဝတ်မျှပင် မဝတ်ကြဟူ၍လည်း ထင်ရှားလှပါကုန်၏။ အဝတ်မစည်း အချည်းနှီး (ဝါ) အဝတ်မကပ်သော တပည့်လက်သားလည်း အလွန်ပေါများပါကုန်၏။ အန္ဓပုထုဇဉ် လူမိုက်အပေါင်းတို့၏ ကောင်းချီးပေးခြင်း၊ ပူဇော်ခြင်းကိုလည်း ခံကြရပါကုန်၏။ ဤဂိုဏ်းဆရာကြီး ခြောက်ယောက်ကား သူတို့ကိုယ်သူတို့ "ဘုရား"ဟူ၍ အပဒ္ဒ ပြောဆိုဝန်ခံနေကြကုန်သော်လည်း တပည့်တော် မေးမြန်းကြည့်သောအခါ၌ကား ဘုရားမဟုတ်ပါကုန် ဟူ၍ ဆိုကြသည်။

အရှင်ဂေါတမသည်ကား ဖွားသည်မှ အသက်အရွယ် ငယ်လျလှပါသေးသည်။ ရဟန်းဖြစ်၍လည်း မကြာမြင့်သေး။ ထို့ကြောင့် မေးအပ်သော သဗ္ဗညုတဉာဏ်တော်ကို ဝန်မခံနိုင်ဘဲ ရှိလိမ့်မည်အထင်ဖြင့် တပည့်တော်မေးလျှောက်မိခြင်း ဖြစ်သည်ဟု လျှောက်ထားလေ၏။

မြတ်စွာဘုရားသည် ဒေသနာတော်နည်း၌ အလွန်လိမ္မာတော်မူလှသည့်အားလျော်စွာ ကိုယ်တော်ကို အတွင်းထား၍ သီလဝန္တ ရဟန်းကို ဖြေကြားတော်မူသတည်း။

"မြတ်သောမင်းကြီး၊ ဤလောက၌ မထေမဲ့မြင်မပြုအပ်၊ မပြုသင့်၊ မပြုထိုက်သော အရာလေးမျိုးရှိ၏ ဟူ၍ မှတ်လေလော့။ ယင်းလေးမျိုးတို့အနက်တွင်–

"(၁) မင်းသားငယ်တစ်ပါးသည် လာနေ၏။ ထိုသို့လာနေသည်ကို မြင်လျက် လှံလတစ်ခု၊ ခရီးလွဲရှောင်ပေးခြင်းကို မပြုသော်လည်းကောင်း၊ အပေါ်ရုံကို မဖယ်သော်လည်းကောင်း၊ ဆင်ကျောက်ကုန်း၊ မြင်းကျောက်ကုန်း၊ ရထားထက် စသည်တို့မှ မဆင်းသက်သော်လည်းကောင်း ဤအလုံးစုံသည် မင်းသားကို မထေမဲ့မြင်ပြုသည် မည်၏။

"ဤမြင်းသားကား အလွန် ဝမ်းဗိုက်ကြီးလှ၏။ ခိုးသူကိုမျှ နိုင်ပါမည်လော၊ တိုင်းပြည်ကိုမျှ ဆုံးမ,နိုင်၊ အုပ်ချုပ်နိုင်ပါမည်လောဟု ဆိုခြင်း ပြောခြင်းသည် မင်းသားအား နှိပ်စက်၍ဆိုခြင်းမည်၏။

"(၂) မြတ်သောမင်းကြီး၊ တံမြက်စည်းတံ၊ မိုင်းဝင်ရိုးမျှသာ ဖြစ်သော်လည်း အဆိပ်ထန်သော မြွေကို ကိုယ်၌ပတ်စေသော်လည်းကောင်း၊ လျှာကို ကိုက်စေသော်လည်းကောင်း မြွေကို မထေမဲ့မြင်ပြုသည် မည်၏။ ဤမြွေကား မြွေကောင်းတကား၊ ရေမြွေတကား၊ မြက်လျှောတကား၊ ကိုက်နိုင်မည်လော၊ အဘယ်သူ၌ အဆိပ်ကို နှံ့စေနိုင်မည်နည်းဟု ဆိုခြင်းသည် မြွေကို နှိပ်စက်၍ ဆိုသည်မည်၏။

"(၃) မြတ်သောမင်းကြီး၊ ဆီးစေ့ခန့်မျှသာဖြစ်သော မီးကိုလည်း ကစားသည်ရှိသော် မီးကို မထေမဲ့မြင်ပြုသည်မည်၏။ ဤမီးကား အနည်းငယ်သာတကား၊ အဘယ် ရာဂုကိုမျှ ကျက်စေနိုင်ပါမည်နည်း စသည်ဖြင့် ဆိုခြင်းသည် မီးကိုနှိပ်စက်၍ ဆိုသည်မည်၏။

"(၄) မြတ်သောမင်းကြီး၊ သီလရှိပေသော ရဟန်းငယ်၊ သာမဏေငယ်ကို မြင်၍ ခရီးမလွှဲ၊ မရှောင်မတိမ်းသော်လည်းကောင်း၊ အပေါ်ရုံကို မလှမ်းမဖယ်သော်လည်းကောင်း၊ နေရာမှ မထသော်လည်းကောင်း၊ နောက်ဖီကျောခိုင်းနေသော်လည်းကောင်း သီလဝန္တ ရဟန်း သာမဏေကို မထေမဲ့မြင်ပြုသည်မည်၏။ ဤရဟန်းငယ်၊ သာမဏေငယ်ကား ဘဏ္ဍာများစွတကား၊ ဝမ်းဗိုက်ကြီးစွတကား၊ တစ်စုံတစ်ခုသော ဘုရားစကားကို သင်နိုင်ပါမည်လော၊ တော၌ နေနိုင်ပါမည်လော၊ မထေရ်ဖြစ်သောအခါ ကြည်ညိုဖွယ် နှစ်သက်ဖွယ် ရှိနိုင်ပါမည်လောဟု ဆိုခြင်းသည် ရဟန်းကို နှိပ်နှိပ်စက်စက် ဆိုသည်မည်၏။

"ထိုလေးပါးတို့တွင် မင်းသားကို ရိုသေသောသူကား ဆင်ယာဉ်၊ မြင်းယာဉ် စသည်တို့ကို ရ၏။ မြွေကိုဆိုခဲ့ပြီးသော အပြစ်ကိုပယ်၍ ကောင်းစွာပြုသောသူကား မြွေကိုကစားသဖြင့် ရအပ်သော လာဘ်ဟူသမျှကို ရ၏။ မီး၌ ကောင်းစွာပြုသော သူကား ယာဂုချက်ခြင်း အစရှိသော အကျိုးကိုရ၏။ သီလဝန္တ ရဟန်းကို ရိုသေသောသူကား မကြားနာရသေးသော တရားကို ကြားနာရခြင်း၊ ကြားနာရပြီးသော တရားကို ယုံမှားပျောက်ရခြင်း စသော အကျိုးတရားငါးပါးနှင့်တကွ ပါဠိ၌လာသော အပြစ်တို့မှပြန်သော အကျိုးကို ရခြင်း၊ နတ်ရွာ မဂ်ဖိုလ် စသည်ကို ရခြင်း ဤသို့ အစရှိသော အကျိုးကို ရ၏။

ထို့ကြောင့် သီလဝန္တ ရဟန်းကို ငယ်သည်ဟူ၍ မထေမဲ့မြင် မပြုရာ။ ချမ်းသာ သုံးပါးကို တောင့်တသောသူသည် ရဟန်းတို့ကိုဆိုခဲ့သော အမှုတို့ကို မပြုမူ၍ ရိုသေစွာလုပ်ကျွေးသည်ရှိသော် မျက်မှောက်၌ဖြစ်သောအကျိုး၊ တမလွန်၌ ဖြစ်သောအကျိုးကို သိ၍ သူကြွယ်ကြီးသုံးပါးဖြစ်ခြင်း၊ ခြောက်ထပ်သော ကာမာဝစရ နတ်ပြည်၌ဖြစ်ခြင်း၊ ကိုးထပ်သော ဗြဟ္မာပြည်၌ ဖြစ်ခြင်း၊ အဆုံးစွန်၌ နိဗ္ဗာန် ရွှေပြည်ကြီးသို့ဝင်ရခြင်း အကျိုးကို ရပေလတ္တံ့။

ဒေသနာတော်အဆုံး၌ ကောသလမင်းကြီးကား သရဏဂုံတည်လေ၏။

(သဂါထာဝဂ္ဂသံယုတ် ပါဠိတော်။ နုဥညာတဗ္ဗသုတ်)

# သစ္စကနှင့် အတ္တဝါဒ

**ပြဿနာ = ရှုပ်သည့် အတ္တ။**

**မေးလျှောက်သူ = သစ္စက ပရိဗိုဇ်။**

ပညာရှိအခေါ်ခံ အတော်အတန် ကျွမ်းကျင်သော ပုဂ္ဂိုလ်များသည် ဝေသာလီပြည်ကို ကွင်းရှောင်သွားကြသည်က များ၏။ အဘယ့်ကြောင့်ဆိုသော် သစ္စကနှင့် မျက်နှာချင်းဆိုင် ဝါဒချင်း မပြိုင်ရဲကြသောကြောင့် ဖြစ်လေသည်။

သစ္စကသည် ဝေသာလီပြည်သား ပရဗိုဇ်တစ်ဦးဖြစ်၏။ အမိဘက်မှ ဝါဒငါးရာ၊ အဖဘက်မှ ဝါဒငါးရာ၊ ပေါင်း ဝါဒပေါင်း တစ်ထောင်တင်ကျွမ်းပြီး လိစ္ဆဝီမင်းသား ငါးရာတို့အား ပညာသင်ကြားပေးနေသော မင်းဆရာလည်း ဖြစ်၏။ ဇမ္ဗူဒိပ်ကျွန်းအပြွမ်၌ သူနှင့်ဖက်ပြိုင်၍ ဝါဒချင်း ပြိုင်ရဲသူ၊ ပြိုင်ဝံ့သူမရှိ။

သို့ကြောင့် သစ္စကသည် ငါလိုလူ မွေးမွှာမရှိဟူ၍ အတိမာနဖြင့် ထောင်လွှားဝင့်ကြွားနေခြင်းမှာ အဆန်းမဟုတ်ပေ။

သစ္စက၏ လက်ရှိအခြေအနေမှာ ပြိုင်ဘက်ကင်းသော မြင်းကြီးကို ချောင်ထဲသွင်းထားသည်နှင့် အလားတူနေပေ၏။ သူ့ကို ပြိုင်ဘက်နိုင်သူ လူတစ်ယောက်မျှ ပေါ်မလာသောကြောင့် ဝါဒရေးရာနှင့် ပတ်သက်၍ ငြင်းခုံနေရမှ နေတတ်ထိုင်တတ်သော သစ္စကအဖို့တွင် ယခုလို ပြိုင်သူမရှိသောအခါ ပျင်းချာချာကြီး ဖြစ်သောကြောင့် သူသည် ပြိုင်ဘက်ကိုသာ မျှော်ခေါ်တောင့်တလျက် ရှိနေ၏။

အခါတစ်ပါးတွင် ဝေသာလီပြည်သို့ မြတ်စွာဘုရား ကြွရောက်တော်မူလာသည်ဟူသော သတင်းစကားကို ကြားရလေသောအခါ သစ္စက **'ပရိဗိုဇ်'**သည်

များစွာ ဝမ်းသာသွားလေသည်။ အဘယ့်ကြောင့်ဆိုသော် သဗ္ဗညုဘုရားသည် လောကသုံးပါးတွင် ပြိုင်ဘက်ကင်းလွတ် အထွတ်ဆုံး၊ အမြတ်ဆုံးဟူ၍ ထင်ရှား ကျော်ကြားနေသူဖြစ်ရာ ယင်းအကျော်အမော် ဖော်ဆိုသော ဘုရားကို ဦးကျိုးအောင် ဝါဒနှင့် ချိုးနှိမ်လိုသောကြောင့် ဖြစ်လေသည်။

သို့ကြောင့်လည်း သစ္စကသည် သူ့တပည့် လိစ္ဆဝီမင်းသားတို့အား ဤသို့ ဝင့်ဝင့်ဝါဝါ ကြုံးဝါးပြောဆိုခြင်း ပြုလေ၏။

"အို–မင်းသားတို့၊ မင်းသားတို့၊ သင်တို့ဆရာဖြစ်သော ငါ အဘယ်မျှ ပညာစွမ်းထက်ကြောင်းကို သင်တို့ ကောင်းစွာ အသိဖြစ်ပေသည်။ အသီးသီး ပညာကြီး ပညာကျယ် အသွယ်သွယ်ရောက်လာသမျှ ဆရာများကား ငါ့စကား တစ်ခွန်း အမေးကိုမျှ မခံနိုင်လေကုန်။ ငါ၏ဝါဒအတင်ကို ပြေလည်အောင် ချေဆို နိုင်သူကား ရှာမှရှား၊ တစ်ယောက်မျှ ငါရှာ၍မတွေ့ခဲ့။ လူတွင် ထင်ရှား ဘုရား ဆိုသောသူများပင်လည်း ငါနှင့်ကြုံ တုန်လှုပ်ရမည်။ ငါမေးရက ဇောချွေးများ ပြန်ရမည်။ လူကိုမဆိုထားဘိ၊ ငါနှင့်ဆိုင်ပြိုင်ငြားက သစ်ပင်များသော်မှ တုန်လှုပ် ရသေးသည် မင်းသားတို့။

"အို–မင်းသားတို့၊ ယခုမျက်မှောက်လောကတွင် ရှင်ဂေါတမသည် သူ့ ကိုယ်သူ ဘုရားဟု သမုတ်လျက် လူတို့၏ဆရာ သူလုပ်နေချေသည်။ ယခု ငါတို့ ဝေသာလီပြည်သို့ရောက်နေပြီ ကြားရ၏။ ထိုဘုရားဆိုသော ဂေါတမကား ဘုန်း တန်ခိုးကြီးကောင်း ကြီးပေမည်။ အယူဝါဒ၌ ငါ့လောက် ကျွနမည်ဟု ငါမထင်။ ထိုရှင်ဂေါတမကို ဝါဒဖြင့် ရယ်ချင်ဖွယ်လိလိဖြစ်သွားအောင် ပရိသတ်အလယ်၌ ငါမေး၍ပြမည်။ နှလုံးမသာ မျက်နှာမလှအောင် ဝါဒဖြင့် သူ့ကိုကျိစယ်ပြမည်။ သင်တို့တစ်တွေ အားလုံး ငါ့နောက်က လိုက်ခဲ့ကြကုန်။ ဂေါတမဘုရားထံ ငါ သွားအံ့"

ယင်းသို့ ကြွားကြွားဝါဝါခေါ်လာသောအခါ လိစ္ဆဝီမင်းသားလောက တစ်ဝိုက်ဝယ် အတော်ကလေး ဂယက်ရိုက်သွားလေ၏။ ဆရာသစ္စကပင် ဂေါတမ

၁။ ပုဆိုးဖြူကို သင်္ကန်းယောင်ဝတ်သော တိတ္ထိကား ပဏ္ဍရင်္ဂ (ဖိုးသူတော်)မည်၏။ ဦးခေါင်းပြည်းလျက် ရဟန်းယောင် သင်္ကန်းဝတ်သည်ကား ပရိဗ္ဗာဇက (ပရိဗိုဇ်)မည်၏။ ကိုယ်၌ အဝတ်မကပ် အချည်းနှည်းနေသော တိတ္ထိကား အာဇီဝကမည်၏။ ငါတို့၌ ကိလေသာဟူသော ထုံးနှောင်ဖွဲ့ခြင်းကား မရှိပြီ။ သံသရာ၌ကြောင့်ကြခြင်း ကိစ္စမရှိ။ လယ်ယာ၊ မယား သိမ်းဆည်းခြင်း ဟူသော ရာဂစသော ကိလေသာတို့၏ အာရုံကား ငါတို့၌မရှိပြီ။ ငါတို့ကား ရဟန္တာတည်းဟု ဝန်ခံလျက် တစ်ပါးသော အမူအရာ ပရိက္ခရာကို ဆောင်သော တိတ္ထိတို့ကား နိဂဏ္ဌမည်ကုန်၏။ ..................(ဗာဟိရ နိဒါန၊ တတိယ သင်္ဂီတိ၊ ပါရာဇိကဏ် အဋ္ဌကထာနိဿယ၊ ရွှေဥမင်မူ–၉၉)

ဘုရားကို ဝါဒချင်းပြိုင်နိုင်လေမည်လော၊ သို့မဟုတ် ရှုံးလေမည်လောဟူ၍ တွေးသူက တွေး၊ အချို့ကလည်း ဘုရားဂေါတမကို ပြိုင်၍ နိုင်ရိုးမရှိချေ။ ဆရာသစ္စကဝယ် ဘယ်ပြဟ္မာ၊ ဘယ်သိကြား၊ ဘယ်နတ်ကများ စွဲကပ်၍ နိုင်အောင်တတ်နိုင်ချေအံ့နည်းဟူ၍ ပြောသူကပြော။ သို့နှင့်ပင် ဂေါတမဘုရားအထံသို့ သစ္စကနှင့်အတူ လိုက်ပါလာခဲ့ကြလေ၏။

ဆရာသစ္စကသည် မင်းပရိသတ်ခြံရံလျက် ဆွမ်းစားပြီးချိန်တွင် ဘုရားသီတင်းသုံးတော်မူရာ ကုဋာဂါရဇရပ်သို့ ရောက်သွား၏။ ဘုရားသခင်ကို မတွေ့၍ သံဃာတော်များကို မေးလျှောက်ကြည့်ပြီးလျှင် ဂေါတမဘုရားသည် နေသန့်ရာ ဘုရားရှိရာဘက်သို့ လှည့်ထွက်သွားသည်။

ရောက်လျှင် ဗုဒ္ဓဘုရားသည် သစ္စကနှင့် အေးချမ်းသာယာစွာ အာလာပ သလ္လာပ စကားများ လက်ခံပြောဆိုတော်မူသည်။ ယင်းသို့ပြောဆိုပြီးမှ သစ္စကသည် ဗုဒ္ဓထံ ခွင့်ပန်လေ၏။

"အရှင်ဂေါတမ၊ အကျွန်ုပ်အား အခွင့်သနားတော်မူပါလျှင် ပြဿနာတစ်ခုကို အကျွန်ုပ် မေးလိုပါသည်။ ထိုပြဿနာကို ဖြေတော်မူပါအံ့လော"

"အချင်းသစ္စက၊ ပြဿနာဖြေသောအရာဝယ် ငါ၌ ဝန်လေးသောအရာသည် မရှိ။ သင် အလိုရှိရာကို မေးလော့။ သင့်အား ငါ ခွင့်သနားပေ၏။"

ထိုသို့ခွင့်ပြုလိုက်သောအခါ သစ္စက၏တပည့် လိစ္ဆဝီမင်းပရိသတ်များမှာ အထူးလှုပ်ရှားကာ အာရုံစိုက်လာကြကုန်ပြီး မြတ်စွာဘုရားကိုလည်းကောင်း၊ သူတို့ဆရာကိုလည်းကောင်း စူးစိုက်စွာ ကြည့်နေစဉ်မှာပင် သစ္စက,က ပြဿနာကို စတင်၍ မေးလေတော့၏။

မေး။ အို–အရှင်ဂေါတမ၊ အရှင်သည် မိမိ၏တပည့်တပန်း ရဟန်းများ၊ သာဝကများကို အဘယ်သို့ ဆုံးမတော်မူပါသနည်း။ တပည့်အပေါင်းတို့ ကောင်းစွာသိမြင်ခြင်းငှာ အဘယ်ဒေသနာဖြင့် **အနုသာသနီ**[၁] ပြုတော်မူပါသနည်း။

ဖြေ။ အချင်းသစ္စက၊ တပည့်တို့အား ငါဆုံးမလေ့ရှိသော အနုသာသနီကား "ရူပံ ဘိက္ခဝေ အနိစ္စံ၊ ဝေဒနာ အနိစ္စာ၊ သညာ အနိစ္စာ၊ သင်္ခါရာ အနိစ္စာ၊ ဝိညာဏံ အနိစ္စံ၊ ရူပံဘိက္ခဝေ အနတ္တာ၊ ဝေဒနာ အနတ္တာ၊ သညာ အနတ္တာ၊ သင်္ခါရာ အနတ္တာ၊ ဝိညာဏံ အနတ္တာ။ သဗ္ဗေသင်္ခါရာ အနိစ္စာ၊ သဗ္ဗေဓမ္မာ အနတ္တာ"ဟူ၍ ဖြစ်ပေ၏။ အဓိပ္ပာယ်ကား–

---

၁။ အနုသာသနီ = အကျိုးအပြစ်ကို ဖော်ပြ၍ အဖန်တလဲလဲ ဆုံးမခြင်း။

အို–ချစ်သားတို့၊ ရုပ်အနိစ္စံ=ရုပ်ဝတ္ထုဟူဟူသမျှ အရှည်စွဲ၍ တည်မြဲသော သဘောမရှိ။ အနိစ္စချည်းသာတည်း။ ဝေဒနာ အနိစ္စာ=အာရုံကို ခံစားမှု နာမ်ဝတ္ထုဟူဟူသမျှ တည်မြဲသော သဘောမရှိ၊ အနိစ္စချည်းသာတည်း။ သညာအနိစ္စာ=အာရုံကို မှတ်သားမှု နာမ်ဝတ္ထုဟူဟူသမျှ တည်မြဲသော သဘောမရှိ၊ အနိစ္စချည်းသာတည်း။ သင်္ခါရာအနိစ္စာ= အသစ်အသစ် ပြုပြင်ဖြစ်ပေါ်မှု ဟူဟူသမျှ အရှည်စွဲ၍ တည်မြဲလေ့မရှိ၊ အနိစ္စချည်းသာတည်း။ ဝိညာဏံအနိစ္စံ=အာရုံကိုသိမှု ဟူဟူသမျှ အရှည်စွဲ၍ တည်မြဲလေ့မရှိ၊ အနိစ္စချည်းသာတည်း။

အို–ချစ်သားတို့၊ ရုပ် အနတ္တာ=ရုပ်ဝတ္ထု ဟူဟူသမျှ မိမိသြဇာမခံ၊ မိမိစီမံရာ မိမိဆွဲဆောင်ရာသို့ လိုက်ပါလေ့မရှိ။ ကိုယ်စိုးကိုယ်ပိုင်မဟုတ်၊ ကိုယ်မဟုတ်။ ဝေဒနာ အနတ္တာ=အာရုံကို ခံစားမှု ဟူဟူသမျှ ကိုယ့်အလိုသို့မပါ၊ ကိုယ့်သြဇာကို မခံ၊ ကိုယ်စိုးကိုယ်ပိုင်မဟုတ်၊ ကိုယ်မဟုတ်။ သညာ အနတ္တာ=အာရုံကို မှတ်သားမှု ဟူဟူသမျှ ကိုယ့်အလိုသို့မပါ၊ ကိုယ့်သြဇာကို မခံ၊ ကိုယ်စိုးကိုယ်ပိုင်မဟုတ်။ သင်္ခါရာ အနတ္တာ=အသစ်အသစ် ပြုပြင်ဖြစ်ပေါ်မှု ဟူဟူသမျှ ကိုယ့်အလိုသို့မပါ၊ ကိုယ့်သြဇာကို မနာခံ၊ ကိုယ်စီမံရာကို မလိုက်၊ ကိုယ်စိုးကိုယ်ပိုင်မဟုတ်၊ ကိုယ်မဟုတ်။ ဝိညာဏံ အနတ္တာ=အာရုံကို သိမှုဟူဟူသမျှ ကိုယ့်အလိုသို့မပါ၊ ကိုယ့်သြဇာကို မခံ၊ ကိုယ်စီမံရာမလိုက်၊ ကိုယ်စိုးကိုယ်ပိုင်မဟုတ်၊ ကိုယ်မဟုတ်။ သဗ္ဗေ သင်္ခါရာ အနိစ္စာ=ကံ၊ စိတ်၊ ဥတု၊ အာဟာရဟူသော အကြောင်းတရား လေးပါးတို့ ပြုပြင်စီရင်ထားအပ်သော သင်္ခါရတရားဟူဟူသမျှ ဖြစ်လျှင်ပျက်မြဲ အရှည်စွဲ၍ မြဲလေ့မရှိသောကြောင့် အနိစ္စတို့ချည်းသာတည်း။ သဗ္ဗေဓမ္မာ အနတ္တာ=ခပ်သိမ်းသော ဓမ္မဟူဟူသမျှ ကိုယ့်အလိုသို့မပါ၊ ကိုယ့်သြဇာကို မနာခံ၊ ကိုယ်စီမံရာမလိုက်၊ ကိုယ်စိုးကိုယ်ပိုင်မဟုတ်၊ ကိုယ်မဟုတ်ကုန်။ ထို့ကြောင့် ဤခန္ဓာ ဤကိုယ်၌ အာသာငမ်းငမ်း စွဲလမ်းတပ်မက်ခြင်းကို မဖြစ်ကြစေကုန်လင့်။ ဤသို့စသောနည်းဖြင့် တပည့်တို့အား ငါဘုရား ဆုံးမတော်မူလေ့ရှိပေ၏ဟု ဖြေကြားတော်မူ၏။

ထိုအခါ သစ္စကသည် သဘောမကျ၊ လက်မခံနိုင်သော အမူအရာကိုပြလျက် ဆန့်ကျင်ပြုလျက် ဤသို့ဆိုလေ၏။

မေး။ အို–အရှင်ဂေါတမ၊ အသင်ကား တတ်နိုင်ပေစွ။ အရှင်ကဲ့သို့ ဖောက်ဖောက် ပြန်ပြန် ကြံဖန်၍ ဆုံးမခဲ့သော် ဤလောက၌ ဝိပဿနာနှင့် ကင်းသောအရာဟူ၍ မရှိပြီ။ ဝိပဿနာချည်းသာ ဖြစ်ကုန်ရာသည်တကား။ ဥပမာ–မြေမှ ကြွကြွရွရွ ထ၍ပေါက်သော သစ်ပင်တစ်ပင်သည် မြေကြီးသာလျှင် တည်ရာမှီရာ ဖြစ်သကဲ့သို့ ထို့အတူ သတ္တဝါတို့သည်လည်း ခန္ဓာငါးပါး၌ တည်၍သာလျှင် ချမ်းသာခြင်းသုခနှင့် ဆင်းရဲခြင်းဒုက္ခကို ခံစားကြရကုန်သည်။

ကုသိုလ်တရား၊ အကုသိုလ်တရားကို ပွားများ အားထုတ်ကြကုန်သည်။ မင်္ဂဖိုလ် ချမ်းသာသုခကို ဖွေရှာကြရကုန်သည် မဟုတ်ပါလော။

အိုး–အရှင်ဂေါတမ၊ အရာခပ်သိမ်းတို့ကား မပျက်စီးသေးသောကာလ (ဝါ) ပျက်စီးခြင်းသို့ မရောက်သေးသမျှကာလပတ်လုံး "အတ္တ"ဟု အထင်အရှားရှိနေပါလျက် သဗ္ဗေဓမ္မာ အနတ္တာဟု ဟောပြောနေသော အသင်၏ဓမ္မဒေသနာတော်ကား အဘယ်သို့လျှင် သင့်ပါချေမည်နည်း။

(ထိုအခါ ဗုဒ္ဓက ပြန်၍ မေးလိုက်သည်။)

မေး။ အချင်း သစ္စက၊ သင့်အား၊ ငါမေးပေအံ့။ ဤငါးပါးသော ရုပ်နာမ်ခန္ဓာ အစုအဝေးကို "ငါ၏ကိုယ်"ဟူ၍ပင် အသင် အယူရှိလေသလော။

ဖြေ။ အိုး–အရှင်ဂေါတမ၊ ဤခန္ဓာငါးပါး အစုအဝေးကို ငါ၏ကိုယ်ဟူ၍ ကျွန်ုပ်တစ်ဦးတည်းသာ အယူရှိသည်မဟုတ်။ ဤပရိသတ် လေးပါးကလည်း "ငါ၏ကိုယ်"ဟူ၍ပင် မှတ်ထင်ကြကုန်သည် အရှင်ဂေါတမ။

မေး။ အချင်း သစ္စက၊ သင့်ကို ငါမေးနေခြင်း ဖြစ်သည်။ သူတစ်ပါး အပေါ်သို့ လွှဲပုံ၍ မချလေလင့်။ သင်၏အယူအဆကိုသာ ငါ့အား ထင်စွာပြ၍ ဖြေလော့။

(သစ္စကသည် အတန်ကြာ တွေဝေနေပြီးမှ)

ဖြေ။ အိုး–အရှင်ဂေါတမ၊ ကျွန်ုပ်သည်လည်း ဤရုပ်၊ ဤနာမ်၊ ဤခန္ဓာကောင်ကို "ငါ၏ကိုယ်"ဟူ၍ပင် အယူရှိပါ၏။

မေး။ အချင်း သစ္စက၊ ယင်းတို့တပြီးကား ဤခန္ဓာငါးပါး အစုအဝေးကို "ငါ၏ကိုယ်"ပင်ဟု အသင် ဝန်ခံခဲ့သော် တစ်ဖန် သင့်ကို ငါမေးရဦးအံ့။ ဖြေလော့ သစ္စက။ တိုင်းပြည်တစ်ခု၌ အကြင်ပြည့်ရှင်မင်းသည် ရှိလေရာ၏။ ထိုပြည့်ရှင်မင်းသည် မိမိနိုင်ငံတွင်း ဆိုးသွမ်းသောင်းကျန်းနေသူတို့ကို အပြစ်အားလျော်စွာ တိုက်ခိုက်နှိမ်နင်း ဆုံးမခြင်းငှာလည်းကောင်း၊ ချီးမြှောက်ထိုက်သူ လူကောင်းသူကောင်းတို့အား အထိုက်အလျောက် သူကောင်းပြု ချီးမြှောက်ခြင်းငှာလည်းကောင်း အချုပ်အခြာ အာဏာကို အစိုးတရရှိသည် မဟုတ်ပါလော။

ဖြေ။ မှန်၏၊ အရှင်ဂေါတမ။

မေး။ အချင်း သစ္စက၊ သင့်ကိုယ်ကို သင်ပိုင်သည်ဟု ဆိုခဲ့သော် သင့်ဩဇာကို နာခံ၍ သင်စီမံရာကို လိုက်နာရပေမည်ဖြစ်ရာ သင့်ကိုသည် သင့်အလိုသို့ ပါ မပါ၊ သင်၏ဩဇာကို နာခံ၏၊ မနာခံ၏ကို သင်ခိုင်းစေ၍ ကြည့်ပါဘိ။ ငါ့ရုပ်၊ ငါ့ကိုယ်သည် မတင့်တယ်သောအားဖြင့် ငါမဖြစ်လို၊ ကြည်ညိုနှစ်သက်ဖွယ် တင့်တယ်လှပ ရှုကြည့်၍ မဝသည်သာဖြစ်စေ ဟူ၍လည်း ကောင်း၊ ဆံဖြူသွားကျွေ

အသားအရေတွန့်လိပ်သည်ကို ငါမလိုလား၊ ဆယ့်ခြောက် နှစ်သားအရွယ် တင့်တယ်သည်ဖြစ်စေသော ဟူ၍လည်းကောင်း၊ သင့်ရုပ်၊ သင့်ကိုယ်သည် သင့်အလိုသို့ပါ၍ သင်စေခိုင်းတိုင်း ရပါမည်လော။ သင် အစိုးရပါသလော။

ဤသို့ ဗုဒ္ဓက ပုစ္ဆာထုတ်လိုက်သောအခါ သစ္စကမှာ မဖြေတတ်အောင် အကျပ်ရိုက်သွား၏။ အကယ်၍ ငါ၏ကိုယ်သည် ငါ့အလိုသို့လိုက်၏၊ ငါအစိုးရ၏ ဟု ဖြေလိုက်သော် ဝေသာလီမင်းသားတို့က ထ၍ "ဆရာ့ရုပ်သည် ငါတို့ကဲ့သို့ လှပအောင်၊ တင့်တယ်အောင် ဖြစ်ပါစေလော့"ဟု ငါ့ကို ဝိုင်း၍ ခိုင်းကြလျှင် ခက်ချိမ့်မည်။ "ငါ့အလိုသို့မပါ၊ ငါခိုင်းရာသို့ မနာခံ၊ ငါစိမ့်သလို မဖြစ်ပါ"ဟူ၍ ဖြေဆိုလိုက်ခဲ့သော် အရှင်ဂေါတမ၏ အနတ္တဟူသော စကားသည် ဆိုပိုင်၍ ငါ့ကို အရှင်ဂေါတမက နိုင်ဘိလေရာသည်ဟု စဉ်းစားကာ ရှေ့တိုးထမ်းပိုး၊ နောက်ဆုတ် လှည်းတုတ်ဆိုသကဲ့သို့ပင် ❁ လှုပ်သာ မလှည့်သာ ဖြစ်နေ၏။

သို့ကြောင့်ပင် သစ္စကသည် လူပုံအလယ်၌ ဝန်ခံခြင်းလည်း မပြု၊ ငြင်းဆန်ခြင်းလည်း မပြုလေဘဲ မတုန်မလှုပ် ကျောက်ရုပ်ကဲ့သို့ ငုတ်တုတ်ထိုင်လျက် မှိုင်တွေတွေနှင့်သာ နေလေသည်။ ထိုအခါ မြတ်စွာဘုရားက–

မေး။ အချင်းသစ္စက၊ ဤဝါဒကို သင်ချေဆိုလော့။ ငါမေးအပ်သည်ကို သင်ဖြေလော့ဟု နှစ်ကြိမ်မြောက် တိုက်တွန်းတော်မူသော်လည်း သစ္စကမှာ မိမိ အမှားကို ဝန်မခံလိုသဖြင့် ငေးမြဲသာ ငေးငိုင်၍နေ၏။ ထိုအခါ ကြောက်မက်ဖွယ် သော ဘီလူးကြီးတစ်ကောင်သည် သစ္စက၏အနား၌ ဘွားခနဲပေါ်လာပြီး သစ္စက ဦးခေါင်းကို ရိုက်ခွဲရန် သံတင်းပုတ်ကြီးဖြင့် ချိန်ရွယ်ထားကာ–

"ဟယ်–သစ္စက၊ မေးတော်မူသည်ကို မဖြေလေဘဲ ဗုဒ္ဓအား အဘယ့်ကြောင့် မထေမဲ့မြင်ပြု၍ နေဘိသနည်း။ သင် ဖြေဆိုခြင်းမပြုလေက သင့်ဦးခေါင်းကို အစိတ်စိတ်အမြွာမြွာ ကွဲအောင် ငါရိုက်ခွဲလိုက်အံ့"

သစ္စကကား လျှော့ခွက်ချည်း ကျန်ပစေ၊ အလံမလှဲ ဆိုဘိသကဲ့သို့ မာန်မာနကို မချလို၊ အရှုံးမပေးလို၊ လက်မြှောက်အရှုံးပေးလိုက်ရသည်ဟူသော စကား သူ့ ဘဝ အဘိဓာန်စွယ်ကွက်၌ အမည်းစက် အစွန်းအထင်း မခံလိုသောကြောင့် တုံ့ဏှိဘာဝေ ဆိတ်ဆိတ်နေလိုက်ခြင်းဖြင့် ကြံ့ကြံ့ခံနေသော်လည်း မရတော့ချေ။ ဖြေဆိုခြင်း မပြုချေက မိမိခေါင်းပေါ်သို့ မိုးထားသော တင်းပုတ်ကြီးက မိမိခေါင်းကို ရိုက်ခွဲ ပစ်မည့်အရေး သေရမည့်ဘေးကို ကြောက်ရကား လက်မြှောက်၍ ဗုဒ္ဓအား ရှိခိုးကာ–

ဖြေ။ အရှင်ဂေါတမ၊ ကျွန်ုပ်မှားခြင်းကြီးမက မှားမိပါပြီ။ ကျွန်ုပ်၏ ကိုယ်ကို ကျွန်ုပ် မပိုင်ပါ။ ကျွန်ုပ်အလိုသို့ မပါ၊ ကျွန်ုပ်စေရာကို မလိုက်နာပါ၊ ခပ်သိမ်းကုန်သော ရုပ်ဝေဒနာ သညာ သင်္ခါရ ဝိညာဉ် နာမ်အစုစုတို့ကား အနိစ္စနှင့် အနတ္တချည်းသာလျှင် ဖြစ်ပါကုန်သည်။ အရှင်ဂေါတမ၏ ဝါဒသည်သာ မှန်ကန်သောဝါဒဖြစ်ပါ၍ ယင်းဝါဒကို ကျွန်ုပ် သက်ဝင်ယုံကြည်လျက် အရှင်ဂေါတမအား ကျွန်ုပ် အသက်ထက်ဆုံး ဆရာအဖြစ် ကိုးကွယ်ပါတော့အံ့၊ ဆည်းကပ်ပါတော့အံ့ ဟူ၍ ဗုဒ္ဓထံ ဝန်ခံပြီးလျှင် မိမိ၏ ဝါဒများကိုစွန့်ကာ ဗုဒ္ဓကို ကိုးကွယ်ဆည်းကပ်ခြင်း ပြုလေ၏။

(မဇ္ဈိမနိကာယ်၊ မဟာသစ္စက၊ စူဠသစ္စကသုတ်မှ)

# မိတ်ဆွေဖွဲ့ခြင်း

**ပြဿနာ** = ယုတ်၊ လတ်၊ မြတ်။

**မေးလျှောက်သူ** = အနာထပိဏ်သူဌေး။

အခါကယ်၍ ဗုဒ္ဓဝင်ကို အပြည့်အစုံ ရုပ်ရှင်ရိုက်ကူး၍ပြခဲ့သော် အနာထပိဏ် သူဌေးသည် ကဏ္ဍာတစ်ခုတွင် ဗုဒ္ဓနှင့်ပူးတွဲ၍ ပါလာရမည်မှာ သေချာ၏။

အဘယ့်ကြောင့်ဆိုသော် ဂေါတမရှင်တော်ဘုရား လက်ထက်တော်၌ အကျော်ဇေယျ ပုဂ္ဂိုလ်ကြီးများအနက်–

**(၁) ရဟန်းပိုင်းမှဆိုလျှင်** – အရှင်အာနန္ဒာ၊ အရှင်သာရိပုတ္တရာ၊ အရှင်မောဂ္ဂလ္လာန်၊ အရှင်သီဝလိ၊ အရှင်ဥပါလိတို့သည် ထင်ရှားကုန်၏။

**(၂) မင်းပိုင်းမှ ဆိုလျှင်** – ပသေနဒီကောသလမင်း၊ ဗိမ္ဗိသာရမင်း၊ သာကီဝင်မင်းတို့သည် အထူးထင်ပေါ်ကုန်၏။

**(၃) သူဌေးပိုင်းမှဆိုလျှင်** – အနာထပိဏ်သူဌေး၊ ဇောတိက၊ ဇဋိလ၊ မေဏ္ဍကတို့သည် အကျော်အမော်သူဌေးကြီးများ ဖြစ်သောကြောင့်ပေတည်း။

ဗုဒ္ဓလက်ထက်တော်က ထိုသူဌေးကြီးများတွင်လည်း အနာထပိဏ်သူဌေးကား ဟိုးလေးတကျော်ဖြစ်လေသည်။ သူ၏ကျော်ခြင်းကား အခြားသူဌေးများ ကျော်နည်းကားနှင့်မတူ။ ဗုဒ္ဓမြတ်ဘုရားနှင့် ဆရာရင်း၊ ဒကာရင်း လက်ပွန်းတတီး ရင်းနှီးသောကြောင့်တစ်ကြောင်း၊ ငင်းပြင် အသပြာငွေပေါင်း ၅၄–ကုဋေ အကုန်အကျခံ၍ ဇေတဝန်ကျောင်းတော်ကြီးကို ဆောက်လုပ်လျက် လှူဒါန်းလေသဖြင့်

ကျောင်းဒါယကာကြီးတစ်ဦးအနေဖြင့် တစ်ကြောင်း အထူးကျော်ကြားခြင်း ဖြစ်လေသည်။

ထိုထက်ထင်ရှားသော အကြောင်းတစ်ခုရှိသေး၏။ ယင်းအကြောင်းသည်ကား သူလို ရောမသူဌေးကြီးတစ်ဦးအဖို့ အဆမတန်ထူးခြားစေသော အပေါင်းအသင်းကောင်းခြင်း အကြောင်းရင်းတစ်ရပ် ဖြစ်သတည်း။

အနာထပိဏ် = ဤမည်သောသူ၏ အမည်နာမကပင် သူ့ဘဝကို ဖော်ပြနေပေ၏။ မြူ၍ မိဖြူ၊ လှ၍ မိလှ၊ ကောင်း၍ ဖိုးကောင်း၊ အမည်နာမမှည့်ခေါ်ကြသကဲ့သို့တည်း။

သူ့အမည်နာမနှင့် သူ့ဘဝ အဘယ်သို့ စပ်ဟပ်လေသနည်းဆိုသော် သူ၏ အနာထပိဏ်ဟူသော အမည်နာမကို သရုပ်ခွဲချလိုက်သောအခါ–

အ+နာထ=ပိဏ္ဍိက=ဖြစ်သော ဟူ၏။
အ=မ၊ မရှိ၊ မဟုတ်၊ မမှန် စသည်၊
နာထ=ကိုးကွယ်ရာ၊ အားထားမှီခိုရာ၊
ပိဏ္ဍိက=ထမင်းခဲ၊ ရွှေငွေ၊ အတုံးအခဲ။

နာထ=ကိုးကွယ်အားထားရာဟူသော အနက်ကို အ–သဒ္ဒါနှင့် ပေါင်းလိုက်သောအခါ အနာထ ဖြစ်လာသည်။ ယင်း၏အနက်ကား အားထားရာမဲ့၊ ကိုးကွယ်ရာမဲ့၊ စားရမဲ့၊ သောက်ရမဲ့ဖြစ်နေသော သူများ ဟူသော အဓိပ္ပာယ်ကို ဆောင်၏။

ပိဏ္ဍိကမှ ပိဏ်ဟူ၍ ဖြစ်လာ၏။ ယင်း၏အနက်ကား အစိုင်အခဲဖြစ်သော ထမင်းခဲ၊ ရွှေခဲ၊ ငွေခဲ စသည်တို့ကို ကောက်ယူနိုင်ပေသည်။ ယင်း အ၊ နာ၊ ထ၊ ပိဏ္ဍိက ဟူသော စကားသုံးလုံးကို စုရုံး တွဲစပ်ရာမှ **အနာထပိဏ်** ဖြစ်လာသော စကားလုံး၏ အဓိပ္ပာယ်မှာ ကိုးကွယ်အားထားရာ မဲ့နေသော မရှိနွမ်းပါး ဆင်းရဲသားများအား ထမင်းခဲ၊ ရွှေခဲ၊ ငွေခဲ စသည်ကို ပေးကမ်းစွန့်ကြဲလေ့ရှိသော သူဌေးဟု ဆိုလိုသည်။

အနာထပိဏ်သူဌေးသည် ဆိုခဲ့သောအတိုင်း သူ၏အမည်နာမနှင့်လိုက်အောင် ဆင်းရဲသားများအား သနားတတ်သူဖြစ်သည့်အားလျော်စွာ ရွှေတန်လျှင် ရွှေ၊ ငွေတန်လျှင် ငွေ၊ စပါးဆန်ရေ အစားစာတန်လျှင် အစားအစာ၊ အဝတ်တန်လျှင် အဝတ်အထည် ပေးကမ်းလေ့ရှိသောကြောင့် သူ့အား ဆင်းရဲသားများက ဝိုင်း၍ ချစ်ခင်ကြ၊ မြတ်နိုးကြ၊ ရိုသေလေးစားကြသည်။

ဤသို့အားဖြင့် အနာထပိဏ်ကား ငါသူဌေးဟူသော မာန်မာနဝင့်ဝါခြင်း မရှိ။ အယုတ်၊ အလတ်၊ အမြတ်မရွေး၊ ဆင်းရဲချမ်းသာမရွေး ရောနှောပေါင်းသင်း

လေ့ရှိ၏။ ဆင်းရဲသားများနှင့် ချစ်ကျွမ်းတဝင် ရင်းရင်းနှီးနှီး ဆက်ဆံနေထိုင်မှု များသောကြောင့် ဆင်းရဲသားနှင့် သူဌေး ရွေးမရအောင်ပင် ဖြစ်သည်။

အနာထပိဏ်သူဌေးသည် ဘဝကို ပုံစံမှန်မှန်၊ သဘာဝကျကျ တွက်တတ်သူလည်း ဖြစ်သည်။ သူ့ဘဝတွင် လူတန်းစားခွဲခြားမှု မရှိ။ အဆင့်အတန်းမတူဟူ၍ လူတန်းစားခွဲခြားမှုကို မလိုလား၊ များစွာစက်ဆုပ်ရွံမုန်းသူ ဖြစ်လေသည်။

ထို့ကြောင့်ပင် အနာထပိဏ်သည် ပေါင်းသင်းဆက်ဆံရေး၌ အယုတ်၊ အလတ်၊ အမြတ်မရွေး အားလုံးနှင့် သင့်တင့်ရောနှော ဆက်ဆံမှုဖြင့် ဘဝသာယာမှုကို ရှာကြံ၍နေသူ ဖြစ်သည်။

ဤသို့ ဆင်းရဲချမ်းသာ မရွေး အပေါင်းအသင်း ဝင်ဆံ့သည်ကို အခြားသူဌေးများနှင့် သူ၏ဆွေမျိုး လူကုံထံအထက်လွှာ အသိုင်းအဝိုင်းက ဆင်းရဲသားများနှင့် ဖက်လဲတကင်း ရောရောနှောနှော ဆက်ဆံမှုပြုခြင်းသည် မိမိတို့၏ ဂုဏ်သိက္ခာကိုပါ ထိခိုက်စေပါသည်ဟူ၍ အနာထပိဏ်အား ထိုသို့ဆက်ဆံခြင်းမပြုရန် ဟန့်တား ပိတ်ပင်ကြလေသည်။

သို့သော် အနာထပိဏ်သူဌေးက တွက်ဆသည်ကား ဆင်းရဲသားအလုပ်သမားများ ရှိသောကြောင့်သာ အလုပ်တွင်ကျယ်သည်။ အလုပ်တွင်ကျယ်သည်ကို အကြောင်းပြု၍ တို့မှာ စီးပွားဥစ္စာတိုးတက်သည်။ တစ်ဖန် တို့က အလုပ်ပေးနိုင်သောကြောင့် ဆင်းရဲသားများ အလုပ်အကိုင်ရှိပြီး ထိုက်သင့်သောလုပ်ခကို ရကြသည်။ ရသောကြောင့်လည်း သူတို့ဘဝ စားဝတ်နေမှုဖူလုံကြသည်။ အလုပ်ရှင်နှင့် အလုပ်သမားသည် စင်စစ် ကျေးဇူးခံ ကျေးဇူးစား၊ တစ်အိတ်တည်းရွှေ၊ တစ်လှေတည်းစီး၊ တစ်ခရီးတည်းသွား၊ ခွဲခြားခြင်း မပြုထိုက်ဟု ယူဆကာ တားမြစ်ကန့်ကွက်သူတို့၏စကားကို ပယ်လျက် ဆင်းရဲသားများနှင့် ပေါင်းမြဲပင် ပေါင်းသင်းနေလေ၏။

သို့သော် အနာထပိဏ်သူဌေးသည် ထိုပြဿနာအတွက် မတင်မကျ ဘဝင်မရှင်းဘဲ ဖြစ်နေ၏။ သူဌေးဖြစ်သောကြောင့် ဆင်းရဲသားလူတန်းစားနှင့် အပေါင်းအသင်း မပြုရတော့ပြီလော။ ဤအတွေးက သူ့ဦးနှောက်ကို အချိန်ရသရွေ့ ဖောက်ဖောက်နေသောကြောင့် တစ်နေ့သောအခါတွင် သူသည် ဇေတဝန်ကျောင်းတော်သို့သွားလေသည်။ ကျောင်းတော်သို့ရောက်သောအခါ မြတ်စွာဘုရားအား ဤသို့လျှောက်ထား မေးမြန်းခြင်းပြုလေတော့သည်။

မေး။ ဘုန်းတော်ကြီးလှသော မြတ်စွာဘုရား၊ တပည့်တော်သည် ဆင်းရဲချမ်းသာမရွေး အညီအမျှ ပေါင်းသင်းဆက်ဆံခြင်းပြုသည်ကို အချို့တို့က မလိုလားကြပါ၊ မနှစ်သက်ကြပါ။ အဆင့်အတန်းချင်း မတူသူနှင့် ပေါင်းသင်းရမည်

လားဟူ၍ အပြစ်တင်လာကြရုံမက ထိုသို့သူဌေးနှင့်ဆင်းရဲသား ဟန်းတူထား၍ ပေါင်းသင်းခြင်းမပြုရန်ကိုပင် ပိတ်ပင်တားမြစ်ကြပါကုန်သည်။ သူဌေးဖြစ်သဖြင့် လူကို အဆင့်အတန်းခွဲခြား၍ ပေါင်းသင်းအပ်ပါသလား၊ သို့မဟုတ် အဆင့်အတန်း မခွဲခြားဘဲ ပေါင်းအပ်ပါသလား ဘုရား။

ဖြေ။ အို–အနာထပိဏ်၊ အပေါင်းအသင်း အဆွေခင်ပွန်းမည်သည် ငယ်၏ မဟူ၊ နိမ့်ကျ၏မဟူ ဖွဲ့အပ်၏။ ပေါင်းသင်းထိုက်၏။ အဆွေခင်ပွန်းဖွဲ့ကြရာ၌ မိတ်ဝတ်ဆွေဝတ် မပျက်ရအောင် စောင့်ရှောက်ခြင်းမှာ စွမ်းနိုင်သော အဖြစ်သည် သာလျှင် ပဓာနဖြစ်၏။ အဆွေခင်ပွန်းမည်သည်ကို ကိုယ်နှင့်တန်းတူဖြစ်စေ၊ ကိုယ့်အောက်ယုတ်နိမ့်သည် ဖြစ်စေ၊ ကိုယ့်ထက် မြတ်သည်ဖြစ်စေ ဖွဲ့အပ်၏။

အယုတ်၊ အလတ်၊ အမြတ်ဖြစ်ကုန်သော ထိုအဆွေခင်ပွန်းတို့သည်လည်း မိတ်ကောင်းတို့ပြုကျင့်ရာသော ကျင့်ဝတ်ကို မချွတ်မယွင်းအောင် စောင့်ရှောက် ပေးကြကုန်သည်သာတည်းဟု မိန့်တော်မူပြီးလျှင် ယုတ်၊ လတ်၊ မြတ် မရွေး မိတ်ဖွဲ့အပ်ပုံကို ထင်ရှားစေခြင်းမှာ ကုသနာဠိဇာတ်ကို ဆက်၍ ဟောတော်မူသည်။ ထိုဇာတ်၌ မိတ်ဖွဲ့သင့်ပုံကို ရုက္ခစိုးနတ်က ဤသို့ဆိုပေသည်။

"အို–နတ်မင်းအပေါင်းတို့၊ ကိုယ်နှင့်တန်းတူ ဖြစ်သောသူသည်လည်း အဆွေခင်ပွန်းတို့၏ ကျင့်ဝတ်တရားကို ပြုရာ၏။ ကိုယ့်ထက်မြတ်သော သူသည် လည်းကောင်း၊ ကိုယ့်အောက် ယုတ်သောသူသည်လည်းကောင်း အဆွေခင်ပွန်း တို့၏ ကျင့်ဝတ်တရားကို ပြုရာ၏။ အယုတ်၊ အလတ်၊ အမြတ်မရွေး ထိုအဆွေ ခင်ပွန်းတို့သည် မိမိအဆွေခင်ပွန်းအား ဘေးတွေ့လတ်သော် မြတ်သောအကျိုးကို ပြုကုန်ရာ၏။ ထို့ကြောင့် ရစာမည်သော မင်္ဂလာသစ်ပင်၌ဖြစ်သော၊ တန်ခိုးဣဒ္ဓိပါဒ် နှင့် ပြည့်စုံသော ငါ ရုက္ခစိုးနတ်သည်လည်းကောင်း၊ ဘုန်းတန်ခိုးသေးသိမ်သော သမန်းဖုတ်ကျရုံ၌ဖြစ်သော နတ်သည်လည်းကောင်း၊ ထိုအကျွန်ုပ်တို့ နှစ်ဦးသည် အဆင့်အတန်းမခွဲ ခြား ပေါင်းသင်းမိတ်ဖွဲ့ခြင်းပြုသကဲ့သို့ ထို့အတူ ဆင်းရဲဘေးမှ လွတ်မြောက်လိုသူတို့သည်လည်း ကိုယ်နှင့်တန်းတူကိုဖြစ်စေ၊ ကိုယ့်အောက်ကျသူ ကိုဖြစ်စေ၊ ကိုယ့်ထက်မြတ်သူကို ဖြစ်စေ မိတ်ဖွဲ့ခြင်းကို ပြုအပ်၏။

# ဝိညာဉ်စိတ်

**ပြဿနာ = သာတိရဟန်း၊**

**မေးလျှောက်သူ = ရဟန်းအများ။**

ဝါဒစွဲကား ဘိန်းစွဲသည်ထက် ဆိုး၏။ ဘိန်းစွဲကို အစွဲကျွတ်အောင် ချွတ်၍ ရချင်ရပေမည်။ ဝါဒစွဲကိုကား ချွတ်ဖို့မလွယ်လှ။ မိမိဝါဒစွဲကို လက်မလွှတ်ဘဲ "နွားကုပ်လက်ကိုင်" ဆုပ်ကိုင်ထားတတ်သည်။ ကျားပိန်တွယ် တွယ်ကပ်ထား တတ်သည်။

ဘုရားသခင် လက်ထက်တော်က ဖြစ်၏။ တံငါသည်သား သာတိအမည် ရှိသော ရဟန်းတစ်ပါးသည် တစ်ယူသန် ဝါဒစွဲ စွဲနေသူ ဖြစ်၏။

"ဘုံဘဝတစ်ခွင်၌ ကျင်လည်နေသည်မှာ ဤစိတ်၊ ဤဝိညာဉ်သာ ဖြစ်သည်။ ဤဝိညာဉ်၊ ဤစိတ်မှတစ်ပါး အခြားမရှိ၊ ဤသို့ ဘုရားဟောချက်ကို ငါသိ၏"

သာတိရဟန်းသည် အထက်ပါစကားကို ဘုရား မဟောပါဘဲလျက် ဘုရား ဟောလေဟန်ဖြင့် တစ်ယူသန် ကိုယ်ထင်ရာ စွဲနေရုံသာမက အခြားသူများအားလည်း ဝါဒဖြန့်နေ၏။

မှားယွင်းနေသော ထိုအစွဲကို ကျွတ်အောင် ရဟန်းတို့က ဆိုပြောနားချ၍ ချွတ်ကုန်သော်လည်း မရ။ သူ့အစွဲကို မစွန့်လေ။ ချွတ်၍ မရသည့်အဆုံး၌ သံဃာ တော်များမှတစ်ဆင့် ထိုပြဿနာသည် ဘုရားသခင်ရှေ့မှောက်သို့ ရောက်သွားလေ သည်။ ထိုအခါ သာတိရဟန်းကို ခေါ်၍ ဗုဒ္ဓက စစ်မေးတော်မူလေ၏။

မေး။ အို-သာတိ၊ ဤစိတ်၊ ဤဝိညာဉ်သည်သာ ဘုံဘဝ၌ ပြေးသွားကျင် လည်၏။ အခြားမရှိ။ ဤသို့ ငါဟောသည်ကို သင် သိရသောဟူသည် မှန် သလော။

ဖြေ။ အရှင်ဘုရား၊ ဤစိတ်၊ ဤဝိညာဉ်သည်ပင် ထိုထိုဘုံဘဝသို့ ပြေးသွား ကျင်လည်၏။ အခြားတစ်ပါးလည်း မဟုတ်။ ဤသို့ပင် ဘုရားဟော သည်ကို တပည့်တော် သိမှတ်ရပါသည်။

ဘုရားက မေးသည်ကိုပင် သာတိရဟန်းကား မိမိဝါဒစွဲကို လက်မလွှတ်ဘဲ သည်းအတိုင်းပင် ဝံ့ရဲစွာ ပြန်လျှောက်လိုက်၏။ **ထို့ကြောင့် ဗုဒ္ဓက သာတိအား ထပ်ဆင့်၍ ပုစ္ဆာထုတ်တော်မူရပြန်ပြီ။**

မေး။ အို–မင်္ဂဖိုလ်ကင်းကွာ၊ ဘာဝနာမမှီး အချည်းနှီးသော ရဟန်း၊ အဘယ်အရာကို စိတ်၊ ဝိညာဉ်ဟု သင် ဆိုလိုသနည်း။

**ဖြေ။ အရှင်ဘုရား၊ စွဲယူတတ်၊ စွဲယူအပ်၍ သို့မဟုတ် ခံစားတတ်၊** ခံစားအပ်၍ ထိုထိုဘုံဘဝ၌ ကောင်းမှု၊ ဆိုးမှု၊ အကျိုးစုကို ခံစားသောစိတ်သည် ဝိညာဉ် ဖြစ်ပါသည်။

မေး။ အို–အချည်းနှီးသော ရဟန်း၊ မည်သူ့အား ငါ ဤသို့ဟောညွှန် သည်ကို သင် ကြားသိရသနည်း။ အို–အချည်းနှီးသော ရဟန်း၊ "စိတ်၊ ဝိညာဉ် သည် အကြောင်းပေါင်း မြောက်မြားစွာဖြင့် စွဲမှီ၍ ဖြစ်သည်။ အကြောင်းမဲ့ ဝိညာဉ် ဖြစ်ခြင်းမဟုတ်"ဟုသာ ငါ ဟောညွှန်သည် မဟုတ်ပါလော။

အို–အချည်းနှီး ရဟန်း၊ ထိုသို့ဖြစ်ပါလျက် သင်သည် မိမိကိုယ်တိုင် ဆိုးဆိုးရွားရွား စွဲမှားယူမှား၊ အထင်မှားအမြင်မှားဖြစ်၍ ငါတို့ကို စွပ်စွဲဘိချေသည်။ မိမိကိုယ်တိုင်လည်း သံသရာချောက်တွင်း၌ ကျဆင်းရန် တူးဘိချေသည်။ အများသူ ပေါင်း လူအပေါင်းတို့၏ မကောင်းဆိုးရွားမှု များစွာကိုလည်း ဆည်းပူးပွားများ စေဘိချေသည်။

အို–အချည်းနှီးသော ရဟန်း၊ သင်၏ ထိုအယူအစွဲကား သင့်ကိုယ်တိုင် ရှည်မြင့်စွာ အကျိုးနည်းရန်၊ ဆင်းရဲရန်ဖြစ်လတ္တံ့ဟု မိန့်တော်မူပြီးလျှင် ရဟန်း တို့အား မေးတော်မူသည်မှာ–

မေး။ အို–ရဟန်းတို့၊ ဤသာတိသည် ဤအဆုံးအမတရား၌ ပူနွေး အောင် အားထုတ်သူ၊ လုပ်ကိုင်သူ ဖြစ်ပါ၏လော။

ဖြေ။ **အဘယ်မှာ** အားထုတ်ပါမည်နည်း ဘုရား။ သူသည် ပူနွေးအောင် မျှပင် ဤသြဝါဒ၌ အားထုတ်သူ မဟုတ်ပါ ဘုရား။

**ဤသို့ ရဟန်းများက ဝိုင်း၍** လျှောက်ထားကြကုန်လေသော် **ဘိက္ခုသာတိ** သည် မည်သို့မျှ မလှုပ်တော့ဘဲ ခေါင်းငိုက်စိုက်ချ၍ မှိုင်ကျသွားလေ၏။ ထိုအခါ မြတ်စွာဘုရားက–

မေး။ အို–အချည်းနှီးသော ရဟန်း၊ သင်သည် မိမိ၏ ဆိုးရွားလှစွာသော အယူအစွဲဖြင့် ထင်ရှားလတ္တံ့ဟု မိန့်တော်မူကာ တစ်ဖန် ရဟန်းတို့အား မေးတော်မူပြန်လေသည်။

"အို–ရဟန်းတို့၊ သင်တို့သည်လည်း ဤသာတိကဲ့သို့သော အယူအစွဲရှိကြကုန်သလော"

ဖြေ။ "မရှိပါကုန် ဘုရား"ဟု ဖြေကြသဖြင့် ဘုရားမြတ်စွာသည် ဝိညာဉ် အကြောင်းကို ရဟန်းတို့အား ဟောညွှန်တော်မူလေသည်ကား–

"အို–ရဟန်းတို့၊ ဝိညာဉ်သည် အကြောင်းပေါင်း မြောက်မြားစွာကို စွဲ၍ ဖြစ်၏။ အကြောင်းမရှိလေဘဲ ဝိညာဉ်သည် မဖြစ်။

"အို–ရဟန်းတို့၊ ဝိညာဉ်သည် မည်သည့်အရာကိုပင် စွဲ၍ ဖြစ်သည်ဖြစ်စေ ဝိညာဉ်ဟူ၍ပင် ခေါ်ပေ၏။

(၁) မျက်စိဖြင့် အဆင်းကိုစွဲ၍ ဝိညာဉ်စိတ်ဖြစ်ခဲ့သော် မျက်စိအသိစိတ်၊ မျက်စိဝိညာဉ် ခေါ်၏။

(၂) နားဖြင့် အသံကိုစွဲ၍ ဝိညာဉ်စိတ်ဖြစ်ခဲ့သော် နားအသိစိတ်၊ နားဝိညာဉ် ခေါ်၏။

(၃) နှာခေါင်းဖြင့် အနံ့ကိုစွဲ၍ ဝိညာဉ်စိတ်ဖြစ်ခဲ့သော် နှာခေါင်းအသိစိတ်၊ နှာခေါင်းဝိညာဉ် ခေါ်၏။

(၄) လျှာဖြင့် အရသာကိုစွဲ၍ ဝိညာဉ်စိတ်ဖြစ်ခဲ့သော် လျှာအသိစိတ်၊ လျှာဝိညာဉ် ခေါ်၏။

(၅) ကိုယ်ဖြင့် အထိ အတွေ့ကိုစွဲ၍ ဝိညာဉ်စိတ်ကို ဖြစ်ခဲ့သော် ကိုယ်အသိစိတ်၊ ကိုယ်ဝိညာဉ် ခေါ်၏။

(၆) စိတ်ဖြင့် အာရုံကိုစွဲ၍ ဝိညာဉ်စိတ်ဖြစ်ခဲ့သော် စိတ်အသိစိတ်၊ စိတ်ဝိညာဉ် ခေါ်၏။

အို–ရဟန်းတို့၊ ဤဥပမာအားဖြင့် ထိုထိုအကြောင်းကိုစွဲ၍ ဖြစ်သော မီးကို မီးဟုပင်ခေါ်၏။ ထင်းကိုစွဲ၍ဖြစ်ခဲ့သော် ထင်းမီး၊ ဝါးခြမ်းကိုစွဲ၍ဖြစ်ခဲ့သော် ဝါးခြမ်းမီး၊ ဖွဲကိုစွဲ၍ဖြစ်ခဲ့သော် ဖွဲမီး၊ အမှိုက်ကိုစွဲ၍ဖြစ်ခဲ့သော် အမှိုက်မီး စသည် ခေါ်ဝေါ်ရသကဲ့သို့တည်း။

မေး။ ရဟန်းတို့၊ ဝိညာဉ်၏ ထင်ရှားစွာ ဖြစ်ပေါ်ခြင်းကို သင်တို့မြင်ကြကုန်၏လော။

ဖြေ။ မြင်ပါကုန်၏ ဘုရား။

မေး။ ယင်း၏ဖြစ်ကြောင်းကို မြင်ကြကုန်၏လော။

ဖြေ။ မြင်ပါကုန်၏ ဘုရား။

မေး။ ဝိညာဉ်၏ အကြောင်း ချုပ်ခဲ့သော် အကျိုးဝိညာဉ်ချုပ်ခြင်း သဘော ကို မြင်ကြကုန်၏လော။

ဖြေ။ မြင်ကြပါကုန်၏ ဘုရား။

မေး။ အို–ရဟန်းတို့၊ "ဝိညာဉ် ထင်ရှားဖြစ်လေသလော"ဟု အလို့လို့ ရှိသူမှာ ယုံမှားဖြစ်သည် မဟုတ်လော။

ဖြေ။ ဖြစ်ပါသည် ဘုရား။

မေး။ ဝိညာဉ်သည် အကြောင်းကြောင့်ဖြစ်လေသလောဟု အလို့လို့ ရှိသူမှာ ယုံမှားဖြစ်သည် မဟုတ်ပါလော။

ဖြေ။ ဖြစ်ပါသည် ဘုရား။

မေး။ အကြောင်းချုပ်သော် အကျိုးဝိညာဉ်ချုပ်သလောဟု အလို့လို့ ရှိသူမှာ ယုံမှားဖြစ်သည် မဟုတ်ပါလော။

ဖြေ။ ဖြစ်ပါသည် ဘုရား။

မေး။ ရဟန်းတို့၊ ဝိညာဉ်ထင်ရှားဖြစ်ပေါ်သည်ဟု ဟုတ်တိုင်းမှန်စွာ မှန်စွာသော ဉာဏ်အမြင်ဖြင့် ဆင်ခြင်၍ကြည့်သူမှာ ယုံမှားကင်းသည် မဟုတ်ပါလော။

ဖြေ။ ကင်းပါသည် ဘုရား။

မေး။ ဝိညာဉ်သည် အကြောင်းကြောင့်ဖြစ်သည်ဟု ဟုတ်တိုင်းမှန်စွာ သော ဉာဏ်ဖြင့် ဆင်ခြင်ကြည့်သူမှာ ယုံမှားကင်းသည် မဟုတ်ပါလော။

ဖြေ။ ကင်းပါသည် ဘုရား။

မေး။ ဝိညာဉ်၏အကြောင်းချုပ်သော် အကျိုးဝိညာဉ်ချုပ်၏ဟု ဟုတ်တိုင်း မှန်စွာ မှန်စွာသောဉာဏ်ဖြင့် ဆင်ခြင်ကြည့်သူမှာ ယုံမှားကင်းသည် မဟုတ်ပါလော။

ဖြေ။ ကင်းပါသည်။

မေး။ ရဟန်းတို့၊ ဤဝိညာဉ်ထင်ရှားဖြစ်သည်ကိုလည်းကောင်း၊ ၎င်း၏ ဖြစ်ကြောင်းကိုလည်းကောင်း၊ ၎င်း၏ ချုပ်ငြိမ်းခြင်းကိုလည်းကောင်း သင်တို့ ယုံမှားကင်းကြကုန်၏လော။

ဖြေ။ ကင်းပါကုန်၏ ဘုရား။

မေး။ ဟုတ်တိုင်းမှန်စွာ မှန်စွာသော ဉာဏ်ဖြင့် ဆင်ခြင်ကြ၊ ထင်မြင်ကြ ကုန်၏လော။

ဖြေ။ ထင်မြင်ကြပါကုန်၏ ဘုရား။

မေး။ အို–ရဟန်းတို့၊ ဤသို့အားဖြင့် သန့်ရှင်းဖြူစင်လှသော ဤ အယူအစွဲကို ကပ်ငြိတွယ်တာကြကုန်၊ ခင်မင်ကြကုန်လေအံ့။ ရဟန်းတို့၊ ယင်းသို့ ကပ်ငြိ တွယ်တာကုန်၊ ခင်မင်ကုန်သည်ရှိသော် "ဤတရားသည် ထွက်မြောက်ရန်သာ စွဲယူရန် မဟုတ်"ဟု ဟောညွှန်ချက် ဖောင်ဥပမာ တရားတော်ကို နားလည်ကြ ပါကုန်အံ့လော။

ဖြေ။ နားလည်သူ မဖြစ်နိုင်ပါ ဘုရား။

မေး။ ထိုကဲ့သို့ ကပ်ငြိ တွယ်တာခြင်း၊ ခင်မင်မြတ်နိုးခြင်း မရှိခဲ့အံ့၊ သို့ဖြစ်ခဲ့သော်သော ဥပမာ တရားတော်ကို နားလည်သူဖြစ်ကုန်အံ့လော။

ဖြေ။ မှန်ပါသည် ဘုရား။

မေး။ ရဟန်းတို့၊ ထင်ရှားဖြစ်ပြီး သတ္တဝါတို့ တည်တံ့နေနိုင်ရန်၊ ဝမ်းတွင်း၌ ကိန်းနေသော သတ္တဝါတို့အား ထောက်ပံ့တိုးပွားရန် အစာတို့ကား လေးမျိုးတည်း။ အဘယ်တို့နည်း။

(၁) ကြမ်းသည်ဖြစ်စေ၊ နုသည်ဖြစ်စေ အစိုင်အခဲဖြစ်သော ထမင်း၊ မုန့်ပဲအစာ။

(၂) ဒုတိယမြောက်–တည်မှီရာ၊ အာရုံ၊ ဝိညာဉ် သုံးမျိုးစုံ တွေ့ဆုံခြင်း။

(၃) တတိယ–စိတ်၏စေ့ဆော် လုံ့ပန်းခြင်း။

(၄) စတုတ္ထ–စိတ်ဝိညာဉ်

ဤလေးပါးတို့ ဖြစ်သတည်း။

အို–ရဟန်းတို့၊ ဤအစာအာဟာရတို့သည် အဘယ်လျှင် ဖြစ်ကြောင်း ရှိကုန်သနည်း။ အဘယ်အကြောင်းကြောင့် ဖြစ်ကုန်သနည်း။ တပ်မက်ခြင်းတဏှာ လျှင် ဖြစ်ကြောင်းရှိကုန်၏။ တပ်မက်ခြင်းအကြောင်းကြောင့် ဖြစ်ကုန်၏။ တပ်မက် ခြင်းသည် အဘယ့်ကြောင့်ဖြစ်သနည်း။ ခံစားခြင်းကြောင့် ဖြစ်၏။ ခံစားခြင်းသည် အဘယ့်ကြောင့် ဖြစ်သနည်း။ အတွေ့ တွေ့ဆုံခြင်းကြောင့်ဖြစ်၏။ တွေ့ဆုံခြင်းသည် အဘယ့်ကြောင့်ဖြစ်သနည်း။ တည်မှီရာ ခြောက်မျိုးကြောင့် ဖြစ်၏။ တည်မှီရာ ခြောက်မျိုးသည် အဘယ့်ကြောင့် ဖြစ်သနည်း။ နာမ်နှင့်ရုပ်ကြောင့် ဖြစ်၏။ နာမ်နှင့်ရုပ်သည် အဘယ့်ကြောင့် ဖြစ်သနည်း။ ဝိညာဉ်ကြောင့် ဖြစ်၏။ ဝိညာဉ် သည် အဘယ့်ကြောင့် ဖြစ်သနည်း။ ကုသိုလ်၊ အကုသိုလ်ကံ ပြုစီမံရေးကြောင့် ဖြစ်၏။ ကုသိုလ်၊ အကုသိုလ်ပြုစီမံရေး အဘယ့်ကြောင့်ဖြစ်သနည်း။ မသိ တွေဝေခြင်းကြောင့် ဖြစ်၏။

အို–ရဟန်းတို့၊ ဤသို့အားဖြင့် မသိ တွေဝေခြင်းကြောင့် ကုသိုလ်၊ အကုသိုလ်ကံ ပြုစီမံခြင်းဖြစ်၏။ ကံကြောင့် ဝိညာဉ်ဖြစ်၏။ ဝိညာဉ်ကြောင့်

နာမ်ရုပ်ဖြစ်၏။ နာမ်ရုပ်ကြောင့် တည်မှီရာ ခြောက်မျိုးဖြစ်၏။ တည်မှီရာ ခြောက်မျိုးကြောင့် တွေ့ဆုံခြင်းဖြစ်၏။ တွေ့ဆုံမှုကြောင့် ခံစားခြင်းဖြစ်၏။ ခံစားမှုကြောင့် တပ်မက်ခြင်း ဖြစ်၏။ တပ်မက်ခြင်းကြောင့် စွဲလမ်းခြင်းဖြစ်၏။ စွဲလမ်းခြင်းကြောင့် ကံပြုလုပ် ရေးဖြစ်၏။ ကံပြုလုပ်ရေးကြောင့် ဘဝသစ်ဖြစ်၏။ ဘဝသစ်ဖြစ်ရသောကြောင့် အိုရ၊ နာရ၊ သေရခြင်း ဖြစ်၏။ စိုးရိမ်ပူဆွေး ငိုကြွေးခြင်း၊ ကိုယ်စိတ်မချမ်းသာခြင်း၊ ပြင်းစွာပင်ပန်းရခြင်းတို့ ဖြစ်ကုန်၏။ ယင်းသို့ ကုန်အောင်စုံသော ဤသည့် ဆင်းရဲမှုများ ဖြစ်ပွား၏။

မေး။ အို–ရဟန်းတို့၊ ဘဝသစ်ဖြစ်ရေးကြောင့် အိုရ၊ သေရခြင်းဖြစ်သည်ဟုဆိုရာ၌ ဘဝသစ်ဖြစ်ခြင်းကြောင့် အိုရ၊ သေရခြင်းဖြစ်သလော၊ သို့မဟုတ် ဤအရာ၌ အဘယ်သို့ဖြစ်သနည်း။

ဖြေ။ အို–မြတ်စွာဘုရား၊ ဘဝဖြစ်ပွားခြင်းကြောင့် အိုရ၊ သေရခြင်းဖြစ်သည်ဟုပင် အယူရှိကြသည်။ ဝိညာဉ်ကြောင့် နာမ်ရုပ်ဖြစ်၏။ နာမ်ရုပ်ကြောင့် တည်မှီရာ ခြောက်မျိုးဖြစ်၏။ တည်မှီရာခြောက်မျိုးကြောင့် တွေ့ဆုံခြင်းဖြစ်၏။ တွေ့ဆုံမှုကြောင့် ခံစားခြင်းဖြစ်၏။ ခံစားမှုကြောင့် တပ်မက်ခြင်းဖြစ်၏။ တပ်မက်ခြင်းကြောင့် စွဲလမ်းခြင်းဖြစ်၏။ စွဲလမ်းခြင်းကြောင့် ကံပြုရေးဖြစ်၏။ ကံပြုရေးကြောင့် ဘဝသစ်ဖြစ်၏။ ဘဝသစ်ဖြစ်ရသောကြောင့် အိုရ၊ သေရခြင်းဖြစ်၏။ စိုးရိမ်ပူဆွေးငိုကြွေးခြင်း၊ ကိုယ်စိတ်မချမ်းသာခြင်း၊ ပြင်းစွာပင်ပန်းခြင်းတို့ ဖြစ်ကုန်၏။ ယင်းသို့ကုန်အောင်စုံသော ဤသည့်ဆင်းရဲစုများ ဖြစ်ပွား၏။

မေး။ အို–ရဟန်းတို့၊ မသိ တွေဝေခြင်းကြောင့် ကုသိုလ်၊ အကုသိုလ်ကံ ပြုစီမံခြင်းဖြစ်သည်ဟု ဆိုရာ၌ မသိ တွေဝေခြင်းကြောင့် ကုသိုလ်၊ အကုသိုလ်ကံ ပြုစီမံခြင်းဖြစ်သလော၊ သို့မဟုတ် ဤအရာ၌ အဘယ်သို့ဖြစ်သနည်း။

ဖြေ။ အို–မြတ်စွာဘုရား၊ မသိ တွေဝေခြင်းကြောင့် ကံပြုစီမံရေးဖြစ်သည်ဟု အယူရှိကြပါသည် ဘုရား။

"ကောင်းလှပြီ ရဟန်းတို့၊ ဤသို့အားဖြင့် ဤအကြောင်းရှိသော် ဤအကျိုးဖြစ်၏။ ဤအကြောင်းဖြစ်ခြင်းကြောင့် ဤအကျိုးဖြစ်၏။ မသိ တွေဝေခြင်းကြောင့် ကံပြုစီမံခြင်းဖြစ်၏။ ကံပြုစီမံခြင်းကြောင့် ဝိညာဉ်ဖြစ်၏။ ဝိညာဉ်ကြောင့် နာမ်ရုပ်ဖြစ်၏။ နာမ်ရုပ်ကြောင့် တည်မှီရာ ခြောက်မျိုးဖြစ်၏။ တည်မှီရာခြောက်မျိုးကြောင့် တွေ့ဆုံခြင်းဖြစ်၏။ တွေ့ဆုံခြင်းကြောင့် ခံစားခြင်းဖြစ်၏။ ခံစားခြင်းကြောင့် တပ်မက်ခြင်းဖြစ်၏။ တပ်မက်ခြင်းကြောင့် စွဲ လမ်းခြင်းဖြစ်၏။ စွဲလမ်းခြင်းကြောင့် ကံပြုလုပ်ရေးဖြစ်၏။ ကံပြုလုပ်ရေးကြောင့် ဘဝသစ်ဖြစ်၏။ ဘဝသစ်ဖြစ်ရသောကြောင့် အိုရ၊ သေရခြင်းဖြစ်၏။ စိုးရိမ်ပူဆွေး ငိုကြွေးရခြင်း၊

ကိုယ် စိတ်မချမ်းသာရခြင်းတို့ ဖြစ်ကုန်၏။ ဤသို့လျှင် ကုန်အောင်စုံသော ဆင်းရဲစုများ ဖြစ်ပွားသည်ဟု သင်တို့လည်း ဆိုကုန်၏။ ငါလည်း ဆို၏။

"အို–ရဟန်းတို့၊ မသိ တွေဝေခြင်းတရား၏သာ အကြွင်းမရှိ ချုပ်ငြိမ်းခြင်းကြောင့် ကံပြုစီမံရေး ချုပ်ငြိမ်း၏။ ကံပြုစီမံရေးချုပ်ငြိမ်းခြင်းကြောင့် ဝိညာဉ် ချုပ်ငြိမ်း၏။ ဝိညာဉ်ချုပ်ငြိမ်းခြင်းကြောင့် နာမ်ရုပ်ချုပ်ငြိမ်း၏။ နာမ်ရုပ်ချုပ်ငြိမ်းခြင်းကြောင့် တည်မှီရာ ခြောက်မျိုးချုပ်ငြိမ်း၏။ တည်မှီရာ ခြောက်မျိုးချုပ်ငြိမ်းခြင်းကြောင့် တွေ့ဆုံခြင်း ချုပ်ငြိမ်း၏။ တွေ့ဆုံခြင်း ချုပ်ငြိမ်းခြင်းကြောင့် ခံစားခြင်း ချုပ်ငြိမ်း၏။ ခံစားမှုချုပ်ငြိမ်းသောကြောင့် တပ်မက်ခြင်းချုပ်ငြိမ်း၏။ တပ်မက်ခြင်း ချုပ်ငြိမ်းသောကြောင့် စွဲလမ်းမှုချုပ်ငြိမ်း၏။ စွဲလမ်းမှုချုပ်ငြိမ်းခြင်းကြောင့် ကံပြုလုပ်ရေး ချုပ်ငြိမ်း၏။ ကံပြုလုပ်ရေးချုပ်ငြိမ်းခြင်းကြောင့် ဘဝသစ်မဖြစ်ရ။ ဘဝသစ်မဖြစ်ရသောကြောင့် အိုရ၊ သေရခြင်းမဖြစ်။ စိုးရိမ်ပူဆွေးငိုကြွေးရခြင်း၊ ကိုယ်စိတ်မချမ်းသာရခြင်း၊ ပြင်းစွာပင်ပန်းရခြင်း စသည်တို့ မဖြစ်။ ဤသို့ကုန်အောင်စုံသော ဆင်းရဲအစု၏ ချုပ်ငြိမ်းခြင်း ဖြစ်၏။

"အို–ရဟန်းတို့၊ သင်တို့ ထိုသို့သိကုန်သော် ရှေးအခါက ငါတို့ဖြစ်ဖူးကုန်ပြီလော၊ မဖြစ်ဖူးကုန်ပြီလော။ မည်သို့ဖြစ်ကုန်ပြီနည်း။ အသို့ဖြစ်ကုန်ပြီနည်း။ ဘယ်သို့ဖြစ်ကုန်လေပြီနည်းဟု ရှေးအစွန်းကို စွဲ၍ဖြစ်စေ။

နောင်အခါ ငါတို့ဖြစ်ကုန်ဦးမည်လော၊ မဖြစ်ကုန်အံ့လော၊ မည်သို့ဖြစ်ကုန်မည်နည်း။ အဘယ်သို့ဖြစ်၍ အဘယ်သို့ဖြစ်ကုန်မည်နည်းဟု နောက်အစွန်းကို စွဲ၍ဖြစ်စေ။

ယခုအခါ ငါတို့ ဖြစ်ကုန်သလော၊ မဖြစ်ကုန်သလော၊ မည်သို့ဖြစ်ကုန်သနည်း၊ အသို့ဖြစ်လေကုန်သနည်း။ ဤသည့် သတ္တဝါတို့သည် ဘယ်မှလာ၍ ဘယ်သို့သွားလိမ့်မည်နည်းဟု မျက်မှောက်ကို စွဲ၍ဖြစ်စေ။

မေး။ ယင်းသို့သော ရှေ့နောက် မျက်မှောက်အစွန်းတို့ကို ပြေးသွားကုန်ဦးအံ့လော။

ဖြေ။ မသွားကုန်ပါ ဘုရား။

မေး။ ယင်းကဲ့သို့ သိခဲ့၊ မြင်ခဲ့ကုန်သော် ဘုရားကို ရိုသေခန့်ညား၍သာ ငါတို့ပြောဆိုကုန်၏ဟု ဖြစ်ကုန်ဦးအံ့လော။

ဖြေ။ မဖြစ်ပါကုန် ဘုရား။

မေး။ ဤသို့ သိခဲ့၊ မြင်ခဲ့ကုန်သော် အခြားတစ်ပါးသူတို့ ဆရာဟု ညွှန်ကြားကုန်ဦးမည်လော။

ဖြေ။ မညွှန်ပါကုန် ဘုရား။

မေး။ ဤသို့ သိခဲ့၊ မြင်ခဲ့ကုန်သော် အခြားတစ်ပါးသော ရဟန်း သူတော်သူမြတ်တို့၏ အလေ့အကျင့်နှင့် အုတ်အုတ်ကျက်ကျက် မင်္ဂလာ၊ အမင်္ဂလာ အတိတ်နိမိတ်ကို အနှစ်သာရအားဖြင့် စွဲယူကုန်ဦးအံ့လော။

ဖြေ။ မစွဲယူကုန်ပါ ဘုရား။

မေး။ အို–ရဟန်းတို့၊ ယခု သင်တို့သည် ကိုယ်သိ၊ ကိုယ်မြင်ကိုသာ ဆိုကြ၊ ပြောကြသည် မဟုတ်ကုန်လော။

ဖြေ။ မှန်ပါကုန်သည် ဘုရား။

"ကောင်းလှပြီ ရဟန်းတို့၊ ငါဘုရားသည် သင်တို့ကို ဤသည့်ထင်ရှားသော မျက်မှောက် ကိုယ်သိတရား၊ အခါမဲ့ကာလမခြား ကောင်းကျိုးရတရား၊ လာလှည့်၊ ကြည့်လှည့် ညွှန်ပြနိုင်သည့်တရား၊ အနီးကပ်၍ ရှုမြင်အပ်သော တရား၊ အစဉ်စောင့်ကြပ် အနီးကပ်၍ ကောင်းကျိုးကို ဆောင်နိုင်သော တရား၊ ဝေဖန်သိမြင်ကျင့်ဆောင်လိုက်နာသူတို့ အသီးသီး မျက်မှောက်ကောင်းကျိုးရ တရား ဤသည့်တရားဖြင့် ဆောင်အပ်ကုန်ပြီ။

"ထို့ကြောင့် ရဟန်းတို့၊ ဤသည့် ငါဘုရား ကောင်းစွာညွှန်ကြားအပ်သော တရားတော်သည် ကျင့်ဆောင်လိုက်နာသူတို့ မျက်မှောက်ကောင်းကျိုးရဖြစ်သည့် ထင်ရှားသော ကောင်းကျိုးကို ရစေနိုင်သည်။ ကိုယ်သိ လက်တွေ့ ကောင်းကျိုး ရစေနိုင်သည်။ အခါမဲ့ ကောင်းကျိုးကို ဖြစ်စေသည်။ ကာလမခြား ကောင်းကျိုး ပေးနိုင်သည်။ ခေတ်အခါကာလ မရှိသော ကောင်းကျိုးကို ရရောက်နိုင်သည်။ လာလှည့်၊ ကြည့်ရှုလှည့်ဟု ညွှန်ပြနိုင်အောင် ကောင်းကျိုးကို ထင်ရှားစေသည်။ အနီးကပ်၍ ရှုမြင်နိုင်လျက် မကွယ်မဝှက် ပေါ်လွင်သော ကောင်းကျိုးကိုဖြစ်စေနိုင်သည်။ အနီးကပ်တွင် အစဉ်အမြဲစောင့်၍ ကောင်းကျိုးကို ပေးနိုင်သည်။ ဝေဖန် သိမြင်နိုင်သူ၊ လိုက်နာကျင့်ဆောင်နိုင်သူ တို့ အသီးသီးသော ကောင်းကျိုးကို ဖြစ်စေ နိုင်သည်။

"ဤသို့ ငါဘုရား ဝန်ခံဟောညွှန်ထားချက် စကားသည်ကား ဤသို့သော အကျိုးကို စွဲ၍ပင် ဝန်ခံညွှန်ကြားချက် ဖြစ်သတည်း။"

(မဇ္ဈိမနိကာယ်၊ မူလပဏ္ဏာသ၊ မဟာတဏှာခ်ယသုတ်မှ)

# ရိုးရာ ယဉ်ကျေးမှု

**ပြဿနာ = အစဉ်အလာဖျက်ရာ ကျ၊ မကျ။**

**မေးလျှောက်သူ = ဝေရဉ္ဇ ပုဏ္ဏား။**

ဗုဒ္ဓမြတ်ဘုရားသည် ၁၁ ဝါ အလွန်၊ ၁၂ ဝါမြောက်တွင် ဝေရဉ္ဇာပြည်သို့ ရောက်တော်မူသွား၏။ ထိုဝေရဉ္ဇာပြည် တစ်ခုသော ကျုံးတောကြီးအတွင်း လေနှဲ သဖြင့် တနွဲ့နွဲ့ယိမ်းနေသော ကျုံးပြင်များအကြား၌ ထီးထီးမားမား တမာပင်ကြီး တစ်ပင် ပေါက်လျက်ရှိ၏။

မြတ်ဗုဒ္ဓသည် တမာပင်လျှင် အမှတ်အသားရှိသော ထိုကျုံးတော၌ တပည့်တပန်း ရဟန်းများနှင့် အတူတကွ တမာပင်ရှိရာ ထိုကျုံးတောသို့ ရောက်သွားလေသည်။

ထိုသတင်းစကားကို ဗြဟ္မာဏလူမျိုး ဝေရဉ္ဇအမည်ရှိသော ပုဏ္ဏားကြီးက ကြားသောအခါ တစ်ကြိမ်တစ်ခါမျှ တွေ့ရဖူးခြင်း မရှိသေးသောကြောင့် အခွင့်ဆိုက်၍ ကြုံကြိုက်လာဆဲတွင် သူ့စိတ်၌ ဗုဒ္ဓကို တွေ့မြင်လိုသောဆန္ဒများ ဖြစ်ပွား လာသည်။

တစ်ကြောင်းအားဖြင့် ပုဂ္ဂိုလ်ကို မမြင်ဖူးသော်လည်း သူ ကြားသိထားသော အချက်အလက်များနှင့် ကိုက်မကိုက် ချိန်ကိုက်ကြည့်လိုလာသည်။ ကျော်သလောက် တော်မှတော်၊ ဗုဒ္ဓအပေါ်၌ အကဲခတ်ကြည့်ချင်စိတ်များ ပေါ်ပေါက်လာသည်။ ဗုဒ္ဓနှင့် ပတ်သက်၍ ဝေရဉ္ဇပုဏ္ဏားက ဤသို့ တစ်ဆင့်စကား ကြားဖူးထားပေ၏။

ရှင်ကြီးဂေါတမသည် မိမိထက် အသက်အရွယ်အားဖြင့်လည်းကောင်း၊ ဂုဏ်အားဖြင့်လည်းကောင်း ကြီးကုန်သော ပုဏ္ဏားတို့ကို ရှိမခိုးဘူးတဲ့။ အရိုအသေ ပေးကာ အလေးမပြုဘူးတဲ့။ နေရာမှ ထမပေးဘူးတဲ့။ ဒီနေရာမှာ ထိုင်ပါဟူ၍ နေရာဖြင့် ပင့်ဖိတ်ခြင်း မရှိဘူးတဲ့။ ဤသို့သတင်းစကား ကြားဖူးထားပေ၏။

ဤသို့ ကြားသိထားသော လူပြောသူပြော သတင်းစကားများ မှန်မမှန်၊ ဟုတ်မဟုတ်ကို ကိုယ်တွေ့ သုတေသန ပြုလုပ်လိုသောကြောင့် သူသည် ဗုဒ္ဓ သီတင်း သုံးတော်မူရာ ကျူးတောသို့ ရှေ့ရှု၍ ထွက်လာခဲ့လေသည်။ ယင်းသို့ ထွက်ခွာ လာခဲ့ရာတွင် ဗုဒ္ဓအား သဒ္ဓါကြည်ညိုခြင်း ပြင်းထန်လှ၍ မဟုတ်ဘဲ လူကဲခတ် သက်သက် ထွက်လာခဲ့ခြင်းသာ ဖြစ်၏။

ဝေရဉ္စပုဏ္ဏားသည် ဗုဒ္ဓရှေ့တော်မှောက်သို့ ဆိုက်ဆိုက်မြိုက်မြိုက်ပင် ရောက် သွားလေပြီ။ ရောက်လျှင်ပင် မျက်နှာမသာ အမူအရာများ ပျက်စပြုလာ၏။

အဘယ့်ကြောင့်ဆိုသော် သူ့အသက်သည် ဗုဒ္ဓထက် ကြီး၏။ ဗုဒ္ဓထက် အသက်ကြီးသော မိမိ(ဝေရဉ္စ) ရောက်ရှိသွားလေသောအခါ၌ ကြီးသူကို ငယ်သူက ပြုရာသော လောကကျင့်ဝတ်များမှ ဗုဒ္ဓသည် ချို့ယွင်းနေသောကြောင့် ဖြစ်၏။ သူရောက်သွားသောအခါ သူ့ကို ဗုဒ္ဓက ရှိမခိုး၊ နေရာက ထမပေး၊ ဖယ်မပေး၊ ဒီမှာ ထိုင်ပါဟူ၍ပင် ဖိတ်မန္တက ပြုဖော်မရဖြစ်နေသည်ကို တွေ့နေရလေသော် ဈာက်မြင်ကိုယ်တွေ့နှင့် ကြားရသော သတင်းစကားမှာ တစ်သားတည်း ကိုက်ညီနေသောကြောင့် ဗုဒ္ဓအား ကဲ့ရဲ့ရှုတ်ချ အပြစ်တင်လိုသောဆန္ဒဖြင့် ဤစကားကို စ၍ ဆိုလေ၏။

မေး။ အို–အရှင်ဂေါတမ၊ အရှင်ဂေါတမသည် အိုမင်းကုန်၊ အရွယ်ရင့်ကုန်၊ အမျိုးဇာတ်အားဖြင့် ကြီးကုန်သော ပုဏ္ဏားတို့ကို ရှိမခိုး၊ နေရာမှ မထ၊ ခရီးဦး ကြိုဆိုခြင်းမရှိ၊ နေရာဖြင့် ဖိတ်မန္တက မပြုဟု ကျွန်ုပ် ကြားဖူး၏။ ထိုစကားသည် ကြားတိုင်းမသွေ ဟုတ်မှန်၍ နေပါပကော။ ကြားရချက်နှင့် ကျွန်ုပ်၏လက်တွေ့ သည် ညီမျှနေပါပကော။ အရှင်ဂေါတမသည် မိမိထက် အသက်အရွယ်ကြီးရင့်သူ ကျွန်ုပ်ရောက်ရှိလာပါသည်ကို သိလည်း ရှိမခိုးခဲ့၊ နေရာမှလည်း ထမပေးခဲ့၊ ဒီမှာ ထိုင်ပါဟူ၍လည်း မဆိုခဲ့။ လောကကျင့်ဝတ်ပြုသင့်သည်ကို မပြုဘဲ နေခြင်းကား လားလားမျှ မသင့်နိုးယောင်ပါလား ရှင်ဂေါတမ။

ထိုအခါ ဗုဒ္ဓမြတ်စွာဘုရားသည် "အဖြစ်မှန်ကို မသိ၍သာ ပြောခြင်းဖြစ်သည်"ဟူ၍ မဟာကရုဏာတော်ဖြင့် ချမ်းမြေ့သောနှလုံးဖြင့် မသိသော ပုဏ္ဏားအား သိအောင်ပြခြင်းငှာ လေ့မျော လေ့ချင်းလိုက်ဆိုသကဲ့သို့ သူ့စကားအတိုင်းလိုက်၍ ဖြေဆိုမြွက်ကြားတော်မူလေ၏။

ဖြေ။ အို–ပုဏ္ဏား၊ သဗ္ဗညုတဉာဏ်တည်းဟူသော စက္ခုသည် အရာခပ်သိမ်းကို အကြွင်းမဲ့ထိုးဖောက်၍ မြင်နိုင်စွမ်းပေသည်။ ငါ့မှာ သဗ္ဗညုတဉာဏ်စက္ခုသည် ရှိ၏။ ထိုသဗ္ဗညုတစက္ခုဖြင့် ငါကြည့်လိုက်သည်ရှိသော် လူ့လောက၌လည်းကောင်း၊ နတ်လောက၌လည်းကောင်း၊ ဗြဟ္မာလောက၌လည်းကောင်း ငါရှိခိုးထိုက်

သူ၊ ငါ နေရာမှ ထပေးရမည့်သူ၊ ငါ ခရီးဦးကြိုဆိုခြင်း ပြုထိုက်သူ၊ နေရာဖြင့် ငါ ဖိတ်မန္တကပြုထိုက်သူကို တစ်ယောက်မျှ ငါမမြင်။ ထိုသို့မမြင်ခြင်းကား အံ့ဩဖွယ် မဟုတ်ပြီ။

စင်စစ်အားဖြင့် အကြင်အခါ၌ ငါသည် မွေးဖွားခါစဖြစ်လျက် မြောက်အရပ်သို့ တူရူ ၇ ဖဝါး လှမ်းသွားပြီး လောကဓာတ်တစ်ခုလုံးကို ကြည့်ခဲ့ပြီ။ ထိုသို့ကြည့်သောအခါ၌လည်း ငါ ရှိခိုးထိုက်သူ၊ နေရာက ထပေးထိုက်သူ၊ နေရာဖြင့် ဖိတ်မန္တက ပြုထိုက်သူကို တစ်ယောက်မျှ ငါမမြင်ခဲ့ရ။ ကမ္ဘာပေါင်း တစ်သောင်းခြောက်ထောင် အသက်ရှည်သော ရဟန္တာကြီးသည်ပင် ငါ့ကို "အသင်ကား လောကဓာတ်တစ်ခုလုံး၏ အထွတ်လည်း အထွတ်ဆုံး၊ အကြီးလည်း အကြီးဆုံး၊ ကျေးဇူးဖြင့်လည်း အထူးချီးမွမ်းအပ်ဆုံးသော သူပါတည်း။ သင့်ထက်လွန်သူ မရှိ"ဟူ၍ ဝမ်းပန်းတသာ ငါ့အား ပူဇော်ခြင်းပြုလာပေသည်။

ထိုဖွားခါစ အခါ၌သော်လည်း ငါ့ထက်သာလွန်သူကို ငါ မမြင်လေသောကြောင့် "အဂ္ဂေါဟမသ္မိ လောကဿ၊ ဇေဋ္ဌောဟမသ္မိ လောကဿ၊ သေဋ္ဌောဟမသ္မိ လောကဿ"ဟူ၍ မရွံ့မကြောက် မြတ်သောစကားကို ငါမြွက်ခဲ့၏။ ယင်းသို့ မွေးကင်းစအရွယ်ဖြစ်လျက်လည်း ငါ၏ ရှိခိုးခြင်းကို ခံယူထိုက်သူ မရှိခဲ့။ ယခု ငါကား သဗ္ဗညုတဘုရားအဖြစ်သို့ ရောက်ပေပြီ။ အဘယ်ပုဂ္ဂိုလ်ကို ငါရှိခိုးထိုက်အံ့နည်း။ နေရာမှထ၍ ခရီးဦးကြိုဆိုထိုက်အံ့နည်း။ နေရာဖြင့် ဖိတ်ထိုက်အံ့နည်း။

အို-ဝေရဉ္စပုဏ္ဏား၊ သင်ကား ငါ့ထံမှ အရိုအသေပြုခြင်းကို ဘယ်အခါမှ မတောင့်တလေနှင့်။ အဘယ့်ကြောင့်ဆိုသော် အို-ပုဏ္ဏား၊ အကြင်ပုဂ္ဂိုလ်အား ငါ ရှိခိုးလိုက်အံ့၊ ခရီးဦးကြိုဆိုလိုက်အံ့၊ နေရာဖြင့် ဖိတ်မန္တက ပြုလိုက်အံ့။ ထိုပုဂ္ဂိုလ်၏ ဦးခေါင်းသည် သစ်သီးကြွေဘိသကဲ့သို့ လည်မှပြတ်၍ ရုတ်တရက်ပင် မြေသို့ ကျကြွေသွားလေရာ၏။ ထို့ကြောင့် ငါ့ထံမှ အရိုအသေပြုမှုမျိုးကို သင် ဘယ်တော့မှ မမျှော်ကိုးပါလေနှင့်။

ထိုသို့ မိန့်တော်မူသော်လည်း ဝေရဉ္စပုဏ္ဏားကား အသိဉာဏ်ပညာ ခေါင်းပါးသူဖြစ်သောကြောင့် ဗုဒ္ဓ၏ လောကအဂ္ဂ၊ ဇေဋ္ဌ၊ သေဋ္ဌ ဖြစ်ကြောင်းကို မသိ။ မသိသောကြောင့် ဗုဒ္ဓ၏စကားကို နားခါးလာသည်။ သည်းမခံနိုင်အောင် ဖြစ်လာသည်။

ယင်းသို့ သည်းမခံနိုင်အောင် ဖြစ်လာသည့်အလျောက် ဆတ်ဆတ်ထိ မခံဘဲ စွပ်စွဲခြင်း အထပ်ထပ် ဆဲရေးခြင်းအကြောင်း အက္ကောသ ဝတ္ထုရှစ်မျိုးဖြင့် ဗုဒ္ဓအား စတင် တိုက်ခိုက်လေသတည်း။

မေး။ အို–အရှင်ဂေါတမ၊ လောက၌ အကြင်ရှိခိုးခြင်း၊ ခရီးဦးကြိုဆိုခြင်း၊ လက်အုပ်ချီခြင်း၊ အရိုအသေပြုခြင်း အမှုကို သာမဂ္ဂီရသ=ပေါင်းသင်းဆက်ဆံခြင်း အရသာဟု ဆိုအပ်၏။ ထိုအကျင့်သည် အရှင်ဂေါတမ၌ မရှိခဲ့။ ယင်းသို့ မရှိခြင်းကြောင့် အသင် ရှင်ကြီးဂေါတမကား ကြီးသောသူတို့အား ပြုရာသောဝတ်နှင့် ညီမျှသောအကျင့်ရှိသူ မဟုတ်ပါတကား။ သာမဂ္ဂီရသမှ ဆိတ်သုဉ်းနေသူပါတကား။

ဖြေ။ အို–ဝေရဥ္စပုဏ္ဏား၊ အကြင်သူသည် ငါ့ကို အရသရူပ=သာယာတတ်သော သဘောရှိသူ မဟုတ်ဟု ပြောဆိုလေအံ့။ ထိုသူသည် မှန်သောစကားကို ဆိုသည် မည်ပေသည်။ အဘယ့်ကြောင့်ဆိုသော်–

အို–ပုဏ္ဏား၊ ရူပါရုံ၊ သဒ္ဒါရုံ၊ ဂန္ဓာရုံ၊ ရသာရုံ၊ ဖောဋ္ဌဗ္ဗာရုံတို့၏ အကြင် သာယာခြင်း ရသတို့သည် ရှိလေကုန်၏။ ထိုထိုသော သာယာခြင်း ရသတို့ကို ငါ ပယ်အပ်ကုန်ပြီ။ အမျိုးဇာတ်၏ အစွမ်းအားဖြင့်လည်းကောင်း၊ လူမြတ်၊ နတ်မြတ် ဟူ၍ သမုတ်အပ်ကုန်သော်လည်း ငါးပါးအာရုံ ကာမဂုဏ်ကို သာယာတတ်ကုန်သော၊ အလွန်နှစ်လိုတတ်ကုန်သော ပုထုဇဉ် ပုဂ္ဂိုလ်တို့အား အကြင်သာယာခြင်း ရသတို့သည် ဖြစ်ကုန်၏။ ခပ်သိမ်းကုန်သော ထိုအရသာဟူဟူသမျှတို့ကို အကြွင်းမဲ့အားဖြင့် ငါ ပယ်အပ်ကုန်ပြီ။ အရင်းအမြစ်မကျန် ပြတ်အောင် ငါ ဖြတ်အပ်ပြီးကုန်ပြီ။ နောက်ထပ်တစ်ဖန် ရှင်သန်ခြင်း ဖြစ်မလာနိုင်အောင် ထန်း ငုတ်တိုကဲ့သို့ ငါ ပြုအပ်ကုန်ပြီ။ ထိုသာယာခြင်း ရသတို့ကား မည်သည့်အခါမှ နောက်ထပ်တစ်ဖန် ဖြစ်ပေါ်၍ လာပြန်လေ့မရှိကုန်။ ထို့ကြောင့် အရသရူပေါဟူသော စကားဖြင့် သင် ရည်ရွယ်သော အဓိပ္ပာယ်ကို ငါ့အား မဆိုထိုက်။ သင်ရည်ရွယ်၍ ဆိုသော သာမဂ္ဂီရသ သဘောမျိုးကား ငါ့မှာမရှိ။ (ဂုဏဝုဍ္ဎိ၊ ဝယဝုဍ္ဎိ ဖြစ်သူတို့အား ရှိခိုးခြင်း စသော အကျင့်ကို ပြုထိုက်လျက် မပြုသူတို့ကိုသာလျှင် "အရသရူပေါ"ဟု ဆိုရာသည်။ မြတ်စွာဘုရားမှုကား ရှိခိုးခြင်းစသည်တို့ကို ပြုအံ့သောငှာ မထိုက်။ မထိုက်ကြောင်းကို ပြလို၍ ဤစကားကို ဆိုခြင်းဖြစ်၏။)

ဝေရဥ္စပုဏ္ဏားသည် ဗုဒ္ဓအား အဖလျှော့ပေးခြင်းမပြု။ မပြုရုံမက ဗုဒ္ဓမိန့်ကြား လိုက်သော စကားများကို အကြောင်းပြု၍ ပို၍ပင် ခက်ထန်သယောင် ဖြစ်လာသည်။ အရသရူပေါ ဟူသော စကားလုံးပေါ်၌ ဖိနင်းလျက် ဗုဒ္ဓအား ဝါဒရေးရာအားဖြင့် ထပ်ဆင့်၍ စွပ်စွဲ ပုတ်ခတ် ဆိုပြောလိုက်ပြန်လေပြီ။

မေး။ အို–အရှင်ဂေါတမ၊ အသင်ကား လောက အရသာကို ခံစားရမှန်း သိတတ်သူ မဟုတ်ပါတကား။ သက်ကြီး ဝါကြီး ပုဂ္ဂိုလ်တို့အား ရှိခိုးခြင်း စသည် ပြုခြင်းကို လောက၌ "သာမဂ္ဂီ ပရိဘောဂ=အညီအညွတ်ခံစားသည်"ဟု

ဆိုပေသည်။ အသင့်မှာ ထိုအပြုအမူမျိုး မရှိသောကြောင့် နိဗ္ဗောဂ ပုဂ္ဂိုလ်ကြီး ပါတကား။ လူမှုဆက်ဆံရေး သာမဂ္ဂီရသ၏ သဘာဝကို အနက်ကျကျ မခံစား တတ်သူ၊ (ဝါ) ခံစားရကောင်းမှန်း မသိတတ်သူပါတကား။

ဤသို့ ဗုဒ္ဓအား စွပ်စွဲလိုက်ပြန်၏။ ဗုဒ္ဓကမူ ပုဏ္ဏားအား ဖြောင့်ဖြောင့် ဆန့်ကျင်မှု စကားမျိုးကို ရှောင်လျက် ပုဏ္ဏား၏စိတ်ဓာတ် နူးညံ့ပျော့ပျောင်း လာမှုကိုသာ ရှေ့ရှုတော်မူသည်။ နိဗ္ဗောဂ=ဟူသော စကားလုံးချင်းတူသော်လည်း ပုဏ္ဏား ကောက်ယူ ဆိုပြော စွပ်စွဲနေသော အဓိပ္ပာယ်မှာ တစ်မျိုးတစ်ခြားထွက်သော အဓိပ္ပာယ်ကိုပြလိုသဖြင့် ပုဏ္ဏား စကားအတိုင်း လိုက်၍ ဖြေကြားတော်မူသည်။

ဖြေ။ အို-ပုဏ္ဏား၊ ငါကား သင်ဆိုသောအတိုင်း နိဗ္ဗောဂ ပုဂ္ဂိုလ် မှန်ပေ၏။ သို့သော် သင်ဆိုလိုသော အဓိပ္ပာယ်မျိုးကား မဟုတ်။ ရူပါရုံ စသည် တို့၌ တပ်နှစ်သက်သောစိတ်ဖြင့် သတ္တဝါတို့၏ အကြင်ခံစားခြင်းသည် ရှိ၏။ ထိုခံစားခြင်းမျိုးသည် ငါ့မှာမရှိ။ မရှိသောကြောင့် ငါ့အား နိဗ္ဗောဂပုဂ္ဂိုလ်= လောကီရသကို ခံစားတတ်သူ မဟုတ်ဟု ဆိုနိုင်ပေသည်။

မေး။ အို-အရှင်ဂေါတမ၊ လောကကြီး၌ ကြီးသောသူတို့အား ငယ်ရွယ် သူတို့က ရှိခိုးခြင်း၊ အရိုအသေပြုခြင်း စသည်ကို လူမျိုး၏ ရိုးရာယဉ်ကျေးမှုဟု ဆိုကုန်၏။ ဆိုသည့်အတိုင်းလည်း ယဉ်ကျေးမှုကို မြတ်နိုးသူတိုင်း လိုက်နာပြုကျင့် လျက် ရှိနေကြပါကုန်၏။ အသင့်မှာကား ထိုရိုးရာယဉ်ကျေးမှုမျိုးကို မတွေ့ရ။ ပြုထိုက်သောအမှုကို သင် မပြုခဲ့။ သို့ကြောင့် အသင်ကား **"အကိရိယဝါဒသမား ကြီး"** ပါတကား။ ရိုးရာယဉ်ကျေးမှု လူ့စည်းကမ်းကို ဖောက်ဖျက်နေသူပါတကား။

ဖြေ။ အို-ပုဏ္ဏား၊ ငါ့အား အကိရိယဝါဒဖြင့် သင် စွပ်စွဲ၍ဆိုခြင်းကား ဆိုထိုက်လှသည်။ ငါကား အကိရိယဝါဒသမား အစစ်တည်း။ ကိုယ်ဖြင့် မကောင်းမှု ဒုစရိုက်မျိုးကို မပြုအပ်ဟု ငါဆို၏။ ဒုစရိုက်မှုကို နှုတ်ဖြင့် မပြုအပ်ဟု ငါ ဟော၏။ စိတ်ဖြင့် မတွေးအပ်၊ မကြံအပ်၊ မကြံကောင်း ဟူ၍ ငါ ပညတ်၏။ ဒုစရိုက်ကို ကြဉ်ဖယ်၍ သုစရိုက်ကို ခင်တွယ်ရန် ဟူသော ဝါဒတရားကို ငါ အမြဲ လက်ကိုင်ထားပေသည်။ သို့ကြောင့် ငါ့အား **အကိရိယဝါဒီ** ဟူ၍ ဆိုမည်ဆိုက ဆိုနိုင်ပေ သည်။ သို့သော် သင်ယူဆထားသော အကိရိယဝါဒီမျိုးကား မဟုတ်ပေ။

မေး။ အို-အရှင်ဂေါတမ၊ ရှေးဟောင်းရိုးရာ ယဉ်ကျေးမှုအစဉ်အလာ ဟူသည် ရှိ၏။ ကြီးသူကို ငယ်ရွယ်သူတို့က အရိုအသေပြုခြင်း စသည်တို့ကား ရှေးဟောင်းရိုးရာယဉ်ကျေးမှု အစဉ်အလာများ ဖြစ်ကုန်၏။ သို့ပါလျက် အဆက်

ဆက် စီးဆင်းလာခဲ့သော ရိုးရာယဉ်ကျေးမှုအစဉ်အလာကို အသင်ကား လိုက်နာခြင်း မရှိရုံမက ဖျက်ဆီးပစ်လိုက်ပေသည်။ ရိုးရာအစဉ်အလာကို ဖျက်အောင် အသင်သည် ဖျက်ပစ်လိုက်သူဖြစ်၏။ သို့ကြောင့် အသင်ကား **ဥစ္ဆေဒဝါဒီ** ပုဂ္ဂိုလ်ကြီးပါတကားဟု စွပ်စွဲလိုက်ပြန်၏။

ဖြေ။ အို-ပုဏ္ဏား၊ ငါကား ဥစ္ဆေဒဝါဒ ရှိသူမှန်၏။ သို့သော် သင်ယူဆထားသော ဥစ္ဆေဒမျိုးကား မဟုတ်ပေ။ ရာဂနှင့် ဒေါသကို အနာဂါမိ မဂ်ဖြင့်လည်းကောင်း၊ မောဟကို အရဟတ္တမဂ်ဖြင့်လည်းကောင်း ဖြတ်သည်ကို ငါဟော၏။ ထိုမှကြွင်းသော အကုသိုလ်တရားတို့ကို ထိုက်သည့်အားလျော်စွာ မဂ်လေးပါးဖြင့် ဖြတ်သည်ကို ငါဆိုပေ၏။ ဤသည်ပင် ငါယူဆသော ဥစ္ဆေဒဝါဒဖြစ်သတည်း။ ဤသည်ကိုထောက်၍ ငါ့အား ဥစ္ဆေဒဝါဒီဟု ဆိုက ထိုသို့ဆိုခြင်းသည် သင့်လျော်သော ဆိုခြင်းသာ ဖြစ်ပေသည်။

မေး။ အို-အရှင်ဂေါတမ၊ အသင်၏ အမူအကျင့်ကို ထောက်ချင့်ခြင်းအားဖြင့် အသင်ကား ရှေးဟောင်းရိုးရာ ယဉ်ကျေးမှုများကို စက်ဆုပ်ယောင်ပါတကား။ စက်ဆုပ်သောအသွင်သည် သင့်ကိုယ်၌ စွဲနေသည်ဟု ကျွန်ုပ်ထင်၏။ ငါကား အမျိုးမြတ်သူတည်း၊ အဆင်းလှသူတည်း၊ ပညာရှိသူတည်း၊ အဘယ့်ကြောင့် သူတစ်ထူးအား ငါ အရိုအသေပြုနိုင်မည်နည်း ဟူသော မာန်မာနဖြင့် ရိုးရာယဉ်ကျေးမှု ဓလေ့ကို သင် စက်ဆုပ်နေဟန် တူပေသည်။ သို့ကြောင့် အသင်ကား **"ဇေဂုစ္ဆိဝါဒ"** သမား အစစ်တည်း။ ရိုးရာယဉ်ကျေးမှုကို စက်ဆုပ်ရွံမုန်းသူ၊ နှလုံးနာကျည်းသူသာ ဖြစ်သတည်းဟု စွပ်စွဲလိုက်ပြန်၏။

ဖြေ။ အို-ပုဏ္ဏား၊ ငါ့ကို ဇေဂုစ္ဆိဝါဒီ ဟူ၍ သင် ယိုးစွပ်လိုက်ပြန်သည်ကို မဟုတ်ဟူ၍ ငါ မငြင်းလို။ ငါသည် ဇေဂုစ္ဆိဝါဒရှိသူ ဖြစ်ပေ၏။ သို့သော် ငါ၏ ဇေဂုစ္ဆိ သဘော၊ ငါစက်ဆုပ်သော အမူအကျင့်ကား မကောင်းမှု ဒုစရိုက်များသာ ဖြစ်ပေသည်။ ဒုစရိုက်ဟူသမျှကို ငါသည် စက်ဆုပ်ရွံမုန်း နှလုံးနာ၏။ မစင်ဘင်ပုပ်အလားကဲ့သို့ စက်ဆုပ်လှ၏။ ထို့ကြောင့် ငါ့ကို ဇေဂုစ္ဆိဝါဒီဟု ဆိုကလည်း ဆိုနိုင်ပေ၏။

မေး။ အို-အရှင်ဂေါတမ၊ အသင်ကား ကြီးလေးသော ပြစ်မှုကြီးကို ကျူးလွန်ထားသဖြင့် ဆုံးမထိုက် အပြစ်ပေးထိုက်သူ ဖြစ်၏။ ကြီးစဉ်ငယ်လိုက် ရိုသေလေးစားလာခဲ့သော ယဉ်ကျေးမှုအစဉ်အလာကို ဖျက်ဆီးပစ်လိုက်သော ပြစ်မှုကြီး သင့်မှာ ရှိနေ၏။ ယဉ်ကျေးမှု မြတ်နိုးသူတိုင်း ခွင့်မလွှတ်နိုင်သော ပြစ်မှုကြီးကို ကျူးလွန်ထားသူဖြစ်သောကြောင့် လောက၏ဒဏ်ခတ်ခြင်းကို ခံထိုက်သူ **"ဝေနယိက"** ပုဂ္ဂိုလ်ပေတည်း။

ဖြေ။ အို-ပုဏ္ဏား၊ ငါ့ကို ဝေနယိက=အပြစ်ရှိနေသူ၊ အပြစ်အလျောက် ထိုက်သင့်သောဒဏ်ကို ခံထိုက်သူဟု သင်ဆိုပြန်၏။ သင့်စကားကို မှားသည်ဟု ငါမဆို။ သို့သော် ငါကား လောကယဉ်ကျေးမှုထုံးတမ်းစဉ်လာများကို မဖျက်ဆီးပေ။ ငါဖျက်ဆီးသည်ကား ရာဂ အစရှိသော ကိလေသာအုပ်စု ဖြစ်ပေ၏။ ငါသည် ကိလေသာအုပ်စုကြီးကို ဖရိုဖရဲပြိုကွဲအောင် ဖျက်ဆီးပေ၏။ ဤသည်ကို အကြောင်းပြု၍ ငါ့ကို ဝေနယိက ဟူ၍ဆိုအပ်၏။ (လောကကို ဖျက်ဆီးသောမှုပြစ် ငါ့မှာ မရှိ။ ကိလေသာကို ဖျက်ဆီးသော မှုပြစ်သာ ငါ့မှာရှိသည်ဟု ဆိုလိုသည်။)

မေး။ အို-အရှင်ဂေါတမ၊ ရှိသေထိုက်သူတို့အား ရှိသေခြင်း၊ ပူဇော်ထိုက်သူတို့အား ပူဇော်ခြင်းသည် အပူဇော်ခံ သက်ကြီးဝါကြီးပုဂ္ဂိုလ်တို့အား နှစ်သက်စေရာ ရောက်ပေသည်။ ရွှင်လန်းမှုကို ပေးရာရောက်ပေသည်။ ပြုထိုက်သောအမှုကို မပြုခဲ့သော် သက်ကြီးဝါရင့်တို့အား နှလုံးမသာ ပူပန်စရာရောက်၏။ နှိပ်စက်ရာကျ၏။ ဤအပြုအမူမျိုးသည် အသင်၌ထင်၏။ ထို့ကြောင့် အသင်ကား **"တပဿီ"** ပုဂ္ဂိုလ်စားပေတည်း။ သက်ကြီးယွင်းယို၊ အိုမင်းမစွမ်းရှိသူများအား နှလုံးပူလောင်အောင် လုပ်နေသူ၊ အပူတိုက်သူ ပေတည်း။

ဖြေ။ အို-ပုဏ္ဏား၊ လောကကို ပူလောင်အောင် လုပ်တတ်သူ၊ အပူမြိုက်တတ်သော အုပ်စုတစ်စုရှိ၏။ ယင်းအုပ်စုကား အကုသိုလ်တရားများပေတည်း။ ပူပန်စေတတ်သော ဇာတိသွင်ကို အကြောင်းပြု၍ ယင်းအကုသိုလ်အုပ်စုကို တပဟူ၍ ခေါ်ဆိုပေသည်။ ငါသည် ယင်းအကုသိုလ် (အပူတိုက်အုပ်စု)ကို မပျက် ပျက်အောင် ဖျက်ဆီးနေသူ ဖြစ်၏။ ထို့ကြောင့် တပဿီဟူသော အမည်နာမသည် ငါနှင့် ဆီလျော်၏။ တပဿီ=အပူတိုက်တတ်သော ကိလေသာအုပ်စုကို ဖျက်ဆီးတိုက်ခိုက်သူသာလျှင် ဖြစ်ပေသည်။ သင်ယူဆသလို လူကြီးများကို ပူအောင်လုပ်နေသူ၊ အပူတိုက်နေသူကား မဟုတ်ပါပေ။

မေး။ အို-အရှင်ဂေါတမ၊ ရှိခိုးခြင်း အရိုအသေပြုခြင်းစသော လူ့ကျင့်ဝတ်၊ လူ့ယဉ်ကျေးမှုကား အတိုင်းမသိ အကျိုးကျေးဇူးများလှ၏။ နတ်ပြည်၌ဖြစ်သော ပဋိသန္ဓေကိုပင် ရနိုင်ပေ၏။ အသင်ကား ဤသို့သော လူ့ယဉ်ကျေးမှု၊ လောကကျင့်ဝတ်များကို သူပြု မဟုတ်သောကြောင့် **အပဂဗ္ဘ** နတ်ပြည် ပဋိသန္ဓေမှ ကင်းသောသူပေတကားဟူ၍ ကဲ့ရဲ့ရှုတ်ချလိုက်ပြန်သည်။

ဖြေ။ အို-ပုဏ္ဏား၊ အပဂဗ္ဘ ပုဂ္ဂိုလ်ဟု ငါ့ကို သင်ဆိုလိုက်ပေ၏။ စွပ်စွဲ ရှုတ်ချခြင်း ပြုလိုက်ပေ၏။ ငါကား သင်ဆိုအပ်သကဲ့သို့ တစ်ခုတည်းသော နတ် ပဋိသန္ဓေမှသာ ကင်းသူမဟုတ်ပေ။ ပဋိသန္ဓေနေခြင်း အားလုံးမှ ဆိတ်သုဉ်းကင်းကွာပြီးသူ၊ ပဋိသန္ဓေကို ပယ်ထားပြီးသူဖြစ်ပေ၏။ ထို့ကြောင့် အပဂဗ္ဘ ဆိုသောစကား

သည် ငါနှင့်ဆီလျော်နေ၏။ နောင်သောအခါ ဇလာဗုဇယောနိအဖြစ်ဖြင့် အမိဝမ်းတွင်း၌ ပဋိသန္ဓေနေခြင်းမျိုးကိုလည်းကောင်း၊ သြပပါတိကယောနိအဖြစ်ဖြင့် ကိုယ်ထင်ဖြစ်ခြင်း၊ သံသေဒဇယောနိ အဖြစ်ဖြင့် အညှိစသည်၌ စွဲ၍ဖြစ်ခြင်း၊ အဏ္ဍဇ ယောနိအဖြစ်ဖြင့် အဥဖြစ် ဖြစ်ခြင်းမျိုးကိုလည်းကောင်း ငါသည် ပယ်အပ်ပြီးပေပြီ။ တစ်ဖန် ဘဝသစ်ဖြစ်ခြင်း၊ ပဋိသန္ဓေနေခြင်း မည်သည်ကား ငါ့မှာ မရှိပြီ။ ထို့ကြောင့် အပဂဗ္ဘ ဟူ၍ ငါ့ကို သင်ဆိုသောစကားသည် သင့်လျော်ပေ၏။

ဝေရဉ္စပုဏ္ဏားသည် ဘုရားရှေ့တော်မှောက်သို့ ရောက်လာသည့်အချိန်မှစ၍ ဆဲရေးခြင်း၏ အကြောင်းဖြစ်သော အထက်ပါ အက္ကောသဝတ္ထု ရှစ်မျိုးတို့ဖြင့် ဗုဒ္ဓအား ယိုးစွပ်ဆိုပြော ဆဲရေးခြင်းပြုနေ၏။ ယင်းသို့ ကဲ့ရဲ့ရှုတ်ချ အမနာပစကားဖြင့် အပြစ်တင်ဆိုပြောစေကာမူ မြတ်စွာဘုရားသည် မြေနှင့်တူသော စိတ်ရှိသော အမှတ်အသားကိုလည်းကောင်း၊ အမျက်ထွက်ခြင်း သဘောမရှိသော အဖြစ်ကိုလည်းကောင်း ပြတော်မူလျက်–

မိုးတိမ်ကင်းစင်သော ကောင်းကင်ပြင်၌ ငွေဝန်းသီတဂူ လမင်းကြီးထွက်ပြူလာသကဲ့သို့လည်းကောင်း၊ တန်ဆောင်မုန်းလအခါ ပေါ်ထွန်းလာသော နေဝန်းကြီးကဲ့သို့လည်းကောင်း၊ ဝေရဉ္စပုဏ္ဏား၏ နှလုံးထဲ၌ စွဲထင်နေသော အမိုက်မှောင်ထုကြီးကို ဖောက်တော်မူ၍–

ဤပုဏ္ဏားကား ခေါင်းဖြူကာမျှ၊ သွားကျိုးကာမျှ၊ အရေတွန့်လိပ်ကာမျှ စသည်တို့ဖြင့် ကြီးသောအဖြစ်ကိုသာ သိရှာပေသည်။ မိမိနောက်သို့ ဇာတိတရားက တကောက်ကောက်လိုက်နေသည်ကိုကား မသိရှာလေ။ မိမိအား ဇရာတရားက အမြဲရစ်ပတ်နေသည်ကိုလည်းကောင်း၊ ဗျာဓိက နှိပ်စက်နေသည်ကိုလည်းကောင်း၊ မရဏက ညှဉ်းဆဲနေသည်ကိုလည်းကောင်း မသိရှာလေ။ မိမိကိုယ်ကို ဝဋ္ဋခါဏာခေါ်သော သံသရာဝဋ်၏ သစ်ငုတ်တိုကြီးဖြစ်နေသည်ကိုလည်းကောင်း၊ ယနေ့သေပြီး နက်ဖြန်ခါ ပိုးလိုးပက်လက် ယက်ကန်ယက်ကန်နှင့် ကလေးသူငယ်ဖြစ်ရမည်ကိုလည်းကောင်း မသိရှာလေ။

စင်စစ်သော် ဤပုဏ္ဏားကား ကြီးစွာသော လုံ့လဥဿာဟဖြင့် ငါ့ထံမှောက်သို့ ရောက်လာခဲ့ခြင်းဖြစ်ပေ၏။ သူ၏လာခြင်းသည် ကောင်းသောလာခြင်းသာ ဖြစ်ပါစေဟု ကြံတော်မူပြီးလျှင်–

"အိုဝ–ပုဏ္ဏား၊ သင့်အား ငါ ဥပမာဖြင့် ဆိုဦးအံ့။ ကြက်မကြီးတစ်ကောင် ရှိလေ၏။ ၈ လုံး၊ ၉ လုံး၊ ၁၀ လုံး၊ ၁၁ လုံးသော ကြက်ဥများကို ဥလေ၏။ ဝပ်ကျင်းထဲ၌ ဝပ်လျက် ထိုကြက်မသည် ကြက်ဥများကို အပူငွေ့ပေး၏။ မိခင်၏

ရင်ငွေ့အပူဓာတ်ကြောင့် ကြက်ဥတွင်းရှိအရည်များ တဖြည်းဖြည်းခြောက်ခန်းကာ အခွံများ ပါးပါးလာပေသည်။

"ထိုအခါ ကြက်ဥတွင်းရှိ ကြက်ငယ်ကလေးများသည် ထက်လှစွာသော နှုတ်သီးများဖြင့်လည်းကောင်း၊ ခြေသည်းဖျားဖြင့်လည်းကောင်း ဥခွံကိုပေါက်ပြီး ဖောက်ထွက်လာကြကုန်၏။ ထွက်လာသော ယင်းကြက်ကလေးများအနက် အကြင် ကြက်ငယ်သည် ရှေးဦးစွာထွက်လာ၏။ ထိုကြက်ငယ်ကို အသို့ခေါ် ဆိုနိုင်ပါမည်နည်း။ ကြီးသောကြက် (ကြက်ကြီး) ဟူ၍ ခေါ်မည်လော။ ငယ်သောကြက် (ကြက်ငယ်) ဟူ၍ ခေါ်မည်လော"ဟု မေးတော်မူ၏။

"ကြက်ဥအတွင်းမှ အရင်ဆုံးထွက်သောကြက်ကို ကြီးသောကြက် (ကြက်ကြီး) ဟူ၍ ခေါ်ဆိုရပါသည်။"

ဤသို့ ဝေရဥ္စပုဏ္ဏားက ဖြေလိုက်သည်။ ထိုအခါ မြတ်စွာဘုရားက အဝိဇ္ဇာသည် ဥခွံနှင့်တူပုံ၊ ကြက်ကလေးများသည် သတ္တဝါနှင့်တူပုံကို ဟောတော်မူလေ၏။

"အို-ပုဏ္ဏား၊ သတ္တဝါတို့အား အဝိဇ္ဇာတည်းဟူသော ဥခွံက ဖုံးလွှမ်းထားအပ်သောကြောင့် အပြင်သို့မထွက်နိုင်ဘဲ အဝိဇ္ဇာလှောင်အိမ်တွင်း၌ ဆင်းရဲကျဉ်းကျပ်စွာ နေထိုင်ကြရကုန်၏။ ယင်းသို့ အဝိဇ္ဇာလှောင်အိမ်ထဲ၌ ဆင်းရဲကျဉ်းကျပ်စွာနေကြရရှာသော သတ္တဝါများအနက် ငါဘုရားသည် တစ်ပါးတခြားသော သတ္တဝါတို့၏ ရှေးဦးစွာ ဥခွံကို အရဟတ္တမဂ်ဉာဏ်တည်းဟူသော နှုတ်သီးဖျား၊ ခြေသည်းဖျားဖြင့် ပေါက်၍ ဖောက်ထွက်လာခဲ့သူ ဖြစ်ပေသည်။ ထို့ကြောင့် လောကဓာတ်တစ်ခုလုံးတွင် ငါသာလျှင် အကြီးဆုံးဖြစ်၏။ သူတကာတို့ ရယူခြင်းငှာမထိုက်၊ ရခြင်းငှာ မလွယ်ကူသော ဝိဇ္ဇာသုံးပါး တရားမျိုး၊ ဝိဇ္ဇာရှစ်ပါးတရားမျိုးကို ငါသည် လက်ဆုပ်လက်ကိုင် ပိုင်နိုင်စွာရရှိပြီး ဖြစ်ပေ၏။

ဤသို့စသောအားဖြင့် အကျယ်ပွား၍ ဟောကြားတော်မူသည်ကို ကြားနာရသော ဝေရဥ္စပုဏ္ဏားသည် မြတ်စွာဘုရားအား "အဘိက္ကန္တံ ဘော ဂေါတမ၊ အဘိက္ကန္တံ ဘော ဂေါတမ"ဟူ၍ ချီးကျူးလျှောက်ထားပြီးလျှင် ဘုရားသခင်ထံတော်၌ **တေဝါစိက သရဏဂုံ**[၁]ကို ခံယူလေသတည်း။

(ဝိနယပိဋက၊ ပါရာဇိကဏ်ပါဠိတော်၊ ဝေရဥ္စကဏ္ဍမှ)

---

၁။ ဗုဒ္ဓံ၊ ဓမ္မံ၊ သံဃံ၊ သရဏံ ဂစ္ဆာမိဟူ၍ ဆောက်တည်သည်ကို တေဝါစိက သရဏဂုံဟု ခေါ်၏။

# ကူးမြောက်လိုသော်

**ပြဿနာ = ဒုက္ခအထွေထွေ။**

**မေးလျှောက်သူ = အာဠဝကဘီလူး။**

အာဠဝက ဘီလူးသည် မိဘနှစ်ပါး ကွယ်လွန်သောအခါ မိဘများရှိစဉ်က သင်ကြားပေးထားသော ပြဿနာရပ်များကို အဖြေနှင့်တကွ ပညာအမွေအနှစ်အဖြစ် ရယူထားလိုက်၏။

သို့သော် ကာလကြာမြင့်လေသောအခါတွင် မေးခွန်းပုစ္ဆာများကိုသာ မှတ်မိတော့သည်။ အဖြေကား မေ့ပျောက်ကုန်လေသောကြောင့် ဘာကို ဆိုမှန်းပင် သူ မသိတော့ချေ။ ဂေါတမရှင်တော်မြတ်ဘုရား၏ တရားတော်ကို ကြားနာရလေသောအခါ အမေးပုစ္ဆာသာ ရှိ၍ အဖြေမသိဘဲ ဖြစ်နေသော ပြဿနာများကို ဖြေကြားပေးတော်မူပါရန် တောင်းပန်၍ မေးမြန်းလျှောက်ထားလေ၏။

မေး။ အို–အရှင်ဂေါတမ၊ သံသရာဩဃသည် အပြောကျယ်၍ ရှည်လျား လှပါ၏။ ယင်းသံသရာဩဃကြီးကို လွန်မြောက်အောင် အဘယ်သို့သော အခြင်းအရာအားဖြင့် ကောင်းစွာကူးနိုင်ပါမည်နည်း။ လွန်မြောက်အောင် ကူးနည်း နိဿရည်းကို ညွှန်ကြားတော်မူပါလော။

ဖြေ။ အို–အချင်း အာဠဝက၊ သံသရာဩဃကို သဒ္ဓါတရားဖြင့် လွန်မြောက်အောင် ကူးနိုင်၏။ သံသရာဝဲဩဃမှ လွတ်မြောက်အောင် ကူးလိုသူသည် လှေကိုလည်းကောင်း၊ ဖောင်၊ သင်္ဘောစသည်ကိုလည်းကောင်း ရှာရန်မလို၊ သဒ္ဓါတရားနှင့် ပြည့်စုံရန်သာ လိုပေ၏။

မေး။ အို–အရှင်ဂေါတမ၊ ဝဋ်ဆင်းရဲဟူသည်ကား သမုဒ္ဒရာကြီးနှင့် တူပေစွ။ ထိုဝဋ်ဆင်းရဲဟူသော သမုဒ္ဒရာကြီးကို အဘယ်သို့သော အခြင်းအရာ၊ အဘယ်သို့သောနည်းအားဖြင့် လွတ်အောင် ကူးနိုင်ပါသနည်း။

ဖြေ။ အို–အာဠာဝက၊ ဆင်းရဲပြင်ကျယ် ရေပင်လယ်ကြီးကို မမေ့မလျော့ခြင်းဖြင့် လွတ်အောင်ကူးနိုင်၏။ ကုသိုလ်ပြုပြု၊ ကောင်းမှုပျော်မွေ့ခြင်းသည် မမေ့လျော့သည် မည်၏။ ယင်းသို့မေ့လျော့ခြင်း မရှိ၊ ကုသိုလ်ကောင်းမှုတို့ကို တတ်နိုင်သလောက်ပြုခြင်းသည် ဆင်းရဲဝဋ်က လွတ်မြောက်အောင် ကူးသည်ပင် မည်၏။

မေး။ အရှင်ဂေါတမ၊ အဘယ်မည်သောအကြောင်းဖြင့် ဆင်းရဲအပေါင်းမှ လွတ်နိုင်ပါသနည်း။ ဆင်းရဲခြင်း ခရီးတာကား ဆုံးစမရှိ၊ ရှည်လျားလွန်းလှပါဘိသည်။ လွတ်နိုင်မည့်နည်းလမ်းကို ညွှန်ကြားတော်မူပါလော့။

ဖြေ။ အို–အာဠာဝက၊ ကြိုးစားအားထုတ်ခြင်း ဝီရိယသည် ဆင်းရဲအပေါင်းမှ လွတ်မြောက်ကြောင်းပေတည်း။ ဝီရိယဆောင်က မအောင်မြင်သော အရာဟူ၍ မရှိသည်ကို သင် သိလော။

မေး။ အို–အရှင်ဂေါတမ၊ ကိလေသာအညစ်အကြေးကို စင်ကြယ်အောင် အဘယ်ရေဖြင့် ဆေးရပါမည်နည်း။

ဖြေ။ အို–အာဠာဝက၊ ကိလေသာအညစ်အကြေးကို ဝိပဿနာပညာဆယ်ပါး ဉာဏ်တရားဖြင့် စင်ကြယ်အောင် ဆေးနိုင်၏။ ဝိပဿနာပညာသည် ကိလေသာအညစ်အကြေးကို ဆေးကြောသည့် ရေစင်ပင် ဖြစ်သတည်း။

မေး။ အို–အရှင်ဂေါတမ၊ ပညာဟူသည် လိုအပ်သောအရာ၊ သင်ကြားအပ်သောအရာ ဖြစ်ပါသည်။ ထိုပညာကို အဘယ်သို့သော နည်းအားဖြင့် ရရာပါသနည်း။

ဖြေ။ အို–အာဠာဝက၊ ပူဇော်ထိုက်သူ အဆူဆူသောပုဂ္ဂိုလ်တို့ ဆုံးမအပ်သောစကား၊ အပ္ပခပ်သိမ်း၊ ကြောင့်ကြခပ်သိမ်း ငြိမ်းအေးကြောင်း ကောင်းမြတ်သော တရားကို နှစ်နှစ်ကာကာ ယုံယုံကြည်ကြည် လိုက်နာမှတ်သားခြင်း၊ မမေ့မလျော့၊ ပေါ့ဆမရှိ၊ သတိရှိခြင်း၊ မသိသည်ကို သိအောင် စူးစမ်းလေ့လာခြင်း၊ ဤအကြောင်း သုံးပါးအားဖြင့် ထူးခြားသော ပညာများကို ရနိုင်ပေရာ၏။

မေး။ အို–အရှင်ဂေါတမ၊ အဘယ်သို့သော အခြင်းအရာအားဖြင့် အသက်မွေးကြောင်းဖြစ်သော စီးပွားဥစ္စာကို ရရာပါသနည်း။

ဖြေ။ အို–အာဠဝက၊ အခါအခွင့်ကို ချင့်၍ လုပ်သင့်သောအချိန်၌ လုပ် ထိုက်သော အလုပ်ကို ပြုလုပ်ခြင်း၊ အပေါင်းအသင်းဝင်ဆံ့ခြင်း၊ နိုးနိုးကြားကြား၊ ထထကြွကြွရှိခြင်း ဤလက္ခဏာသုံးပါးသည် လောကီ လောကုတ္တရာ ဥစ္စာရကြောင်း ကောင်းသော နည်းလမ်းများ ဖြစ်ပေ၏။

မေး။ အို–အရှင်ဂေါတမ၊ ကျော်စောခြင်း၊ ထင်ပေါ်ခြင်းဟူသည် ရှိပါ၏။ ယင်းသို့ ထင်ပေါ်ကျော်စောခြင်းအဖြစ်သို့ အဘယ်သဘောဖြင့် ရောက်ရှိနိုင်ပါသနည်း။

ဖြေ။ အို–အာဠဝက၊ ရှေ့သို့ နောက်ပျက် ယွင်းကွက်မရှိ ပကတိဟုတ်မှန်သော သစ္စာစကားကို ဆိုခြင်းသည် ကျေးဇူးသတင်း ကျော်စောခြင်း၊ ထင်ပေါ်ခြင်းသို့ ရောက်စေနိုင်ပေ၏။

မေး။ အို–အရှင်ဂေါတမ၊ လောက၌ မိတ်ဆွေဟူသည် ရှိရပါ၏။ ရှိကြပါ၏။ မိတ်ဆွေကောင်းများ ရရှိအောင် အဘယ်သို့ပြုအပ်ပါသနည်း။

ဖြေ။ အို–အာဠဝက၊ မိမိစီးပွား၊ သူ့စီးပွား၌ လိုလားမှုတ ဝေငှပေးကမ်းခြင်းသည် မိတ်ကောင်း ဆွေကောင်း ရခြင်း၏ အကြောင်းဖြစ်ပေသည်။

မေး။ အို–အရှင်ဂေါတမ၊ အဘယ်အရာမျိုးဖြင့် ပစ္စုပ္ပန်သံသရာ နှစ်ဖြာသော ဘဝ၌ သောကကင်းဝေးရာပါသနည်း။

ဖြေ။ အို–အာဠဝက၊ အကြင်သူအား မှန်သောစကားကို ဆိုခြင်း၊ မကောင်းမှုမှ ရှောင်ကြဉ်၍ ကောင်းမှုတို့ကို ယှဉ်ခြင်း၊ မဆုတ်မနစ် ကြိုးစားအားထုတ်ခြင်း၊ ပေးကမ်းစွန့်ကြဲခြင်း၊ ဤတရားလေးပါးကို ပွားစေသည်ဖြစ်အံ့၊ ထိုသူသည် အိုးအိမ်တည်၍ သားမယားနှင့်ပင် နေသည်ဖြစ်လင့်ကစား၊ စင်စစ်တမလွန် ဘဝအတွက်လည်း စိုးရိမ်စရာမရှိပြီ။ ယုတ်ညံ့သော ဂတိလွတ်ကွာ၍ လူ့ရွာနတ်ထံ၌ ကေန်ဖြစ်ရလတ္တံ့။

အို–အချင်းအာဠဝက၊ ငါမှတစ်ပါး "ဘုရား"ဟူ၍ ဝန်ခံကုန်သော ပုရာဏ ကဿပ အစရှိသော ရဟန်း ပုဏ္ဏားတို့ထံ သွား၍လည်း ထိုအကြောင်းကို သင် လျှောက်ထားမေးမြန်း စုံစမ်းကြည့်လေဦး။

မြတ်စွာဘုရားက ဤသို့တိုက်တွန်းတော်မူသောအခါ အာဠဝကမှာ ယုံမှားသံသယ ဒွိဟဖြစ်စေတတ်သော ဝိစိကိစ္ဆာကို ပယ်ပြီးဖြစ်လေ၍ ဤသို့ လျှောက်ထားလေသည်။

စပယ်ဦးစာပေ

"အို–အရှင်ဂေါတမ၊ အကျွန်ုပ်ကား သူတစ်ပါးအား မေးမြန်းလျှောက်ထားဖွယ် ကိစ္စ မရှိတော့ပါပြီ။ တစ်သက်လုံး ယူကျုံးမှတ်ပိုက် အောက်မေ့ထိုက်သော သဒ္ဓရသ၊ အတ္ထရသ ရှိလှပေသော ဓမ္မရတနာကို ကောင်းစွာရပါပြီ။ အရှင်ဘုရားသည် အကျွန်ုပ်အား အကျိုးစီးပွားများစေခြင်းငှာ ဖြစ်တော်မူလာပါပေသည်။ အကျွန်ုပ်၏မျက်စိသဖွယ် ဖြစ်တော်မူပါပေသည်။ သံသရာတည်းဟူသော တောအုပ်ကြီး၌ ခရီးမှား၍ ပျက်ပြားရလတ္တံ့သော အကျွန်ုပ်တို့အား ဟုတ်မှန်သောလမ်းကို ညွှန်ငင်၍ ကယ်တင်တော်မူပေသည်။ အရှင်ဘုရား၏ ကျေးဇူးတော်ကို တစ်ဗိမာန်မှသည် တစ်ဗိမာန်၊ တစ်နိုင်ငံမှသည် တစ်နိုင်ငံ၊ နတ်တို့စံရာ တစ်ဘုံမှသည် တစ်ဘုံသို့ ဆောင်ကာ ပျံ့နှံ့အောင် အကျွန်ုပ် ဖော်ထုတ်ချီးကျူးပါအံ့"ဟု လျှောက်ထားလေသတည်း။

(သုတ္တနိပါတ်၊ အာဠာဝကသုတ်)

# ဘုရားလုပ်ချင်သော ဒေဝဒတ်

**ပြဿနာ = ရှုကွက်။**

**မေးလျှောက်သူ = ဒေဝဒတ်။**

ဒေဝဒတ်သည် ဘုရားဖြစ်ချင်လွန်း၍ "ဘုရားရှူး ရူးနေသူ" ဟု ဆိုသင့်၏။ အချိန်ရှိသရွေ့၊ နေ့ရှိသရွေ့ ဘုရားဖြစ်မြောက်ရေးကိုသာ အားထုတ်နေသည်။ ကြိုးစားနေသည်။

တပည့်လက်သားများလျှင်၊ အာဏာထက်မြက်လှသော၊ ဘုန်းရှိသောမင်းကို ကိုယ့်ဘက်ပါအောင် သိမ်းသွင်းနိုင်လျှင် ဘုရားဖြစ်နိုင်သည်ဟု သူက ထင်လေသည်။

ထင်သည့်အလျောက်လည်း နောက်ပါ တပည့်လက်သား အခြံအရံများအောင် စည်းရုံးသည်။ လာဘ်လာဘကို မျှော်ကိုးသော ရဟန်းများအား လာဘ်လာဘ ဖွံ့ဖြိုးအောင် လုပ်ပေးခြင်းအားဖြင့် မိမိလက်အောက်ရောက်အောင် သိမ်းသွင်းယူ လိုက်သည်။

မလိမ်မို့ မလိမ္မာ ငယ်ရွယ်၍ စိတ်ဓာတ်ကျွတ်ဆတ်ဆတ်နိုင်လှသော အဇာတသတ်မင်းသားအား တန်ခိုးဖြင့် ခြိမ်းခြောက်၍ မိမိကို အထင်ကြီးအောင်၊ ကိုးကွယ်ဆည်းကပ်လာအောင် ဖြားယောင်းကာ ဒကာရင်းအဖြစ် ခါးပိုက်ဆောင် လုပ်ထားလိုက်သည်။

ဤသို့ အစရှိသည့် မသမာသော သိမ်းသွင်းနည်းအားဖြင့် ရဟန်းများကို လည်းကောင်း၊ အာဏာပိုင် မင်းသားများကိုလည်းကောင်း ဆွဲဆောင်သိမ်းသွင်း စည်းရုံးခြင်းအားဖြင့် သူ့နောက်တွင် သံဃာပရိသတ် တပည့်ငယ်အင်အား အတော် ..သင့် တောင့်တင်းလာသည်နှင့်အမျှ မင်းစိုးရာဇာပိုင်းဆိုင်ရာမှာလည်း နေလို လ,လို လျှမ်းလျှမ်းတောက် တန်ခိုးထင်လင်းနေသည့် အဇာတသတ်ကဲ့သို့သော

မင်းပျိုမင်းလွှင်ကိုပင် လက်အောက်သို့ရောက်အောင် သိမ်းသွင်းမိထားပြီဖြစ်ရကား ငါ ဘုရားဖြစ်ဖို့ နီးပြီဟူ၍ သူ့ကိုယ်သူ အထင်ကြီးကြီးလာလေ၏။ အဇာတသတ် မင်းသားက နေ့စဉ် ရထားပေါင်း ငါးရာတွင် ဆွမ်းအုပ်ပေါင်း ငါးရာတင်လျက် အရှင် ဆရာတော် ဒေဝဒတ်အား လှူဒါန်းခြင်းပြုနေပြီဖြစ်ရာ ဒေဝဒတ်ကဲ့သို့သော လာဘသက္ကာရ အားကြီးသူအဖို့ အဘယ်မှာလျှင် စိတ်ကြီးမဝင်၊ ဘဝင်မမြင့်ဘဲ ရှိပါမည်နည်း။

ထို့ကြောင့် ရာဇဂြိုဟ်ပြည်၌ ဗုဒ္ဓဂေါတမကို ကိုးကွယ်သောဂိုဏ်းနှင့် ဒေဝဒတ်ကို ကိုးကွယ်သောဂိုဏ်းဟူ၍ ဂိုဏ်းကြီးနှစ်ဂိုဏ်း အပြိုင်အဆိုင်သဘောမျိုးလို ဖြစ်လာလေတော့သည်။ ဗုဒ္ဓဂေါတမကို ကိုးကွယ်သောဂိုဏ်း၌ ဗိမ္ဗိသာရမင်းကြီးက ဦးစီး၍ ဒေဝဒတ်ကို ကိုးကွယ်သောဂိုဏ်းတွင်မူ သားတော် အဇာတသတ်မင်းသားက ကြီးမှူးကြိုးကိုင်လေသည်။

ဂေါတမမြတ်စွာဘုရား ဒေသစာရီလှည့်လည်၍ တရားဟောထွက်တော်မူချိန်တွင် ရာဇဂြိုဟ်ပြည်၌ ကျန်ရစ်ခဲ့သော ဒေဝဒတ်သည် မနူးမနပ် အဇာတသတ်မင်းသားအား အမျိုးမျိုး သွေးထိုးလှုံ့ဆော်၍ ဂေါတမအပေါ် သံဃာဇဉ်ပြတ်အောင် တတ်နိုင်သမျှ ဟောပြောလျက် ရှိနေ၏။ "ဒီတစ်ခါ ဂေါတမ ပြန်ရောက်လာစေ။ ဘုရားရာထူးကို ဂေါတမထံမှ လွှဲပြောင်းယူမည်"ဟူ၍လည်း တစ်ကိုယ်တည်း ကျိတ်၍ စိတ်ကူးထားလေသည်။

ထိုအချိန်၌ ဂေါတမရှင်တော်ဘုရားမှာ ကောသမ္ဗီပြည်သို့ ရောက်ရှိနေတော်မူ၏။ ကျွတ်ထိုက်သသူတို့အား တရားရေအေးတိုက်ကျွေးလျက် နေတော်မူ၏။ ထိုကောသမ္ဗီပြည်မှ ထွက်ခဲ့၍ ရာဇဂြိုဟ်ပြည်ဘက်သို့ ခြေစကြာကြွချီခြင်းအားဖြင့် ရောက်တော်မူလျှင် သုံးလောကထွတ်ထား မြတ်စွာဘုရားကား ဒေဝဒတ်၏ သတင်းစကားများကို ရဟန်းတော်များထံမှတစ်ဆင့် ကြားသိတော်မူရလေ၏။

"ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ ယခုအခါ ဆရာဒေဝဒတ်နှင့် အဇာတသတ် မင်းသားတို့၏ အကျွမ်းတဝင်ဖြစ်နေမှုမှာ အံ့ဖွယ်လိလိပါ ဘုရား။ အဇာတသတ်မင်းသားက ဒေဝဒတ်ကို ဆရာအမှတ်ဖြင့် ဆည်းကပ်ကိုးကွယ်ပြီး နေ့စဉ် ရထားငါးရာဖြင့် ညနံနက် မပြတ် ဆည်းကပ်လျက်ရှိနေပါသည်။ နေ့စဉ်ဆွမ်းအုပ်ပေါင်း ငါးရာ ပို့လှူခြင်းအားဖြင့် ဒေဝဒတ်ကို အကြောင်းပြု၍ သံဃာများအဖို့ ဆွမ်းကွမ်းချမ်းသာမှုများပင် ဖြစ်ရပါသည်"

ခရီးရောက်မဆိုက်ပင် ရဟန်းများက ဒေဝဒတ်အကြောင်းကို ဆီး၍ လျှောက်လိုက်ကြကုန်၏။ ထိုအခါ ဗုဒ္ဓမြတ်ဘုရားက ထိုအကြောင်းနှင့် ပတ်သက်၍ မိန့်တော်မူသည်ကား–

"အို–ချစ်သားတို့၊ သို့စင်မျှလောက် ဒေဝဒတ်အား လာဘ်သပ်ပကာများ ပေါများထွန်းကားလာခြင်းကား ဒေဝဒတ်အဖို့ အကျိုးစီးပွားများစေခြင်းငှာ ဖြစ်လာသည် မဟုတ်။ ဆုတ်ယုတ်ခြင်းငှာသာလျှင် ဖြစ်လာသတည်း။ အို–ချစ်သားတို့၊ ဥပမာကို ငါဆိုအံ့။ ကြမ်းကြုတ်လှစွာသော ခွေး၏နှာဝ၊ လျှာစဥ္ဆ ခါးလှသော သည်းခြေအိတ်ကို ခွဲသည်ရှိသော် လွန်ကဲ၍ ကြမ်းကြုတ်ပြန်သကဲ့သို့ ဉာဏ်အမြင်နည်းပါးသူ၏ ထံမှောက်သို့ ရောက်သွားသော လာဘ်လာဘာအခြံအရံသည် အကျင့်သီလပျက်ခြင်းငှာလည်းကောင်း၊ တရားဆုတ်ယုတ်ခြင်းငှာလည်းကောင်း၊ အကုသိုလ်ပွားခြင်းငှာလည်းကောင်း စင်စစ်ဖြစ်ပေ၏။

"အို–ချစ်သားတို့၊ ဥပမာတစ်နည်းသော်ကား ဝါးပင်၊ ကျူပင်၊ ပေပင်တို့သည် ရှိကုန်၏။ သီးလာသော အသီးများသည် ထိုဝါးပင်၊ ကျူပင်၊ ပေပင်တို့ကို သတ်သကဲ့သို့လည်းကောင်း၊ အာဇာနည်မြင်းမသည် မိမိသေစိမ့်သောငှာ သားဖွားသကဲ့သို့လည်းကောင်း၊ ပညာနည်းသော ဒေဝဒတ်အား လာဘ်သပ်ပကာ ပူဇော်သက္ကာရတို့ ပြန့်ပွားပေါများလာခြင်းသည် မိမိကို ညှဉ်းဆဲခြင်း အကျိုးငှာလည်းကောင်း၊ အပါယ်လေးပါးသို့ လားရောက်ခြင်းငှာလည်းကောင်း၊ ဖြစ်ပွားလာခြင်းသာ ဖြစ်ပေ၏။

ယင်းသို့ သံဃာများနှင့် စကားပြောရှိမှ လက်စ မသတ်သေးမီ ဒေဝဒတ်သည် ဘုရားသခင်ထံတော်သို့ ချဉ်းကပ်လာလေ၏။ သူ၏လာခြင်းကား သူ့ဘက်မှနေ၍ သူ့ရှုထောင့်က ကြည့်ပါမူ ကောင်းသောလာခြင်းပါတည်း။ အဘယ့်ကြောင့်ဆိုသော် ယနေ့ ငါ ဘုရားဖြစ်တော့မည်ဟူသော ဆန္ဒဖြင့် လာခြင်းဖြစ်သောကြောင့်ဖြစ်၏။

ဒေဝဒတ်သည် များစွာသော အခြံအရံဖြင့် ဘုရားသခင်ထံ ဝင်လာပြီး ကြီးမားသော၊ တောင့်တင်းသော မိမိ၏တပည့်ငယ်သား အင်အားကိုပြကာ "ဘုရား ရာထူး"ကို မိမိအား လွှဲပြောင်းပေးရန် အတင်းပင် တောင်းခံလေတော့သည်။

မေး။ ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ ရှင်ပင်ကိုယ်တော်မြတ်ကား အသက်ကြီးပါပြီ၊ အိုလှပါပြီ။ မျက်မှောက် ချမ်းသာခံစားကာဖြင့် အေးချမ်းစွာ စံနေတော်မူပါ။ ကြောင့်ကြမဲ့နေတော်မူပါ။ ဘိက္ခု၊ ဘိက္ခုနီ၊ ဥပသကာ၊ ဥပသကာ ဖြစ်သော ရဟန်းသာဝက၊ လူသာဝကတို့ကို အကျွန်ုပ်အား လွှဲအပ်တော်မူပါ။ အကျွန်ုပ်သည် ဘုရားအဖြစ်ဖြင့် တပည့်သာဝကတို့အား အုပ်ချုပ်သွားပါအံ့။

ဖြေ။ ချစ်သား ဒေဝဒတ်၊ ဤအခွင့်ကား မသင့်သေးပေ။ သင်၏ ကိုယ်ရေးကိုယ်တာကိုသာ အားထုတ်ဦးလော့။ သံဃာတို့ကို အုပ်ချုပ်ခြင်း၊ ဦးစီးခြင်း၊ ရှေ့ဆောင်ခြင်းငှာ သင်အလိုမရှိလေလင့်ဟု ပယ်လိုက်လေသည်။ ဒေဝဒတ်

သည် လက်မလျှော့ဘဲ သုံးကြိမ်လျှောက်၍ တောင်းသည်။ ဗုဒ္ဓကလည်း သုံးကြိမ်စလုံးပင် လက်မခံဘဲ ပယ်တော်မူလိုက်ပြီးနောက်–

"အို–ချစ်သား ဒေဝဒတ်၊ သံဃာ့ပရိသတ်ထဲ၌ အယုတ်၊ အလတ်၊ အမြတ် ဟူ၍ သုံးမျိုးသုံးစား ပါဝင်ပေ၏။ ယင်းပရိသတ်အားလုံးက ငါဘုရားကို ရည်မှန်း၍ ရဟန်းပြုလာ ကြသူချည်းသာ ဖြစ်ကြသည်။ ထို့ကြောင့် ငါရှိလျက်နှင့် ငါ့ကို မှီခိုအားထားလာသူများကို သူတစ်ပါးအား လွှဲထားခြင်းငှာ မထိုက်လေ၊ မလျော်လေ။ စင်စစ်အားဖြင့်ဆိုသော်ကား သာဝကတို့၏ အထွတ်သို့ရောက်နေသော သာရိပုတ္တရာ၊ မောဂ္ဂလာန်တို့ကိုမျှ သာဝက သံဃာကို မအပ်ရက်ဘဲလျက် သူတစ်ထူး ထွေးအန်ပြီးသော တံတွေးကို ကောက်၍ မျိုသေးသော သင့်အား (ဝါ) သင်၏လက်ဝယ်သို့ အဘယ့်ကြောင့် ငါ့တပည့်သာဝကများကို နှင်းအပ်ရက်ပါမည်နည်း။"

ဤသို့မိန့်တော်မူလိုက်သောအခါ ဒေဝဒတ်မှာ များစွာရှက်သွားလေသည်။ ရှင်ဂေါတမ အား ပရိသတ်အလယ်၌ ငါ့ကို အရှက်ခွဲသည်။ ဆွေမတော် မျိုးမစပ် ဆင်းရဲသားမျိုးမှ ပေါက်ဖွားလာသူ သာရိပုတ္တရာနှင့် မောဂ္ဂလာန်တို့ကို အရေးပေးနေသည်။ သွေးရင်းသားရင်း ဖြစ်သော ငါ့ကိုကား အသေးအမွှားကဲ့သို့ သဘောထားသည်။ ယနေ့မှစ၍ ဂေါတမနှင့် ငါ လမ်းခွဲတော့အံ့။ စိတ်ဆိုးမာန်ဆိုးနှင့် ထ၍ ပြန်သွားလေ၏။

ဒေဝဒတ်သည် ထိုအခါမှစ၍ ဘုရားသခင်အပေါ်၌ ရန်ငြိုးဖွဲ့ကာ အဇာတသတ်မင်းသားနှင့်ပူးပေါင်း၍ ဘုရားကို သတ်ရန် အမျိုးမျိုး ကြံစည်အားထုတ်ခြင်း ပြုသတည်း။

(ဓမ္မပဒ အဋ္ဌကထာ)

# ဩဃမှ လွတ်မြောက်ရေး

**ပြဿနာ = ဘယ်နည်းဘယ်ပုံ ကူးသနည်း။**

**မေးလျှောက်သူ = ဗြဟ္မာတစ်ဦး။**

အခါတစ်ပါး၌ ဗြဟ္မာတစ်ဦးသည် ဘဝမှ ရုန်းကန်လွတ်မြောက်ရေးကို တွေးမိနေ၏။ "ဘယ်ပုံဘယ်နည်း လွတ်မြောက်သနည်း" ဤသို့တွေးသော်လည်း အဖြေရှာမရ ဖြစ်နေသောကြောင့် ထိုအကြောင်းကို ဘုရားထံချဉ်းကပ်၍ လျှောက်ထားမေးမြန်းခြင်း ပြုလေသည်။

မေး။ ဒုက္ခမရှိသော ရှင်ပင်မြတ်ဘုရား၊ အရှင်ဘုရားသည် ဘယ်နည်း၊ ဘယ်ပုံ၊ အဘယ်သို့သော အခြင်းအရာအားဖြင့် **ဩဃ**[၁] ကို လွန်မြောက်အောင် ကူးခပ်တော်မူပါသနည်း။

ဖြေ။ ငါ့ရှင်ဗြဟ္မာ၊ ငါကား စင်စစ်လျှင် **နားလည်း မနား၊ အားလည်း မထုတ်လေဘဲ** ဩဃကို ကူးတော်မူ၏။

မေး။ ဒုက္ခမရှိသော အရှင်ဘုရား၊ အရှင်ဘုရားသည် ဘယ်ပုံ၊ ဘယ်ပုံ နားလည်းမနား အားလည်း မထုတ်ဘဲလျက် ကူးတော်မူဘိသနည်း။

ဖြေ။ ငါ့ရှင်ဗြဟ္မာ၊ အကြင်အခါ၌ လုံ့လမပြုဘဲ ငါနေ၏။ ထိုအခါ ငါသည် နစ်လေ၏။ အကြင်အခါ၌ ငါလုံ့လအားထုတ်မှု ပြု၏။ ထိုအခါ ငါသည် မျော လေ၏။ ငါ့ရှင်ဗြဟ္မာ၊ ငါသည် ဤသို့နားလည်းမနား အားလည်း မထုတ်သော အခြင်းအရာအားဖြင့် ကူးတော်မူ၏။

အို–အချင်းဗြဟ္မာ၊ ကိလေသာနှင့်ဆက်စပ် ပတ်သက်သော အားဖြင့်နေခြင်းသည် **နစ်**သည်မည်၏။ ဗဋ္ဋနိဿိတဖြစ်သော လောကီကုသိုလ်တို့နှင့် ဆက်စပ်

---

၁။ ကာမ၊ ဘဝ၊ ဒိဋ္ဌိ၊ အဝိဇ္ဇာ ဟူသော ဩဃ လေးပါး။

ပတ်သက်သောအားဖြင့် အားထုတ်ခြင်းကား **မျော** သည်မည်၏။ ထို့ကြောင့် ငါသည် ကိလေသာနှင့် ပတ်သက်ဆက်စပ်သောအားဖြင့် နားနေခြင်းလည်း မပြု၊ ဝဋ္ဋနိဿိတ ဖြစ်သော လောကီကုသိုလ်တို့နှင့် ဆက်စပ်ပတ်သက်သောအားဖြင့် အားထုတ်ခြင်း လည်း မပြုဘဲ ကူးတော်မူ၏။ ကိလေသာတို့နှင့် ငါတန့်နားနေလျှင် ဩဃထဲ၌ ငါ**နစ်**လေအံ့။ လောကီကုသိုလ်မှုတို့ကို အားထုတ်နေလျှင် **မျော**လေအံ့။ ထို့ကြောင့် နစ်လည်း **မနစ်**၊ မျောလည်း **မမျော**အောင် ငါကူးတော်မူ၏။

အို–အချင်းပြဟ္မာ၊ တပ်နှစ်သက်ခြင်းဟူ သော တဏှာ၊ စွဲလမ်းခြင်းဟူသော ဒိဋ္ဌိတို့ဖြင့် ကြပ်ကြပ်နေခြင်းသည် နစ်သည်မည်၏။ တဏှာဒိဋ္ဌိတို့မှ အကြွင်းအကျန်ကို ကိလေသာတို့၏ အစွမ်းအားဖြင့်လည်းကောင်း၊ လောကီကုသိုလ်၊ အကုသိုလ်ဟု ဆိုအပ်သော ခန္ဓာကိုယ်အသစ်ကို ပြုပြင်တတ်ကုန်သော အဘိသင်္ခါရတရားတို့၏ အစွမ်းအားဖြင့်လည်းကောင်း လှုပ်ရှားရုန်းကန်မှု၊ အားထုတ်မှုကိုပြုခြင်းသည် မျောသည်မည်၏။

ထို့ကြောင့် ငါသည် ငါ့ကိုယ်ငါ အနစ်လည်းမခံ၊ အမျောလည်း မခံဘဲ ကူးတော်မူ၏။

အို–အချင်းပြဟ္မာ၊ ဩဃလေးပါးတို့၌ နစ်၍နစ်၍မျောခဲ့သည်ဖြစ်လျှင်၊ မျော၍မျော၍ နစ်ခဲ့သည်ဖြစ်လျှင် သံသရာဝဲဩဃမှ ထွက်နိုင်၊ တက်နိုင်၊ ပေါ်နိုင်တော့မည် မဟုတ်လေပြီ။ ဤသို့အကြံဖြစ်တော်မူ၍ ငါသည် ဆန်ကူးဆန်ကူး မဂ္ဂင်ဖောင်ဖြင့် ဩဃလေးပါးကို ကူးကာကူးကာ ဆန်တော်မူ၍လည်းကောင်း၊ ဆန်ကာဆန်ကာ ကူးတော်မူ၍လည်းကောင်း၊ မဂ်ဉာဏ် ဖိုလ်ဉာဏ် နိဗ္ဗာန်မည်သော ခေမာကမ်းထိပ်သို့ ရောက်တော်မူသည်။

(သဂါထာဝဂ္ဂ၊ ဒေဝတာသံယုတ်၊ အုပတိဋ္ဌ–အနုဝယ္ဘုဟာသုတ်မှ)

# ဗုဒ္ဓ ပရိနိဗ္ဗာန်ပြုရန်

**ပြဿနာ = လိုလားသူ၊ မလိုလားသူ။**

**မေးလျှောက်သူ = မာရ်နတ်နှင့် အရှင်အာနန္ဒာ။**

ဗုဒ္ဓဖြစ်ထွန်းမှု၊ ဗုဒ္ဓရှိနေမှုကို ရှေးဦးစွာ မလိုလားဆုံး၊ မရှုစိမ့်နိုင်ဆုံး၊ မနာလိုဆုံး ပုဂ္ဂိုလ်မှာ ဒေဝဒတ် မဟုတ်ပေ။ ဒေဝဒတ်ထက် အဆပေါင်းများစွာ စိတ်သဘောထားဆိုးရွားစွာဖြင့် ဗုဒ္ဓကို မလိုလားဆုံးသောသူကား မာရ်နတ်ဖြစ်၏။

မှန်သည်။ မာရ်နတ်သည် အလောင်းတော် သိဒ္ဓတ္ထမင်းသား တောထွက်တော်မူစဉ်အခါကလည်း 'ဘုရားဖြစ်မှုကို မလိုလားသောကြောင့်' ဟန့်တားထားခဲ့သူဖြစ်သည်။ နောက် ဘုရားဖြစ်တော်မူလာသော ကဆုန်လပြည့်နေ့၌ အပရာဇိတပလ္လင်ကို လုကာ ဗုဒ္ဓကို အကြီးအကျယ် တိုက်ခိုက်ခဲ့သူဖြစ်သည်။

ဗုဒ္ဓကို တိုက်ခိုက်၍ မအောင်မြင်သည့်အဆုံး၌ ဘုရားအဖြစ်သို့ ရောက်တော်မူ၍ များစွာမကြာသေးမီ ကာလအတွင်း အဇပါလညောင်ပင်၌ နေတော်မူစဉ် ပရိနိဗ္ဗာန် ပြုတော်မူပါလော့ဟူ၍ အတင်းဝင်ရောက် လျှောက်ထားခဲ့သူဖြစ်သည်။

မဟာသက္ကရာဇ် ၁၄၈ ခု ကုန်ရာသီ တပို့တွဲလ၌ဖြစ်၏။ မြတ်စွာဘုရားသည် အရှင်အာနန္ဒာကိုခေါ်၍ ဝေသာလီပြည်တွင်း၌ ဆွမ်းဘုဉ်းပေးပြီးနောက် ယင် ဝေသာလီပြည်၏ အရှေ့ဘက်၌ **စာပါလ** အမည်ရှိသော စေတီအရပ်၌ နေသန့်၍ နေတော်မူစဉ် ဗုဒ္ဓမြတ်ဘုရားသည် မကြာခင် ပရိနိဗ္ဗာန် ပြုတော်မူရတော့မည့်အရေးကို မြင်တော်မူသည်။ ထိုအကြောင်းကို တိုက်ရိုက်ပြောဆိုရန် မသင့်သောကြောင့် 'ရိပ်မိလို ရိပ်မိငြား' အရိပ်အမြွက်အားဖြင့် အရှင် အာနန္ဒာအား (မမိန့်ဖူးသော စကားကို) မိန့်ကြားကာ သတိပေးတော်မူသည်။

"ချစ်သား အာနန္ဒာ၊ ငါဘုရား သာသနာ၌ အကြင်သူသည် အာသဝေါကင်းကွာ၍ ရဟန္တာဖြစ်လာ၏။ ထိုသူသည် ဣဒ္ဓိပါဒ် လေးပါးကို ပွားစေ၍ အဖန်

တလဲလဲ အလေ့အလာပြု၍ နေမည်ဆိုက ထိုသူသည် "နေလိုခဲ့သော်" အာယုကပ်ပတ်လုံးလည်း တည်နေနိုင်ရာ၏။

"ချစ်သား အာနန္ဒာ၊ ငါဟောကြားအပ်သော ဗောဓိပက္ခိယတရား ၇ ပါးကို ပွားစေ၍လည်းကောင်း၊ အဖန်တလဲလဲ အလေ့အလာပြု၍လည်းကောင်း နေမည်ဆိုပါက ထိုပုဂ္ဂိုလ်သည် "အလိုရှိခဲ့သော်" အာယုကပ်ပတ်လုံးသော်လည်းကောင်း၊ အသက်တစ်ရာကျော်တိုင်ရုံလည်းကောင်း တည်နိုင်ရာ၏။

ဤသို့ ရိပ်ဖမ်းသံဖမ်းမြွက်ကြား၍ စကားခင်းသော်ငြားလည်း အရှင်အာနန္ဒာကား လုံးဝရိပ်မိခြင်း မရှိသေး။ ထို့ကြောင့် ကိုယ်တော်ကို ဥပမာထား၍ ရိပ်မိလို ရိပ်မိငြား ထပ်၍ မြွက်ကြားတော်မူပြန်လေ၏။

"ချစ်သား အာနန္ဒာ၊ ငါဘုရားသည်လည်း အလိုတော်ရှိ၍ ဣဒ္ဓိပါဒ် လေးပါး၊ အဓိပတိ လေးပါး၊ ဗောဓိ ၇ ပါးကို ပွားစေ၍ အဖန်တလဲလဲ အလေ့အလာ ပြုငြားအံ့၊ အာယုကပ်ပတ်လုံး တည်တော်မူနိုင်၏။ ထိုထက်အလွန် တစ်ကမ္ဘာ ပတ်လုံးလည်း တည်တော်မူနိုင်၏။"

ယင်းသို့ အမြွက်အရိပ် နိမိတ်ဩဘာစကား မိန့်ကြားတော်မူသော်လည်း အရှင်အာနန္ဒာကား လုံးဝသတိမရ။ ဘုရားကိုယ်တော်မြတ်သည် လူ၊ နတ်တို့၏ အကျိုးငှာ အာယုကပ်ပတ်လုံး တည်တော်မူပါဟု မတောင်းပန်မိလေ။ ရှိခိုးလျက် ဆိတ်ဆိတ်သာနေ၏။

ယင်းသို့ ရိပ်ဖမ်းသံဖမ်း စကားဦးသမ်း၍ မြွက်ကြားသော်လည်း လုံးဝ ရိပ်စားမိခြင်း မရှိလေသဖြင့် ဆက်၍မြွက်ကြားတော်မမူတော့ဘဲ နေရာမှ ထတော်မူပြီး ထိုစာပါလစေတီနှင့် မနီးမဝေးတွင် ရှိသော သစ်ပင်ကြီးတစ်ပင်အောက်သို့ သွား၍နေတော်မူ၏။ အရှင်အာနန္ဒာလည်း ရေကြည်တော် ဆောင်ယူရန်အတွက် ဘုရားသခင်၏ အပါးတော်မှ ထွက်ခွာသွားလေပြီ။

ထိုအခါ တစေ့တစောင်းမှ ချောင်းနေသော မာရ်နတ်သည် အရှင်အာနန္ဒာ မရှိခိုက် အလစ်တွင်ဝင်၍ ဘုရားသခင်နှင့် တွေ့လေ၏။ မာရ်နတ်သည် ဤတစ်ကြိမ်သာ မဟုတ်၊ ဘုရားနှင့် နှစ်ဦးချင်း တွေ့ဆုံမှုအတွက် အကြိမ်ပေါင်းများစွာ ကြံစည်ခဲ့လှပြီ။ အားထုတ်ခဲ့ဖူးလှပြီ။ တပည့်တပန်း ရဟန်းများ မလစ်သဖြင့် နှစ်ယောက်ချင်း မတွေ့ဖြစ်ခဲ့။

ယခုတွင်မူ အရှင်အာနန္ဒာ အလစ်တွင် ရေးကြီးသုတ်ပျာနှင့် ဘုရားသခင်ထံ ဝင်လာပြီးနောက် လက်နှစ်ဖက်ကို စုံမြှောက်၍ တောင်းပန်ခြင်းပြုလေသတည်း။

မေး။ ဘုန်းတော် အလွန်တရာကြီးမြတ်တော်မူလှသော သုံးလောက ထိပ်တင် မြတ်ရှင်ပင်ဘုရား၊ အရှင်မြတ်သည် ပရိနိဗ္ဗာန်ပြုရန် အချိန်တန်ပါပြီ။ ယခုပင် ပရိနိဗ္ဗာန်ပြုတော်မူပါလော။

အို-အရှင်သူမြတ်ဘုရား၊ ရှေးအခါက အရှင်ဘုရားလည်း အကျွန်ုပ်အား မြွက်ကြားထားတော်မူခဲ့ဖူးပါသည်။ အချင်းမာရ်နတ်၊ အကြင်မျှလောက်သော ကာလပတ်လုံး ငါ၏ တပည့်သား ရဟန်းသံဃာတို့သည် ထူးမြတ်သောတရား အရာ၌ မလိမ္မာကုန်သေး။ ကိုယ်၊ နှုတ်၊ နှလုံး ဤသုံးပါးကိုလည်း မဆုံးမ,နိုင် ကြသေး၊ သင်ကြားအပ်သော ဗဟုသုတသည်လည်း မများကုန်သေး၊ လောကုတ္တရာ တရားတော်အား လျော်သောအကျင့်ကိုလည်း မကျင့်ကုန်သေး။ သူတစ်ပါးအား ဟောကြား သင်ကြားခြင်းငှာ မစွမ်းနိုင်သေး။ ထိုမျှလောက်သော ကာလပတ်လုံး ငါဘုရားသည် ပရိနိဗ္ဗာန် မစံလိုသေးဟု ဆိုဖူး ပြောဖူးခဲ့ပါသည်။

အို-အရှင်သူမြတ်ဘုရား၊ ယခုအခါတွင်မူကား အရှင်ဘုရား၏ တပည့်သံဃာ တို့သည် လိမ္မာရေးခြား ရှိလာကြကုန်ပါပြီ။ ကိုယ်၊ နှုတ်၊ နှလုံး သုံးပါးကို ဆုံးမ နိုင်ကုန်ပါပြီ။ အသင် အကြားများ၍ ရဲရင့်တည်ကြည်သော အဖြစ်သို့ ရောက်ကုန် ပါပြီ။ မိဋ္ဌကတ်သုံးပုံကို နှုတ်ငုံဆောင်နိုင်ကုန်ပါပြီ။ လောကုတ္တရာအားလျော်သော အကျင့်ကို မိမိတို့လည်း ကျင့်နိုင်ကုန်ပါပြီ။ သူတစ်ပါးတို့အားလည်း သင်ကြား ပြသနိုင်ကုန်ပါပြီ။

အို-ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ ထိုမှတစ်ပါးလည်း အချင်းမာရ်နတ်၊ ငါဘုရား၏အဆုံးအမကို ခံကုန်သော ရဟန်းယောကျ်ား၊ ရဟန်းမိန်းမ၊ ဥပါသကာ ယောကျ်ား၊ ဥပါသကာ မိန်းမတို့သည် အကြင်မျှလောက်သော ကာလပတ်လုံး၊ ကိုယ်၊ နှုတ်၊ နှလုံး သုံးပါးကို မဆုံးမ,နိုင်ကုန်သေး။ လောကုတ္တရာအားလျော်သော အကျင့်တို့ကို မကျင့်နိုင်ကုန်သေး။ သူတစ်ပါးအား ဟောကြား ပြသ ဆုံးမခြင်းငှာ မစွမ်းနိုင်ကုန်သေး။ ထိုမျှလောက် ကာလပတ်လုံး ငါဘုရား ပရိနိဗ္ဗာန်မစံလိုသေး ဟူ၍လည်း ဆိုဖူးပြောဖူးပါသည်။ ယခုမူကား ထိုသုံးပါးသော ပရိသတ်တို့ပင် လိုအပ်သောအကျိုး ပြည့်စုံကြပါပြီ။

ဘုန်းတော်ကြီးလှသော မြတ်စွာဘုရား၊ ထိုမှတစ်ပါးလည်း အချင်းမာရ်နတ်၊ ငါဘုရား၏ဆုံးမသြဝါဒ သာသနာသည် အကြင်မျှသော ကာလပတ်လုံး၊ လူ၊ နတ်၊ ဗြဟ္မာ သတ္တဝါတို့၌ များစွာမပြန့်နှံ့သေး၊ များစွာ မသိသေး၊ မပြည့်စုံ လေသေး။ ထိုမျှလောက်သောအခါ ပတ်လုံး ငါဘုရား ပရိနိဗ္ဗာန် မစံလိုသေးဟု ဆိုဖူး ပြောဖူး ပါသည်။ ယခုမှာ အရှင်ဘုရား၏ သာသနာသည် စကြဝဠာအပြည့်ပင် ပြန့်နှံ့၍ ရှိနေပါပြီ။ လူ၊ နတ်၊ ဗြဟ္မာတို့အားလုံး သိကုန်ကြပါပြီ။ ပြည့်စုံပါပြီ။

အို–ဘုန်းတော်သခင် မြတ်စွာဘုရား၊ ဤသို့ အရှင်ဆိုအပ်ဖူးသည့်အတိုင်း အကျွန်ုပ်ကြည့်ရှုလိုက်သောအခါတွင် အားလုံး ပြည့်စုံစွတကား။ အရှင်ဘုရားသည် ပရိနိဗ္ဗာန်ပြုချိန်တန်ပါပြီ။ ပရိနိဗ္ဗာန်ပြုတော်မူပါလော့။

ဤသို့ ရဲဝင့်စွာဝင်ရောက်၍ လျှောက်ထားတောင်းပန်ခြင်း ပြုလေသော် ဘုရားသခင်လည်း ပွင့်တော်မူကြကုန်ပြီးသော ဘုရားသခင်တို့၏ အာယုသင်္ခါရသည် အဘယ်မျှတည်ကုန်သနည်းဟု ရှုတော်မူ၏။ ထိုအခါ ရှေးနောင်တော်ဘုရားတို့ ပွင့်တော်မူသောကာလ လူတို့သက်တမ်းကို ငါးပုံပုံ၍ လေးပုံသာ တည်တော်မူသည်ကို မြင်တော်မူသဖြင့် ရှေးဘုရားတို့၏အစဉ်အလာကို ငါလည်း မလွန်ဆန်သာ နှလုံးပြုတော်မူလျက်–

မြေ။ ဟယ်–မာရ်နတ်ယုတ်၊ သင် အဘယ်ကို စိုးရိမ်သနည်း။ မကြောင့်ကြလင့်။ မကြာမြင့်မီပင် ငါပရိနိဗ္ဗာန်ပြုတော်မူအံ့။ ဤလမှ သုံးလ လွန်မြောက်သောအခါ ငါပရိနိဗ္ဗာန်ပြုတော်မူအံ့ဟူ၍ ဝန်ခံတော်မူလျှင် မာရ်နတ်လည်း မိမိအကြံ ငှအောင်ပြီဟူ၍ ဘုရားအထံမှ ပြန်သွားလေ၏။

ဘုရားကိုယ်တော်သခင်လည်း ထိုနေရာ၊ ထိုခဏ၌ပင် အာယုသင်္ခါရလွှတ်ခြင်းငှာ အာရုံရှိသော သမာပတ်ဝင်တော်မူ၏။ သမာပတ်၏ တန်ခိုးကြောင့် အိုးထိန်းစက်ပမာ မဟာပထဝီမြေကြီးသည် ကြီးစွာတုန်လှုပ်လေ၏။ ထိုအခါ မြတ်စွာဘုရားကား ဤသို့ ဥဒါန်းကျူးတော်မူသတည်း။

| | | |
|---|---|---|
| **မုနိ** | = | မောနေယျ ပဋိပတ်နှင့်ပြည့်စုံသော မြတ်စွာဘုရားသည်၊ |
| **သမ္ဘဝံ** | = | ဘဝသစ်ဖြစ်ရခြင်း၏ အကြောင်းလည်း ဖြစ်ထ သော၊ |
| **ဘဝသင်္ခါရံ** | = | ဘဝ တစ်ဖန်ပြုပြင်လာတတ်သော၊ |
| **တုလဉ္စ** | = | ကာမကုသိုလ်၊ ရူပကုသိုလ်ကံကိုလည်းကောင်း၊ |
| **အတုလဉ္စ** | = | အရူပကံကိုလည်းကောင်း၊ |
| **အစ္စုတ္တ္တိရတော** | = | မိမိသန္တာန်၌ အဖန်ဖန် မွေ့လျော်စေပြီး၍၊ |
| **သမာဟိတော** | = | တည်ကြည် ငြိမ်သက်သော စိတ်ရှိလျက်၊ |
| **အဝဿဇိ** | = | စွန့်ပစ် ထွေးအန်၊ ပယ်လှန် အောင်မြင်အပ်ပြီ၊ |
| **အတ္တသမ္ဘဝံ** | = | မိမိသန္တာန်၌ ဖြစ်သော မာရ်အပေါင်းကို၊ |
| **မဟာယောဓော** | = | စစ်သူရဲကြီးသည်၊ |
| **သင်္ဂါမေ** | = | စစ်မြေပြင်အရပ်၌၊ |
| **ကဝစံ** | = | လွှားကာကို၊ |

**အဘိနိဗ္ဗုတ** = ဖျက်ဆီးသကဲ့သို့၊
**အဘိနိဗ္ဗု** = အကြွင်းမဲ့ ဖျက်ဆီးအပ်ပြီ။

အရှင်အာနန္ဒာသည် ဘုရားသခင်အတွက် ရေကြည်တော် ဆက်သရန်ယူ၍ ပြန်လာစဉ် လျှော်ကြီးစွာလှုပ်လိုက်သောကြောင့် ရေကြည်တော်များ ဖိတ်ကုန်လေ၏။ ဤသို့ ဖိတ်ကုန်ခြင်းမှာ မကောင်းနိမိတ်ဟူ၍ စိတ်ထဲ၌ မဥပဒ်မိ။ ဘာကြောင့်များ ကြီးကြီးကျယ်ကျယ် လျှော်လှုပ်ပါလိမ့်မလဲ။ ဤမျှလောက်ကိုသာ အတွေးရောက်တော်မူသည်။ မာရ်နတ်က ဝင်ရောက်၍ မွှေနှောက်သွားသည်ကိုလည်း သူ မရိပ်မိ။ မာရ်နတ်လာလိမ့်မည်ဟူ၍ သူ့စိတ်၌ မဥပဒ်မိ။

သို့ကြောင့်ပင် အရှင်အာနန္ဒာသည် ဘုရားသခင်ထံသို့ ပြန်ရောက်သွားလေသောအခါ သူ တွေးတောလာခဲ့သော 'လျှော်'အကြောင်းကိုသာ မြတ်စွာဘုရားအား လျှောက်ထားမေးမြန်းခြင်း ပြုရှာ၏။

မေး။ ဘုန်းတော်ကြီးလှသော မြတ်စွာဘုရား၊ မကြုံစဖူး ထူးကဲစွာ ယခု မြေလျှော်ကြီး လှုပ်လိုက်ပါသည်။ အဘယ့်ကြောင့် လှုပ်ပါသနည်း ဘုရား။

ဖြေ။ ချစ်သား အာနန္ဒာ၊ မြေလျှော်လှုပ်ခြင်းအကြောင်းကား ရှစ်ပါးရှိပေသည်။ ယင်းရှစ်ပါးကား–

(၁) ယူဇနာပေါင်း ရှစ်သောင်းလေးထောင် အထုရှိသော မဟာပထဝီမြေကြီးကား ရေထု၏အထက်၌ တည်၏။ ထိုရေသည် လေထု၏ အထက်၌ တည်၏။ ထိုလေသည် ကောင်းကင်ပြင်၌ တည်၏။

ထိုသို့တည်ရာ၌ အောက် ဝါယောဓာတ်(လေ)သည် အလွန်မှုတ်လေက အထက်ရေ လှုပ်သည်။ ရေလှုပ်သဖြင့် မြေလှုပ်ခြင်း ဖြစ်ပေသည်။ ဤသို့လှုပ်ခြင်းလည်း အကြောင်းတစ်ပါး။

(၂) ဤလောက၌ ဘုန်းတန်ခိုးအာနုဘော်နှင့် ပြည့်စုံကုန်သော ဈာန်အဘိညာဉ်၌ လေ့လာကုန်သော ရဟန်း, ပုဏ္ဏားတို့သည်လည်း ရှိကုန်၏။ တန်ခိုးအာနုဘော်ကြီး၍ အလိုအတိုင်းပြီးကုန်သော နတ်တို့သည်လည်း ရှိကုန်၏။ ထိုရဟန်း, ပုဏ္ဏား, နတ်သားတို့သည် မိမိတို့၏ တန်ခိုးအာနုဘော်ဖြင့် လှုပ်စေကုန်၏။ ဤသည်လည်း အကြောင်းတစ်ပါး။

(၃) ဘုရားအလောင်းတော်တို့သည် နတ်ပြည်မှ စုတေလာ၍ မယ်တော်ဝမ်း၌ ပဋိသန္ဓေနေသောအခါ မဟာပထဝီမြေကြီးသည် ကောင်းချီးပေးသောအားဖြင့် လှုပ်၏။ ဤသည်လည်း အကြောင်းတစ်ပါး။

(၄) ဘုရားအလောင်းတို့ မယ်တော်ဝမ်းမှ ဖွားမြင်သော် သတ္တဝါတို့ကို သိစေသောအားဖြင့် လှုပ်၏။ ဤသည်လည်း အကြောင်းတစ်ပါး။

(၅) ဘုရားသခင်တို့ သဗ္ဗညုတဉာဏ်ကို ရလေသောအခါ သာဓုအနုမောဒနာ ခေါ်ဘိသကဲ့သို့ အံ့သြချီးမြှောက်ခြင်းငှာ လှုပ်၏။ ဤသည်လည်း အကြောင်းတစ်ပါး။

(၆) ထိုဘုရားတို့ တရားဓမ္မစကြာ ဟောသောအခါ၌ မင်္ဂလာ အထူးဖြစ်စိမ့်သောငှာ လှုပ်၏။ ဤသည်လည်း အကြောင်းတစ်ပါး။

(၇) ဘုရားသခင်တို့ နိဗ္ဗာန်စံဝင်အံ့သောငှာ အာယုသင်္ခါရ လွှတ်တော်မူသည်ကို ထိုထို လူ, နတ်တို့ ထုပ္ပတ် သိကြ၊ သံဝေဂကို ရစိမ့်သောငှာ လှုပ်၏။ ဤသည်လည်း အကြောင်းတစ်ပါး။

(၈) ဘုရား သဗ္ဗညုတို့သည် အနုပါဒိသေသနိဗ္ဗာန် စံတော်မူသောအခါ ထိတ်လန့်သောအခြင်းအရာအားဖြင့် လှုပ်၏။ ဤသည်လည်း အကြောင်းတစ်ပါး။ ဤရှစ်ပါးတို့ပေတည်း။

အို-ချစ်သား အာနန္ဒာ၊ ငါဘုရားသည် သဗ္ဗညုတဉာဏ်ကို ရဦးအစ၊ အဇပါလသတ္တာဟတို့တွင် အဇပါလ၌ နေတော်မူသောအခါကပင် မာရ်နတ်သည် ငါ့ထံကပ်၍ "အရှင်သည် နိဗ္ဗာန်ဝင်ပါ" ဟု လျှောက်ထားဖူး၏။ လက်မခံဘဲ ငါပယ်ခဲ့သည်။ မာရ်နတ်သည် ယခု ငါ့ထံလျှောက်လာပြန်သည်။ ဤတစ်ကြိမ်တွင်မူ "ယနေ့မှ နောက်သုံးလလွန်သောအခါ ပရိနိဗ္ဗာန် ငါပြုမည်" ဟု ဝန်ခံလိုက်ပြီ။ အာယုသင်္ခါရ လွှတ်လိုက်ပြီ။ ထို့ကြောင့် လျှောင်ကြီးစွာ တုန်လှုပ်ခြင်း ဖြစ်သတည်း။

အရှင်အာနန္ဒာသည် မမျှော်လင့်သော စကားကို ကြားလိုက်ရသောအခါ နှလုံးသည်းပွတ် ကျွတ်ကြွေပျက်ပြုန်းမတတ် ဤတွင်မှ ယူကျုံးမရဖြစ်လာ၍ ရုတ်ခြည်းပင် ရှိခိုးလျက် တိုးလျှိုးတောင်းပန်ရှာ၏။

မေး။ သမ္မာသမ္ဗုဒ္ဓ၊ အနုတ္တရမြတ်စွာ၊ စောသတ္တာဘုရား၊ မြတ်ဘုရားကိုယ်တော်သည် သတ္တဝါခပ်သိမ်းတို့အား အကျိုးစီးပွားများစိမ့်သောငှာ ကမ္ဘာများစွာ ပါရမီတော်ကို ဖြည့်ကျင့်တော်မူလာခဲ့ပါသည်။ သို့ပါလျက်ကို လျင်လျားစွာ ပရိနိဗ္ဗာန်ပြုရန် မသင့်ပါ ဘုရား၊ ပရိနိဗ္ဗာန်ပြုတော်မမူပါနှင့် ဘုရား။ အာယုကပ် ပတ်လုံး တည်တော်မူပါ ဘုရား။

ဖြေ။ ချစ်သား အာနန္ဒာ၊ သင်၏ တောင်းပန်ခြင်းကား ကောင်းသော်လည်း နှောင်းလေစွ၊ အခွင့်မဟုတ်တော့ပြီ။

ဗုဒ္ဓမြတ်စွာက ပယ်တော်မူလေ၏။ အရှင်အာနန္ဒာကမူ မလျှော့သေး။ ထပ်ဆင့်၍ တောင်းပန်လိုက်ပြန်သည်။ ပယ်ချပြန်၏။ တစ်ဖန် ထပ်၍

လျှောက်၏။ မရချေ။ အရှင်အာနန္ဒာ၏ တောင်းပန်ချက်ကို သုံးကြိမ်တိုင်တိုင် ပယ်တော်မူပြီးလျှင်–

မေး။ ချစ်သား အာနန္ဒာ၊ မဂ်ဉာဏ်လေးပါးတရားကို ငါဟောခဲ့ပြီ။ ထိုတရားကို နိဗ္ဗာန်ရောက်ကြောင်း တရားဟူ၍ သင် စွဲမြဲယုံကြည်၏လော။

ဖြေ။ ယုံကြည်ပါသည် ဘုရား။ အကျွန်ုပ်လည်း စိုးစဉ်းမျှ မြင်ပါသည် ဘုရား။

မေး။ ချစ်သား အာနန္ဒာ၊ သာဓု၊ ကောင်းလေစွ။ အကြင်သူသည် ဣဒ္ဓိပါဒ် လေးပါး၊ ဇော်ချင် ၇ ပါးကို ပွားစေ၍ အာယုကပ်ပတ်လုံးသော် လည်းကောင်း၊ ထိုထက် အလွန်သော်လည်းကောင်း တည်လိုသော် တည်ရာ၏။ ထိုနည်းလည်းကောင်း ငါသည်လည်း တည်နိုင်ပေသည်ဟူ၍ ငါမိန့်သောစကားကို သင်ယုံကြည်၏လော။

ဖြေ။ လိုက်လှဲစွာ ယုံကြည်ကြောင်းပါ ဘုရား။

မေး။ ချစ်သား အာနန္ဒာ၊ ယင်းသို့ ယုံကြည်ပါလျက်နှင့် ထိုအကြောင်း ကို အရိပ်အမြွက်စကား ငါ မိန့်ကြားတော်မူခဲ့သောအခါတုန်းက သင်– ငါ့ကို တောင်းပန်ခြင်းမပြုခဲ့။ ယင်းသို့ မတောင်းပန်ခြင်းကား သင်၏ ချို့ယွင်းချက်၊ သင်၏ တာဝန်သာ ဖြစ်သတည်း။ အကယ်၍သာ ငါသည် ထိုစဉ်အခါက သင် တောင်းပန်သမှုပြုခဲ့ပချေသော် ငါသည် သင့်စကားကို နှစ်ကြိမ်အထိပယ်သော်၊ ပယ်မိရာ၏။ သုံးကြိမ်မြောက် လျှောက်ဘိမူကား မပယ်လေရာ။ လိုက်နာ၍ သင့်ဆန္ဒအတိုင်း အာယုကပ်ပတ်လုံး ငါ တည်နေသည် ဖြစ်ရာ၏။

အို–ချစ်သား အာနန္ဒာ၊ ယခုမှ နောင်တ တစ်ဖန်ပူပန်ခြင်း ဖြစ်မနေလင့် တော့။ ဟို–ဂိဇ္ဈကုဋ်တောင်ယံ၌ စံနေတုန်းကလည်း တစ်ကြိမ် ငါ သင့်ကို အရိပ် အမြွက် ပြောခဲ့ဖူးပေ၏။ သင်စဉ်းစားလျှင် ယခု ကြားရဘိသကဲ့သို့ ရှိချိမ့်မည်။ ချစ်သား အာနန္ဒာ၊ ရာဇဂြိုဟ်ပြည်သည် နှစ်လိုဖွယ်ကောင်းလှ၏။ ဤဂိဇ္ဈကုဋ် တောင်သည်လည်း သူတော်ကောင်းတို့ ထာဝစဉ်ကိန်းအောင်းခြင်းငှာ လျော်ကန် လျောက်ပတ်လှ၏။ ဤရာဇဂြိုဟ် ပြည်သူပြည်သားတို့လည်း မိစ္ဆာဒိဋ္ဌိတွေ များ သေး၏ စသောအားဖြင့် အမြွက်စကား သင့်ကို ငါပြောခဲ့ဖူးသည် မဟုတ်ပါလော။

ဖြေ။ မှန်လှပါ ဘုရား။

မေး။ ချစ်သား၊ ထိုစဉ်အခါတုန်းကတည်းက ငါ့အား သင် တောင်းပန် ခဲ့မူကား တစ်ကြိမ် နှစ်ကြိမ်သာ ငါ ပယ်မိရာ၏။ သုံးကြိမ်မြောက် လျှောက်ခဲ့ သော် ငါ ပယ်နိုင်တော့မည် မဟုတ်။ သင့်ဆန္ဒအတိုင်းသာ ဖြစ်ရလတ္တံ့။ ထိုစဉ် အခါက သင် မတောင်းပန်ခြင်းသည် သင်၏ ချို့ယွင်းမှုသာတည်း။

စပယ်ဦးစာပေ

အို–ချစ်သား အာနန္ဒာ၊ သင်လည်း စဉ်းစားပါဘိ။ အသက်ဟူသော အကြောင်းကြောင့် (ဝါ) သက်ဆိုးရှည်ကြာစွာ နေလိုမှုကို အကြောင်းပြု၍ ဦးတည်လျက် မာရ်နတ်အား ပြောခဲ့ပြီးသော ငါ့စကားကို တစ်ဖန်ပြန်၍ ပယ်ခြင်း၊ ပြင်ခြင်းကား လားလားမျှ မသင့်။ အခွင့်မဟုတ်လေပြီ။

(ထိုအခါ အရှင်အာနန္ဒာ၌ ပြင်းစွာသော သံဝေဂသည် ဖြစ်လာ၏။)

အို–ချစ်သား အာနန္ဒာ၊ ငါတို့ မဟာဝန ကူဋာဂါရသို့ သွားကြကုန်အံ့ဟု ခေါ်၍ မြတ်ဘုရားက ရှေ့ကကြွ၍ အရှင်အာနန္ဒာက နောက်တော်မှ ညွှတ်ငယ်စွာ လိုက်သွား၏။ ရောက်လျှင် သံဃာ့အစည်းအဝေးကို အလျင်အမြန်ခေါ်စေပြီးနောက် ယင်း သံဃာ့အစည်းအဝေး၌ ရဟန်းတို့အား ဩဝါဒမိန့်ခွန်းစကား မြွက်ကြားတော်မူလေသည်ကား–

"အို–ချစ်သားတို့၊ သင်တို့၏ အကျိုးစီးပွားအလို့ငှာ သုတ်၊ အဘိဓမ္မာ၊ ဝိနည်းဟု ဆိုအပ်သော တရားမြတ်တို့ကို ငါ ဟောအပ်ကုန်ပြီ။ ထိုတရားတို့ကို သင်တို့ မြဲမြဲစွာ သင်ကြားကြကုန်။ အဖန်တလဲလဲပွားများ အားထုတ်ကြလေကုန်။ ဤသို့လေ့လာသင်ကြား ပွားများအားထုတ်မှုပြုကြသည်ရှိသော် သာသနာသည် အခွန့်ရှည်ကြာထွန်းပလျက် သိသာနသိသာ အဆက်မပြတ် လူ, နတ်တို့အဖို့ အကျိုးစီးပွား ထွန်းကားခြင်းငှာ ဖြစ်ရပေ၏။

အို–ချစ်သားတို့၊ အခွန့်ရှည်ကြာစွာ သာသနာတည်ထွန်းခြင်း၏ အကြောင်းကား သတိပဋ္ဌာန် လေးပါး၊ သမ္မပ္ပဓာန် လေးပါး၊ ဣဒ္ဓိပါဒ် လေးပါး၊ ဣန္ဒြေ ငါးပါး၊ ဗိုလ် ငါးပါး၊ ဗောဇ္ဈင် ခုနစ်ပါး၊ မဂ္ဂင် ရှစ်ပါး၊ ဤတရားအစုပင်တည်း။ ၎င်းတရားအစုတို့ကိုလည်း အထူးထူးသော ပရိယာယ်စကားတို့ဖြင့် သင်တို့အား ငါ ဟောကြားအပ်ပြီးပင် ဖြစ်ကုန်၏။ ငါ ဟောကြားအပ်ခဲ့သမျှသော တရားတို့ကို နှလုံးသွင်းကာ သင်္ခါရတရားတို့၏ ဖြစ်ပျက်မှုကို ထင်မြင်အောင် ရှုရစ်ကြကုန်လော့။ ငါ တစ်မူကား ဤလမှ နောက် သုံးလလွန်မြောက်လျှင် ပရိနိဗ္ဗာန်ပြုတော့အံ့။"

(သုတ်မဟာဝါ ပါဠိတော်၊ မဟာပရိနိဗ္ဗာနသုတ်မှ)

# သက္ကာယဒိဋ္ဌိ

**ပြဿနာ = ငါ–ငါဟူသော အတ္တစွဲများ။**

**မေးလျှောက်သူ = အညတရ ဘိက္ခု။**

သာသနာတွင်း၌ ဝိသာခါသည် အလှူ်နာမည်ကြီးသော ကျောင်းအစ်မကြီး ဖြစ်လေသည်။ ဝိသာခါကိုယ်တိုင် မိမိပိုင် ပန်းဥယျာဉ်ခြံမြေကို သုတ်သင်ရှင်းလင်းပြီး ကျောင်းတော်ကြီးကို ဆောက်လုပ်လှူဒါန်းခဲ့သည်ကို အကြောင်းပြု၍ 'ပုဗ္ဗာရုံ' ဟူ၍ အမည်တွင်သော ကျောင်းတော်ကြီးသည်လည်း ဗုဒ္ဓလက်ထက်တော်၌ ဝိသာခါကဲ့သို့ပင် အထူးထင်ပေါ်ကျော်စောခဲ့သော ကျောင်းတော်ဝိဟာ ဖြစ်လေသည်။

မြတ်စွာဘုရားသည် အခါတစ်ပါးတွင် ထိုပုဗ္ဗာရုံကျောင်းတော်၌ သီတင်းသုံးနေထိုင်တော်မူ၏။ ထိုအခါ အမျိုးအမည်အားဖြင့် ထင်ရှားခြင်းမရှိလှသော အညတရ ရဟန်းတစ်ပါးသည် ဘုရားသခင်၏အထံတော်သို့ ချဉ်းကပ်လာပြီးလျှင် မိမိစိတ်၌ မရှင်းမရှင်းဖြစ်နေသော သက္ကာယဒိဋ္ဌိ ပြဿနာကို မေးလျှောက်ခြင်း ပြုလေ၏။

မေး။ ဘုန်းတော်ကြီးလှသော မြတ်စွာဘုရား၊ ဤလောက၌ ငါ့ကိုယ်၊ ငါ့ဟာ၊ ငါ့ဥစ္စာ ဟူ၍လည်းကောင်း၊ သူ့ကိုယ်၊ သူ့ဟာ၊ သူ့ဥစ္စာဟူ၍လည်းကောင်း၊ ဤသို့ အစရှိသောအားဖြင့် ငါ–ငါ ဟူသော သက္ကာယဒိဋ္ဌိ အစွဲအလမ်းများသည် ဖြစ်ရှိနေပါ၏။ ထိုသက္ကာယဒိဋ္ဌိကား အဘယ်ကဲ့သို့သော စွဲယူခြင်းကြောင့် ဖြစ်ရပါသနည်းဟု မေးလျှောက်လေ၏။

ဖြေ။ နာလော့ ချစ်တပည့်၊ ဤလောက၌ တရားမွေကို ကြားဖူးနားဝ မရှိ၊ အကြားအမြင် ဗဟုသုတခေါင်းပါးလှသော အကြင်ပုထုဇဉ် သတ္တဝါသည်–

(၁) **အရိယာနံ အဒဿာဝီ** = ဘုရားအစရှိသော အရိယာပုဂ္ဂိုလ်တို့ကို ပညာစက္ခုဖြင့် မရှု၊ မမြင်။

(၂) **အရိယဓမ္မ အကောဝိဒေါ** = အရိယာအဖြစ်သို့ ရောက်စေတတ်သော အရိယာဖြစ်ကြောင်း တရား၌ လိမ္မာကျွမ်းကျင်ခြင်း မရှိ။

(၃) **အရိယဓမ္မေ အဝိနီတော** = အရိယာဖြစ်ကြောင်း တရား၌ ငါးပါးသော သံဝရဝိနည်း၊ ငါးပါးသော ပဟာနဝိနည်းတို့ဖြင့် ပယ်အပ်သည်ကိုလည်း မပယ်နိုင်၊ စွန့်ထိုက်သည်ကိုလည်း မစွန့်နိုင်၊ ဖျောက်သင့်သည်ကိုလည်း မဖျောက်နိုင်လေ။

(၄) **သပ္ပုရိသာနံ အဒဿာဝီ** = သူတော်ကောင်းတို့ကို ဉာဏ်စက္ခုဖြင့် မြင်အောင် မရှု၊ မမြင်။

(၅) **သပ္ပုရိသဓမ္မဿ အကောဝိဒေါ** = သူတော်ကောင်းအဖြစ်သို့ ရောက် စေတတ်သော ယထာဘူတဉာဏ် အစရှိသည့် တရားဓမ္မ၌ လိမ္မာမှု မရှိ။

(၆) **သပ္ပုရိသဓမ္မေ အဝိနီတော** = သူတော်ကောင်းဖြစ်ကြောင်း တရား ဓမ္မ၌ ပယ်အပ် ပယ်သင့်၊ ပယ်ထိုက်၊ စွန့်အပ်၊ စွန့်သင့်၊ စွန့်ထိုက်သည်တို့ကို မပယ်နိုင်၊ မစွန့်နိုင်၊ မပျောက်နိုင်လေ။

ထိုပုထုဇဉ်ဖြစ်သော သတ္တဝါသည်–

(၁) ရုပ်တရားအစုကို "ငါ–ငါ"ဟူ၍ အတ္တအားဖြင့် စွဲလမ်းစွာ ရှု၏။ (၂) ရုပ်ရှိသည်လည်းဖြစ်သော ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဉ်ဟု ဆိုအပ်သော နာမ်ခန္ဓာ လေးပါးတည်းဟူသော မိမိကိုယ်ကို "ငါ–ငါ"ဟူ၍ အတ္တအားဖြင့် စွဲလမ်းစွာ ရှု၏။ (၃) နာမ်ခန္ဓာလေးပါးတည်းဟူသော မိမိကိုယ်၌လည်း ရုပ်ဝတ္ထု အစု "ငါ–ငါ"ဟူ၍ အတ္တစွဲအားဖြင့် ရှု၏။ (၄) ရုပ်ဝတ္ထု၌လည်း နာမ်ခန္ဓာ လေးပါးကို "ငါ–ငါ"ဟူ၍ အတ္တစွဲအားဖြင့် ရှု၏။

(၁) ဝေဒနာက္ခန္ဓာကို "ငါ–ငါ"ဟူ၍ အတ္တစွဲဖြင့် ရှု၏။ (၂) ဝေဒနာ ခံစားမှု ရှိသည်လည်းဖြစ်သော ရုပ်၊ သညာ၊ သင်္ခါရ၊ ဝိညာဉ်ဟု ဆိုအပ်သော နာမ်ခန္ဓာ လေးပါးတည်းဟူသော ကိုယ်ကို "ငါ–ငါ"ဟူ၍ အတ္တစွဲ အားဖြင့် ရှု၏။ (၃) နာမ်ခန္ဓာ လေးပါးတည်းဟူသော ကိုယ်၌လည်း ဝေဒနာကို "ငါ–ငါ"ဟူ၍ အတ္တစွဲ အားဖြင့် ရှု၏။ (၄) ဝေဒနာ၌လည်း နာမ်ခန္ဓာ လေးပါးတည်းဟူသော ကိုယ်ကို "ငါ–ငါ"ဟူ၍ အတ္တစွဲ အားဖြင့် ရှု၏။

(၁) သညာစေတသိက် = သညာက္ခန္ဓာကို "ငါ–ငါ" ဟူ၍ အတ္တစွဲ အားဖြင့် ရှု၏။ (၂) သညာရှိသည်လည်းဖြစ်သော ရုပ်၊ ဝေဒနာ၊ သင်္ခါရ၊ ဝိညာဉ် ဟု ဆိုအင်သော နာမ်ခန္ဓာလေးပါးတည်းဟူသော ကိုယ်ကို "ငါ–ငါ" ဟူ၍

အတ္တစွဲအားဖြင့် ရှု၏။ (၃) နာမ်ခန္ဓာလေးပါးတည်းဟူသော ကိုယ်၌လည်း သညာကို "ငါ-ငါ" ဟူ၍ အတ္တစွဲအားဖြင့် ရှု၏။ (၄) သညာ၌လည်း နာမ်ခန္ဓာလေးပါးကို "ငါ-ငါ" ဟူ၍ အတ္တစွဲအားဖြင့် ရှု၏။

(၁) ဝေဒနာ၊ သညာမှ တစ်ပါးကုန်သော စေတသိက် ငါးဆယ်ဟူကုန်သော သင်္ခါရတရားတို့ကို "ငါ-ငါ" ဟူ၍ အတ္တစွဲအားဖြင့် ရှု၏။ (၂) သင်္ခါရ ရှိသည်လည်းဖြစ်သော ရုပ်၊ ဝေဒနာ၊ သညာ၊ ဝိညာဉ်ဟုဆိုအပ်သော (ခန္ဓာလေးပါးတည်းဟူသော) ကိုယ်ကို "ငါ-ငါ" ဟူ၍ အတ္တစွဲအားဖြင့် ရှု၏။ (၃) နာမ်ခန္ဓာလေးပါးတည်းဟူသော အတ္တ၌လည်း သင်္ခါရတို့ကို "ငါ-ငါ" ဟူ၍ အတ္တစွဲအားဖြင့် ရှု၏။ (၄) သင်္ခါရ၌လည်း နာမ်ခန္ဓာလေးပါးတည်းဟူသော ရုပ်၊ ဝေဒနာ၊ သညာ၊ ဝိညာဉ်တို့ကို "ငါ-ငါ" ဟူ၍ အတ္တစွဲအားဖြင့် ရှု၏။

(၁) စိတ်တစ်ခု ရုပ်ကိုးဆယ်ဟုဆိုအပ်သော ဝိညာဉ်=ဝိညာဏက္ခန္ဓာကို "ငါ-ငါ"ဟူ၍ အတ္တစွဲအားဖြင့် ရှု၏။ (၂) ဝိညာဉ်ရှိသည်လည်း ဖြစ်သော နာမ် ခန္ဓာ လေးပါး၊ ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရတည်းဟူသော အတ္တကို "ငါ-ငါ" ဟူ၍ အတ္တစွဲအားဖြင့် ရှု၏။ (၃) နာမ်ခန္ဓာ လေးပါးတည်းဟူသော ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၌လည်း ဝိညာဉ်ကို "ငါ-ငါ"ဟူ၍ အတ္တစွဲအားဖြင့် ရှု၏။ (၄) ဝိညာဉ်၌လည်း နာမ်ခန္ဓာ လေးပါးတည်းဟူသော ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရကို "ငါ-ငါ"ဟူ၍ အတ္တစွဲအားဖြင့် ရှု၏။

အို-ချစ်တပည့်၊ စင်စစ်သော်ကား ဤသို့ စိတ်၊ စေတသိက်၊ ရုပ်ဟူသော ပရမတ္ထတရား ခန္ဓာငါးပါးတို့ကို "ငါ-ငါ၏ကိုယ်"ဟူ၍ စွဲမှတ်ထင်သော အခြင်းအရာသည် သက္ကာယဒိဋ္ဌိမည်သတည်း။ စိတ်၊ စေတသိက်၊ ရုပ်ဟူသော ပရမတ္ထ တရားသုံးပါးကို ပုဂ္ဂိုလ်၊ သတ္တဝါ၊ ငါ၊ သူတစ်ပါးဟူ၍ စွဲလမ်းခြင်းကို သက္ကာယ ဒိဋ္ဌိဟု ဆိုခြင်းဖြစ်သည်။

# လယ်သမား ဘုရား

ပြဿနာ = တောင်း၍ စားသောက်မှု။

မေးလျှောက်သူ = ဘာရဒွါဇ ပုဏ္ဏား။

ရဟန်းသံဃာတော်များအား အရေးမစိုက်သူ၊ မထေမဲ့မြင်ပြုသူ၊ ဆန်ကုန်မြေလေး ပိတ်ဖြုန်းသူ၊ အလုပ်မလုပ်ဘဲ သူများ၏ လုပ်စာကို အမြိန့်သား ထိုင်စားနေသူဟူ၍ အထင်ရှိနေသူများသည် ယခုခေတ်၌သာ ရှိသည်မဟုတ်။ ဘုရားလက်ထက်တော်ကပင် အထင်အရှားရှိခဲ့သည်။

အလုပ်လုပ်ရမှာ ပျင်းသောကြောင့်၊ သို့မဟုတ် ပင်ပင်ပန်းပန်းလုပ်ကိုင်ရမှာ ကြောက်သောကြောင့် ဘာအလုပ်မှ မလုပ်သူ၊ လူညွန့်ခူးစားသူဟု ရဟန်းသံဃာတော်တို့ကို စွပ်စွဲရဲသူများ ရှေးကတည်းက ပေါ်ခဲ့သည်။

ထိုသို့ သံဃာ့ဂုဏ်ကို ပုတ်ခတ်စွပ်စွဲသူကား လယ်သမားတစ်ယောက်ဖြစ်၏။ လယ်သမားဆိုသော်လည်း လယ်ပေါင်းများစွာ ပိုင်သော လယ်ပိုင်ရှင်ဖြစ်လေသည်။ လယ်ကို ကိုယ်တိုင်လည်း လုပ်သည်။ စာရင်းငှားလည်း ချသည်။ ထိုသူ၏အမည်ကား ဘာရဒွါဇ တွင်သတည်း။

ဘာရဒွါဇသည် ပုဏ္ဏားလူမျိုးဖြစ်၏။ ရာဇဂြိုဟ်မြို့တော်၏ တောင်ဘက် သုံးဂါဝုတ် (ကိုးမိုင်သာသာ)ဝေးသော 'နာဠ' ရွာသားတည်း။ မြို့၏တောင်မျက်နှာ၌ တည်ရှိသည်ကို အကြောင်းပြု၍ ဒက္ခိဏာဂိရိဟူ၍ အမည်တွင်သော ကျောင်းကြီး တစ်ကျောင်း ထိုရွာ၌ ရှိ၏။

အဆိုပါ နာဠရွာ၌ နေထိုင်ကြသူ ဗုဒ္ဓဘာသာ ပုဏ္ဏားများ၏ ပင့်လျှောက် တောင်းပန်ချက်အရ မြတ်စွာဘုရားသည် ထိုနာဠရွာ ဒက္ခိဏာဂိရိကျောင်းသို့ ကြွလာတော်မူသောနှစ်က ဖြစ်၏။

လယ်သမားကြီး ဘာရဒွါဇ ပုဏ္ဏားသည် မိမိပိုင် လယ်ကွင်း၌ ထွန်တုံး ပေါင်း ငါးရာ၊ နွားကောင်ရေပေါင်း သုံးထောင်တို့ဖြင့် အကြီးအကျယ် လယ်ထွန် မင်္ဂလာပွဲကြီး ပြုလုပ်ကျင်းပနေ၏။

ထိုပွဲကား အဘယ်မျှ ကြီးကျယ်သနည်းဆိုသော် လယ်ထွန်ယောကျ်ား ထွန်တုံးပေါ်က လူများကို မဆိုထားဘိ၊ နွားသုံးထောင်တို့၏ ကိုယ်၌ အဆန်းတကြယ် ခြယ်လှယ်ဆင်သထား၏။ အချို့နွားများ၏ ကိုယ်တွင် ဝတ်လုံအညိုကြီးကို ခြုံလွှမ်း သည်။ အချို့ကို အနီ၊ အချို့ကို အပြာရောင်၊ အချို့ကို အစိမ်းရောင် ကတ္တီပါ ဖဲပြောင်ဝတ်လုံကြီးများ ခြုံပေးထားသည်။ နွားချိုတို့၌ ရွှေကတော့ စွပ်သည်။ ရွှေကြယ်၊ ငွေကြယ်စီသော ကတ္တီပါကြီးများဖြင့် ပါးသိုင်း၊ နားသိုင်းထည့်သည်။ နွားတို့၏ ခွာလေးဘက်၌ ငွေပြားခတ်၍ ဝတ်ပေးထားသည်။ နွားတိုင်း နွားတိုင်း၌ အရောင်ငါးပါး၊ ပန်းငါးမျိုးပါသော ပန်းကုံးကြီးများစွပ်ပြီး ခြူကုံး ကြီးများကိုလည်း နွားကိုယ်စီဆွဲ ပေးထားသည်။

အိုးစည်ဝိုင်း၊ ဒိုးပတ်ဝိုင်း၊ အတီးအမှုတ် အကအခုန်မျိုးစုံလည်း ပါသော ကြောင့် လယ်ကွင်းယံတစ်ခို ပွဲခြိမ့်ခြိမ့်နှင့် အလွန်စိုပြည်နေ၏။

လယ်ထွန်မင်္ဂလာ အဖွင့်အစီအစဉ်ကား ဤသို့တည်း။ နွား ရှစ်ကောင် က,သော ထွန်ကြီးကို ဆယ်ရှဉ်းတစ်သုတ် ရှေ့ကထွက်စေသည်။ သည့်နောက်မှ နွားလေးကောင်၊ နွားနှစ်ကောင် က,သော ထွန်ငယ်များကို ခြံရံ၍လိုက်စေသည်။

လယ်ပိုင်ရှင် ဘာရဒွါဇ ပုဏ္ဏား၏ ဆင်ယင်ထုံးဖွဲ့မှုကလည်း ဝင့်ကြွားလှ ပါဘိသည်။ တီးသံ မှုတ်သံများ အကြားတွင် ဘာရဒွါဇပုဏ္ဏားကား အသပြာ ငါးရာတန်ပုဆိုးကို ဝတ်ပြီးလျှင် တစ်ထောင်တန် စုလျားတဘက်ကို စလွယ်သိုင်း ထားသည်။ နား၌ ကျောက်နီပတ္တမြား နားကပ်ပန်၍ ဦးခေါင်း၌ မကိုဋ်ဆောင်းထား သည်။ ကျောက်စီလက်ကြပ်၊ လက်စွပ်ဒွါဒရာ၊ ရတနာခါးကြိုးဖြင့် ပြိုးပြိုးပြက်ပြက် ဆင်မြန်းကာ လက်ဝဲလက်ယာ ပုဏ္ဏားလုလင်ပျိုများ ခြံရံလျက် လယ်ကန်သင်း ထက်မှ ရှုစားနေ၏။

ချစ်မငြီးသော သူ၏ဇနီး ပုဏ္ဏေးမကား လက်အောက်ငယ်သား အခြွေအရံ များနှင့် ပရိသတ်ကို ကျွေးမွေးညှော်ခံလျက် ရှိနေသည်။ နို့ထမင်း၊ ပျားတင်လဲ၊ ထောပတ်၊ ကြိုက်တတ်သောအစာကို စားသုံးတော်မူပါဟု ချိုသာသော နှုတ်ခွန်းဖြင့် ရွှန်းရွှန်းဝေလျက် ရှိနေသည်။

ထိုအချိန်၌ မြတ်စွာဘုရားသည် ဘာရဒွါဇပုဏ္ဏား၏ အသိဉာဏ်ရင့်ကျက်ခွင့် ကို မြင်တော်မူသဖြင့် နောက်ပါရဟန်း တစ်ပါးမျှ မခေါ်ဘဲ ကိုယ်တော်တစ်ပါး

တည်း သပိတ်ပိုက်ကာ ထိုလယ်ထွန်မင်္ဂလာပွဲရာသို့ ကြွတော်မူပြီး ဘာရဒွါဇ အနီး၌ ရပ်တော်မူလေ၏။

ထိုအခါ လယ်ထွန်မင်္ဂလာ၌ အာရုံစွဲနေသော ဘာရဒွါဇ ပုဏ္ဏားသည် ဗုဒ္ဓ ရပ်လာသည်ကိုမြင်သော် မျက်နှာပျက်သွားလေ၏။ အလိုက်ကန်းဆိုး မသိတတ်သူ၊ အလုပ်ကို လာရောက်နှောင့်ယှက်သူ "ကမ္ဘ္ကရာယ်" ဟု ယူဆကာ ဗုဒ္ဓ၏လာခြင်းကို မကျေနပ်ရုံမက စိတ်ထဲက ရှုတ်ချမိလေသည်မှာ–

"ဤသူမြတ်သည် လူ့ရုပ်၊ လူ့ရွာ၌နေ၍ လယ်လုပ်ကုန်သွယ် ရောင်းဝယ် ခြင်းစသည်ဖြင့် ငါကဲ့သို့ လုပ်ကိုင်ဘီမူကား ဤဇမ္ဗူဒိပ်ကျွန်းအပြင်ဝယ် ဘယ်သူမျှ မယှဉ်နိုင်သော လူတို့ ဦးသျှောင် အခေါင်အဖျားဖြစ်နိုင်၏။ သို့ပါလျက် ဤသူကား လူပျက်၊ လူပျင်း၊ မစွမ်းမသန်သူတို့၏ ဓလေ့ဖြင့် ရသေ့ရဟန်းပြုလေ၍ ဘုန်း ကျက်သရေ ခြွေမှုစည်းစိမ်ကင်းလျက် စားရန် ထမင်းကိုမျှ တောင်းလာရသည် တကား။ လူ့ဖြစ်ရှုံးလေစွ" ဤသို့အမြင်တိုသော အမြင်ဖြင့် ဘုရားကို မြင်လေသည်။ အလုပ်လုပ်ရမှာကို ပျင်း၍ တောင်းစားနေသည်ဟု ထင်လေသည့်အလျောက် ခပ်စွာစွာပင် ဘာရဒွါဇက ဗုဒ္ဓကို ပုတ်ခတ်၍ ခပ်နှိမ်နှိမ်ဆိုလေ၏။

မေး။ ပျိုထွားသက်ရွယ်နှင့် ရှုချင်ဖွယ်ကောင်းလှသော အို–ရဟန်း၊ အကျွန်ုပ်ကား အရှင်ကဲ့သို့ နှစ်မြို့စလောက် လှခေါင်ရောက်သော၊ ခြောက်သွယ် ရောင်ဝါ၊ လက္ခဏာကြီးငယ်၊ အံ့ချီးဖွယ်တို့နှင့် တင့်တယ်ပြည့်စုံသည်ကား မဟုတ် ပါလေကုန်။ သို့သော် ကျွန်ုပ်တို့ကား လူယောကျ်ား ပီသကြကုန်၏။ လူတို့ကမ္ဘာ စာရိတ္တ၌ လုံ့လကြီးကုတ်အားထုတ်လုပ်ကိုင်မှု ရှိကြသဖြင့် စည်းစိမ်ဘဝဖြင့် လှလှပပနေထိုင်နိုင်ကြပါတုံသေး၏။ အရှင်ကဲ့သို့သောသူသည် အကျွန်ုပ်တို့ကဲ့သို့ ယောကျ်ားပီသစွာ အားထုတ်လုပ်ကိုင်ဘီမူကား အဘယ်မှာလျှင် မကြီးပွားဘဲ ရှိပါမည်နည်း။ လူဆိုစလောက် လျှမ်းလျှမ်းတောက် ကြီးပွားနိုင်သူပါပေ။

အို–ရဟန်း၊ ယင်းသို့ မပေါ့မပျင်း၊ လူချင်းတူအောင်၊ ကြံဆောင်ကြိုးကုတ်၊ စွမ်းအားထုတ် လုပ်ကိုင်ကောင်းပါလျက် အရှင်ကား သူတောင်းစားတို့၏အလေ့ တောင်းရမ်းစားသောက်ခြင်း၌ အဘယ့်ကြောင့် ပျော်မွေ့နေပါသနည်း။ သနားစဖွယ် ကောင်းလေစွ။ ယောကျ်ားရင့်မကြီး ဖြစ်လျက်နှင့် ခွက်လက်စွဲ၍ တောင်းစားနေ သည်မှာ ရှက်ဖွယ်ကောင်းလေစွ။

ဖြေ။ အို–ဘာရဒွါဇ၊ လယ်ထွန်းခြင်းကိစ္စကို သင်သာလျှင် ပြုရသည် မဟုတ်ပါတကား။ ငါလည်း ပြုလျက်ပင် ရှိပေ၏။ ဝိမုတ္တိဖလ=ဝဋ်မှ လွတ်မြောက် ခြင်းကို ရခြင်း၏အကြောင်းဖြစ်သော ကောင်းသော လယ်ကွက်ကို ငါသည်လည်း လုပ်ကိုင်နေလျက်ပါ ပုဏ္ဏား။

မေး။ အို-ရဟန်းဂေါတမ၊ ငါသည်လည်း လယ်လုပ်လျက်ပင်ဟု အသင် ဆိုကား ဆိုပေ၏။ သို့သော် အသင့်လယ်ကိုလည်း ကျွန်ုပ်မမြင်ရ၊ မတွေ့ရ။ လယ်သမားတို့၏ ပစ္စည်း ကိရိယာတန်ဆာပလာဖြစ်သော ထွန်တံ၊ ထွန်သွား၊ ကျွဲ၊ နွား၊ လူသူ၊ ကူပံ့သမှု ပြုကြသည်ကိုလည်း မမြင်ပါတကား။ ဆို့ပါလျက်နှင့် ဘယ်အတွက် အသင် မုသားဆိုဘိသနည်း။

ဖြေ။ အို-ဘာရဒွါဇ၊ ငါသည် ပါတိမောက္ခသံဝရ[1]တည်းဟူသော လယ်၊ ဣန္ဒြိယသံဝရ[2]တည်းဟူသော လယ်၊ အာဇီဝပါရိသုဒ္ဓိ[3]တည်းဟူသော လယ်၊ ပစ္စယသန္နိဿိတသီလ[4]တည်းဟူသော လယ်ပြင်ကို တီထွင်ထွန်ယက်၍ ထက်သန်သော သဒ္ဓါမျိုးစေ့ကို စိုက်ပျိုးကြဲချသဖြင့် သမထ ဝိပဿနာဟူသော ရသကို ငါ နေ့-ည ပွားလျက် နေ၏။ အရိယာမဂ်ဖိုလ်တည်းဟူသော အသီးကို ဖြိုးစီးရင့်မာစေသတည်း။

အို-ဘာရဒွါဇ၊ သမ္မာသတိ၊ သမ္မာသမာဓိသည် ထွန်တုံး၊ ထွန်သွားနှင့် အလားတူ၏။ သမ္မာသင်္ကပ္ပ၊ သမ္မာဝါယမသည် နွားများနှင့် အလားတူပေ၏။ သမ္မာဒိဋ္ဌိ စသည်တို့သည် နှင်တံနှင့် တူကုန်၏။

အို-ဘာရဒွါဇ၊ ငါသည် သမ္မာသတိ၊ သမ္မာသမာဓိ ထွန်တုံး၊ ထွန်သွားဝယ် သမ္မာသင်္ကပ္ပ၊ သမ္မာဝါယမတည်းဟူသော နွားကို က,လျက် သမ္မာဒိဋ္ဌိ စသော နှင်တံများဖြင့် အဖန်ဖန် ထွန်ယက်နေသူဖြစ်ရကား ငါသည်လည်း တရားလယ်သမားကြီးဖြစ်၏။ ထို့ကြောင့် ငါကိုယ်ငါ လယ်သမားဟု ဆိုခြင်းဖြစ်သတည်း။

မြတ်စွာဘုရား၏ အဖြေကို ကြားရလေသော် ဘာရဒွါဇ ပုဏ္ဏားသည် ပါရမီဉာဏ် ရင့်သန်သူဖြစ်သည့်အလျောက် တစ်ထွာပြ တစ်တောင်မြင်လာသည်။ သစ္စာလေးပါးကို မြင်တတ်သော သောတာပတ္တိဖိုလ်သို့ ရောက်သွား၏။

အသိဉာဏ်ရင့်သန်သော ပုဏ္ဏားသည် ဤမျှသော တရားကို ဟောကာမျှဖြင့်ပင်လျှင် မြတ်စွာဘုရားကပေါ်၌ "ခွက်လက်စွဲ၍ တောင်းစားနေသူ" ဟူသော အမြင် ကွယ်ပသွားကာ အမှားကို ဝန်ခံလျက် ဘုရားထံ၌ သရဏဂုံယူပြီးလျှင် ပစ္စည်းလေးပါး ဒကာခံ၍ ဗုဒ္ဓကို ကိုးကွယ်ဆည်းကပ်လေ၏။ ဘာရဒွါဇပုဏ္ဏား၏ လျှောက်ထားတောင်းပန်ချက်အရ မြတ်စွာဘုရားသည် ၁၁ ဝါမြောက် ဝါကို အဆိုပါ နဠရွာ၊ ဒက္ခိဏာဂိရိကျောင်း၌ ဝါကပ်တော်မူသတည်း။

---

၁။ သံသရာဝဋ်ဆင်းရဲမှ ကင်းလွတ်စေတတ်သော သီလတရားစု အာပတ် ၇-ပုံ။
၂။ စက္ခုစသော ဣန္ဒြေခြောက်ပါးကို စောင့်စည်းလုံခြုံစေမှု။
၃။ ထက်ဝန်းကျင်မှ စင်ကြယ်သော အသက်မွေးဝမ်းကျောင်း။
၄။ ဆွမ်း၊ သင်္ကန်း၊ ကျောင်း၊ ဆေး၊ ပစ္စည်းလေးပါး၌ ကောင်းစွာ စင်ကြယ်သဖြင့် မှီဝဲသုံးဆောင်မှု။

# အစွဲပျောက်ကင်းနည်း

**ပြဿနာ = တပ်မက်ခြင်း။**

**မေးလျှောက်သူ = ရဟန်းတစ်ပါး။**

အခါတစ်ပါး၌ မြတ်စွာဘုရားသည် ရဟန်းတို့အား အတ္တစွဲ မထားကြဖို့ တပ်ခြင်းကင်းကြောင်း တရားကို ဖောင်ကို ဥပမာတင်စား၍ ဟောကြားတော်မူ၏။

လူတစ်ယောက်သည် ခရီးသွားလေ၏။ လမ်း၌ မြစ်ကြီးတစ်ခု ခံနေ၍ ခက်နေသည်။ ထိုအခါ ထိုသူသည် တစ်ဖက်ကမ်းသို့ ရောက်ရှိရေးအတွက် ဖောင်တစ်ခုကို ဖွဲ့၍ကူး၏။ ကမ်းတစ်ဖက်သို့ရောက်သွားလေပြီ။

တစ်ဖက်ကမ်းသို့ရောက်သွားလေသောအခါ "ဤဖောင်သည် ငါ့အား ကျေးဇူးများလှပေသည်"ဟူ၍ ထိုသူသည် ဖောင်ကို ခေါင်းပေါ်တင်၍ ရွက်ထားခဲ့သော် ဖောင်၌ ပြုဖွယ်ကိစ္စကို ပြုသည်မမည်။ ထိုဖောင်ကို ကုန်းပေါ်၌ ဆယ်တင်ထားခဲ့ခြင်း၊ သို့မဟုတ် ရေ၌မျှောခြင်းပြုလုပ်သော်သာ ပြုသင့်သောကိစ္စကို ပြုသည်မည်၏ဟု ဟောတော်မူပြီးလျှင်–

အို–ရဟန်းတို့၊ ဤအတူပင် ငါသည် ဖောင်ဥပမာကို ဟောတော်မူ၏။ ထွက်မြောက်ဖို့သာဖြစ်သည်။ စွဲယူဖို့မဟုတ်။ ရဟန်းတို့၊ ဖောင် ဥပမာတရားကို သိရသော သင်တို့သည် တရားတို့ကိုပင် စွန့်ပယ်ကြရကုန်မည်၊ မတရားကိုကား ဆိုဖွယ်မရှိကုန်။

အို–ရဟန်းတို့၊ သူတော်ကောင်းတို့၏ တရား၌ ဆုံးမယဉ်ကျေးပြီးသော ငါ၏တပည့်သားတော်သည်ကား ရုပ်၊ နာမ်၊ ဝတ္ထုအစုစုတို့ကို **"ငါ့ဟာ၊ ငါ၊ ငါ့ကိုယ်ဟု အတ္တစွဲများဖြင့် မကြည့်ရှု၊ ငါ့ဟာ မဟုတ်၊ ငါမဟုတ်၊ ငါ့ကိုယ်မဟုတ်"** ဤသို့ရှုကြည့်ဆင်ခြင်လျက် တစ်စုံတစ်ရာကိုမျှ မတပ်မက်ချေ။ မစွဲလန်းချေ။

ဤသို့ ဟောတော်မူလေရာ တရားနာနေသော ရဟန်းတစ်ပါးက ဤသို့ မေးလျှောက်လေ၏။

မေး။ မြတ်စွာဘုရား၊ အပြင်ပ၌ တစ်စုံတစ်ရာ မရှိခဲ့ပါသော် တပ်မက်ခြင်း ဖြစ်ရာပါသလော။

ဖြေ။ ဖြစ်ရာ၏ ရဟန်း။ အို–ရဟန်း၊ ဤလောက၌ အချို့သူက "ငါ့မှာ ဖြစ်ပြီးသော အရာသည် မရှိခဲ့၊ ငါ့မှာ ဖြစ်ပေါ်မည့်အရာကို မရခဲ့"ဟု တပ်မက်ခြင်း ဖြစ်၏။ ၎င်းအတွက် ထိုသူသည် စိုးရိမ်၏။ ပူပန်၏။ ငိုကြွေး၏။ ရင်ခတ်လက်တီး မြည်တမ်း၏။ တွေဝေမိန်းမော၏။ ဤသို့အားဖြင့် အပြင်ပန်း တစ်စုံတစ်ရာမရှိဘဲ တပ်မက်ခြင်းဖြစ်၏။

မေး။ အရှင်ဘုရား၊ အပြင်ပ၌ တစ်စုံတစ်ရာ မရှိခဲ့ပါသော် မတပ်မမက် ဖြစ်ရာပါသလော။

ဖြေ။ ဖြစ်ရာ၏ ရဟန်း။ အို–ရဟန်း၊ အချို့က ငါ့မှာဖြစ်ပြီးအရာသည် မရှိခဲ့၊ ဖြစ်ရမည့်အရာကို မရခဲ့ဟု တပ်မက်ခြင်းမဖြစ်ခဲ့ပါချေ။ ၎င်းသည် မစိုးရိမ်၊ မပူပန်၊ မငိုကြွေး၊ ရင်ခတ်လက်တီး မမြည်တမ်း၊ မတွေဝေ၊ မမိန်းမောချေ။ ဤသို့ မတပ်မမက်ခြင်းဖြစ်ရာ၏။

မေး။ အရှင်ဘုရား၊ အတွင်း၌ တစ်စုံတစ်ရာမရှိခဲ့သော် မတပ်မမက်ခြင်း ဖြစ်ရာပါသလော။

ဖြေ။ ဖြစ်ရာ၏ ရဟန်း၊ အို–ရဟန်း၊ အချို့က ဤသည်ပင် လောက၊ ဤသည်ပင် ကိုယ်၊ ပုဂ္ဂိုလ်၊ သူ၊ ငါ၊ မိန်းမ၊ ယောကျ်ား၊ ၎င်းသည် ခံစားအပ်ရာတည်း။ စွဲမြဲ၏။ ပြောင်းလွဲမရှိ၊ တည်တံ့၏၊ မပျက်စီး၊ မြဲသကဲ့သို့ တည်နေ၏။ ဤသို့ အယူအစွဲရှိ၏။ ၎င်းသည် အားလုံးသော အယူအစွဲ၏ဖြစ်ပွားရာ တည်ရာ ထကြွခြင်း၊ စွဲယူခြင်း၊ ကိန်းနေခြင်းတို့ကို ပယ်ဖျောက်ကြရန်အလို့ငှာ လည်းကောင်း၊ အားလုံးသော ကိုယ်အစုကို ခွင့်လွှတ်ရန်အလို့ငှာလည်းကောင်း၊ တပ်မက်ခြင်း ကုန်ခန်းရေးအလို့ငှာလည်းကောင်း၊ တပ်စွန်းကင်းရန်အလို့ငှာ လည်းကောင်း၊ လက်စသတ်ချုပ်ငြိမ်းရန်အလို့ငှာလည်းကောင်း၊ သောကမီးအေးရန် အလို့ငှာလည်းကောင်း ဘုရားက ဖြစ်စေ၊ ဘုရား၏ တပည့်ကဖြစ်စေ ဟောညွှန်သည်ကို ကြားသိရသော်–

အို–ပြတ်ရဦးမည်တကား၊ ပျက်ရဦးမည်တကား၊ မဖြစ်ပွားရတော့အံ့တကား ဟု စိတ်၌ ဖြစ်ပေါ်လေသည်။ ၎င်းသည် စိုးရိမ်ပူဆွေး ငိုကြွေးမြည်တမ်း၏။ တွေဝေမိန်းမော၏။ ဤသို့အတွင်း၌ တစ်စုံတစ်ရာမရှိသော် မရှိဘဲလျက်ပင် တပ်မက်ခြင်းဖြစ်၏။

မေး။ မြတ်စွာဘုရား၊ အတွင်း၌ တစ်စုံတစ်ရာ မရှိခဲ့သော် မတပ်မမက် ဖြစ်ရာပါသလော။

ဖြေ။ ဖြစ်ရာ၏ ရဟန်း။ အို–ရဟန်း၊ အချို့က ဤသည်ကား လောက၊ ဤသည်ကား ကိုယ်၊ ပုဂ္ဂိုလ်၊ သူ၊ ငါ၊ မိန်းမ၊ ယောကျ်ားဟု မစွဲ၊ ခံစားအပ်ရာ ဖြစ်၏။ မြဲစွဲ၏ စသည် မစွဲ။ ဘုရားဖြစ်စေ၊ ဘုရားတပည့်ဖြစ်စေ၊ ဤလောက ဆင်းရဲကုန်ဆုံးရေး၊ သောကမီးငြိမ်းရေး တရားဟောကြားသည်ကို ကြားသိရသော် ပြတ်ရတော့မည်၊ ပျက်ရတော့မည် စသည်စသည် အယူ အစွဲ မရှိ။ ရင်းသည် စိုးရိမ် ပူဆွေး ငိုကြွေးမြည်တမ်း တွေဝေမိန်းမောခြင်း မဖြစ်။

ဤသို့အတွင်း၌ တစ်စုံတစ်ရာမရှိသော် တပ်မက်ခြင်းဖြစ်ရာ၏ဟု ဟောတော်မူသည်ကို ထိုထိုရဟန်းသည် နှစ်သီမ့်လေ၏။

(မဇ္ဈိမနိကာယ်၊ မူလပဏ္ဏာသ၊ ကလ္လူပမသုတ္တန်မှ)

# အမြွတ်ဆုံး

**ပြဿနာ = ဥစ္စာ၊ ကျင့်ဆောင်သူ၊ အရသာ၊ အသက်ရှင်မှု။**
**မေးလျှောက်သူ = အာဠာဝက ဘီလူး။**

အာဠာဝက၊ သူစိလောမ၊ ခရလောမ တို့သည် ဘီလူးကြီးများ၏ အမည်နာမတို့ဖြစ်ကုန်၏။ ယင်းသုံးမျိုးတို့အနက် အာဠာဝကဟူသော အမည်နာမပိုင်ရှင် ဘီလူးကား ထူးခြားစွာ ထင်ရှားသော ဘီလူးကြီးဖြစ်လေသည်။

အာဠဝီပြည်အနီး ညောင်ပင်ကြီးတစ်ပင်၌ နေ၏။ တစ်နေ့သောအခါ ထိုညောင်ပင်သို့ ဘုရားသခင်ရောက်သွားရာမှ စ၍ နိပါတ်တော်များ၌ အာဠာဝက ချုတ်ခန်းဟူသော တခမ်းတနားကဏ္ဍသစ်တစ်ခု ဖွင့်လှစ်ရသည်အထိ ဖြစ်လာသော အောင်ခြင်းရှစ်ပါး သမိုင်းဝင် ဘီလူးကြီး ဖြစ်၏။

ခက်ထန်လှစွာသော ထိုအာဠာဝကသည် ဗုဒ္ဓ၏အဆုံးအမ၊ ဗုဒ္ဓ၏ဩဝါဒကို ခံယူပြီးနောက် အခါတစ်ပါးတွင် ဘုရားသခင်ထံသို့ ချဉ်းကပ်လျက် သင့်အပ်လျောက်ပတ်စွာသော နေရာ၌နေ၍ ရှိခိုးပြီးလျှင် မိမိဝမ်းတွင်း၌ မရှင်းမလင်းဖြစ်နေသော အောက်ပါပြဿနာကို ဘုရားသခင်အား လျှောက်ထားမေးမြန်းခြင်း ပြုလေ၏။

မေး။ အတိုင်းမသိသော သဗ္ဗညုတဉာဏ်တော်သခင် အရှင်ဘုရား၊ ဤ လောက၌ စိန်ကျောက်ပုလဲ၊ မျက်ရွဲသန္တာ အစရှိသော လူသုံးပစ္စည်းရတနာတွေ များစွာပင် ရှိခဲ့ပါသည်။ မိန်းမ၊ ယောကျ်ား မဟူ တစ်ဦးတစ်ယောက်သော လူသားအတွက် အဘယ်မည်သော ရတနာ၊ အဘယ်မည်သော ဥစ္စာမျိုးသည်

အဖိုးတန်၍ အမြတ်ဆုံးဖြစ်ပါသနည်း။ အဘယ်ဥစ္စာကို အမြတ်ဆုံးဥစ္စာဟူ၍ ဆိုအပ်ပါသနည်း။ (ကိံသူ ဓဝိတ္တံပုရိသဿသေဋ္ဌံ)

ဖြေ။ ကောင်းစွာ မှတ်သားနာယူလော့ အာဠဝက၊ ဤလောက၌ ဟူးဟူးဝြားဝြား လူသား၏ အမြတ်ဆုံးဥစ္စာ၊ အဖိုးအတန်ဆုံးသော ဥစ္စာကား စိန်ကျောက်ပုလဲလည်း မဟုတ်၊ မျက်ရွဲသန္တာ၊ နီလာ စသည်တို့လည်း မဟုတ်ကုန်။ "သဒ္ဓါ သည်သာလျှင်" အမြတ်ဆုံးဥစ္စာဖြစ်သတည်း။ ဘုရား၊ တရား၊ သံဃာတည်းဟူသော ရတနာမြတ်၊ သုံးပါးနတ်ကို၊ ဆည်းကပ်ခိုကိုး၊ မြတ်နိုးတနာ၊ ယုံကြည်ခြင်း "သဒ္ဓါ"ကို အမြတ်ဆုံးဥစ္စာဟူ၍ ငါဆိုပေ၏။ (သဒ္ဓီဓဝိတ္တံ ပုရိသဿသေဋ္ဌံ)

မေး။ ဘုန်းတော်ကြီးလှသော မြတ်စွာဘုရား။ နေ့မခြား ရက်မခြား အမြဲတစေအားဖြင့် ပွားများအပ်၊ ကျင့်ကြံအပ်၊ ဆည်းပူးအပ်သည်ရှိသော် အဘယ်မည်သော ကျင့်ဆောင်မှုမျိုးသည် ချမ်းသာခြင်းသို့ရောက်အောင် ပို့ဆောင်ပေးနိုင်ပါသနည်း။ (ကိံသု သုစိဏ္ဏံ သုခမာဝဟာတိ)

ဖြေ။ အို-အာဠဝက၊ သူတော်ကောင်းတရားကို နေ့ရက်မခြား လက်စွဲထား၍ ပွားများခြင်း၊ ကျင့်ကြံခြင်း၊ ဆည်းပူးခြင်းသည် ကောင်းသော ကျင့်ဆောင်မှုမည်၏။ ယင်း သူတော်ကောင်းတရား ပွားများ၊ ကျင့်ကြံ၊ ဆည်းပူးအပ်သည်ရှိသော် ချမ်းသာခြင်းသို့ရောက်အောင် ပို့ဆောင်ပေးနိုင်၏။ (ဓမ္မော သုစိဏ္ဏော သုခမာဝဟာတိ)

မေး။ ဘုန်းတော်ကြီးလှသော အရှင်ဘုရား။ ချိုစပ်၊ ချဉ်၊ ဖန်၊ ခါး၊ အငန်ဟု ခြောက်တန်သော ဩဇာအရသာ ခြောက်မျိုးရှိပါ၏။ ယင်း ခြောက်မျိုး အနက်တွင် အဘယ်အရသာ၊ အဘယ် ဩဇာသည် အကောင်းဆုံး ဖြစ်ပါသနည်း။ (ကိံသု ဟဝေ သာဒုတရံ ရသာနံ)

ဖြေ။ အို-အာဠဝက၊ နာလော့၊ အရသာအပေါင်းတို့တွင် မှန်သော စကားကို ဆိုခြင်းတည်း ဟူသော "သစ္စာအရသာ"သည် အကောင်းဆုံးဖြစ်ပေ၏။ (သစ္စံ ဟဝေ သာဒုတရံ ရသာနံ)

မေး။ ဘုန်းတော်ကြီးလှသော မြတ်စွာဘုရား၊ အသက်ရှည်မှုအစုစုဝယ် အဘယ်မည်သော အသက်ရှည်မှုကို အမြတ်ဆုံးသော အသက်ရှည်ခြင်း ဟူ၍ ဆိုကြပါကုန်သနည်း။ (ကထံဇီဝိ ဇီဝိတ မာဟု သေဋ္ဌံ)

ဖြေ။ အို-အာဠဝက၊ နာလော့၊ အသိအလိမ္မာ၊ ဉာဏ်ပညာဖြင့် ခန္ဓာ အစဉ် အသက်ရှင်ရခြင်းကို အမြတ်ဆုံးအသက်ရှင်ခြင်းဟူ၍ သူတော်ကောင်းတို့ ဆိုကြကုန်၏။ (ပညာဇီဝိ ဇီဝိတမာဟု သေဋ္ဌံ)

---

၁။ သဂါထာဝဂ္ဂ သံယုတ်ပါဠိတော်။

# နိဗ္ဗာန်ခရီး အနီးအဝေး

**ပြဿနာ = ဝေးသလော၊ နီးသလော။**

**မေးလျှောက်သူ = ရေဝတ နတ်သား။**

ရေဝတမည်သော နတ်သားသည် ဘုရားထံ၌ တရားနာရဖူး၏။ နိဗ္ဗာန်သည် သန္တိသုခစင်စစ် အေးချမ်းသာယာလှသည်ဟူသော စကားကို မကြာခဏ ဆိုသလိုပင် ကြားရသူဖြစ်၏။

တစ်နေ့သ၌ ထိုနတ်သားသည် နိဗ္ဗာန်ကို တွေးကြည့်လေ၏။ နိဗ္ဗာန်သည် အေးချမ်းသာယာလှသည်ဟု ဗုဒ္ဓက ဟောတော်မူ၏။ ထိုနိဗ္ဗာန်သည် အဘယ်သို့ သာယာလေသနည်း၊ အဘယ်မျှ အေးချမ်းလေသနည်း၊ ထိုနိဗ္ဗာန်၌ ဘာတွေ ရှိလေသနည်း၊ ဘာတွေ ပေါလေသနည်း၊ အဘယ်မျှ ပျော်စရာကောင်းလေသနည်း၊ ထိုနိဗ္ဗာန်သို့ရောက်အောင် အဘယ်လမ်းက သွားလေသနည်း၊ အဘယ်မျှ ခရီးဝေးလေသနည်းဟု တွေးကြည့်သည်။ အဖြေကား ရေးရေးမျှပင် မထင်လေ။

ထို့ကြောင့် နိဗ္ဗာန်ခရီး အနီးအဝေးနှင့် အဘယ်လမ်းက သွားရသည်ကို သိလိုလှသော ရေဝတနတ်သားသည် တစ်နေ့သောအခါ၌ ဘုရားအထံတော်သို့ ချဉ်းကပ်ပြီးလျှင် ဤသို့ မေးမြန်းလျှောက်ထားလေ၏။

မေး။ မြတ်စွာဘုရား၊ နိဗ္ဗာန်သည် အဘယ်မျှ ခရီးဝေးပါသနည်း၊ ထိုနိဗ္ဗာန်၌ မည်သည့်အရာတွေ ရှိပါသနည်း။ ထိုနိဗ္ဗာန်သို့သွားလိုသော် အဘယ် လမ်းက သွားရပါသနည်း။

ဖြေ။ ချစ်သား ရေဝတ၊ မှတ်သားနာယူလော့။ သင့်အမေးကို ငါဖြေ ကြားအံ့။

ချစ်သား ရေဝတ၊ အကြင် နိဗ္ဗာန်ဟူသော အရပ်သည် ရှိ၏။ ထိုနိဗ္ဗာန် အရပ်၌လည်း မဖြစ်၊ အိုလည်း မအို၊ သေလည်း မသေ၊ ရွေ့လည်း မရွေ့၊

တစ်ဖန်လည်း ပဋိသန္ဓေမနေ၊ လောကလမ်းဆုံး အရပ်တည်း။ ထိုအရပ်သို့ ခြေလျင်၊ ကုန်းကြောင်း၊ လှည်း၊ ရထားတို့ဖြင့် သွားခြင်းဖြင့် သိအပ်၏ ဟူ၍ လည်းကောင်း၊ မြင်အပ်၏ ဟူ၍လည်းကောင်း၊ ရောက်အပ်၏ ဟူ၍လည်းကောင်း ငါ မဆို၊ ငါ မပြော၊ ငါ မဟော။

အို–ချစ်သား ရောဟိတ၊ လောကလမ်းဆုံး၊ ခရီးဆုံးဖြစ်သော ထိုနိဗ္ဗာန်သို့ မရောက်လေဘဲလည်း ဆင်းရဲခြင်းကင်းပြီး၊ ဆင်းရဲခြင်းကင်းအောင် ပြုတတ်သည် ဟူ၍ ငါမဆို၊ ငါမပြော၊ ငါမဟော။

အို–ချစ်သား ရောဟိတ၊ စင်စစ်သော်ကား အရပ်အမောင်းအားဖြင့် တစ်လံ လောက်မျှသာ ရှိသော၊ အမှတ်သညာ၊ စိတ်နှင့်တကွသော ဤကိုယ်ကောင်၌သာ လျှင် သစ္စာ ရ ဒုက္ခတည်းဟူသော ပြုပြင်ဖန်တီးမှု ဆင်းရဲလောကကိုလည်းကောင်း၊ ယင်းသစ္စာ ရလောက၏ ဖြစ်ကြောင်းကိုလည်းကောင်း၊ ယင်းသစ္စာရလောက၏ ချုပ်ဆုံးရာ နိဗ္ဗာန်ကိုလည်းကောင်း၊ ယင်းနိဗ္ဗာန်သို့ ရောက်ကြောင်း အကျင့်ကိုလည်းကောင်း ငါ ပညတ်တော်မူ၏။ သိစေတော်မူ၏။

အို–ချစ်သား ရောဟိတ၊ လောက၏ အဆုံးဖြစ်သော နိဗ္ဗာန်သို့ ခြေလျင်သွားခြင်းဖြင့် သို့မဟုတ် ဆင်၊ မြင်း၊ ရထား၊ လှေ စသော ယာဉ်ကိုစီး၍ သွားခြင်းဖြင့် တစ်ရံတစ်ဆစ် ယောင်၍မျှ မရောက်အပ်၊ မရောက်ကောင်း။

အို–ရောဟိတနတ်သား၊ လောကအဆုံးဖြစ်သော ထိုနိဗ္ဗာန်သို့မရောက်ဘဲလျက် လည်း ဆင်းရဲမှ လွတ်မြောက်ခြင်းသည် မရှိ။

အို–ရောဟိတနတ်သား၊ စင်စစ်သော် နိဗ္ဗာန်ဟူသည်ကား လူတို့မှီတင်းနေထိုင်ရာ မြို့ပြ ပြည်ရွာ စသည်တို့ကဲ့သို့ တည်ရာဒေသ မရှိလေ။ မရှိသောကြောင့် ရထား၊ မြင်း၊ ဆင် စသော ယာဉ်ဖြင့်လည်းကောင်း၊ လှည်းယာဉ်၊ လှေယာဉ်၊ ခြေလျင်သွားခြင်းဖြင့်လည်းကောင်း သွား၍ ရောက်အပ်သည်၊ ရောက်ကောင်းသည် မဟုတ်။ စင်ကြယ်သော "ဝိသုဒ္ဓိ"ပဋိပတ်၊ မြတ်သောအကျင့်ဖြင့်သာ ရောက်အပ်၏။ ရောက်ကောင်းသည်။ မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်ဖြင့်သာ ကြည့်၍ မြင်နိုင်သည်။ ဆင်းရဲခပ်သိမ်း ငြိမ်းရာဖြစ်သော ထိုနိဗ္ဗာန်ကား ဧကန်ရှိသည်သာတည်း။ ဤနိဗ္ဗာန်သို့ မရောက်သေးသမျှ ကာလပတ်လုံး ဆင်းရဲဒုက္ခမှ ကင်းသည် မရှိ၊

(သဂါထာဝဂ္ဂ၊ ဒေဝတာသံယုတ်မှ)

# လူ့သက်တမ်းတိုခြင်း

**ပြဿနာ = ရှေးနှင့် ယခု နှိုင်းယှဉ်ချက်။**

**မေးလျှောက်သူ = ပုဏ္ဏားသူကြွယ်တစ်ဦး။**

အခါတစ်ပါး၌ မြတ်စွာဘုရားသည် အာဠဝီပြည် နွားသွားလမ်းကြောင်း အနီး သဖင်မြိုင်၌ သစ်ရွက်အခင်းပေါ်ဝယ် သီတင်းသုံးနေတော်မူ၏။

ထိုအခါ ပုဏ္ဏားသူကြွယ်တစ်ယောက်သည် မြတ်စွာဘုရားရှိရာသို့ ချဉ်းကပ်လာပြီးလျှင် လျောက်ပတ်သောနေရာ၌ ထိုင်၍ ဖူးမြော်ကန်တော့လေ၏။ ပြီးလျှင် ရှိခိုး၍ သူ့စိတ်တွင်း၌ မရှင်းမလင်းဖြစ်နေသော ပြဿနာဖြင့် မြတ်စွာဘုရားအား မေးလျှောက်ခြင်းပြုလေ၏။

မေး။ အို–အရှင်ဂေါတမ၊ ကမ္ဘာဦးကာလ၌ ယူဇနာပေါင်း တစ်သောင်း ကျယ်ပြန့်သော ဤဇမ္ဗူဒီပ်ကျွန်း လောကသည် အဝီစိကဲ့သို့ လူတို့ဖြင့် ပြည့်ကျပ် ပြွတ်သိပ်လျက် ရှိပါသတဲ့။ ရွာ၊ နိဂုံး၊ မင်းနေပြည်တို့သည် ကြက်ပျံမကျ အလွန် စည်ကားလှပါကုန်သတဲ့။ ဤသို့ ရှေးလူကြီး သူမများ ပြောစကားကို ကြားဖူး ပါသည်။

အို–အရှင်ဂေါတမ၊ ယခု အကျွန်ုပ်တို့ မျက်မှောက်လောက၌မူကား လူတွေ ကုန်နေပါ၏။ လူဦးရေပါးသောအသွင်သာ ထင်ပါ၏။ ရွာများသည်လည်း တောဖြစ်ကုန်၏။ နိဂုံးများသည်လည်း နိဂုံးမဟုတ်၊ မြို့များသည်လည်း မြို့မဟုတ်ဘဲ တောဖြစ်ကုန်ပါပြီ။ အဘယ့်ကြောင့်ပါနည်း ဘုရား။

ဖြေ။ အို–ပုဏ္ဏား၊ ယနေ့လူတို့သည် ရှေးကမ္ဘာဦးခေတ်က လူများနှင့် မတူတော့ကုန်။ အဓမ္မရာဂရတ္တာ=မသင့်သောအရာကို အာသာငမ်းငမ်း စွဲလမ်းမှု ပြင်းစွာဖြင့် တပ်ခြင်းဖြစ်လာကုန်၏။ ဝိသမလောဘာဘိဘူတာ=လိုသည့်ထက် ပို၍ အလွန်အကျွံ လောဘရမ္မက်ကြီးလာကုန်၏။ မိစ္ဆာဓမ္မ ပရေတာ=မှားသော

သဘော၊ မမှန်သော အယူအဆ၊ ဖောက်ပြန်သော သုံးသပ်ချက်တို့ဖြင့် တစ်ကိုယ်လုံး ဖုံးလာကုန်၏။ ထိုလူတို့သည် ဇီဝိန်ကိုခြွေ သေစေတတ်သော၊ ထက်လှစွာသော လက်နက်တို့ကို ကိုင်ကြကုန်ပြီးသော် အချင်းချင်း သတ်ဖြတ်နေကြကုန်၏။ ယင်းသို့ သတ်ခြင်းကြောင့် လူပေါင်းများစွာတို့ သေကြေပျက်စီးကုန်ကြရ၏။ အို–ပုဏ္ဏား၊ ဤသို့အချင်းချင်းသတ်၍ သတ္တန္တရကပ်ကြီး ဆိုက်ခြင်းသည် လူဦးရေ နည်းပါးခြင်း၊ အသက်တိုခြင်း၏အကြောင်းရင်း တစ်ရပ်ပေတည်း။

အို–ပုဏ္ဏား တစ်ပါးသောအကြောင်းကို ငါ ဆိုပေဦးအံ့။ အဓမ္မရာဂ၊ ဝိသမလောဘ၊ မိစ္ဆာဓမ္မတည်းဟူသော တရားကို အကျင့်ဆိုး၊ ညစ်ဆိုး၊ ဝသီဆိုးတို့ လွှမ်းမိုးလျက်ရှိသော ယနေ့ခေတ်၊ ယနေ့အခါ၌ လူတို့လုပ်ကိုင်စားသောက်မှု ဖြစ်မြောက်ရန်အတွက် မိုးသည် ကောင်းစွာ မရွာ၊ မရွာသောကြောင့် ငတ်မွတ်ခြင်းဘေးသည် ဖြစ်လာ၏။ စိုက်ပျိုးအပ်သော သီးနှံစပါးများ ညှိုးဖျင်းခြင်း၊ ပိုးကျခြင်း၊ ဖလံဖြူနှာစွဲခြင်း၊ စိုက်ပျိုးသမျှ ပင်တံချည်းသာ ကျန်ခြင်း စသော မလိုလားအပ်သော အရာတို့သည် ဖြစ်လာကုန်၏။ ယင်းသို့ မိုးခေါင်းရေရှား၊ ငတ်မွတ်ခေါင်းပါးခြင်း ကြောင့် လူတို့သည် သေကြေပျက်စီးကုန်ကြရလေ၏။ အို–ပုဏ္ဏား၊ ဤဒုဗ္ဘိက္ခန္တရကပ် အငတ်ဘေးဆိုးကြီး ဆိုက်၍ သေကြေပျက်စီးရခြင်းသည်လည်း လူဦးရေလျော့နည်းခြင်း၊ အသက်တိုခြင်း၏ အကြောင်းရင်းတစ်ရပ်ပေတည်း။

အို–ပုဏ္ဏား၊ တစ်ဖန် တစ်ပါးသောအကြောင်းဖြစ်ရပ်ကို ငါဆိုဦးအံ့။ ယခုအခါ၌ လူတို့ ကိုယ်ကျင့်တရားပျက်လေသောကြောင့် နတ်ဘီလူးတို့သည် ကြောက်မက်ဖွယ်ရာ ခက်ထန်ကြမ်းကြုတ်လှစွာကုန်သော လက်ပါးစေ ဘီလူးများကို လူ့ရွာသို့ စေလွှတ်ကြကုန်၏။ ထင်သလို မျိုဝါးဖမ်းစားစေကြကုန်၏။ မကောင်းဆိုးယုတ်၊ ဘုတ်ပြိတ္တာမှူး ယင်းဘီလူးတို့၏ ဖမ်းစားခြင်းကြောင့် လူပေါင်းများစွာတို့ သေကြေပျက်စီးကြရလေ၏။ အို–ပုဏ္ဏား၊ ဤသို့ ဘီလူးများ ဖမ်းစား၍ ရောဂန္တရကပ်ဆိုက်သဖြင့် သေကြေပျက်စီးကြရခြင်းသည်လည်း လူဦးရေလျော့နည်းခြင်း၊ အသက်တိုခြင်း၊ မြို့ရွာနိဂုံး ဇနပုဒ်တို့ တောအတိဖြစ်ကုန်ခြင်း၏ အကြောင်းရင်း တစ်ရပ်ပေတည်း။

မြတ်စွာဘုရားသည် လူဦးရေ လျော့နည်းရခြင်း၊ အသက်တိုရခြင်း အကြောင်း သုံးပါးကို ပုဏ္ဏားအား ဟောကြားတော်မူပြီးသည့်အဆုံး၌ ပုဏ္ဏားသည် နှလုံးရွှင်ပျ အလွန်ဝမ်းမြောက်သော အမူအရာဖြင့် ဤသို့လျှောက်ထားလေပြီ။

အို–အရှင်ဂေါတမ၊ အရှင်၏ ဖြေဆိုချက်ကား အလွန်နှစ်သက်ဖွယ် ကောင်းပေစွ၊ အလွန်နှစ်သက်ဖွယ် ကောင်းပေစွ။ မှောက်၍ထားအပ်သော အိုးကို လှန်ပြလိုက်သည်နှင့် တူလှပါသည်။ ဖုံးထားသော အရာဝတ္ထုကို ဖွင့်ပြလိုက်သည်နှင့်

တူလှပါသည်။ မျက်စိလည် လမ်းမှားနေသူအား လမ်းမှန်ရောက်အောင် ဆောင်ပို့ပေးလိုက်သည့်နှင့် တူလှပါသည်။ မည်းမှောင်နေသော အခန်းကြီးအတွင်း၌ ဆီမီးတန်ဆောင် အလင်းရောင် ထွန်းညှိပေးလိုက်သည့်နှင့် တူလှပါသည်။

အို–အရှင်ဂေါတမ၊ များစွာသော အကြောင်းတို့ဖြင့် အဓမ္မရာဂတရား၊ ဝိသမလောဘတရား၊ မိစ္ဆာဓမ္မတရားတို့ကို အရှင်ဘုရား ဟောကြားအပ်ပြီ။ အကျွန်ုပ်သည် အရှင်ဘုရားကိုလည်းကောင်း၊ အရှင်ဘုရား၏ တရားတော်ကိုလည်းကောင်း၊ ဓာပည့်သံဃာအပေါင်းကိုလည်းကောင်း ကိုးကွယ်ပါ၏။ ဆည်းကပ်ပါ၏။ အရှင်ဂေါတမသည် အကျွန်ုပ်အား ယနေ့မှစ၍ အသက်ထက်ဆုံး ရတနာသုံးပါးကို ဆည်းကပ်ကိုးကွယ်သော ဥပါသကာဟူ၍ မှတ်တော်မူပါ ဘုရား။

(တိကနိပါတ် အင်္ဂုတ္တိုရ်ပါဠိတော်၊ ခြောက်ခုမြောက် အဓမ္မရာဂသုတ်မှ)

# ရဟန္တာစုတေလျှင် ပြန်၍ ဖြစ်မဖြစ်

ပြသသနာ = ... ... ...

မေးလျှောက်သူ = ဝဋ္ဋ ပရိုဝ်၊

အကျင့်သီလ၊ ကိုယ်ကျင့်တရားကောင်းသူ၊ ကုသိုလ်ကောင်းမှုပြုသူများ ကွယ်လွန်သွားသောအခါ ကောင်းရာသုဂတိဘဝသို့ လားရသည်။ လူ့ဘဝ၊ နတ်ဘဝ၊ ဗြဟ္မာဘဝသို့ ရောက်ကြရသည်ဟု ဆိုကုန်၏။

သို့ဖြစ်ခဲ့သော် ဘုရား၊ ရဟန္တာပုဂ္ဂိုလ်များထက် အကျင့်သီလကောင်းသူ၊ အကျင့်သိက္ခာနှင့် ပြည့်စုံသူ မရှိ၊ သို့မရှိသောကြောင့် ထိုဘုရား ရဟန္တာပုဂ္ဂိုလ်များ ကွန်လွန်သွားသောအခါ အဘယ်ဘဝသို့ လားရောက်ကြပါသနည်း။ လူ့ပြည်၊ နတ်ပြည်၊ ဗြဟ္မာ့ပြည်တို့၌ ဖြစ်သလော၊ သတ္တဝါတစ်ဦးတစ်ယောက်အဖြစ်ဖြင့် ပြန်၍ ဖြစ်ကြသေးသလော၊ မဖြစ်တော့ဘူးလော။ ဖြစ်လျှင် အဘယ့်ကြောင့်၊ မဖြစ် လျှင် အဘယ့်ကြောင့်ဟု အမျိုးမျိုးဖြင့် မေးခွန်းထုတ်၍ သုတေသနလုပ်လေ့ရှိတတ်၏။

မိမိမပိုင်နိုင်သောအရာကို ပိုင်နိုင်အောင်၊ မိမိမသိသောအရာကို သိအောင် စူးစမ်းခြင်း၊ လေ့လာခြင်းပြုသည်မှာ ကောင်းသောအမှုဟူ၍ပင် ဆိုထိုက်ပေ၏။ မှားယွင်းသော အစွဲအလမ်းတစ်ခုကို "နွားကုတ်လက်ကိုင်" မလွှတ်နိုင်ဘဲ ဆုပ်ကိုင်ထားခြင်းထက် သုတေသနပြုခြင်းက မိမိအဖို့ အသိဉာဏ်ဖွံ့ဖြိုးတိုးတက်စေသည်။ ရင့်သန်စေသည်။ အကျိုးသက်ရောက်စေသည်။

ဂေါတမမြတ်စွာဘုရား ထင်ရှားပွင့်တော်မူနေဆဲ သက်တော်ထင်ရှားရှိစဉ်က ဖြစ်၏။

ရဟန္တာများ စုတေသွားလျှင် ဘာဖြစ်သနည်း။

စပယ်ဦးစာပေ

ထိုပြဿနာကို ဝစ္ဆမည်သော ပရိဗိုဇ်[၁] တစ်ဦးသည် တွေးခေါ်ကြည့်မိလေသည်။ အဖြေရရှိရေးအတွက် အဖန်ဖန်ကြံ၏၊ တွေး၏၊ စဉ်းစား၏၊ အဖြေကား မထွက်လာ။

သို့ကြောင့် ဝစ္ဆသည် ထိုပြဿနာအတွက် ဘဝင်မကျနိုင်ဘဲ ခိုးလိုးခုလု တစ်ဆို့ဆို့ကြီးဖြစ်နေ၏။ ထိုအချိန်၌ ဗုရာဏကဿပ၊ မက္ခလိဂေါသာလ စသော ဘုရားအမည်ခံ ဒဿနိကဆရာကြီးများ ဗုဒ္ဓဂေါတမနှင့် ခေတ်ပြိုင်ထွန်းကားလျက် ရှိနေလေရာ ဘဝင်မကျဖြစ်နေသော ဝစ္ဆပရိဗိုဇ်သည် ဘုရားကြီးများထံ ချဉ်းကပ်၍ ထိုပြဿနာကို တင်ပြဆွေးနွေးကြည့်သည်။ ကျေနပ်လောက်အောင် အဖြေကို မရသဖြင့် ဘဝင်မကျဖြစ်မြဲပင် ဖြစ်နေသည်။

တစ်ခါသော် ဝစ္ဆသည် ဤသို့ အကြံဖြစ်ပေါ်လာ၏။ ဂေါတမသည် ကျော်ကြားလှသည်။ အရာခပ်သိမ်း သူ မသိသောအရာ မရှိဟူ၍လည်း သတင်းထွက်လျက် ရှိနေသည်။ ငါ့ပြဿနာကို ထိုဘုရားဂေါတမထံ တင်ပြ၍ ဆွေးနွေးကြည့်ရသော် ကောင်းလေစွ။

ဝစ္ဆပရိဗိုဇ်သည် ဤသို့ အကြံဖြစ်လာပြီးနောက် ဗုဒ္ဓနှင့်တွေ့ဆုံရန် အခွင့်ကောင်းကို မျှော်လင့်တောင့်တနေရာက အခါတစ်ပါး၌ သူသည် ဘုရားသခင်နှင့် တွေ့ဆုံခြင်းကို ကံအားလျော်စွာ ရရှိသဖြင့် သူ၏ဆန္ဒမှာ ပြည့်ဝသွားလေသည်။ အယူဝါဒနှင့် ပတ်သက်၍ မရှင်းလင်းသော အချက်အလက်များကို ဘုရားသခင်အား လျှောက်ထားမေးမြန်းခြင်း ပြုလာသည်ကို မြတ်ဘုရားကလည်း ဝမ်းမြောက်စွာပင် ဖြေကြားတော်မူသည်။

ယင်းသို့ အာလာပ သလ္လာပ စကားများ မြတ်ဘုရားနှင့် ဆိုပြောပြီးနောက် ဝစ္ဆသည် မိမိဝမ်းတွင်း၌ ဘဝင်မကျ အောင့်အည်းမျိုသိပ်ထားခဲ့ရသော ရဟန္တာ စုတေသွားလျှင် ပြဿနာ အရပ်ရပ်ကို မြတ်စွာဘုရားအား လျှောက်ထားလေတော့သည်။

မေး။ အို–အရှင်ဂေါတမ၊ အရှင်ကား အရာခပ်သိမ်း မသိသောအရာ မရှိဟု ထင်ရှားကျော်ကြားတော်မူပေ၏။ ကျွန်ုပ် တစ်ခု အရှင့်အား မေးလျှောက်စမ်းပါရစေ။ ကျွန်ုပ် မေးလို၊ ကျွန်ုပ် သိလိုသည်ကား အခြားမဟုတ်ပါ၊ အာသဝေါကုန်ခန်းပြီးသော ရဟန္တာပုဂ္ဂိုလ်သည် သေပြီးသည်မှ နောက် အဘယ်၌ဖြစ်ပါသနည်း။ ဤသည်ကို အကျွန်ုပ်အား ဖြေကြားတော်မူပါလော။

---

၁။ ရဟန်းတို့ကဲ့သို့ ဦးပြည်းခေါင်းတုံး ဖန်ရည်ဆိုးသော အဝတ်ကို ဝတ်ထားသူကို ပရိဗိုဇ်ဟု ခေါ်သည်။

ဖြေ။ ဝစ္ဆပရိဗိုဇ်၊ စင်စစ်အားဖြင့် ရဟန္တာပုဂ္ဂိုလ်သည် သေပြီးသည့်မှ နောက်၌ဖြစ်သေးသည်ဟု ငါမဟော။ ထိုသို့ဟောခြင်းသည်လည်း ငါနှင့် မသင့်တော် မလျော်ကန်လေ။

မေး။ အို–အရှင်ဂေါတမ၊ ယင်းသို့ဖြစ်ခဲ့ဘိမူကား ရဟန္တာပုဂ္ဂိုလ်သည် စုတေပြီးသည့်နောက်၌ အဘယ်သို့မှ မရောက်ပါသလော၊ မဖြစ်ပါသလော။

ဖြေ။ အို–ဝစ္ဆ၊ စင်စစ် ရဟန္တာပုဂ္ဂိုလ် စုတေပြီးနောက် အဘယ်သို့မှ မရောက်၊ မဖြစ်၊ ဤသို့ ငါဟောသော်လည်း မသင့်၊ မတော်၊ မလျော်နိုင်။

မေး။ အို–အရှင်ဂေါတမ၊ သို့ဖြစ်ခဲ့သော် ရဟန္တာပုဂ္ဂိုလ်သည် သေသည့်မှ နောက် ဖြစ်သူလည်း ဖြစ်၏၊ မဖြစ်သူလည်း မဖြစ် မှတ်ရပါမည်လော။

ဖြေ။ အို–ဝစ္ဆ၊ ရဟန္တာပုဂ္ဂိုလ် စုတေပြီးနောက် ဖြစ်သူလည်း ဖြစ်၏၊ မဖြစ်သူလည်း မဖြစ်။ ဤသို့ ငါမဆို၊ မပြော၊ မဟော။ ထိုသို့ဆိုခြင်း၊ ဟောပြောခြင်းသည်လည်း ငါနှင့် မတန်၊ ငါနှင့် မဆီလျော်၊ မလျောက်ပတ်။

မေး။ အို–အရှင်ဂေါတမ၊ ထိုသို့မဟုတ်ခဲ့လျှင် ရဟန္တာပုဂ္ဂိုလ် သေပြီးသည့်နောက် ဖြစ်သည်လည်း မဟုတ်၊ မဖြစ်သည်လည်း မဟုတ် မှတ်ရပါမည်လော။

ဖြေ။ အို–ဝစ္ဆ၊ ရဟန္တာပုဂ္ဂိုလ် စုတေပြီးနောက် ဖြစ်သည်လည်း မဟုတ်၊ မဖြစ်သည်လည်း မဟုတ်ဟု ဤသို့ငါမဆို၊ မပြော၊ မဟော။ ဤသို့ ဆိုခြင်း၊ ဟောခြင်းသည်လည်း ငါနှင့် မလျော်ကန်၊ ငါ့အား မလျောက်ပတ်၊ မသင့်တန်။

မေး။ အို–အရှင်ဂေါတမ၊ အရှင် ဖြေကြားလိုက်သော ဤစကား လေးချက်၌ ကျွန်ုပ် ဘာမျှမသိ၊ နားမလည်၊ မတွေးတတ်၊ မကြံစည်တတ်၊ မစဉ်းစားတတ်အောင် တွေဝေသွားပါလေပြီ။ အဘယ်ကို ရည်စူး၍ အဘယ်ကို ဦးတည်လျက် မိန့်မြွက် ဖြေကြားသွားသည် မသိ။ ဆိုလိုချက် အနက်အဓိပ္ပါယ်ကို ကျွန်ုပ်နားလည်ခြင်းငှာ မစွမ်းနိုင်။ အရှင်၏ အဖြေလေးရပ် စကားအနက်များ သည်လည်း ယခု ကျွန်ုပ် အား ဝိုးဝါးဝါးဖြစ်အောင် အကွယ်ကြီး ကွယ်ထားပါပြီ။ စိတ်နှင့်မတွေ့၊ ဉာဏ်မတ္ထေ့သဖြင့် အကျွန်ုပ် အမေ့ကြီး မေ့လျော့ခဲ့ပါပြီ။ ဘာ တစ်ခုကိုမျှ မယ်မယ်ရရ ကျွန်ုပ် နားမလည်၊ မသိပါ။

ဖြေ။ အို–ဝစ္ဆ၊ သင် တွေဝေမည်ဆိုကလည်း တွေဝေထိုက်လှ၏။ မသိခြင်းသည် သင်နှင့် ထိုက်တန်လျော်ကန်လှ၏။ အဘယ့်ကြောင့်ဆိုသော်–

အချင်း ဝစ္ဆ–

| | | |
|---|---|---|
| အယံဓမ္မော | = | ရဟန္တာပုဂ္ဂိုလ်တို့ စုတေပြီးသည့်နောက် ဖြစ်သေး၊ မဖြစ် သေးနှင့်စပ်သော ဤတရားကား– |
| ဂမ္ဘီရော | = | အလွန် နက်နဲလှ၏။ |
| ဒုရနုဗောဓော | = | အလွန် သိနိုင်ခဲသည့်အရာတည်း။ |
| သန္တော | = | ငြိမ်သက်လှသော အရာတည်း။ |
| ပဏီတော | = | မြတ်လှသော အရာတည်း။ |
| နိပုနော | = | သိမ်မွေ့နူးညံ့လှသော အရာတည်း။ |
| အတက္ကာဝစရော | = | ဝေနေယျတို့ အလွန်ကြံနိုင်ခဲသော အရာတည်း။ |
| ပဏ္ဍိတဝေဒနီယော | = | တကယ့်ပညာရှိတို့သာ သိစွမ်းနိုင်သော အရာတည်း။ |

အချင်းဝစ္ဆ၊ ထိုတကယ့်ပညာရှိတို့သာ သက်ဝင်နိုင်ရာ နက်နဲသိမ်မွေ့လှစွာသော တရားတော်အရာကို ငါဘုရား သာသနာတော်မှ တစ်ပါးသော အယူရှိသော၊ ငါ့သာသနာမှ တစ်ပါးသောအယူကို နှစ်ခြိုက်လျက်ရှိသော၊ ငါ့သာသနာမှ တစ်ပါးသော အယူကို ကြိုက်နှစ်သက်လေ့ရှိသော သင်သည် ငါဘုရား သာသနာဝယ် ရုပ်၊ နာမ်၊ ခန္ဓာနှင့်စပ်သော ဝိပဿနာတရားများစွာကို ကြိုးစားအားထုတ်ခြင်းကို ကြဉ်၍ (ဝါ) ကြိုးစားအားထုတ်မှု မပါဘဲ၊ ကောင်းစွာညွှန်ပြအပ်သော ဆရာကောင်းတို့၏ နည်းကောင်း၊ နည်းမြတ်တို့ကို ကြဉ်၍ (ဝါ) ဆရာကောင်းထံ နိဿရည်းခံခြင်းမပြုလေဘဲ သင် မသိနိုင်၊ သိရန် လွန်စွာခဲယဉ်း၏။

အို–ဝစ္ဆ၊ ယင်းသို့ဖြစ်ရကား ဤ ငါ့ကို သင် မေးအပ်သောအရာ၌ သင့်ကို ပင် ငါ ပြန်၍မေးဦးအံ့။ အကြင်အခြင်းအရာအားဖြင့် သင်အား နှစ်သက်ခြင်း ဖြစ်ရာ၏။ ထိုအခြင်းအရာအားဖြင့် ငါ့အမေးကို သင် ဖြေဆိုပါလေ။

မေး။ အို–ဝစ္ဆ၊ ငါမေးမည့်စကားကို သင် မည်သို့ထင်သနည်း။ သင့်ရှေ့မျှောက်၌ မီးလျှံတစ်ခု အကယ်၍ တောက်လာအံ့။ ဤမီးသည် ငါ့ရှေ့မျှောက်၌ တောက်နေ၏ဟု ဤသို့ သင်သိရာသည် မဟုတ်ပါလော။

ဖြေ။ အရှင်ဂေါတမ၊ သည့်အတိုင်း အမှန်ပင် အကျွန်ုပ် သိရာပါသည်။

မေး။ အချင်း ဝစ္ဆ၊ သင့်ရှေ့မျှောက်မှ တောက်နေသော ထိုမီးသည် အဘယ်ကိုစွဲ၍ တောက်သနည်းဟု ဤသို့ တစ်ပါးသူများက သင့်ကို မေးခဲ့ငြားအံ့။ သင် အဘယ်သို့ ဖြေကြားမည်နည်း။

ဖြေ။ အို–အရှင်ဂေါတမ၊ အကယ်၍ အကျွန်ုပ်ကို ထိုသို့မေးလာကုန်သည် ရှိသော် ကျွန်ုပ် ဤသို့ ဖြေကြားပါမည်။ ငါ့ရှေ့မှ မီးတောက်သည် မြက်၊ ထင်း လောင်စာများကို အစွဲပြု၍ တောက်၏။ ဤသို့ ဖြေကြားပါအံ့။

မေး။ အချင်းဝစ္ဆ၊ အကယ်၍ သင့်ရှေ့မှ ထိုမီးတောက်သည် ငြိမ်းသွားလေအံ့။ ထိုမီးသည် ငါ့ရှေ့မှ ငြိမ်းသွားပြီဟု ဤသို့ သင်သိရာသည် မဟုတ်လော။

ဖြေ။ မှန်ပါသည် ဘုရား။

မေး။ အချင်းဝစ္ဆ၊ သင့်ရှေ့မှ ငြိမ်းခဲ့လေပြီးသော ထိုမီးသည် အဘယ်အရပ်သို့သွားလေသနည်း။ အရှေ့အရပ်သို့ သွားလေသလော၊ သို့မဟုတ် အနောက်အရပ်သို့ သွားလေသလော၊ သို့မဟုတ် တောင်အရပ်သို့ သွားလေသလော၊ သို့မဟုတ် မြောက်အရပ်သို့သွားလေသလောဟု ဤသို့ တစ်ပါးသောသူများက မေးခဲ့သော် သင် မည်သို့ဖြေကြားမည်နည်း။

ဖြေ။ အို–အရှင်ဂေါတမ၊ ယင်းသည့်စကားကို ပြန်ကြားဖြေဆိုခြင်းငှာ မသင့်ပါ။ အဘယ်ကြောင့်ဆိုသော် ထိုမီးသည် မြက်၊ ထင်း၊ လောင်စာတို့ကို စွဲ၍ တောက်လောင်နေသည်ကား မှန်၏။ ထိုမြက်၊ ထင်း၊ လောင်စာကုန်သွားခြင်း၊ ဤမှတစ်ပါးသော အခြားလောင်စာများ၏ အထောက်အကူ ကို မရခြင်းကြောင့် လောင်စာပြတ်၍ ငြိမ်းသွားသည်ဟူ၍သာ ဆိုရပါမည် ဘုရား။

အို–ဝစ္ဆ၊ ဤအတူသာလျှင် အကြင် ရုပ်ဝတ္ထုအမာခံဒြပ်ဖြင့် သတ္တဝါတစ်ဦး တစ်ယောက်၊ လူပု၊ လူရှည်၊ လူဝ၊ လူပိန်ဟူ၍ ပညတ်လိုသူသည် ပညတ်ရာ၏။ သမုတ်ပညတ်ထားအပ်သော ရုပ်ဝတ္ထုကို၊ အကြောင်းသမုဒယကို ပယ်သဖြင့် ငါ အမြစ်ဖြတ်ပြီးပြီ။ လည်ဆစ်ပြတ်ပြီးသော ထန်းငုတ်တိုပမာ ငါပြုပြီးပြီ။ တစ်ဖန် အသစ်လူဟူ၍ ဖြစ်မလာအောင် ငါလုပ်ပြီးပြီ။ နောင်ဘဝ မဖြစ်နိုင်သော သဘော ရှိအောင် ငါဆောင်ရွက်ပြီးပြီ။

အို–ဝစ္ဆ၊ ရုပ်ဝတ္ထုနှင့်စပ်သော လူပညတ်၊ နတ်ပညတ်၊ တိရစ္ဆာန်ပညတ် စသည်မှ အလွတ်ကြီးလွတ်၍နေသော နိဗ္ဗာန်စံ ရဟန္တာပုဂ္ဂိုလ်ကား–

ဂမ္ဘိရော = မိမိစံနေရာ နိဗ္ဗာန်ရှိ၏ ဟူ၍လည်းကောင်း၊ မရှိဟူ၍လည်းကောင်း၊ ဒိဋ္ဌဗ္ဗာသယ[၁] ပြုနိုင်ရာ မရှိသည်ဖြစ်၍ အဗ္ဗာသယ = အားဖြင့် နက်နဲခြင်း၊ အဘယ် မျှလောက် သီလ သမာဓိဂုဏ် ရှိသည်ဟု မဆိုနိုင်အောင် ဂုဏ်အားဖြင့် နက်နဲခြင်း ရှိ၏။

အပ္ပမေယျော = တစ်စုံတစ်ယောက်နှင့် နှိုင်းထောက် စာနာစရာ ဥပမာ မရှိ ဖြစ်နေ၏။

ဒုပ္ပရိယောဂါဟော = အလွန်ဉာဏ်ဖြင့် သက်ဝင်နိုင်ခဲ၏။ သမုဒ္ဒရာပင်လယ်ကြီးကို ထိုးဝါးကြီးတာတို့ဖြင့် မထောက်လှမ်းနိုင်သကဲ့သို့ ဓေနေယျဉာဏ်တို့ဖြင့် လွန်စွာ သက်ဝင်နိုင်ခဲ၊ ထောက်မှီနိုင်ခဲ၏။

---

၁။ မျက်မြင် နှလုံးသွင်း ရှုစားစရာ။

အချင်းဝစ္ဆ၊ အကြင်နာမ်ဝတ္ထု ခံစားချက်ဖြင့် သတ္တဝါတစ်ဦးတစ်ယောက်ကို "ကြမ်းသည်၊ နူးညံ့သည်၊ ပူသည်၊ အေးသည်"ဟူ၍ ပညတ်လို သမုတ်လိုသူက သမုတ် ပညတ်ပေရာ၏။ အကြင်နာမ်ဝတ္ထု အမှတ်သညာဖြင့် သတ္တဝါ တစ်ဦး တစ်ယောက်ကို လီမ္မာသည်၊ မိုက်သည်၊ ကောင်းသည်၊ ဆိုးသည်ဟူ၍ မှတ်လိုက မှတ်ပေရာ၏။ အကြင်နာမ်ဝတ္ထုသင်္ခါရတို့ဖြင့် သတ္တဝါ တစ်ဦးတစ်ယောက်ကို သစ်လွင်သည်၊ နွမ်းလျသည်၊ တောက်ပသည်။ ညှိုးမှိန်သည်ဟူ၍ ပညတ်လို၊ သမုတ်လိုက ပညတ်သမုတ်ပေရာ၏။ အကြင် နာမ်ဝတ္ထု အသိစိတ်ဖြင့် သတ္တဝါ တစ်ဦးတစ်ယောက်ကို စိတ်ထက်သူ၊ စိတ်ပျော့သူ၊ စိတ်ကောင်းရှိသူဟူ၍ ပညတ် လို၊ သမုတ်လို၍ သမုတ်ပညတ်ပေရာ၏။ ထိုဝိညာဉ်စိတ်ကို၊ အကြောင်း သမုဒယ ကို ပယ်သဖြင့် ငါ ပယ်အပ်ပြီးပြီ။

အိုဝစ္ဆ၊ ဝိညာဉ်နှင့်စပ်၍ ခေါ်ဝေါ်အပ်သော၊ စိတ်မြတ်၊ စိတ်ကောင်း၊ စိတ်ညံ့၊ စိတ်ထက်စသော ပညတ်မျိုးဟူဟူသမျှမှ လွတ်၍နေသော ထိုသတ္တဝါ သည် အလွန်နက်နဲနေ၏။ တစ်စုံတစ်ယောက်နှင့် နှိုင်းထောက်စာနာစရာ ဥပမာ မရှိဖြစ်နေ၏။ ပင်လယ်သမုဒ္ဒရာကြီးကို ထိုးဝါး၊ ကြိုးတာတို့ဖြင့် မထောက်လှမ်း နိုင်သကဲ့သို့ ဝေနေယျတို့၏ ဉာဏ်ဖြင့် လွန်စွာသက်ဝင်နိုင်ခဲ၏။ ထောက်မှီနိုင်ခဲ၏။ ယင်းဝိညာဏ သင်္ခါ ဝိမုတ္တပုဂ္ဂိုလ်၏ ဖြစ်နေပုံအခြင်းအရာကို ဝေနေယျတို့ ဉာဏ်ဖြင့် မတိုင်းထွာ၊ မထောက်လှမ်းနိုင်စရာ ဖြစ်၍နေ၏။

အိုဝစ္ဆ၊ ထို့ကြောင့် ငါဘုရားအားလည်း သတ္တသညာဟူသော တထာဝတ သညာကို ပယ်တော်မူပြီးသည်၏အဖြစ်၊ ဝိညာဏသင်္ခါ ဝိမုတ္တပုဂ္ဂိုလ်လည်း လွန်စွာနက်နဲ၍ နေသည်၏အဖြစ်ကြောင့် ထိုဝိညာဏသင်္ခါဝိမုတ္တ (ဝိညာဉ်ဖန် စီရင်မှု)မှ လွတ်နေသော ပုဂ္ဂိုလ်သည် မိမိတည်တံ့နေရာ နိဗ္ဗာန်၌ ဖြစ်၍နေ၏ဟူ ဤသို့ ငါဟောသော်လည်း သဿတဒိဋ္ဌိအယူ သူထင်ခွင့် ရှိလေသောကြောင့် မသင့်နိုးနိုင်။

ထို့သို့ ငါဘုရားအားလည်း ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဉ်တို့ကို စွဲ၍ဖြစ်သော တထာဂတဟူသော သတ္တသညာ (သတ္တဝါဟူသော အမှတ်အသား) ကို ပယ်တော်မူသည်၏အဖြစ်၊ ရူပါဒိသင်္ခါ ဝိမုတ္တ ပုဂ္ဂိုလ်လည်း အလွန်နက်နဲ၍ နေသည်၏အဖြစ်ကြောင့် ကိလေသာတို့မှ ကျွတ်လွတ်ပြီးသော ရဟန္တာပုဂ္ဂိုလ် သည် "နောင်ဘဝ အဘယ်၌ ဖြစ်လတ္တံ့"ဟူ၍ ဤသို့ ငါဟောသော်လည်း မလျော်ကန်။ "နောင်အခါ ဖြစ်လတ္တံ့သူ လည်း အချို့၊ မဖြစ်လတ္တံ့သူ လည်း အချို့"ဟူ၍ ဤသို့ ငါဟောသော်လည်း မလျောက်ပတ်။ "နောင်အခါ ဖြစ်လေ

ဦးမည်လည်း မဟုတ်၊ မဖြစ်လေဦးမည်လည်း မဟုတ်" ဟူ၍ ဤသို့ ငါဟော
သော်လည်း မသင့်နိုးနိုင်ဟု မိန့်တော်မူ၏။

အဓိပ္ပာယ်သော်ကား ဝိမုတ္တစိတ္တသဓိဝ[၁]၊ ရဟန္တာပုဂ္ဂိုလ် စုတေပြီးနောက်
ဖြစ်လိမ့်ဦးမည်၊ မဖြစ်လိမ့်မည် အကြောင်းနှင့်စပ်၍ ဝစ္ဆပရိဗိုဇ်လျှောက်ထားရာဝယ်
ဤသို့ ထိုဝိမုတ္တစိတ္တ ရဟန္တာသည် "နောင်ဖြစ်လိမ့်ဦးမည်"ဟု ငါဟောသော်လည်း
မသင့်။ "မဖြစ်လတ္တံ့"ဟု ငါဟောသော်လည်း မသင့်။

ဤသို့ စသည်ဖြင့် ဘုရားရှင် မိန့်တော်မူလေသည့်အခါ အဘယ်အကြောင်း
ကြောင့် ဤသို့ မြတ်စွာဘုရား မိန့်ကြားတော်မူပါလိမ့်မည်နည်း။ အဘယ်သို့
ဖြစ်လေသည်မသိဟု ထိုဝစ္ဆပရိဗိုဇ် တွေဝေခြင်းသို့ ရောက်လေသဖြင့် မိမိနားမလည်
နိုင်၊ မသိနိုင်ကြောင်း၊ တွေဝေကြောင်းကို ဘုရားသခင်အား လျှောက်ထားပြန်သည့်
အခါ–

အိုး–ဝစ္ဆပရိဗိုဇ်၊ ဤအရာ၌ သင် တွေဝေခြင်းဟာ သင့်လှတော့၏။ ဤသို့
သော ရဟန္တာပုဂ္ဂိုလ် စုတေပြီးနောက် ဖြစ်, မဖြစ် စသည်နှင့်စပ်၍ သိရမည့်
အရာကား လွန်စွာ ခက်ခဲ၏။ လွန်စွာ သိနိုင်ခဲသောအရာဖြစ်၏။ အသင်
ကဲ့သို့ အညဒိဋ္ဌိက[၂] ငါဘုရား သာသနာမှအပ အယူရှိသူကို မဆိုထားဘိ၊
ဤသာသနာဝင် ဖြစ်သူတို့သော်မှလည်း ဤအရာဝယ် လွန်စွာကြံနိုင်ခဲ၊ သိနိုင်ခဲစွ။
ပညာကြီးလှသူတို့ အရာသာ ဖြစ်၏။ သမထ ဝိပဿနာတရားများကို ကြိုးစား
အားထုတ် အာစရိယ မုဋ္ဌိ[၃] နည်းကောင်းရသူတို့မှတစ်ပါး သိနိုင်၊ မြင်နိုင်ခဲလှ
တော့၏။

အိုး–ဝစ္ဆ၊ အသင်၏ရှေ့မှ တောက်၍နေသော မီးကို သင်မြင်သည့်အခါ
"ဤမီးသည် ငါ၏ရှေ့၌ တောက်နေ၏"ဟု သင် သိမည် မဟုတ်ပါလောဟူ၍
မေးတော်မူသည့်အခါ "မှန်ပါသည် ဘုရား"ဟူ၍ နားတော်လျှောက်ရာတွင်–

အိုး–ဝစ္ဆ၊ အသင်၏ရှေ့၌ ငြိမ်းသွားသော ထိုမီးကို အဘယ်အရပ်သို့ ဤမီး
သွားသနည်းဟု သူတစ်ပါးက သင့်ကို မေးခဲ့ပြန်လျှင် အသင် ဘယ်ကဲ့သို့
ဖြေမည် နည်းဟု ဘုရားရှင်က မေးတော်မူပြန်သည့်အခါ "ဤသို့ မေးခြင်းသည်
မသင့်ပါ။ ဤမီးသည် လောင်စာမရှိသဖြင့် ငြိမ်းလေတော့သည် ဘုရား"ဟု
လျှောက်ထား ပြန်သည်ရှိသော်–

---

၁။ ကိလေသာမှ ကျွတ်လွတ်ပြီး အသက်ထင်ရှားရှိနေသူ။

၂။ သာသနာမှအပ တစ်ပါးသော အယူ ရှိနေသူ။

၃။ ဆရာ့နည်းကို လက်ဆုပ်လက်ကိုင် ပိုင်ပိုင်ရရှိထားသူ။

ဤနည်းအတူပင် ဝစ္ဆ၊ ဤဘဝ ရဟန္တာပုဂ္ဂိုလ် စုတေပြီးနောက် အဘယ်ဘဝသို့ ရောက်၊ မရောက် စသည်ဆိုရာ ရုပ်၊ နာမ်၊ ဒြပ် မရှိ၊ အမာခံမရှိ။ ထိုရဟန္တာပုဂ္ဂိုလ်၏ ရုပ်၊ နာမ်၊ ခန္ဓာမီး ငြိမ်းကြီး ငြိမ်းလေပြီးသည့်နောက် ရုပ်၊ နာမ်၊ ခန္ဓာနှင့်စပ်၍ ခေါ်ဝေါ်ပညတ်အပ်သော လူ၊ နတ် စသော ပညတ်မျိုးမှ လွတ်လျက် ရူပါဒီသင်္ခါဝိမုတ္တအဖြစ်သို့ရောက်၍ နိဗ္ဗာန်၌ လွတ်နေသော ရဟန္တာ၏ အလွန်နက်နဲခြင်း ဂမ္ဘီရ၊ အပ္ပမေယျ၊ ဒုပ္ပရိယောဂါဟ ဖြစ်၍နေသဖြင့် ထိုနိဗ္ဗိဝ (သက်မဲ့) ရဟန္တာအား မိမိလွတ်၍နေရာ နိဗ္ဗာန်၌ "ရှိ၏၊ မရှိ" စသည်ဖြင့် ဟောတော်မူခြင်းငှာ မသင့်သောကြောင့် နောင်ဖြစ်လေဦးမည်၊ မဖြစ်မည် စသည်ဖြင့် ငါ ဟောတော်မူ၍ မသင့်ဟု မှတ်လေဟု ဆိုလိုသည်။

အို-ဝစ္ဆ၊ ဤသို့ ငါဘုရားအားလည်း သတ္တသညာဟူသော တထာဂတသညာကို ပယ်သောကြောင့်လည်းကောင်း၊ ရူပါဒီသင်္ခါဝိမုတ္တ ပုဂ္ဂိုလ်တို့၏ ထိုမိမိရောက်ရာ နိဗ္ဗာန်၌ ရှိ၏၊ မရှိ စသည်ဖြင့် ဟောတော်မူရန် မသင့်သောကြောင့်လည်းကောင်း၊ ယင်းသို့သော အကြောင်းနှစ်ပါးကြောင့် ဤရဟန္တာသည် နောင်အဘယ်၌ ဖြစ်လိမ့်ဦးမည်၊ မဖြစ်လိမ့် စသည်ဖြင့် ငါဟောတော်မူ၍ မသင့်ဟု သင် မှတ်လေဟု ဆိုလိုသည်။

အကယ်၍ ရူပါဒီသင်္ခါဝိမုတ္တ ဖြစ်၍ နိဗ္ဗာန်၌ တည်နေသော နိဗ္ဗိဝ ရဟန္တာအား ထိုမိမိလွတ်၍နေရာ နိဗ္ဗာန်၌ ရှိ၏ဟူ၍ ဆိုသင့်သည်ဖြစ်အံ့။ ဤဘဝ ဝိမုတ္တ စိတ္တ၊ သဇီဝ ရဟန္တာ စုတေပြီးနောက် ဖြစ်ဦးလတ္တံ့ဟူ၍ ငါဟောတော်မူသော် သင့်လျော်ပါ၏။ အကယ်၍ ရူပါဒီသင်္ခါဝိမုတ္တ ဖြစ်၍ နိဗ္ဗာန်၌တည်နေသော ထိုနိဗ္ဗိဝ ရဟန္တာအား ထိုမိမိတည်၍ နေရာ နိဗ္ဗာန်၌ "မရှိ"ဟု ငါ ဟောတော်မူခြင်းငှာ သင့်လျော်ခဲ့လျှင် ဤဘဝ ဝိမုတ္တစိတ္တ၊ သဇီဝ ရဟန္တာစုတေပြီးနောက် "အဘယ်၌မှာမှ မဖြစ်။ အဘာဝ ဖြစ်လေတော့သည်" ဟု ငါဟောတော်မူသော် သင့်လျော်ပါ၏။ ယခုမူကား ယင်းသို့ ရှေ့စကားနှစ်ပါးစလုံး စသည်ကိုပင် ငါဘုရား ဟောကြားတော်မူခြင်းငှာ မသင့်လေသောကြောင့် နောက် စကား နှစ်ပါးစလုံး စသည်ကိုလည်း ငါဘုရား ဟောကြားတော်မမူဟု သင် မှတ်လေဟု ဆိုလိုသည်။

ဤသို့ မြတ်စွာဘုရားက ဟောကြားတော်မူသည်ရှိသော် ဝစ္ဆပရိဗိုဇ်သည် ဝမ်းမြောက်ခြင်း ပြင်းစွာဖြစ်၍ မြတ်စွာဘုရားအား ဤသို့ နားတော်လျှောက်လေသတည်း။

အို-အရှင်ဂေါတမ၊ ဥပမာတစ်ခုဖြင့် တပည့်တော် လျှောက်ထားပါရစေ။ ရွာ၏အနီး၊ နိဂုံး၏အနီး၌ ကြီးစွာသော အင်ကြင်းပင်ကြီးတစ်ပင် ရှိလေ၏။ ထိုအင်ကြင်းပင်ကြီး၏ နိစ္စမဟုတ်နိုင်သောကြောင့် အကိုင်းအခက် အရွက်များကို

လူ့တို့ ခုတ်ထွင်ဖျက်ဆီးကုန်ရာ၏။ အခွံ အခေါက် အပွေးတို့ကို ခွာကုန်ရာ၏။ အကာကို ခုတ်ခွာဖျက်ဆီးကုန်ရာ၏။

ထိုအင်ကြင်းပင်ကြီးသည် အခါတစ်ပါးတွင် လူတို့၏ခုတ်ခွာဖျက်ဆီးမှုများကြောင့် အကိုင်း အခက် အရွက်လည်း မရှိ။ အခွံ အခေါက် အပွေးများလည်း မရှိ။ ကောင်းသော အပေါ်လွှာအကာလည်း မရှိလေတော့ဘဲ အနှစ် သက်သက်ချည်းသာ တည်ပါလေ၏။

ဤအတူသာလျှင် အရှင်ဂေါတမ၏ စကားတော်များသည် အကိုင်း အခက် အရွက် အပိုအမိုမရှိ၊ အပွေး အခေါက် အမြှောက်အပင့်မပါ၊ အကာအလျှမ်း စကားသွမ်းမှ ကင်းလှပေ၏။ လိုရင်းတရား အနှစ်သက်သက်၌ တည်တော်မူပါပေသည်။

အို–အရှင်ဂေါတမ၊ အကာမဖက် အနှစ်သက်သက် မိန့်တော်မြွက်သဖြင့် တကယ်နှစ်သက်ဖွယ်ရှိလှပေ၏။ အံ့ဩထိုက်ပါပေ၏။ ယနေ့မှ အစပြု၍ တပည့်တော်အား ရတနာသုံးရပ် ဆည်းကပ်တတ်သူ၊ ဥပါသကာ လူတစ်ယောက်ဟူ၍ အသိအမှတ်ပြုတော်မူပါ ဘုရား ဟူ၍ လျှောက်ပြီးလျှင် ဗုဒ္ဓဝါဒကို ခံယူလေသတည်း။

**မှတ်ချက်။** ။လေတိုက်ခတ်အပ်သော မီးလျှံသည် အချင်းခပ်သိမ်းငြိမ်းပျောက်၍ သွားသကဲ့သို့ ပရိနိဗ္ဗာန်ပြုသွားသော ရဟန္တာပုဂ္ဂိုလ်၏ ရုပ်နာမ်သည် အသစ်တစ်ဖန် ပြန်၍မဖြစ်။ အချင်းခပ်သိမ်းငြိမ်းပျောက်၍ သွားသည်ဟူသော အနက်ကိုသာ ပြတော်မူလိုသည်ဟု မှတ်အပ်၏။ ထိုရဟန္တာသည် အလုံးစုံပြတ်တောက် ပျောက်၍ သွားလေတော့၏ဟူသော အနက်ကို ပြတော်မူသည် မဟုတ်ဟု မှတ်အပ်၏။

အကယ်၍ ယင်းသို့ပြတော်မူခဲ့လျှင် ယင်းရူပါဒီသခါ ဝိမုတ္တ၏ နက်နဲသည်၏အဖြစ်ကို ဟောတော်မမူလေရာသောကြောင့်တည်း။ ရုပ်နာမ်လည်း ငြိမ်းပျောက်၊ အလုံးစုံလည်း မပျောက်ဖြစ်ခဲ့သော် အဘယ်သို့ အခြင်းအရာဖြစ်၍ နေပါသနည်း ဟူငြားအံ့။ ဂမ္ဘီရော၊ အပ္ပမေယျော၊ ဒုပ္ပရိယောဂါဟော၊ သေယထာပိ မဟာသမုဒ္ဒေါ ဟူသော ပါဠိတော်အတိုင်း မဟာသမုဒ္ဒရာရေကို စလယ်တောင်းဖြင့် ခြင်၍ မရေမတွက်နိုင်၊ ထီးဝါးတို့ဖြင့် မထောက်လှမ်းနိုင်သကဲ့သို့ ဝေနေယျတို့ ဉာဏ်ဖြင့် မချင့်တွက်နိုင်၊ ဉာဏ်မမီနိုင်၊ အလွန်နက်နဲသော အခြင်းအရာဖြစ်၍ နေသည်ဟူ၍သာ မှတ်အပ်၏။

(မဇ္ဈိမပဏ္ဏာသ ပါဠိတော်၊ ရှင်းအဋ္ဌကထာ)

# ဓူရ နှစ်ပါး

**ပြဿနာ = ထမ်းဆောင်လိုမှု။**

**မေးလျှောက်သူ = စက္ခုပါလ မထေရ်။**

သာဝတ္ထိပြည်၌ သူကြွယ်မျိုး မဟာပါလ၊ စူဠပါလဟူ၍ ညီနောင်နှစ်ယောက်ရှိ၏။ အစ်ကိုဖြစ်သူ မဟာပါလသည် ရှိပစ္စည်းအားလုံးကို ညီဖြစ်သူ စူဠပါလအား လွှဲအပ်၍ ရဟန်းပြုသွား၏။ ငါးဝါတိုင်တိုင် ဘုရားခြေတော်ရင်း၌ လုပ်ကျွေးပြုစုနေ၏။

သီတင်းကျွတ် မဟာပဝါရဏာနေ့ ဖြစ်၏။ ငါးဝါရ မဟာပါလ ရဟန်းသည် အခြားရဟန်းများ မလျှောက်ဖူးသော စကားဖြင့် မြတ်စွာဘုရားအား လျှောက်ထား မေးမြန်းလေ၏။

မေး။ ရှွေဘုန်းတော်သခင် အရှင်ဘုရား၊ ဤသာသနာ၌ ဓူရ[၁] အဘယ်နှစ်ပါး ရှိပါသနည်း ဘုရား။

ဖြေ။ ချစ်သား မဟာပါလ၊ ဂန္ထဓူရ၊ ဝိပဿနာဓူရ ဟူ၍ ဓူရတို့သည် နှစ်ပါး ရှိကုန်၏။

မေး။ မှန်လှပါ ဘုရား။ အဘယ်ကို ဂန္ထဓူရခေါ်၍ အဘယ်ကို ဝိပဿနာ ဓူရ ခေါ်ကြောင်း ခွဲခြား၍ မိန့်ကြားတော်မူပါ ဘုရား။

ဖြေ။ ချစ်သား မဟာပါလ၊ မိမိ၏ဉာဏ်ပညာ အနုအရင့်ကို လိုက်၍ တစ်ခုသော နိကာယ်ကိုလည်းကောင်း၊ နှစ်ခုသော နိကာယ်ကိုလည်းကောင်း၊ အလုံးစုံသော ပိဋကတ်သုံးပုံဟု ဆိုအပ်သော ငါဘုရား စကားတော်ကိုလည်း

---

၁။ ဓူရ=မလုပ်မနေရ၊ ကောန်မချွတ် ရဟန်းတို့ဆောင်ရွက်ရမည့် အလုပ်တာဝန်ကို ဓူရ ဟူ၍ ခေါ်၏။

ကောင်း သင်ယူ၍ ထိုပိဋကတ်သုံးပုံကို ဆောင်ခြင်း၊ အံခြင်း၊ ပို့ချခြင်းသည် ဂန္ထဓုရ မည်၏။ ပေါ့ပါးသော အသက်မွေးခြင်းရှိသည်ဖြစ်၍ ဆိတ်ငြိမ်သော အရပ်၌ မွေ့လျော်သော ရဟန်း၏ မိမိကိုယ်၌ ကုန်ခြင်း၊ ပျက်ခြင်း "ခယဝယ" ကမ္မဋ္ဌာန်းကို ဝိပဿနာပွားများလျက် အရဟတ္တဖိုလ်ကို ယူခြင်းသည် ဝိပဿနာဓုရ မည်၏။

မေး။ အရှင်ဘုရား၊ တပည့်တော်မှာ အသက်အရွယ် ကြီးရင့်လေမှ ရဟန်း ပြုလာရသူ ဖြစ်ပါသောကြောင့် စာပေသင်ကြားပို့ချမှု 'ဂန္ထဓုရ' တာဝန်ကို မထမ်း ဆောင်နိုင်တော့ပါ။ ဝိပဿနာဓုရကိုသာ ဖြည့်ကျင့်ပါအံ့။ တပည့်တော်အား တပည့်တော်နှင့် သင့်လျော်မည့် တစ်ခုသော ကမ္မဋ္ဌာန်းတရားကို သနား ချီးမြှင့်တော်မူပါ။

မြတ်စွာဘုရားသည် မဟာပါလ ရဟန်းအား အရဟတ္တဖိုလ်တိုင်အောင်သော ကမ္မဋ္ဌာန်းတရားကို ဟောကြား၍ ပေးတော်မူလိုက်လျှင် မဟာပါလသည် ဘုရား အပါးတော်မှ ဖဲခွာပြီး ပစ္စန္တရာဇ်အရပ်သို့ သွားကာ ကမ္မဋ္ဌာန်းကို ပွားများ အားထုတ်လေ၏။

(ဓမ္မပဒအဋ္ဌကထာ၊ ယမကဝဂ်၊ စက္ခုပါလမထေရ် ဝတ္ထုမှ)

# လူ့မှုပူ လုံရေး

**ပြဿနာ = လောကီရေး၊ လောကုတ္တရာရေး။**

**မေးလျှောက်သူ = ဗျဂ္ဃပဇ္ဇ။**

ဗျဂ္ဃပဇ္ဇဟူသော စကားလုံးသည် တစ်ဦးသော သူ၏ အမည်နာမဖြစ်၏။ ထိုသူ သည် ဗုဒ္ဓမြတ်စွာဘုရားအား အသည်းစွဲ ကြည်ညိုသူ၊ ဗုဒ္ဓဝါဒကို အကြွင်းမဲ့ ယုံကြည်သက်ဝင်လက်ခံသူ 'ဗုဒ္ဓဝါဒီ'လည်း ဖြစ်၏။ ဗုဒ္ဓမြတ်ဘုရားသည် အရာ ခပ်သိမ်းကို အကြွင်းမဲ့ အကုန်အစင်သိမြင်တော်မူသော "သဗ္ဗညုတ" ရွှေဉာဏ် တော်သခင် ဖြစ်တော်မူကြောင်းကိုလည်း ဗျဂ္ဃပဇ္ဇသည် ကောင်းစွာ နားလည် ထားသူလည်း ဖြစ်၏။

ဗျဂ္ဃပဇ္ဇသည် ဒီဃဇာဏု အမည်ရှိသော ကောလိယမင်း၏ သားဖြစ်၍ ကောလိယပြည်၌ နေထိုင်ကြီးပွားသူ ဖြစ်၏။ အခါတစ်ပါးတွင် မြတ်စွာဘုရားသည် ကောလိယပြည်သို့ ကြွတော်မူလာပြီး 'ကက္ကရပတ္တ' မည်သော နိဂုံး၌ သီတင်းသုံး နေတော်မူလေသည်။

ထိုသတင်းကို ဗျဂ္ဃပဇ္ဇ ကြားလေသော် မြတ်စွာဘုရားကို ဖူးမြင်ခြင်းငှာ ကက္ကရပတ္တနိဂုံးကို သွားလေသည်။ လမ်းခရီးအကြား၌ တွေးလာသည်ကား ဗုဒ္ဓ မြတ်စွာအား အခါခပ်သိမ်း ဖူးမြင်ခွင့်ရသည်မဟုတ်၊ ကြုံတောင့်ကြုံခဲ ဖူးခွင့်ရသည့် အခိုက်တွင် သူ ခပ်သိမ်းအတွက် အကျိုးရှိရာရှိကြောင်းများကို လျှောက်ထားရသော် ကောင်းလေစွ။

ဤသို့ စိတ်ကူးလာခဲ့ပြီး ထိုနိဂုံးသို့ရောက်သောအခါ ဗုဒ္ဓဘုရားအထံတော် သို့ ချဉ်းကပ်ပြီး ဘုရားသခင်ကို ရိုသေစွာရှိခိုးလျက် အောက်ပါ ပြဿနာကို လျှောက်ထားမေးမြန်းခြင်း ပြုလေ၏။

စပယ်ဦးစာပေ

မေး။ ဘုန်းတော်ကြီးလှသော မြတ်စွာဘုရား၊ တပည့်တော်များသည် အိမ်ရာတည်ထောင် လူ့ဘောင်၌ နေကြသည့် လူဝတ်ကြောင်များဖြစ်ကြသည့် အလျောက် ကာမသုခကို ခံစားခြင်းနှင့် မကင်းကြပါ ဘုရား။ သားတွဲလဲ၊ သမီး တွဲလဲတည်းဟူသော အမျိုးမျိုးသော အနှောင်အဖွဲ့၊ အသွယ်သွယ်သော အကြောင်း ကြောင်းတို့ကြောင့် နေကြရ၊ ထိုင်ကြရသည်မှာ ကျဉ်းကျပ်လှပါ၏။ အမွှေးအထုံ၊ ပန်းနံ့သာ၊ နံ့သာပျောင်း စသော ကောင်းနိုးရာရာဟူသမျှတွေကိုလည်း ဆင်ယင် လိမ်းသ ဆောင်ကြရပါကုန်၏။ ကာသိတိုင်း၌ ဖြစ်သော အဖိုးတန် စန္ဒကူးပုဆိုး ကိုလည်း ဝတ်ကြရပါကုန်၏။ ရွှေငွေများကိုလည်း ရတနာအဖြစ်ဖြင့် သိုမှီး သိမ်းဆည်းကာ သာယာကြရပါကုန်၏။

ဘုန်းတော်ကြီးသော အရှင်ဘုရား၊ လူဝတ်ကြောင်ဖြစ်ကုန်သော တပည့် တော်များနှင့် သင့်လျော်မည့်တရားကို ဟောကြားတော်မူပါ ဘုရား။ အကြင် တရားသည် တပည့်တော်တို့အဖို့ မျက်မှောက်သော ကိုယ်၏အဖြစ်၌ အကျိုးစီးပွား ဖြစ်ထွန်းခြင်း၊ ချမ်းသာခြင်းငှာ ထိုက်၏။ တမလွန်ဘဝ၌လည်း အကျိုးစီးပွား ဖြစ်ထွန်းခြင်း၊ ချမ်းသာခြင်းငှာ ထိုက်၏။ ထိုသို့ပစ္စုပ္ပန် သံသရာ နှစ်ဖြာသော အကျိုးကို ဖြစ်စေမည့် တရားမျိုးကို ဟောကြားတော်မူပါ ဘုရား။

ဖြေ။ ဗျဂ္ဃပဇ္ဇ၊ နာလော့။ ဤ ငါဟောအပ်လတ္တံ့သော တရားတို့ကား မျက်မှောက်သောကိုယ်၏ အဖြစ်၌လည်းကောင်း၊ တမလွန်ဘဝ၌လည်းကောင်း၊ အကျိုးစီးပွားဖြစ်ခြင်း၊ ချမ်းသာခြင်းငှာ ဖြစ်ကုန်၏။ ထိုတရားတို့သည် အရေ အတွက်အားဖြင့် လေးပါးရှိကုန်သည်။ လေးပါးဟူသော်ကား–

(၁) နိုးကြားထကြွ၊ လုံ့လနှင့် ပြည့်စုံခြင်း တစ်ပါး။
(ဥဋ္ဌာနသမ္ပဒါ)

(၂) အစောင့်အရှောက်နှင့် ပြည့်စုံခြင်း တစ်ပါး။
(အာရက္ခသမ္ပဒါ)

(၃) ကောင်းသော အဆွေခင်ပွန်းရှိခြင်း တစ်ပါး။
(ကလျာဏမိတ္တသမ္ပဒါ)

(၄) ညီညွတ်စွာ အသက်မွေးခြင်း တစ်ပါး။
(သမဇီဝိတသမ္ပဒါ)

ဤ လေးပါးတို့ ဖြစ်ကုန်၏။

(၁) ဗျဂ္ဃပဇ္ဇ၊ နာဦးလော့။ နိုးကြားထကြွ လုံ့လနှင့်ပြည့်စုံခြင်းဟူသည် ကား ဤလောက၌ အမျိုးကောင်းသားသည် ကုန်သွယ်ခြင်း၊ လယ်လုပ်ခြင်း၊ နွား

မွေးခြင်း၊ လက်မှုအတတ်၊ အင်္ဂါရသအတတ်၊ မင်းထံခစားခြင်း အစရှိသော အမှတ် မထင်သော အတတ်ဖြင့် အသက်မွေးခြင်း၌ အကြင်အမှုကို ပြုပေ၏။ ထိုထို မိမိအသက်မွေးသော အမှု၌ ကျွမ်းကျင်သည်၊ လိမ္မာသည်၊ တတ်မြောက်သည် ဖြစ်၏။ ပျင်းရိခြင်းလည်း မရှိ။ မိမိလည်း ပြုခြင်း၌ စွမ်းနိုင်၏။ သူတစ်ပါးကို လည်း စီရင်ခြင်း၌ စွမ်းနိုင်၏။ ဤသည်ကို နိုးကြားထကြွ လုံ့လနှင့် ပြည့်စုံ သော သူဟု ဆိုအပ်၏။

(၂) အို–ဗျဂ္ဃသစ္စ၊ အစောင့်အရှောက်ပြည့်စုံခြင်းဟူသည်ကား ဤလောက၌ အမျိုးကောင်းသားသည် ထကြွလုံ့လလှုပ်ရှားမှုကို စွဲ၍ဖြစ်ကုန်သော စည်းစိမ်တို့ သည် ရှိကုန်၏။ ဖြစ်ကုန်၏။ ထိုစည်းစိမ်တို့ကို မပျောက်မပျက်ရအောင် စောင့် ရှောက် လုံခြုံစေသဖြင့် ပြည့်စုံစေရာ၏။

အဘယ်သို့လျှင် စောင့်ရှောက်လုံခြုံစေရာသနည်းဟူမူကား "ငါ၏ဖြစ်ပြီး သော စည်းစိမ်ချမ်းသာတို့ကို မင်းစသော ရန်သူမျိုးငါးပါးတို့သည် မဖျက်ဆီးနိုင် စေသတည်း"ဟု နှလုံးပိုက်၍ သိမ်းဆည်းလုံခြုံစေခြင်းပင်တည်း။ ဤသည်ကို အစောင့်အရှောက်နှင့် ပြည့်စုံသည်ဟုဆိုအပ်၏။

(၃) အို–ဗျဂ္ဃသစ္စ၊ အဘယ်သည်လျှင် ကောင်းသော မိတ်ဆွေခင်ပွန်း ရှိသောသူ၏ အဖြစ်နှင့် ပြည့်စုံသနည်းဟူမူကား ဤလောက၌ အမျိုးကောင်းသား သည် အကြင်မြို့ရွာနိဂုံး၌ နေ၏။ မိမိနေသော ထိုမြို့၊ ထိုရွာ၊ ထိုနိဂုံး၌ အကြင် လူတို့သည် ပွားသောသီလ ရှိကုန်၏။ သဒ္ဓါ၊ သီလ၊ စာဂ၊ ပညာနှင့် ပြည့်စုံကြ ကုန်၏။ ထိုသူတို့နှင့်တကွ ကောင်းစွာမဆန့်ကျင်စေဘဲ ပေါင်းသင်း၍ ပြောဟော ခြင်း၊ နှီးနှောခြင်းကို ပြုအပ်၏။ အကြင်သို့သဘောရှိကုန်သော သီလ စသည်တို့နှင့် ပြည့်စုံသောသူတို့သို့ အတုလိုက်၍ ကျင့်အပ်ကုန်၏။ ဗျဂ္ဃသစ္စ၊ ဤသည်လျှင် ကောင်းသောအဆွေခင်ပွန်းနှင့် ပြည့်စုံသည်မည်၏ဟု ဆိုအပ်၏။

(၄) အို–ဗျဂ္ဃသစ္စ၊ ညီညွတ်စွာ အသက်မွေးခြင်းရှိသော သူ၏အဖြစ်သည် အဘယ်နည်းဟူမူကား စည်းစိမ်ဥစ္စာတို့၏ ရလတ္တံ့၊ ကုန်လတ္တံ့သည်ကို သိ၍ ညီညွတ်စွာ အသက်မွေးခြင်းကို ပြုရာ၏။ ရသည်ထက် အလွန်လည်း မသုံးဆောင် အပ်၊ အလွန်ယုတ်ညံ့၊ နည်းစွာလည်း မသုံးဆောင်အပ်။ ဤသို့ရလတ္တံ့၊ ကုန်လတ္တံ့ သော စည်းစိမ်ကို သိမ်းကြုံးမျှတ၍ တည်ရာ၏။

ငါ၏ ရလတ္တံ့သော စည်းစိမ်ဥစ္စာသည် ကုန်လတ္တံ့သော စည်းစိမ်ဥစ္စာကို ယူ၍ မ,တည်လတ္တံ့ဟု သိ၍ ညီညွတ်စွာ အသက်မွေးရာ၏။ ဥပမာသည်ကား–

ချိန်ဆရာ၊ ချိန်ဆရာ၏တပည့်သည် ချိန်ကိုချိန်၍ သိ၏။ ဤမျှထည့်သဖြင့် ချိန်သည် ဤမှာဘက်သို့ ညွတ်၏။ ဤမျှထည့်သဖြင့် ချိန်သည် ထိုမှာဘက်သို့ မြင့်၏ဟု သိသကဲ့သို့ အမျိုးကောင်းသားသည် စည်းစိမ်ဥစ္စာတို့၏ ဖြစ်လတ္တံ့၊ ကုန်လတ္တံ့ကို သိ၍ ညီညွတ်စွာ အသက်မွေးရာ၏။ ဖြစ်လတ္တံ့သည်ထက် အလွန်များစွာလည်း မသုံးဆောင်အပ်၊ အလွန်ယုတ်ညံ့၊ နည်းစွာလည်း မသုံးဆောင်အပ်။ ဤသို့ ဖြစ်လတ္တံ့သော စည်းစိမ်၊ ကုန်လတ္တံ့သော စည်းစိမ်ကိုယူ၍ တည်၏။ ကုန်ခြင်းသည် ပွားခြင်းကို ယူ၍ မ,တည်လတ္တံ့ဟု သိ၍ ညီညွတ်စွာအသက်မွေးရာ၏။

ဗျဂ္ဃသစ္စ၊ အမျိုးကောင်းသားသည် နည်းသောဥစ္စာရှိသည် ဖြစ်ပါလျက်နှင့် လွန်စွာသုံးဆောင်၍ အသက်မွေးခြင်းကို ပြုသည်ဖြစ်အံ့၊ ထိုသို့ပြုသောသူအား ဆိုတတ်ကုန်သော သူတို့သည် ဆိုကုန်ရာ၏။ နည်းသောဥစ္စာရှိသည် ဖြစ်ပါလျက်နှင့် အလွန်များသော ရေသဖန်းသီးကို ဆွတ်၍ စားရာဘိသကဲ့သို့ ဤအမျိုးသားသည် ဥစ္စာတို့ကို သုံးစားဘိ၏ဟု ဆိုကုန်၏။

ဗျဂ္ဃသစ္စ၊ အမျိုးသားသည် များသော စည်းစိမ်ဥစ္စာရှိသည် ဖြစ်လျက်နှင့် ဆင်းရဲငြိုငြင်၊ ယုတ်ညံ့စွာ သုံးဆောင်၍ အသက်မွေးအံ့၊ ထိုသို့မွေးသောသူကို ဆိုတတ်ကုန်သောသူတို့ ဆိုကုန်ရာ၏။ များစွာသော စည်းစိမ်ဥစ္စာ ရှိပါလျက်နှင့် မိမိလည်း မသုံးဆောင်ရက်၊ သူတစ်ပါးအားလည်း ပေးကမ်းစွန့်ကြဲခြင်း အမှုကို မပြုရက်၊ ဤသူသည် ကိုးကွယ်ရာမရှိသေးခြင်းဖြင့် သေရလတ္တံ့ဟု ဆိုကုန်ရာ၏။

ဗျဂ္ဃသစ္စ၊ အကြင်ကြောင့် အမျိုးသားသည် စည်းစိမ်တို့၏ ရခြင်း၊ ကုန်ခြင်းကို သိ၍ ညီညွတ်စွာ အသက်မွေးရာ၏။ ဤသည်ကို ညီညွတ်စွာအသက်မွေးသည်ဟု ဆိုအပ်၏။

အို–ဗျဂ္ဃသစ္စ၊ နာလော့။ စည်းစိမ်ဥစ္စာတို့ ပျက်စီးခြင်း လေးပါးတို့သည် ရှိကုန်၏။ လေးပါးဟူသော်ကား–

(၁) မိန်းမကြူးခြင်း တစ်ပါး။ (ဣတ္ထိဓုတ္တ)
(၂) သုရာကြူးခြင်း တစ်ပါး။ (သုရာဓုတ္တ)
(၃) ကြွေအန်စသည် ကစားကြူးခြင်း။ (အက္ခဓုတ္တ)
(၄) မကောင်းသော အဆွေခင်ပွန်းယုတ်ကို ကိုယ်စိတ်အတူပေါင်းဖော် ညီညွတ်မိခြင်း တစ်ပါး။

ဤသို့လျှင် လေးပါးတို့ ဖြစ်ကုန်သတည်း။

အို–ဗျဂ္ဃသစ္စ၊ နာလေော့။ လေးပါးကုန်သော တရားတို့သည် တမလွန်ဘဝ၌ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာခြင်းအလို့ငှာ ဖြစ်ကုန်၏။ လေးပါးဟူသော်ကား–

(၁) သဒ္ဓါ၊

(၂) သီလ၊

(၃) စာဂ၊

(၄) ပညာနှင့် ပြည့်စုံခြင်းပင်တည်း။

(၁) အို–ဗျဂ္ဃသစ္စ၊ သဒ္ဓါနှင့်ပြည့်စုံခြင်းဟူသည်ကား ရတနာသုံးပါးကို ယုံကြည်ခြင်း၊ ကံ ကံ၏အကျိုးကို ယုံကြည်ခြင်း၊ မြတ်စွာဘုရား၏ သဗ္ဗညုတဉာဏ်တော်ကို ယုံကြည်ခြင်း၊ မြတ်စွာဘုရား၏ အရဟံ အစရှိသော ဂုဏ်တော်ကို ယုံကြည်ခြင်း၊ ဤသည်လျှင် သဒ္ဓါနှင့် ပြည့်စုံခြင်းဟု ဆိုအပ်၏။

(၂) သီလနှင့် ပြည့်စုံခြင်း ဟူသည်ကား ငါးပါးသီလနှင့် ပြည့်စုံခြင်းတည်း။ ဤသည်လျှင် သီလနှင့် ပြည့်စုံခြင်းဟု ဆိုအပ်၏။

(၃) စာဂနှင့် ပြည့်စုံခြင်းဟူသည်ကား နောက်က ဆိုခဲ့သည့်အတိုင်း ကင်းသောဝန်တိုခြင်း ရှိသည်ဖြစ်၍ ကံ ကံ၏အကျိုးကို ယုံကြည်၍ ပေးကမ်းလှူဒါန်း စွန့်ကြဲခြင်းပင်တည်း။ ဤသည်လျှင် စာဂနှင့် ပြည့်စုံသောသူ ဟူ၍ ဆိုအပ်၏။

(၄) ပညာနှင့် ပြည့်စုံခြင်းဟူသည်ကား ကံ ကံ၏အကျိုးကို သိသည်ဖြစ်၍ အလွန်ရှုပ်ထွေးလှသော၊ တမလွန်နှင့် စပ်သော ခရီးခဲကို အမြဲသုတ်သင်ခြင်းပင်တည်း။ ဤသည်လျှင် ပညာနှင့်ပြည့်စုံသောသူ ဟူ၍ ဆိုအပ်၏။

ကောင်းသောစကားကို ဆိုတော်မူတတ်သော မြတ်စွာဘုရားသည် ဗျဂ္ဃသစ္စက မေးလျှောက်သော ပစ္စုပ္ပန်၊ သံသရာ နှစ်ဖြာသော ကောင်းကျိုးကို ပြီးစေနိုင်သော ကြီးပွားကြောင်းတရားကို အထက်ပါအတိုင်း ဖြေကြားတော်မူလိုက်၏။

(အင်္ဂုတ္တိုရ်ပါဠိတော်၊ ဒီဃဇာဏုသုတ်)

# ဘုရားကို သမက်ဖမ်းသူ

**ပြဿနာ = သမီးကညာ၊ ရွယ်ရောက်လာ**

**မေးလျှောက်သူ = မာဂဏ္ဍီယ ပုဏ္ဏား။**

ကိုယ့်သမီးချောကလေးကို ဘုန်းကြီးရဟန်းနှင့်မှ ထိမ်းမြားလို၊ လက်ထပ်ပေးလိုသူများ ရှိသေး၏။ ၎င်းတို့ကား နာမည်တူ မာဂဏ္ဍီယ ပုဏ္ဏားလင်မယားဖြစ်ပေသည်။

သူတို့သည် ပရိဗိုဇ်အနွယ်အဆက်မှ ဆင်းသက်လာသူများ ဖြစ်သောကြောင့် ရဟန်းတော်များကို မြတ်နိုးလေ့ရှိကြ၏။ တန်ခိုးရှိသူဟူ၍လည်း ယူဆကြ၏။ သူတို့တွင် မာဂဏ္ဍီဆိုသော သမီးတစ်ယောက်ရှိရာ အပျိုပေါက်အရွယ် ရောက်လာသောအခါ သမီးအား တော်ရုံတန်ရုံလူနှင့် မပေးစားလိုကြချေ။

သို့ကြောင့် လူရည်သန့်၊ ရုပ်ချောချော သမက်လောင်း ရရှိရေးအတွက် လင်မယားနှစ်ယောက်စလုံး လုံးပန်းကြသည်။ ရှာဖွေကြသည်။ သမက်လောင်းရွေးဖို့ လူရည်သန့်ကလေးတွေကို တွေ့ကား တွေ့၏။ သို့သော် ရဟန်းမဟုတ်၍ မပေးစားကြကုန်။ သူတို့လိုလားသော သမက်လောင်း၏ အင်္ဂါလက္ခဏာတို့ကား–

(၁) = အမျိုးမြတ်သူ ဖြစ်ရမည်။

(၂) = လူရည်သန့်၍ ရုပ်ချောရမည်။

(၃) = ထိုသူသည် ရဟန်းလည်း ဖြစ်ရမည်။

ဤအင်္ဂါသုံးချက်ကို မူထား၍ သမက်လောင်း ရှာဖွေနေကြ၏။

သူတို့ကား ကျေးလက် နိဂုံးဇနပုဒ်သူများ ဖြစ်ကြသည်။ ကုရုရာဇ်တိုင်း၊ ကမ္မာသဓမ္မနိဂုံး၌ နေထိုင်ကြ၏။ တောတွင်းသူဆိုသော်လည်း သူတို့သမီးကလေး

မာဂဏ္ဍီမှာ ငါးလီကောင်းခြင်း၊ ခြောက်ပစ်ကင်း၍၊ ကြော့ရှင်းယဉ်စ၊ ရှုမဝ ကလေးတည်း။

သူတို့အဖို့တွင် ယခုအချိန်၌ သမက်လောင်း ကောင်းကောင်းရရှိရေးသည် အဓိက ဖြစ်နေသည့်အလျောက် မာဂဏ္ဍီယ ပုဏ္ဏားသည် တစ်နေ့သောအခါ ရွာပြင်ဘက်၌ ညလုံးပေါက် မီးပူဇော်ခြင်းပြု၍ သမက်ကောင်းနှင့် တွေ့ရှိရလို ကြောင်း ဆုတောင်းပြီးလျှင် နံနက်စောစော အိမ်သို့ပြန်လာခဲ့လေ၏။

ရွာအဝင်တံခါးဝ၌ မြတ်စွာဘုရားနှင့် တွေ့လေသော် "ကော်ပြီ၊ ငါတို့ လိုလားနေသော သမက်လောင်းကို တွေ့ပြီ" ဟူ၍ ဝမ်းမြောက်ဝမ်းသာ အိမ်သို့ လျင်မြန်စွာ သွား၍ မယားအား အကျိုးအကြောင်း ပြောပြလေ၏။

"သမက်လောင်းတွေ့ခဲ့ပြီ ရှင်မ၊ မြန်မြန်လုပ်ပါ၊ သမီးကော ဘယ်မှာလဲ၊ မြန်မြန်ခေါ်ပြီး ဖီးလိမ်းပြင်ဆင်ပေးပါ၊ သမီးကို ဒီကနေ့ လင်ပေးစားတော့မည်"

အရေးတကြီး ပြောဆိုချက်ကြောင့် ပုဏ္ဏေးမမှာ ပထမသော် အံ့အားသင့် နေ၏။ လင်ဖြစ်သူက အတန်တန်ပြောနေသဖြင့် သမီးကို အစွမ်းကုန်ကြော့နေ အောင် ဆင်ယင်လျက် သားအမိ သားအဖ သုံးယောက် ခပ်သွက်သွက် အိမ်က ထွက်ခဲ့ကြသည်။

တံခါးဝသို့ ရောက်လေသောအခါ ဘုရားကို မတွေ့လေတော့သဖြင့် "ညည်းတို့ နှေးကွေးသည့်အတွက် သမက်ကောင်းနှင့် လွဲရသည်" ဟူ၍ မယား အား ဆူပူကြိမ်းမောင်းခြင်းပြုလေတော့ရာ မယားခမျာမှာ ဘာမျှ မပြောသာတော့ဘဲ ခေါင်းငုံ့၍သာ ခံနေရရှာလေ၏။

"ဟောဒီမှာ သူ့ခြေရာ"

မာဂဏ္ဍီက ပုဏ္ဏားသည် မယားကို ဆူလျက်က မြေထက်တွင် ထင်နေသော မြတ်စွာဘုရား၏ ခြေတော်ရာ[၁]ကို မြင်သဖြင့် မယားအား လက်ညှိုးထိုး၍ ပြောပြလေ၏။

"ဒီခြေရာဟာ ခုနက ငါတွေ့ခဲ့ရတဲ့ ပြာဟ္မဏနွယ်ဘွား သူကောင်းသား ရဟာန်းရဲ့ခြေရာ ရှင်မရဲ့၊ သေသေချာချာ ရှုစမ်းပါ၊ ညည်း သမက်လောင်း ရဟာန်းရဲ့ ခြေရာဟာ ဘယ့်ကလောက် ယောကျ်ားမြတ် ပီသ,သလဲ"

ပုဏ္ဏေးမသည် ခြေရာကို မြင်လိုက်သောအခါ မျက်နှာပျက်သွားပြီး ပုဏ္ဏားကို အဓိပ္ပာယ်ရှိရှိဖြင့် ကြည့်လိုက်သည်။

---

၁။ မြတ်စွာဘုရား၏ ခြေတော်ရာမှာ ထင်လေ့မရှိ။ မာဂဏ္ဍီလင်မယား ကျွတ်လွတ်ရေးကို မြင်တော်မူသဖြင့် ခြေတော်ရာကို တန်ခိုးတော်ဖြင့် ချထားခဲ့ခြင်း ဖြစ်၏။

ထိုအခါ ပုဏ္ဏားက–

"ဘာကြည့်တာလဲ ရှင်မ၊ ဝမ်းနည်းမနေနဲ့တော့"

"ကျုပ်က ဝမ်းနည်းလို့ မဟုတ်ဘူး၊ ဗေဒင်ပညာတွေ ရှင်သင်ထားပြီးတော့ ခြေရာတွေ့လို့မှ လူကဲ မခတ်တတ်ဘူး၊ ရှင်ဟာ နုံ နုံလွန်းတယ်"

"အံမာ၊ ညည်းကပဲ ငါ့ကို အပြစ်တင်ရတယ် ရှိသေး"

"တင်ရပါသော်ကောတော်၊ ဒါလောက်ကလေးမှ ရှင် မသိတတ်တာ အံ့ပါရဲ့၊ သေသေချာချာကြည့်စမ်းပါ၊ ဒါ ရှင့်သမီးကို ယူမယ့်လူစားမျိုး မှတ်သလား"

"ငါ့သမီးကိုသာ မြင်လိုက်ရင် မကြိုက် ခံနိုင်ရိုးလား ရှင်မ၊ ယခုရာက ပိုသေးတယ်"

"ရှင့်သမီးကို ဒါလောက် အထင်ကြီးမနေနဲ့၊ ဒီခြေရာရှင်က လူတစ်မျိုး၊ ဒီမှာမြင်ရဲ့လား၊ ရာဂအားကြီးသူရဲ့ ခြေရာဟာ အလယ်လောက်က ကောက်နေတတ်တယ်လို့ ဗေဒင်ကျမ်းက ဆိုတယ်၊ ဒီခြေရာမှာ မကောက်ဘူး၊ ညီနေတာ တစ်ချက်။ ပြီးတော့ ဒေါသအားကြီးသူရဲ့ခြေရာဟာ ရှေ့ကို နည်းနည်းဆွဲတယ်၊ ဒီခြေရာဟာ မဆွဲဘူး၊ ညီနေတာ တစ်ချက်။ နောက်တစ်ချက်က မောဟ အားကြီး သူရဲ့ ခြေရာဟာ နောက်ပိုင်းက ခွက်နေတတ်တယ်၊ ဒီခြေရာက မခွက်ဘူး၊ အားလုံး တစ်ပြေးတည်းညီမျှလျက် လက္ခဏာတွေ အပြည့်ပါရှိနေတယ်၊ ဒီခြေရာရဲ့ ပိုင်ရှင်ဟာ ဘုရားသာလျှင် ဖြစ်ရမယ်၊ ရှင့်သမီးကို နှစ်သက်မယ့်လူစားမျိုး မဟုတ်ပေဘူး"

ယင်းသို့ ခြေရာကို ကြည့်ပြီး ပုဏ္ဏားလင်မယား အခြေအတင် စကားပြော နေစဉ်မှာပင် မြတ်စွာဘုရားသည် ရွာတွင်းမှ ပြန်၍ ထွက်ကြွတော်မူလာရာ "ရှင်မ၊ ငါပြောတဲ့ ရဟန်းဆိုတာ ဒါပဲ"ဟု အားရဝမ်းသာ ပြလေ၏။

မာဂဏ္ဍီသားအမိလည်း အတုမရှိသော မြတ်စွာဘုရား၏ တင့်တယ်ခြင်း အသရေကို ငေးမော၍ ရှုစားနေစဉ်မှာပင် မာဂဏ္ဍီယ ပုဏ္ဏားသည် ဘုရားရှင်ကို ထိုး၍အပ်လေသတည်း။

မေး။ အရှင်ရဟန်း၊ အကျွန်ုပ်သည် နံနက်ကပင် အရှင့်ကို မြင်လိုက်ပါသည်။ မြင်လိုက်ကတည်းက အရှင့်အား မေတ္တာသက်ဝင် ခင်မင်မိပါသဖြင့် တွေ့လို သောဆန္ဒဖြင့် မျှော်တ၍နေပါ၏။ (သမီးကို ပြလျက်) ဤသတို့သမီးကား အကျွန်ုပ်၏ ချစ်မငြီးသော သမီးကညာဖြစ်ပါသည်။ ကျွန်းတွင် ဖမ္ဗူ သူမတူ အောင် လှပသောအဆင်းကိုလည်း ဆောင်ပါ၏။ မိန်းမဥက္ကဋ္ဌ အမျိုးမြတ်သူလည်း မှန် ပါ၏။ ဤသမီးကို အရှင့်အား ပေးမြား ဆောင်နှင်းပါအံ့။ အလိုရှိပါမူ ယူတော် မူလော့ အရှင်ရဟန်း။

ထိုအခါ မြတ်စွာဘုရားက မာဂဏ္ဍီ သတို့သမီးအား လှည့်၍မျှ ရှုစားခြင်း ပြုတော်မမူလေဘဲ သတိသံဝေဂ ရစိမ့်သောငှာ–

ဖြေ။ မာဂဏ္ဍီယ၊ နာမထင်ရှား အို–ပုဏ္ဏား၊ ငါဘုရားအဖြစ်သို့ ရောက်တော်မူစ အခါက မာရ်နတ်မင်း၏ သမီးများ ဖြစ်ကုန်သော တဏှာ၊ အရတိ၊ ရာဂါ အမည်ရှိ သမီးသုံးယောက်တို့ ငါ့ထံသို့လာကြကုန်၏။ မာရ်နတ်မင်း၏ သမီးများဖြစ်သောကြောင့်လည်း အချောအလှတွင် ပြောစရာမရှိ၊ အလှထွတ်ဖူး လှခေါင်မှူးကလေးချည်းသာတည်း။

ဤနတ်သမီး သုံးဦးတို့က ဒူးတုပ်၍ ငါ့ထံသို့ ပန်ကြားလေသည်မှာ အရှင့်အပါးတွင် ခြေရင်း အလုပ်အကျွေးပြု၍ နေပါရစေ၊ ရေပူရေချမ်း ကမ်းလှမ်းပါရစေ၊ ခြေဆုပ်လက်နယ် အသွယ်သွယ်ပြုပါရစေ၊ အလိုဆန္ဒတူညီမျှလျက် ကာမစည်းစိမ်ကို ခံစားတော်မူပါဟု ငါ့အား ဆိုလာကုန်သော်လည်း ငါကား ခွင့်မပြု လက်ခံခြင်း မပြုခဲ့ပေ။

အို–ပုဏ္ဏား၊ ယင်းသို့ လှစက်စက်ယို၊ သုံးဦးပျိုတို့ပင်လျှင် ငါမလိုလား ခဲ့ပါဘဲလျက် ကျင်ကြီး ကျင်ငယ် အပြည့်နှင့် ရွံစလိလိဖြစ်သော သင်၏သမီးကို အဘယ်မှာလျှင် ငါ အလိုရှိတော်မူပါမည်နည်း။ သင့်သမီးကို ငါယူဖို့ မဆိုထားဘိ၊ ခြေဖျားနှင့်သော်မှ ငါ ထိပါးခြင်း ပြုတော်မမူလို။

ဤသို့ဆို၍ ပယ်ရှားလိုက်ပြီးလျှင် ကာမာဒီနာဝ ခေါ်သော “ကာမအမိုက်မှောင်” အပြစ်တရားကို ဆက်၍ ဟောကြားလိုက်ရာ ပုဏ္ဏားလင်မယားမှာ အကျွတ်တရားရကြ၍ သမီးကို ညီဖြစ်သူထံတွင် အပ်နှံထားခဲ့ပြီး ဘုရားထံတွင် ရဟန်းပြုကြလေသတည်း။

သမီး မာဂဏ္ဍီမှုကား ဘုရားအား ထိုအခါမှစ၍ ရန်ငြိုးထားလေ၏။ ငါ့ကို မလိုချင်လျှင် မလိုချင်ကြောင်းကိုသာ ပြောသင့်ပါလျက် မစင်ဘင်ပုပ်နှင့် ငါ့ကို နှိုင်းလိုက်ရုံမက ခြေဖျားနှင့်သော်မှ မထိလိုဟု သူ ဆိုစရာတဲ့လား၊ ပြောစရာတဲ့လား ဟူ၍ ဘုရားအပေါ်တွင် အမျက်မပြေရှိနေသော ဟူ၏။

(ဓမ္မပဒ အဋ္ဌကထာ၊ သာမာဝတီ ဝတ္ထုမှ)

# ဘုရားကို လုပ်ကျွေးပြုစုရေး

**ပြဿနာ = ဘုရားကို လုပ်ကျွေးသူ မှန်မှန်မရှိခြင်း။**

**မေးလျှောက်သူ = အရှင်သာရိပုတ္တရာနှင့် သံဃာအများ။**

သုံးလောက နှယ်ခရိုင်၊ ပြိုင်ဘက်မပြု တစ်ဆူတည်းသော ဘုရားဖြစ်တော်မူသော ဘုန်းတော်အနန္တ၊ ဉာဏ်တော်အနန္တ၊ တန်ခိုးတော်အနန္တ တို့နှင့် ပြည့်စုံတော်မူ သော သဗ္ဗညုမြတ်စွာဘုရား ဖြစ်တော်မူပါလျက် ကိုယ့် ပရိက္ခရာကို ကိုယ်တော်တိုင် လွယ်၍ ဆင်းရဲပင်ပန်းစွာ ကြွတော်မူရသည်ဆိုလျှင် "ယုံတမ်းစကား"ဟု ထင်ကောင်း ထင်ကြပေမည်။ ထင်လည်း ထင်ထိုက်ပေသည်။

သို့သော် ဗုဒ္ဓမြတ်စွာဘုရားမှာ ပြုစုမည့်သူ ကင်းမဲ့သဖြင့် (ဝါ) လုပ်ကျွေးပြုစုသူတို့၏ ဥပေက္ခာပြု လျစ်လျူရှုမှု၊ ပေါ့ဆမှုများကြောင့် အကယ်ပင် ကိုယ့်ပရိက္ခရာ ကိုယ်တိုင်လွယ်လျက် မြိုင်နက်ခရီးကြမ်းကို ကြွလှမ်းတော်မူခဲ့ရဖူးသည်မှာ အမှန်ဖြစ်၏။

ထိုစကား သင့်စွ။ မြတ်စွာဘုရားသည် ဝါတော် နှစ်ဆယ်တိုင်တိုင် (သက်တော် ၅၅–နှစ်တို့ ကာလပတ်လုံး) ရေပူရေချမ်း ကမ်းလှမ်းမည့်သူ အမြဲတမ်းအလုပ်အကျွေးဟူ၍ မရှိခဲ့၊ မထားခဲ့သေးပေ။ ရဟန်းများက သင့်သလိုသာ လုပ်ကျွေးသွားကြသည်။ အများအားဖြင့်ကား မြတ်စွာဘုရား၏ ထံတော်ပါး၌ လုပ်ကျွေးသူဆို၍ အရှင်အာနန္ဒာကိုသာ တွေ့ရသည်။ သို့သော် အရှင်အာနန္ဒာသည်ပင် မြဲသော အလုပ်အကျွေး မဟုတ်သေးပေ။ ဘုရားထံတော်ပါး၌ အလုပ်အကျွေး သံဃာစာရင်းတွင်–

(၁) ရံခါ – နာဂသမလ ရဟန်းကိုလည်းကောင်း၊

(၂) ရံခါ – ဥပဝါဏ ရဟန်းကိုလည်းကောင်း၊

စပယ်ဦးစာပေ

(၃) ရံခါ – စုန္ဒ သာမဏေကိုလည်းကောင်း၊
(၄) ရံခါ – သာဂေတ ရဟန်းကိုလည်းကောင်း၊
(၅) ရံခါ – ရာဓ ရဟန်းကိုလည်းကောင်း၊
(၆) ရံခါ – မေဃိယ ရဟန်းကိုလည်းကောင်း တွေ့ရသည်။

သူတို့သည် ဘုရားသခင်အား အဆင်သင့်သလို လုပ်ကျွေးပြုစုသော ဥပဋ္ဌာက ရဟန်းများ ဖြစ်ကြသည်။ ထိုရဟန်းများ လစ်လပ်သောအခါတွင် အရှင်အာနန္ဒာက ဒိုင်ခံ၍ ဘုရားသခင်အား လုပ်ကျွေးပြုစုလေသည်။

ဤ၌ လူနှင့် ရဟန်း ကွာခြားချက်မှာ ဘုရင့်ထံပါးတွင် အနီးကပ် သက်တော်စောင့်အဖြစ် အမှုထမ်းကြသူများမှာ ဘုရင့်ထံမှ လခရိက္ခာများကို ယူ၍ တာဝန်အရ အမှုထမ်းကြသူများ ဖြစ်သည်။ တာဝန်မကျေပွန်ခဲ့သော် မင်းဒဏ်သင့်သည်အထိ အပြစ်များ ကျရောက်နိုင်သောကြောင့် တာဝန်မလပ်အောင် အမြဲတစေ စောင့်ကြပ်ကြရသည်။

ဘုရားထံတော်ပါး၌ အနီးကပ် ခစားကြသူများမှာကား စေတနာသာလျှင် အဓိကဖြစ်သည်။ ပုဂ္ဂိုလ်ရေးရာအရ မြတ်စွာဘုရားအား သဒ္ဓါကြည်ညို၍ လုပ်ကျွေးပြုစုသူများ ဖြစ်သောကြောင့် အကယ်၍ တာဝန်မကျေပွန်၊ လစ်ဟင်းမှုရှိခဲ့သော်ငြားလည်း မင်းမှုထမ်းများကဲ့သို့ ဒဏ်ထားခံရခြင်း မရှိချေ။ ဤသို့လစ်ဟင်းခြင်းအားဖြင့် ဘုရားသခင်သာ ကာယိကဒုက္ခများတော်မူရသည်။ ပြုစုသူ၌ အပြစ်မရှိလေ။

သို့ကြောင့် တာဝန်အရမဟုတ်ဘဲ လုပ်ကိုင်သည့်အခါ၊ စေတနာရှိသည့်အခါတွင် လုပ်ကျွေး၍ မလုပ်နိုင်သည့်အခါ ဘုရားအပါးမှ ခွာသွား ရှောင်သွားသော အဖြစ်မျိုးနှင့် ဘုရားသခင်မှာ မကြာခဏဆိုသလိုပင် တိုးမိတော်မူခဲ့ရသည်၊ ကြုံခဲ့ရသည်။

အခါတစ်ပါးတွင် မြတ်စွာဘုရားသည် ဒေသစာရီကြွချီတော်မူသွားစဉ် အလုပ်အကျွေးအဖြစ် နောက်တော်ပါးမှ နာဂသမာလထေရ် ပါသွားလေသည်။ နောက်တော်ပါးမှ ပါလာသူ အလုပ်အကျွေးရဟန်းသည် ဘုရားသခင်၏ ပရိက္ခရာများကို သယ်ဆောင်မြဲ ဖြစ်လေသည်။

နာဂသမာလထေရ်သည် ပရိက္ခရာများကို လွယ်ပိုးလျက် ဘုရားသခင်နောက်က လိုက်ပါလာခဲ့သည်။ တစ်နေရာတွင် ခရီးလမ်းဆုံတစ်ခုသို့ ရောက်သွားလေ၏။ ဤတွင် ဆရာနှင့်တပည့်၊ မြတ်ဘုရားနှင့် အရှင်နာဂသမာလတို့ သဘောကွဲလွဲမှု တစ်ခု ဖြစ်လာ၏။

၎င်းမှာ အခြားမဟုတ်၊ မြတ်ဘုရားသခင်က လက်ယာလမ်းဖြင့် ကြွတော်မူလိုသည်။ အလုပ်အကျွေးရဟန်း အရှင်နာဂသမာလက လက်ဝဲလမ်းအတိုင်း သွားလိုသည်။ သို့ကြောင့် ဘုရားသခင်ထံ ပန်ကြားခြင်းပြုလေ၏။

"အရှင်ဘုရား၊ တပည့်တော် လက်ဝဲလမ်းအတိုင်း သွားလိုပါသည် ဘုရား"

"ချစ်တပည့်၊ ဤသင်ဆိုသောလမ်းသို့ သွားရန်မသင့်၊ မသွားလင့်"

မြတ်စွာဘုရားက တားမြစ်၏။ မရလေ။ ထိုရဟန်းသည် မိမိယူဆောင်လာခဲ့သော ဘုရား၏ပရိက္ခရာများကို မြေပေါ်ချထားခဲ့ပြီး သွားမည်ပြုသောအခါ–

"ချစ်တပည့်၊ မြေမှာ မချလင့်၊ ငါ့ပရိက္ခရာများကို ငါ့ဆီယူခဲ့လော့"

ဤသို့ တောင်းယူပြီးလျှင် ကိုယ့်ပရိက္ခရာ ကိုယ်တိုင်လွယ်လျက် ခရီးဆက်တော်မူခဲ့ရဖူးလေသည်။

အခါတစ်ပါး၌လည်း မေဃိယမထေရ်က ပစ္ဆာသမဏ=အလုပ်အကျွေးအဖြစ် လိုက်ပါသွား၏။ ဇန္တုမည်သော ရွာသို့ရောက်လျှင် ရွာ၌ဆွမ်းခံပြီးသော် ရွာမှဖဲခွာ၍ သရက်တောတစ်ခုသို့ရောက်လျှင် ပြဿနာတစ်ခုပေါ်လာလေ၏။ မေဃိယရဟန်းသည် ဤသရက်တော၌ တရားအားထုတ်၍ နေလိုသည်။ ဘုရားနောက်သို့ မလိုက်လိုတော့ပေ။ သို့ကြောင့်လည်း–

"အရှင်ဘုရား၊ ဤပရိက္ခရာများကို ယူတော်မူပါ။ တပည့်တော် ဤသရက်တောမှာပင် တရားအားထုတ်၍ နေရစ်ပါတော့မည်"

ဤသို့ ခွင့်ပန်ကာ ဘုရားသခင်၏ ပရိက္ခရာများကို ဘုရားထံ ပြန်အပ်သည်။ ဘုရားက သုံးကြိမ်တိုင် တားတော်မူသေး၏။ မရချေ။ မေဃိယရဟန်းသည် သပိတ်၊ သင်္ကန်းများကို ဘုရားသခင်လက်တော်သို့ အပ်ပြီး သရက်တောထဲသို့ ဝင်သွားလေသတည်း။

မြတ်ဘုရားမှာ ကိုယ့်ပရိက္ခရာ၊ ကိုယ့်သပိတ် သင်္ကန်းများကို ကိုယ်တော်တိုင် သည်ပိုးကာ သာဝတ္ထိပြည်ဘက်သို့ ထွက်ခွာလာခဲ့ရသည်။ သက်ရွယ်တော်ကလည်း ကြီးရင့်၊ ခရီးကလည်း ရှည်လျားကြမ်းတမ်းလေရကား မြတ်ဘုရားမှာ လွန်စွာပင်ပန်းခြင်း ဖြစ်တော်မူလာ၍ ဇေတဝန်ကျောင်းတော်သို့ ရောက်တော်မူလျှင် ချက်ချင်းပင် အလျင်စလို သံဃာအစည်းအဝေးကို ဆင့်ခေါ်ကျင်းပခြင်းပြုလေ၏။ ကိုယ်တိုင် လွယ်ဆောင်လာခဲ့ရသော သင်္ကန်း၊ သပိတ်၊ ပရိက္ခရာများကို သံဃာ့ရှေ့မှောက်တွင် ချတော်မူကာ ဤသို့ မိန့်တော်မူလေ၏။

"အို–ချစ်သားတို့၊ သင်တို့ဆရာဖြစ်သော ငါဘုရားကား ယခုအခါ အသက်အရွယ်တော်လည်း ကြီးရင့်လာပြီ။ ငါ့ထံပါးတွင် ငါနှင့်ထပ်ချပ် မကွာ လိုက်၍ ငါ့ကို အမြဲပြုစုလုပ်ကျွေးမည့်သူရှိမှ သင့်ချေတော့မည်။ ငါ၏ သာသနာ

တွင်းဝယ် သဒ္ဓါ ပဗ္ဗဇိတဟု ဝန်ခံလျက် ရဟန်းပြုသော်ငြားလည်း မကျိုးပဲ့သော ရဟန်းများလည်း ရှိချေသည်။

"အချို့သူများသည် ငါနှင့်အတူ သွားအံ့ဟူလျက်၊ အယူပြား၍ ခရီးတစ်ပါးသို့ သွားလိုသောအခါ ငါ၏ပရိက္ခရာများကို မြေမှာချထား၍ သွားလိုရာသို့ သွားကြဘိသည်။ အချို့ကလည်း ငါ့ကို ဂရုမမူ၊ မယှင်ဘဲ လိုရာသို့သာ ဖဲသွားဘိသည်။ အချို့ကလည်း ငါဘုရားကို ထောက်ထား မညှာ ထင်သလိုပင် နေကြသည်။

"အို—ချစ်သားတို့၊ အသိန်းအသန်းမကသော တပည့်တပန်းရဟန်း သံဃာများ ရှိပါလျက် ငါ့သက်န်း၊ သပိတ်၊ ပရိက္ခရာများကို ငါကိုယ်တိုင် လွယ်နေရချေလျှင် သင်တို့အပေါ်၌ သူတော်ကောင်းတို့ ကဲ့ရဲ့ဖွယ်ရာ ဖြစ်ချေမည်။ ထို့ကြောင့် အမြဲလုပ်ကျွေးသော သံဃာတစ်ပါးပါးကို ငါ လိုလားတော်မူသည်"

ထိုအမိန့်ကို ကြားကြရကုန်သောအခါ တပည့်သာဝကတို့မှာ ဓမ္မသံဝေဂ များစွာ ဖြစ်ကြကုန်လျက် ကြက်သီးမွေးညှင်းများပင် တဖြည်းဖြည်းထကုန်လေ၏။ အရှင်သာရိပုတ္တရာက ရှေးဦးစွာ နေရာမှထ၍—

မေး။ ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ အကျွန်ုပ်သည် အရှင်ဘုရား ကဲ့သို့သော ပုရိသတ္တမ၊ အနုတ္တရပုဂ္ဂိုလ်ကို အမြဲထာဝစဉ်လုပ်ကျွေးခွင့်မှုပြုစုလိုပါ သောကြောင့်သာ ကမ္ဘာတစ်သိန်း အလွန်ရှိသော တစ်သင်္ချေကာလပတ်လုံး ပါရမီ ကို ဖြည့်ကျင့်လာခဲ့ပါသည်။ အရှင်မြတ်၏ သာသနာဝယ် အကျွန်ုပ်ကဲ့သို့သော တပည့်သာလျှင် မြတ်စွာဘုရားအား လုပ်ကျွေးထိုက်ပါသည်။ ထို့ကြောင့် အကျွန်ုပ် လုပ်ကျွေးပါအံ့။

ဖြေ။ ချစ်သား သာရိပုတ္တရာ၊ သင်သည် အကြောင်းသုံးရပ်ဖြင့် အကြင် နေရာ၌နေ၏။ ထိုအရပ်၊ ထိုနေရာသည် လေးဖြာသော ပရိသတ်တို့ဖြင့် မဆိတ်ည်း။ သင်၏ ဆုံးမဩဝါဒသည် ငါဘုရား ဆုံးမသည်နှင့် တူ၏။ သင် ဟောကြားအပ်သော တရားသည် ငါဘုရားဟောကြားသည်နှင့် တူ၏။ ထို့ကြောင့် သင်ကဲ့သို့ အဂ္ဂသာဝကသည် ငါ့အား လုပ်ကျွေးဖွယ်ကိစ္စ မရှိလေ။

ဤသို့ဆို၍ ပယ်တော်မူသည်။ အရှင်မောဂ္ဂလာန်က လျှောက်ထားသော အခါ၌လည်း ထိုနည်းရင်းပင် ပယ်တော်မူသည်။ ထို့နောက် အရှင်အနုရုဒ္ဓါ၊ အရှင်ဥပါလိ၊ အရှင်ဘဒ္ဒိယ စသော အသီတိ မဟာသာဝကတို့ကလည်း လုပ်

ကျွေးပါရမည့်အကြောင်းကို အသီးသီးလျှောက်ထားကြကုန်သော်လည်း ခွင့်ပြုတော်မမူဘဲ ရှေးနည်းအတူ ပယ်တော်မူသည်သာ။

ယင်းသို့ သူတစ်မျိုး ငါတစ်ဖုံ၊ မျိုးစုံအောင် လျှောက်ထားကြသော်လည်း အရှင်အာနန္ဒာကမူကား မည်သို့မျှ လျှောက်ထားခြင်းမပြုလေဘဲ ဆိတ်ဆိတ်သာနေ၏။ သံဃာတော်တို့ကလည်း "လျှောက်ထားပါလား" ဟူ၍ အရှင်အာနန္ဒာအား ဝိုင်း၍ တိုက်တွန်းကြသည်။

အရှင်အာနန္ဒာကား အများနှင့်မတူ တစ်မူထူးခြားသော အရှင်သူမြတ်ပေတည်း။ သူ့ကိုဝိုင်း၍ တိုက်တွန်းနေသော သံဃာတော်များကို သူက ဤသို့ ဆိုပြောပေ၏။

"အို–အရှင်ဘုရားတို့၊ တောင်းရမ်း၍ ရသောအရာမည်သည်ကား သူရင်းငှားကဲ့သို့သာ ဖြစ်ချေသည်။ အကျွန်ုပ်ကား တောင်းရမ်းခြင်း မပြုလိုပါ။ ဘုရားသခင်သည် ရှေ့တွင်နေပါသော အကျွန်ုပ်ကို မမြင်ရှိအံ့လော။ အကယ်၍ အကျွန်ုပ်၏ လုပ်ကျွေးမှုကို နှစ်သက်တော်မူပါက "ချစ်သားအာနန္ဒာ၊ သင့်ငါ့အားလုပ်ကျွေးလော့" ဟု မိန့်တော်မူလတ္တံ့ဟုဆိုကာသာ နေလေသည်။ ထိုအခါ မြတ်စွာဘုရားက ရဟန်းတို့ကို ဤသို့ဆိုပြောတော်မူလေ၏။

"အို–ရဟန်းတို့၊ အာနန္ဒာသည် ငါဘုရားကိုလည်း အလွန်ချစ်ခင်သူဖြစ်ပေ၏။ သူတစ်ပါးထက်လည်း အားထုတ်ခြင်းလုံ့လနှင့် ပြည့်စုံသူ ဖြစ်၏။ ဤအာနန္ဒာသည်ပင် ကောင်းစွာ အခွင့်သိ၍ ငါဘုရားအား လုပ်ကျွေးလတ္တံ့" ဟူ၍ မိန့်တော်မူ၏။

ထိုသို့မိန့်ကြားလတ်သော် 'အရှင်အာနန္ဒာ ဆောလျင်စွာ ထလော့။ ဘုရားရှင်၌ အလုပ်အကျွေးအရာကို တောင်းပန်ပါလော့' ဟု ရဟန်းတို့က ဆိုကုန်၏။ ထိုအခါ အရှင်အာနန္ဒာသည် နေရာမှထ၍ ရှိခိုးပြီးလျှင် ဤသို့လျှောက်ထားလေ၏။

"ရွှေဘုန်းတော်ရှင် သခင်မြတ်ဘုရား၊ အကျွန်ုပ်အား လေးပါးသော ဆုကိုပယ်၍၊ လေးသွယ်သောဆုကို သနားတော်မူပါမူ အကျွန်ုပ်လုပ်ကျွေးပါအံ့" ဟု လျှောက်၏။

မေး။ ချစ်သား အာနန္ဒာ၊ သင် ပယ်လိုသော ဆုလေးပါးကား အဘယ်နည်း။

ဖြေ။ ရွှေဘုန်းတော်သခင် မြတ်ရှင်ပင်ဘုရား၊ အကျွန်ုပ် ပယ်လိုသော ဆုလေးပါးမှာ–

(၁) ကိုယ်တော်မြတ်သည် ရအပ်သောမွန်မြတ်သော ဆွမ်း၊ ကွမ်းပစ္စည်းဖြင့် အကျွန်ုပ်အား မချီးမြှောက်ခြင်း တစ်ပါးပါ ဘုရား။

(၂) မွန်မြတ်သော သင်္ကန်းပစ္စည်းဖြင့် အကျွန်ုပ်အား မချီးမြှောက်ခြင်း တစ်ပါးပါ ဘုရား။

(၃) ကိုယ်တော်မြတ် ကျိန်းဝပ်တော်မူသော ဂန္ဓကုဋီသို့ဝင်၍ အကျွန်ုပ် မအိပ်ရခြင်း တစ်ပါးပါ ဘုရား။

(၄) ဆွမ်းဖိတ်သော ဒါယကာတို့အိမ်သို့ အမြဲခေါ်၍ ကြွတော်မမူခြင်း တစ်ပါးပါ ဘုရား။

ဤ လေးပါးသောဆုကို အကျွန်ုပ် ပယ်လိုပါသည်။

မေး။ ချစ်သား အာနန္ဒာ၊ အဘယ်အပြစ်ကို မြင်လေ၍ သင်သည် ဤအရာများကို ပယ်လိုသနည်း။

ဖြေ။ အရှင်ဘုရား၊ အများအားဖြင့် ရဟန်း ရှင် လူတို့မည်သည်ကား သူတစ်ပါး၏ ကျေးဇူးမဲ့ကို ဆိုတတ် ပြောတတ်ကြပါသည်။ အရှင်အာနန္ဒာကား ဘုရားသခင်က ချီးမြှောက်တော်မူသော ဆွမ်း၊ သင်္ကန်းကို ရသောကြောင့်လည်းကောင်း၊ ဘုရားသခင်နှင့်အတူ တစ်ခန်းတည်း၊ တစ်နေရာတည်း၌ အိပ်ရသောကြောင့်လည်းကောင်း လုပ်ကျွေးပြုစုနေသည်။ ငါတို့ကို ဤကဲ့သို့ မချီးမြှောက်လေ၍ လုပ်ကျွေးဖွယ်မရှိဟု ဆိုဘိရာ၏။

ထို့ကြောင့် ဤဆုလေးမျိုးကို ပယ်လိုခြင်း ဖြစ်ပါသည်။

မေး။ ချစ်သား အာနန္ဒာ၊ သင် ယူလိုသော ဆုလေးပါးဟူသည်ကား အဘယ်နည်း။

ဖြေ။ အရှင်ဘုရား၊ အကျွန်ုပ် ယူလိုသော ဆုလေးပါးကို လျှောက်တင်ပါအံ့၊ နာတော်မူပါ ဘုရား။

(၁) ဘုန်းတော်ကြီးသော မြတ်ဘုရားသည် အကျွန်ုပ်ဝန်ခံ၍ ဖိတ်အပ်သော ဆွမ်းကို ခံတော်မူခြင်း တစ်ပါးပါ ဘုရား။

(၂) မြတ်ဘုရားကို ဖူးမြော်လိုသူများ အကျွန်ုပ်ထံ ကပ်ရောက်လာကြလျှင် အကျွန်ုပ်က ဖူးမြော်ခွင့်ပြုပါဟု လျှောက်ထားသော် အဖူးမြော်ခံခြင်း တစ်ပါးပါ ဘုရား။

(၃) အကျွန်ုပ် မြတ်ဘုရားထံ ဆည်းကပ်လိုသောအခါ အချိန်မရွေး၊ အခါမရွေး ဆည်းကပ်ခွင့် ရလိုခြင်း တစ်ပါးပါ ဘုရား။

(၄) မည်သည့်ဒေသ၌မဆို ဟောတော်မူသမျှသော တရားကို အကျွန်ုပ်အား သင်ကြားပေးတော်မူခြင်း တစ်ပါးပါ ဘုရား။

ဤ လေးပါးသောဆုကို အကျွန်ုပ် ရယူလိုပါသည် ဘုရား။

မေး။ ချစ်သား အာနန္ဒာ၊ အဘယ်သို့သော အကျိုးထူးကို မြင်လေ၍ ဤဆုလေးမျိုးကို သင် ရယူလိုဘိသနည်း။

ဖြေ။ အရှင်ဘုရား၊ သဒ္ဓါတရားနှင့် ပြည့်စုံသောသူများသည် မြတ်ဘုရားကို ပင့်၍ အခွင့်မရလေသောအခါ အကျွန်ုပ်ထံလာကြပြီး အရှင်အာနန္ဒာ၊ မနက်ဖြန်တွင် မြတ်စွာဘုရားနှင့်တကွ အကျွန်ုပ်တို့အိမ်ကြွ၍ ဆွမ်း၊ သကာန်း အလှူခံတော်မူပါဟု လျှောက်ပါလိမ့်မည်။ ထိုအခါ အကျွန်ုပ်တောင်းပန်၍ အခွင့်မရခဲ့သော်လည်းကောင်း၊ အဝေးမှရောက်လာကြသော ပရိသတ်တို့သည် မြတ်ဘုရားကို ဖူးမြင်လို၍ အကျွန်ုပ်ကို ကပ်လာကြသောကာလ ဖူးမြင်ခွင့်ရအောင် မပြုနိုင်ခဲ့ပါသော်လည်းကောင်း လူအပေါင်းတို့က ဤသို့ဆိုဖွယ်ရာရှိပါသည်။ အရှင်အာနန္ဒာသည် မြတ်စွာဘုရားအား အလွန်လုပ်ကျွေး ခယတော်မူပါလျက် ဤမျှသောအခွင့်ကိုမျှ မြတ်စွာဘုရားက မ,စတော်မမူလေ၊ ဝင့်တို့ရှိ၍သာ ပြုစုရာသည်ဟု ဆိုကြပါလတ္တံ့။

အကျွန်ုပ်သည် ခက်ခဲသောအရာ၌ သံသယရှိ၍ ထိုသံသယကို ကင်းစိမ့်သောငှာ အထံတော်သို့ ကပ်လိုသောအခါ၌ ကပ်ခွင့်မရသော်လည်းကောင်း၊ တစ်ပါးသောရပ်ရွာ၌ တစ်ပါးသော သတ္တဝါအား ဟောခဲ့သောတရားကို အကျွန်ုပ်အား သင်ကြားတော်မမူသည်ဖြစ်အံ့၊ ကိုယ်တော်မြတ်၏ ကွယ်ရာ၌ အကျွန်ုပ်ထံလာ၍ အရှင်အာနန္ဒာ၊ ဤဒေသနာကား သုတ်လော၊ အဘိဓမ္မာလော၊ အဘယ်အရပ်၌ အဘယ်ဇာတ်၊ အဘယ်တရားကို ဟောကြားပါသနည်း စသည်ဖြင့် မေးလျှောက်ကြသော ကာလ အကျွန်ုပ် မသိ၍ မဖြေဆိုနိုင်ရှိပါလိမ့်မည်။ ထိုအခါ အရှင်အာနန္ဒာသည် မြတ်စွာဘုရားထံ၌ သွားလေရာရာ ပါသော အရိပ်ကဲ့သို့ ဖဝါးခြေထပ် ထက်ချပ်ပါသူဖြစ်ပါလျက် ဘုရားဒေသနာကို သေချာစွာ မမှတ်ဘိ၊ သိသင့်လျက်နှင့် မသိရှာလေဟု သူတစ်ထူးတို့ ကဲ့ရဲ့လေရာသည်။ ထို့ကြောင့် ဤဆုလေးမျိုးကို အကျွန်ုပ် ရယူလိုခြင်းဖြစ်ပါသည် ဘုရားဟု လျှောက်သည်။

ဘုရားသခင်လည်း "သင်လိုသောဆုများကို ငါပေးတော်မူအံ့" ဟု ဆုများကိုပေးပြီးလျှင် အလုပ်အကျွေး၏ အရာ၌ 'ဋ္ဌာနန္တရ'ဖြင့် အရှင်အာနန္ဒာအား ထားတော်မူ၏။

အရှင်အာနန္ဒာသည် ဤသို့ **ဥပဋ္ဌာက** အရာ ဝိသေသကို ရသည့်အချိန်မှစ၍ နံနက်ကာလတွင် ဗုဒ္ဓမြတ်ဘုရား စက်ရာမှ ထတော်မမူမီ ထ၍ ဂန္ဓကုဋီတိုက်တော်ဝယ် ဘုရားနေရာကို စင်ကြယ်စွာ တံမြက်လှည်းလျက် အထူ၊ အလတ်၊ အပါးအားဖြင့် သုံးပါးသော ဒန်ပူကိုလည်းကောင်း၊ ရေအေး၊ ရေကျက်အားဖြင့် နှစ်ပါးသော မျက်နှာသစ်ရေကိုလည်းကောင်း တည်ထား၍ မိမိကား မျက်နှာသုတ် ပုဆိုး(ပဝါ)ဖြင့် နေလင့်၏။ မျက်နှာသုတ်ပြီးမှ ဘုရားနေရာ၌ စမွာယ်တော်မူလာသော် ကောင်းစွာ တောင်းသုတ်ခြင်းကို ပြု၏။ ထ၍ စင်္ကြံကြွသော

အခါ မိမိနေရာသို့ လာ၍ ယာဂုကို စီရင်ပြီးမှ ကပ်၏။ ဆွမ်းခံကြွတော်မူလိုသော် ရှာဝတ် သင်းပိုင်ကို ပေးခြင်း၊ ကျောင်းဝတ်သင်းပိုင်ကို ခေါက်ထားခြင်း၊ နေရာကို သိမ်းဆည်းခြင်း စသော ကိစ္စကိုပြုပြီးမှ သပိတ်တော်ကို လွယ်၍လိုက်၏။

ဆွမ်းခံရာမှ ပြန်လတ်သောအခါ နေရာကိုခင်းလင့်ခြင်း၊ သက်န်းကို လှမ်းယူခြင်း၊ ယပ်ခတ်ခြင်း၊ ဆွမ်းအဖျော်ကပ်ခြင်း စသော ကိစ္စကိုပြု၏။ ပစ္ဆာဘတ္တ= ဆွမ်းစားပြီးလျှင် အစဉ်ကျိန်းတော်မူမြဲဖြစ်သော ညောင်စောင်း အင်းပျဉ်ကို ခါလျက် တင့်တယ်စွာ နေရာခင်းထား၏။ ဘုရား လျောင်းတော်မူသော် ယပ်ခတ်ခြင်း၊ ခြေဆုပ်ခြင်းကိုပြု၏။ ဂန္ဓကုဋီမှ ထတော်မူသော် သုံးတော်ရေ၊ သောက်တော်ရေ တည်ခြင်း၊ တရားဟောပလ္လင်တည်ခြင်း၊ သံဃာတို့ စည်းဝေးနေရာ သုတ်သင်ခြင်း စသည်ကို ပြု၏။

ညချမ်းကာလ ဒေသစာရီ ကြွချီရာမှ ပြန်ကြွလာသော် ခြေဆေးတော်မူ ရန်၊ သုံးတော်မူရန်၊ ချိုးတော်မူရန် ရေပူ ရေချမ်းကိုလည်းကောင်း၊ ခြေသုတ်ပုဆိုး၊ ခြေပွတ်အိုးခြမ်း၊ ရေသနုပ် သက်န်းတို့ကိုလည်းကောင်း ထားလင့်၏။ ရေသပ္ပာယ် တော်မူလျှင် ချေးတွန်းခြင်း စသော ပရိက်ကို ပြု၏။ ညဉ့်မိုက်သောအခါ ဆီမီး ညှိထွန်းခြင်း၊ လျောင်းတော်မူသော် ထူသောအရုံ ပါးလွှာသောအရုံဖြင့် လွှမ်းခြင်း၊ ခြေလက်ဆုပ်နယ်ခြင်း၊ ယပ်ခတ်ခြင်း စသည်ကို ပြု၏။

ဤသို့ စသည်ဖြင့် အရာမကသော ဝတ်တို့ကို တစ်နေ့မပြတ်ပြုသော အရှင်အာနန္ဒာအား "လုပ်ကျွေးရာ၌ အတော်ဆုံးဆု" ဧတဒဂ်ဘွဲ့ ပေးတော်မူ၏။ အရှင်အာနန္ဒာမှာ ဤဆုအပါအဝင် 'ဧတဒဂ်'[၁]ဘွဲ့ ငါးမျိုးကို ရရှိသော "ဧတဒဂ် ငါးထပ်ကွမ်း"အရှင်ဖြစ်၏။ အရှင်အာနန္ဒာ ရရှိသော ဧတဒဂ်ဘွဲ့ငါးမျိုးမှာ-

(၁) ဗဟုသုတအရာ၌ အတော်ဆုံး။
(၂) သတိရှိသောအရာ၌ အတော်ဆုံး။
(၃) ပညာလျှင်သောအရာ၌ အတော်ဆုံး။
(၄) သမာဓိအရာ၌ အတော်ဆုံး။
(၅) အလုပ်အကျွေးအရာ၌ အတော်ဆုံး။

ဤသို့အားဖြင့် ဧတဒဂ်ငါးတန်-အကောင်းဆုံးဘွဲ့ငါးထပ်ကွမ်း ဖြစ်သတည်း။

(အင်္ဂုတ္တရနိကာယ်၊ အင်္ဂုတ္တိုရ်ပါဠိတော် အဋ္ဌကထာ)

---

၁။ ဧတဒဂ္ဂ။ ဧတံ+အဂ္ဂ၊ ဧတဒဂ်။ ဧတံဧသော=ဤသူ။ အဂ္ဂအဂ္ဂေါ=အတော်ဆုံး၊ အကောင်းဆုံး။ ဧတဒဂ္ဂ=အတော်ဆုံး၊ အကောင်းဆုံးဖြစ်သူ။

# နိဗ္ဗာန်၌ ရေ၊ မြေ၊ နေ၊ လ ရှိမရှိ

ပြဿနာ = ရဟန်းများ ယုံမှားသင်္ကာဖြစ်ခြင်း။

ဖြေရှင်းတော်မူ = ဗုဒ္ဓမြတ်စွာဘုရား။

ကုသိုလ်ကောင်းမှုတစ်ခုခု ပြုကြသောအခါ "ဣဒံ မေ ပုညံ နိဗ္ဗာနဿ ပစ္စယော ဟောတု" ဟူ၍ ဆုတောင်းပြီးလျှင် ရှုလေ့ရှိကြ၏။ ဤကောင်းမှုသည် နိဗ္ဗာန်သို့ ရောက်လွယ်၊ ရလွယ်သောအကြောင်း အထောက်အပံ့ဖြစ်ပါစေသတည်း ဟူ၍ ရေစက်သွန်းလေ့ ရှိကြသည်။

ထိုနိဗ္ဗာန်သည် အဘယ်နည်း၊ အဘယ်သို့ ရှိလေသနည်း။ လူ့ဘုံ၊ နတ်ဘုံတို့ကဲ့သို့ တည်ရာဘုံ အထင်အရှားရှိသလော၊ မရှိသလော ဟူ၍ စောကြောကြ၊ စူးစမ်းကြသည်။

အချို့တို့က ထို့ထက်ပင် လွန်ကဲစွာ နိဗ္ဗာန်၌ ဘာတွေရှိသနည်း။ လူတို့ ပြည်မှာကဲ့သို့ နေထိုင်စရာ တိုက်တာ နေအိမ် အဆောက်အအုံများ ရှိသလော၊ မရှိသလော၊ စားစရာ အစားအစာများ ရှိသလော၊ မရှိသလော၊ ဝတ်စရာ အဝတ်အစား အဆင်တန်ဆာများ၊ သွားလာစရာ ယာဉ်ရထားများ၊ အပျော်ရှုစရာ ပွဲလမ်း သဘင်များ၊ အလင်းရောင်၊ နေ၊ လ၊ နက္ခတ်တာရာများ ရှိသလော၊ မရှိသလော။

ထိုနိဗ္ဗာန်ရွှေပြည်သည် အဘယ်မျှ သာယာသနည်း၊ စည်ပင်သနည်း။ နတ် ဗိမာန်ကဲ့သို့သော ဘုံနန်းပြာသာဒ်တွေနှင့် နေရသလော။ နိဗ္ဗာန်ပြည်ကြီးသားများသည် ဘာတွေကို စား၍ ဘယ်လိုဘယ်လို အဝတ်မျိုးတွေ ဝတ်ရုံခြုံလွှမ်း ဆင်မြန်းကြလေသနည်း စသောအားဖြင့် နည်းပေါင်းများစွာ၊ လောပေါင်းများစွာတို့ဖြင့် နိဗ္ဗာန်ကို မျှော်ခေါ်၍ တွေးကြ မေးကြသည်။

စပယ်ဦးစာပေ

နိဗ္ဗာန်နှင့် ပတ်သက်သော ဤပြဿနာမျိုးမှာ ယနေ့မျက်မှောက်မှာသာ ပေါ်ပေါက်နေသည် မဟုတ်။ ဗုဒ္ဓလက်ထက်၌ ဗုဒ္ဓ၏တပည့်သားသံဃာ လောက အတွင်း၌ပင် နိဗ္ဗာန်နှင့်ပတ်သက်၍ မရှင်းမရှင်း ပြဿနာရပ်များ၊ တွေးခေါ်ကြံဆမှုများ ဖြစ်ပွားခဲ့ဖူး၏။

အခါတစ်ပါး၌ ရဟန်းတော်များ တွေးခေါ်နေကြသည်ကား နိဗ္ဗာန်သည် နာမ်တရားသာ ဖြစ်သည်။ နာမ်တရားဖြစ်က ထိုနိဗ္ဗာန်သည် လူ့ဘုံ၊ နတ်ဘုံ၊ ဗြဟ္မာ့ဘုံတို့ကဲ့သို့ အခိုင်အမာတည်ရာဘုံ မရှိနိုင်တန်လေရာ ဟူ၍လည်းကောင်း၊ အချို့တို့က နိဗ္ဗာန်၌ တည်ရာဘုံ အထင်အရှားရှိသည်ဟု ဆိုလေသော်အခါ အဘယ်သို့ တည်နေသနည်းဟု ထပ်ဆင့်၍ မေးလိုက်သောအခါတွင် အဖြေကို ရှာမရဘဲ ဖြစ်နေကြပုံများကိုလည်းကောင်း သံဃာ့လောက၌ နိဗ္ဗာန်နှင့် ပတ်သက်၍ 'သို့လော၊ သို့လော' ပြဿနာများ တစ်နေ့တခြား ပြန့်ပွားကူးစက်လာ၏။

မြတ်စွာဘုရားသည် နိဗ္ဗာန်အကြောင်းကိုသာ သံဃာတော်များ၌ ယုံမှားသက်ာဖြစ်သော အခြင်းအရာကို သိတော်မူသဖြင့် ရဟန်းတို့ကို ခေါ်တော်မူ၍ နိဗ္ဗာန်တရား၊ နိဗ္ဗာန်၏သမိုင်း ကဏ္ဍာသစ် ဖွင့်လှစ်ပြတော်မူခဲ့ရပေသည်။

နိဗ္ဗာန်အကြောင်း ရှင်းပြသော မြတ်စွာဘုရား၏ စကားတော်များကား ပါဠိဘာသာ အတွင်း၌သာ ရှိလေ၍ နိဗ္ဗာန်သမိုင်းကို သိရှိလိုကြသော်လည်း ပါဠိ မကျွမ်းကျင်သူတို့အဖို့တွင် မလွယ်ကူသော၊ ခက်ခဲသော ပြဿနာတစ်ခုဖြစ်သော ကြောင့် လူအများနားလည်လွယ်၊ သိလွယ်သော မြန်မာစကားသက်သက်ဖြင့် ဖော်ပြရန် သင့်လှ၏။

သို့သော် ဘုရားသခင်၏ နှုတ်တော်ထွက် စကားမပါလျှင်-ဆားမပါသော ဟင်းလျာကဲ့သို့ ပေါ့ပျက်ပျက်ရှိနေမည်လား ဟူ၍လည်း တွေးမိလာသည်။ ထိုမှ တစ်ပါး မြတ်စွာဘုရား မိန့်ကြားတော်မူသော မူလစကားများကို လွှတ်ထားရန်၊ ချန်ထားရန် မသင့်။ ရင်းမြစ်ကို မှတ်သားလိုသူများအတွက် ဘုရားစကားတော် အတိအကျဖော်ပြပါရှိသင့်သည်ဟူ၍လည်း တစ်ဖန်တွေးမိလာပြန်၏။

နောက်ဆုံးတွင် တစ်ခုသောဆုံးဖြတ်ချက်ကို ချလိုက်၏။ လူအများလည်း သိနားလည်လွယ်စေခြင်းဌာလည်းကောင်း၊ ဗုဒ္ဓစကားတော် အတိအကျကိုလည်း သိရှိကြစေခြင်းဌာလည်းကောင်း၊ ပါဠိတစ်ချက်၊ အနက်တစ်ဖန်၊ နိဿယပြန် နည်းမျိုးအတိုင်း ရေးသားဖော်ပြရန် လမ်းကိုရွေးချယ်ကာ ဥဒါန်းပါဠိတော်ကို အောက်ပါဘာသာပြန်ဖြင့် ဖော်ပြလိုက်ရပါသတည်း။

ဘိက္ခဝေ = မြေ၊ ရေ၊ လေ၊ မီး စသည် ထင်ရှားရှိသဖြင့် သတ္တဝါတို့၏ တည်ရာ အာယတနဘုံဖြစ်မှသာ ထင်ရှားရှိနိုင်ရာသည်။ နိဗ္ဗာန်ဟူက ယင်းသို့ မြေ၊

ရေ၊ လေ၊ မီး စသည် မရှိသဖြင့် သတ္တဝါတို့၏ တည်ရာ၊ ပုန်းအောင်းရာအားဖြင့် ထင်ရှားရှိမည် မဟုတ်နိုင်ရာဟု သက်ာယုံမှား တွေးတောခြင်းများ ဖြစ်နေကြကုန်သော ငါ၏ချစ်သား ရဟန်းများတို့။ ယတ္ထ = အကြင်ဘုံတည်ရာ အာယတန၌၊ နေဝ ပထဝီ = အခြားတည်ရာ ဘုံဌာနများကဲ့သို့ မြေလည်း မရှိ။ န အာပေါ = နဂါးပြည် စသည်များကဲ့သို့ ရေလည်း မရှိ။ န တေဇော = ငရဲပြည် စသည်များကဲ့သို့ မီးလည်း မရှိ။ န ဝါယော = လူ့ပြည်၊ နတ်ပြည်၊ ဗြဟ္မာ့ပြည်များကဲ့သို့ လေလည်း မရှိ။ တဒါယတနံ = ထိုမြေ၊ ရေ၊ လေ၊ မီး မရှိပါဘဲလျက်ပင် အခြားဘုံများကဲ့သို့ တည်နေရာ အာယတနမျိုးသည်၊ အတ္ထိ = မြေ၊ ရေ၊ လေ၊ မီး ရှိရာ ဘုံဌာနကဲ့သို့ ထင်ရှားရှိသည်ပင် ဖြစ်၏။

တံ = ထိုမြေ၊ ရေ၊ လေ၊ မီး မရှိပါဘဲလျက် အခြားဘုံများကဲ့သို့ တည်နေရာဖြစ်၍ ထင်ရှားရှိသော အာယတနဟူသည်လည်း။ န အာကာသာနဉ္စာယတနံ = ပထမ အရူပဗြဟ္မာတို့၏ တည်နေရာ အာကာသာနဉ္စာယတနဘုံလည်း မဟုတ်သေး။ န ဝိညာနဉ္စာယတနံ = ဒုတိယ အရူပဗြဟ္မာတို့၏ တည်နေရာ ဝိညာနဉ္စာယတနဘုံလည်း မဟုတ်သေး။ န အာကိဉ္စညာယတနံ = တတိယ အရူပဗြဟ္မာတို့၏ တည်နေရာ အာကိဉ္စညာယတနဘုံလည်း မဟုတ်သေး။ န နေဝသညာ နာသညာယတနံ = စတုတ္ထ အရူပဗြဟ္မာတို့၏ တည်နေရာ နေဝသညာ နာသညာယတနဘုံလည်း မဟုတ်သေး။ နာယံလောကော = အခြားသော လူ့ဘုံ၊ နတ်ဘုံ စသည်တို့ကဲ့သို့ ဤပစ္စုပ္ပန်ဘဝဟူသည်လည်း မရှိ။ န ပရလောကော = အခြားသော လူ့ဘုံ၊ နတ်ဘုံစသည်များကဲ့သို့ တမလွန်လောကဟူသည်လည်း မရှိ။ န ဥဘတော စန္ဒိမ သူရိယာ = နှစ်ပါးကုန်သော လ၊ နေ များတို့သည်လည်း မရှိကုန်။ (ဝါ) လူ့ရွာ၊ နတ်ဘုံများကဲ့သို့ နေ၊ လ နက္ခတ်အရောင် မထွန်းပြောင်ပါဘဲလျက်ပင် ဝင်းဝင်းတောက်၍ နေ၏။

ဘိက္ခဝေ = ငါ၏ချစ်သား ရဟန်းများတို့။ တတြာပိ = ထိုမြေ၊ ရေ၊ လေ၊ မီး မရှိဘဲလျက်၊ အာကာသာနဉ္စာယတနလည်း မဟုတ်ဘဲလျက်၊ အခြားဘုံများကဲ့သို့ တည်ရာအာယတနဖြစ်၍ ထင်ရှားရှိသော လရောင်၊ နေရောင် မရှိဘဲလျက်၊ ဝင်းဝင်းပြောင်၍လည်း နေသောဘုံ၊ တည်ရာ အာယတန၌လည်း။ အဂတိံ = အခြားသော ဘုံတည်ရာ၊ ရွာနိဂုံးများကဲ့သို့ တစ်ပြည်တစ်ရွာမှ ရောက်လာကြသူရှိ၏ဟူ၍လည်း၊ နဝဒါမိ = ငါဟောတော်မမူ။ ဌိတိံ = တည်တည်တံ့တံ့နေသော လူသူရှိ၏ဟူ၍လည်း၊ န ဝဒါမိ = ငါ ဟောတော်မမူ။ စုတိံ = ဤဘုံသို့ရောက်လာပြီးနောက် စုတေမနေ သေလွန်ခြင်းသို့ ရောက်ရသူရှိ၏ဟူ၍လည်း၊ န ဝဒါမိ = ငါ

ဟောတော်မမူ။ ဥပ ပတ္တိ=အခြားတည် ဘုံများကဲ့သို့ ဘုံတစ်ပါးမှ လာ၍ ပဋိသန္ဓေတည်နေလာသူ ရှိ၏ ဟူ၍လည်း၊ န ဝဒါမိ=ငါ ဟောတော်မမူ။

ဇတံအာယတနံ=ထိုစဉ်မှုလောက် ထူးထူးဆန်းဆန်း အံ့မခန်းအောင် ထင်ရှားဖြစ်ပေါ်လာသော ဘုံဌာနတစ်ခန်း အောင်မြေနန်းအရပ်သည်၊ အပ္ပတိဋ္ဌိတံ= အခြားဘုံဌာနများကဲ့သို့ ကိုယ်ခန္ဓာနှင့် တစ်ရွာတည်နေရာလည်း မဟုတ်။ အပဝတ္တံ=အခြားဘုံဌာနများကဲ့သို့ ကိုယ်ခန္ဓာပါ ဖြစ်ကြရာလည်း မဟုတ်။ အနာရမ္မဏံ=အခြားတည်ရာ ဘုံများကဲ့သို့ စွဲလမ်းထောက်တည်ရာလည်း မရှိ။

ဧသေဝ ဧသော ဧဝ=ဤမှုလောက် ပွေလီထူးဆန်း အံ့မခန်းသည့် ရွှေနန်းမှို့သည်သာလျှင်၊ ဒုက္ခဿ=တစ်ထောင့်ငါးရာ ရန်များစွာတို့၏ အခါခါ ညှဉ်းဆဲ နှိပ်စက်အပ်သော ဘေးဒုက္ခဟူသမျှ၏၊ အန္တော=အဆုံးတည်း။

(ပထမဥဒါန်း ပြီး၏။)

ဘိက္ခဝေ=အခြားတည်ဘုံများကဲ့သို့ ယင်းနိဗ္ဗာန်ဟူသော ဘုံတည်ရာသည် ထင်ရှားမရှိနိုင်ဟု တွေးတောခြင်း မကောင်းနိုင်ကြကုန်သော ငါ၏ ချစ်သား ရဟန်းများတို့။ အနတံနာမ=မျက်စိဖြင့် မြင်ရသည်ကို မဆိုထားဘိ၊ စိတ်ကူးစိတ်အကြံ တွေးခေါ်မှုဖြင့်သော်လည်း မညွှတ်၊ မရောက်နိုင်ရာ အရပ်မည်သည်ကား (ဝါ) တဏှာမသီ၊ မလာနိုင်ရာ အရပ်မည်သည်ကား၊ ဒုဒ္ဒသံ=ပုထုဇ္ဇဉ်တို့ဉာဏ်ဖြင့် သိနိုင်မည့်အရေး လွန်စွာကွာဝေးခဲ့၏။

ဟိ=ငါဘုရား မိန့်ကြားတော်မူသင့်လှတော့၏။ သစ္စံ=အခြားတရားများ ကဲ့သို့ ဖောက်ပြန်ပျက်စီးခြင်းမရှိ၊ ပကတိ မြဲမြဲမှန်ကန်စွာ တည်နေသော တရား မြတ်မည်သည်၊ သုဒဿနံ=မြင်လွယ်သော သဘောတရားမျိုးသည်၊ န=မဟုတ်နိုင်။ ယံ=ယင်းသို့ သိနိုင် မြင်နိုင်ခဲသော နိရောဓသစ္စာ၊ နိဗ္ဗုတာဘုံနန်းကို (ထည့်)။ ဇာနတော=ဖြောင့်တန်းမှန်စွာ နေရာတကျ သိနိုင်ကြသော၊ ပဿတော=ဟုတ် တိုင်းထင်ထင် မြင်နိုင်ကြသောသူအပေါင်းအား၊ လောကေ=သုံးဘုံဘဝ၊ ဤ လောကဦ၊ တဏှာ=တွယ်တာမက်မော ဒုက္ခဘောင်မှ ပျော်အောင်မျှောတတ်သည့် လောဘ တဏှာ သမုဒယသစ္စာကို၊ ပဋိဝိဒ္ဓါ=ပယ်ခွာပိုင်းခြား ပွားသောအားဖြင့် များများကြီး ကောင်းကောင်းကြီး သိလေ၏။

တဿ=ထိုသိမြင်နိုင်ခဲသော နိရောဓသစ္စာ နိဗ္ဗုတာနန်းမကို လှလှကြီး ပိုင်သည့်အရေးဖြင့် သစ္စာလေးပါးလုံးကိုပင် မြင်နိုင် သိနိုင်လေပြီးသော ငါ၏ သားတော် ငါ့ရဲကျော်အပေါင်းအား (ထည့်)။ ကိဉ္စနံ=မာရ်နတ်မင်း၏ ရဲကျော် ခြောက်ဖော် တဏှာတို့၏အတွက်ကြောင့်ကြဖက်စရာလည်း၊ နတ္ထိ=တစိုးတစိ ဘယ်ဟာတစ်ခု ရှိတော့သည်မဟုတ်။ (ဒုတိယဥဒါန်း ပြီး၏။)

ဘိက္ခဝေ = နိဗ္ဗာန်ဟူက စကားမျှသာ အသားထင်ရှားမရှိ ယုံမှားမိကြကုန်သော ငါ၏ချစ်သား ရဟန်းတို့။ အသင်္ခတံ = အကြောင်းများစွာတို့ အခါခါ ညီညွတ်ပြုပြင်အပ်သော်လည်း ယင်းအကြောင်းများစွာတို့ ပြုစီရင်အပ်သည့်အသွင် သင်္ခတ လက္ခဏာ မထင်ထသော၊ အကတံ = အကြောင်းများစွာတို့ ပြုစီရင်အပ်ပုံ မပေါ်သော်လည်း တစ်ခုသော အကြောင်းသည်မျှ ပြုအပ်သည့်ပုံလည်း မပေါ်ထသော၊ အဘူတံ = အကြောင်းများ အကြောင်းနည်းတို့ ပြုပြင်အပ်ပုံ လက္ခဏာမထင်သော်လည်း ယင်းအကြောင်းတို့နှင့် ကင်း၍ လျောက်လျှားဘာသာဖြစ်လာသည်လည်း မဟုတ်ထသော၊ အဇာတံ = အချင်းခပ်သိမ်း မဖြစ်လာ ခွင့်ကြီးသာမှ တစ်ခါသာ ဖြစ်ပေါ်လာနိုင်ထသော၊ တံပဒံ = ထိုလက္ခဏာလေးရပ် ဂုဏ်သကပ်ရှိသော နိဗ္ဗုတာအောင်ခန်း ဘေးမသန်းသည့် ရွှေမြို့နန်း (နိဗ္ဗာန်)သည်၊ အတ္ထိ = ဘေးကိုကြောက်သူ ပရိနိဗ္ဗုတာ ပုဂ္ဂိုလ်တို့ဘေးမှ လွတ်ကြောင်း ပုန်းအောင်းခိုနေရာ၊ တာဏ လေဏ ပရာယနဖြစ်၍ ကောင်းစွာထင်ရှား ရှိသည်ဖြစ်၏။

ဘိက္ခဝေ = အို ချစ်သား ရဟန်းတို့။ အဇာတံ = ဥပါဒ်အားဖြင့် ဒြပ်ပေါ်အောင် မဖြစ်သော၊ အဘူတံ = ဥပါဒ်အားဖြင့် အထည်ဒြပ်မထင်သော၊ အကတံ = အကြောင်းအရာတို့ ပြုအပ်ပါလျက် ပြုအပ်ပုံလက္ခဏာ မပေါ်ထင်သော၊ အသင်္ခတံ = အကြောင်းစေး အကြောင်းနီးတို့သည် ပြုပြင်စီရင်အပ်သော်လည်း ပြုပြင်စီရင်အပ်ပုံ သင်္ခတလက္ခဏာမှ ကင်းသော၊ တံ = ထိုနိဗ္ဗာန်တရားသည်၊ နောစေ အဘဝိဿ = အကယ်၍ ထင်ရှားမဖြစ်ပေါ်လာငြားအံ့၊ ဝဝ = ဤသို့ နိဗ္ဗာန်တရား ထင်ရှားမပေါ်လာခဲ့သော်၊ ဇာတဿ = ဥပါဒ် ဒြပ်ပေါ်အောင်ဖြစ်သော၊ ဘူတဿ = ဥပါဒ်အားဖြင့် ထင်သော၊ ကတဿ = အကြောင်းတရားတို့ ပြုလုပ်အပ်တိုင်း ပြုလုပ်အပ်ပုံ အခြင်းအရာ လက္ခဏာပေါ်သော၊ သင်္ခတဿ = အကြောင်းတရားတို့ ပြုစီရင်အပ်တိုင်း ပြုစီရင်အပ်ပုံလက္ခဏာပေါ်သော၊ သင်္ခတဿ = တေဘူမက သင်္ခါရ တရားထဲမှ (သိလေသနည်း)၊ ဣဓံ နိဿရဏံ = ဤထွက်မြောက်ခြင်းဟူသည်၊ န ပညာယေထ = မထင်ခဲ့ရာ။

ဘိက္ခဝေ = ချစ်သား ရဟန်းတို့၊ ယသ္မာစ = အကြင်ကြောင့်ကား၊ ခေါ = စင်စစ်၊ အဇာတံ = ဥပါဒ်ဒြပ်အားဖြင့်ကား မဖြစ် ငြိမ်းအေးခြင်းသဘောဖြင့်သာ ဖြစ်လာသော၊ အဘူတံ = ဥပါဒ်ဒြပ်အားဖြင့်ကား မထင်၊ ငြိမ်းအေးခြင်း သဘောဖြင့်သာ ထင်လာသော၊ အကတံ = အကြောင်းတရားတို့ ပြုအပ်သော်လည်း ပြုအပ်သည် မမည်သော၊ အသင်္ခတံ = အကြောင်းတရားတို့ ပြုစီရင်အပ်သော်လည်း ပြုစီရင်အပ်ပုံ သင်္ခတ လက္ခဏာ မထင်သော၊ တံ = ထိုနိဗ္ဗာန်သည်၊ အတ္ထိ = ဥပါဒ်

အားဖြင့် ရန့်ရင်းစွာဖြစ်သော အခြားသော ပရမတ္ထတရားများကဲ့သို့ ထင်ရှားရှိလာ ပေါ်လာသည်ပင် ဖြစ်၏။

တသ္မာ = ထိုသို့ လွတ်မြောက်ရာ နိဗ္ဗာန်ဟူသည် ထင်ရှားရှိသောကြောင့် သာလျှင်၊ ဇာတဿ = ဥပါဒ်အားဖြင့် ဖြစ်ပေါ်လာရသော၊ ဘူတဿ = ဥပါဒ်အား ဖြင့် ထင်ရှားသော၊ ကတဿ = အကြောင်းတို့သည် ပြုအပ်သော၊ သင်္ခတဿ = အကြောင်းတရားတို့ ပြုစီရင်အပ်သော၊ သင်္ခတဿ = တေဘူမက သင်္ခါရတရားထဲမှ (သီလေ သနည်း)၊ နိဿရဏံ = ထွက်မြောက်ကြခြင်းသည်၊ ပညာယတိ = နိဗ္ဗာန် ရောက်သွားကြသူ အရှင်တို့အား ထင်ရှားခဲ့၏။ (တတိယဥဒါန်း ပြီး၏။)

ဘိက္ခဝေ = ချစ်သား ရဟန်းတို့၊ ဣဓ = ဤလောက၌၊ နိဿိတဿ = အမှီ တကဲ သဟဲရှိသော သူအား (တဏှာအမှီကို ဆိုလိုသည်။) စလိတံ = တုန်လှုပ် ယိမ်းယိုင် မခိုင်ပျက်ပြား ရခြင်းသည်၊ ဟောတိ = ဖြစ်၏။ အနိဿိတဿ = အမှီ တဟဲ သဟဲမရှိသူများအား (တဏှာမှ ကင်းသူဆိုလိုသည်။) စလိတံ = လှုပ်ရှား ယိမ်းယိုင် မခိုင်မျက်ပြား ရခြင်းသည်၊ နတ္ထိ = မရှိနိုင်။

စလိတေ = လှုပ်ရှားခြင်းသည်၊ အသတိ = မရှိခဲ့သော်၊ ပဿဒ္ဓိ = ငြိမ်သက် ခြင်းသည်၊ ဟောတိ = ဖြစ်၏။ ပဿဒ္ဓိယာ = ငြိမ်သက်ခြင်းသည်၊ အသတိယာ = မရှိခဲ့သော်၊ နတိ = ငါးပါးကာမဂုဏ် အာရုံမှောက်မှားတိမ်းပါး ညွှတ်သွားခြင်းသည်၊ နတ္ထိ = မရှိနိုင်။ နတိယာ = တိမ်းပါးမှောက်မှား လဲသွားခြင်းသည်၊ အသတိ = မရှိ ခဲ့သော်၊ အာဂတိဂတိ = လာရခြင်း သွားရခြင်းသည်၊ န ဟောတိ = မဖြစ်နိုင်။ (ပဋိသန္ဓေ မနေရ၊ မသေရဟု ဆိုလိုသည်။)

အာဂတိဂတိ = လာရခြင်း သွားရခြင်းသည်၊ အသတိ = မရှိခဲ့သော်၊ စုတူ ပပါတော = အဖန်တလဲလဲ သေရ အဖန်တလဲလဲ ပဋိသန္ဓေနေရခြင်းသည်၊ န ဟောတိ = ဖြစ်နိုင်တော့မည် မဟုတ်။ စုတူပပါတေ = အဖန်တလဲလဲ သေရခြင်း ပဋိသန္ဓေနေရခြင်းသည်၊ အသတိ = မရှိခဲ့သော်၊ ဣဓ = ဤကာမဘုံထဲ၌၊ နေဝ = ဖြစ်နိုင်တော့သည်သာတည်း။ ဟုရံ = ထိုရူပဘုံထဲ၌လည်း၊ န = ဖြစ်နိုင်တော့မည် မဟုတ်။ ဥဘယံ = ကာမဘုံ ရူပဘုံ နှစ်ရပ်ကို၊ အန္တရေန = ကြဉ်၍လည်း၊ န = ဘယ်ဘုံမှာမှ မဖြစ်နိုင်။ ဧသေဝ = ဤဘုံသုံးပါးမှ လွတ်သွားရာ နိဗ္ဗူတာ အရပ်သည်ပင်လျှင်၊ ဒုက္ခဿ = ဒုက္ခဟူသမျှ၏၊ အန္တော = အဆုံးသတ်ဖြစ်သတည်း။

(ဥဒါန်းပါဠိတော်၊ အဋ္ဌကထာ အဖွင့်ကိုမှီ၍ အနက်ဖွင့်ဖော်ခြင်း)

# လူမှုရေး

**ပြဿနာ = အရုပ်ခြောက်မျက်နှာ။**

**မေးလျှောက်သူ = သိင်္ဂါလ သူဌေးသား။**

အဖ သိင်္ဂါလ၊ သား သိင်္ဂါလ ဟူ၍ ရာဇဂြိုဟ်ပြည်၌ နာမည်တူ သိင်္ဂါလ သားအဖနှစ်ယောက် ရှိသည်။ ပစ္စည်းဥစ္စာမှာ ကျိကျိတက် အလွန်ချမ်းသာ၏။ ကြွယ်ဝ၏။ သူတို့ဘေးဘိုးအဆက်ဆက်သည် သူဌေးမျိုးချည်းသာဖြစ်ရာ ခု သူတို့ သားအဖ လက်ထက်တိုင်အောင် သူဌေးမျိုးရိုးမပျက် ဆက်၍တည်ဆဲဖြစ်၏။

ဘာသာရေးသည် လူကို သွေးကွဲအောင် မှိုင်းတိုက်တတ်၏။ သားအဖ မှန်းလည်း မသိ၊ ညီအစ်ကိုမှန်းလည်း မသိအောင် ဖြစ်စေတတ်လေသည်။ ထိုမျှသာမက ဘာသာရေးသည် အလိုက်မှားလျှင် လူတို့အား အပင်းအဆိပ်ဖြစ်စေ၏။ အလိုက်မှန်ခဲ့သော် သံသရာဝဋ်ချွတ်ဆေး၊ လောကဝဋ်ချွတ်ဆေးလည်း မည်ပေ၏။

နှစ်ယောက်သော ထိုသိင်္ဂါလ သားအဖသည် ဘာသာရေးလမ်းကြောင်းနှင့် အမြင်ချင်း မတူကြလေဘဲ ကျောခိုင်း၍ လျှောက်သွားနေကြ၏။ အဖဖြစ်သူက ဂေါတမရှင်တော်မြတ်ဘုရား၏ အယူဝါဒကို လက်ခံ၍ ဗုဒ္ဓဘာသာကို ကိုးကွယ်၏။ သား သိင်္ဂါလက အဖခြေရာကို မနင်းလေဘဲ မိစ္ဆာမိဋ္ဌိကို ကိုးကွယ်လေသည်။

အဖသူဌေးသည် တစ်ဦးတည်းသော သားဖြစ်သူ သိင်္ဂါလအား လွန်စွာချစ်၏။ မြတ်နိုး၏။ အလွန်ကြုံကြိုက်ခဲလှစွာသော 'ဗုဒ္ဓုပ္ပါဒ ဒုလ္လဘခေတ်ကြီး'နှင့် ကြုံကြိုက်ဆဲမှာ ငါကဲ့သို့သော ဖခင်ကောင်းတစ်ယောက်၏ သားဖြစ်ပါလျက် ဘုရားကို ကျောခိုင်း၍ ရိုင်းစိုင်းသောဘဝ၌ ကျင်လည်နေမည်ဆိုပါက ငါ့သားအဖို့ အဘယ်မှာလျှင် လူဖြစ်ကျိုးနပ်လေမည်နည်း။ ငါ့သားကို အမြင်မှန်၊ ဘာသာမှန်သို့ ရောက်စေအံ့၊ လူဖြစ်ကျိုးနပ်စေအံ့ဟူ၍ သားဖြစ်သူအား မိစ္ဆာဝါဒ မှားယွင်းသော

အယူကို စွန့်၍ ဗုဒ္ဓဘာသာကို လက်ခံကိုးကွယ်ရန် ကြိမ်ဖန်များစွာပင် တိုက်တွန်းခြင်း ပြုရာ၏။

ဘုရားကျောင်းတော်သို့ သွား၍ ဘုရားသခင်အား အဖူးမြော်ခိုင်းသည်။ အရှင်သာရိပုတ္တရာ၊ အရှင်မောဂ္ဂလာန်၊ အရှင်အာနန္ဒာ စသော ပုဂ္ဂိုလ်များထံ ချဉ်းကပ်ရန် ညွှန်ကြားသည်။ သို့သော် ထိုအခါမျိုးတွင် သားဖြစ်သူက ဖခင်၏ တိုက်တွန်းချက် ညွှန်ကြားချက်ကို လက်မခံဘဲ အကြောင်းအမျိုးမျိုးပြ၍ ကန့်ကွက် ငြင်းဆန်လေ၏။

"ကျွန်တော် ဘုရားထံကိုလည်း မသွားလို၊ အရှင်အာနန္ဒာ၊ အရှင်သာရိပုတ္တရာ ဆိုသော ကိုယ်တော်ကြီးတွေထံကိုလည်း မဆည်းကပ်လို။ ဗုဒ္ဓအသိုင်းအဝိုင်း ထဲက ဆိုလျှင် အဘယ်သူ့ထံကိုမျှ မသွားလို။ ဘာကြောင့် မသွားလိုသလဲဟု ကျွန်တော့်ကို မေးချင်မည်၊ မေးကြမည်။ ကျွန်တော် ဖြေကြားဖို့ အသင့်ရှိပါ၏။ ဖြေပါမည်။

"ဘုရားဆီပဲ ဖြစ်ဖြစ်၊ သူ့တပည့်ကြီးတွေဆီကိုပဲဖြစ်ဖြစ် သွားမိတယ်ဆိုရင် သူတို့ကို ကျွန်တော် ရှိခိုးရတော့မည်။ ဦးချရ အရိုသေပေးရတော့မည်။ အဲဒါ ကျွန်တော် မလုပ်နိုင်ဘူး။ ရှိမခိုးနိုင်၊ သူတို့ကို အရိုအသေမပေးနိုင်ဘူး။ ကျွန်တော်ဟာ သူဌေးသား။ ကျွန်တော် ဘယ်သူ့ကိုမှ ရှိခိုးဖို့၊ အရိုအသေပေးဖို့ မလိုဘူး။

"ဒါတွင်မျှမက သူတို့ဆီ၊ သူတို့ရှေ့မှောက် ရောက်သွားတယ်ဆိုရင် အကြာကြီးလည်း ထိုင်နေရမည်။ ထိုင်နေရင် အညောင်းမိလာမည်။ ကျွန်တော် အညောင်းလည်း မခံနိုင်ဘူး။ ပြီးတော့ သူတို့ရှေ့မှာ မြေကြီးပေါ် ထိုင်ချင် ထိုင်ရမည်။ ထိုင်ရရင် ကျွန်တော့်အဝတ်အစားတွေ ဖုန်လူးကုန်မည်။ ပေကျံကုန်မည်။ ညစ်ထေးကုန်မည်။ အဲဒါလည်း ကျွန်တော် မခံနိုင်ဘူး။

"ပြီးတော့ သူတို့နဲ့ တွေ့ဆုံတဲ့အခါ ချက်ချင်းထလို့လည်း မဖြစ်ဘူး။ စကားစမြည်တွေ ပြောရမည်၊ ဆိုရမည်။ အဲဒါကို အကြောင်းပြုပြီး သူတို့နဲ့ လက်ပွန်း တတီး ရင်းရင်းနှီးနှီးဖြစ်လာမည်။ ဖြစ်လာရင် ဘာတွေ တက်လာမလဲ။ သူတို့ အမြိန့်သား စားသောက်ဖို့အတွက် အစားအစာပေးရမည်။ ဝတ်ဖို့အတွက် အဝတ်အစား သင်္ကန်းဆိုလား၊ အဲဒါတွေ ပေးရကမ်းရတော့မည်။ အဲဒီလို သူတို့ကို ကျွေးရမွေးရ ပေးရကမ်းရတယ်ဆိုကတည်းက လက်ငင်းထိခိုက်မှာ ပစ္စည်းကုန်ခြင်းပဲ။ ကျွန်တော်တို့ပစ္စည်းထဲက သူတို့အတွက်နဲ့ တစ်ပြားတစ်ချပ်မျှ အကုန်အကျ မခံနိုင်ဘူး။ အဲဒါတွေကြောင့် ကျွန်တော် သူတို့ဆီ မသွားလို မချဉ်းကပ်လို"

ဤသို့ အကြောင်းအမျိုးမျိုးပြ၍ ပြောင်ပြောင်ငြင်းဆန်ခြင်းပြုနေသော သား သိင်္ဂါလအား အဖသူဌေးကြီးသည် မည်သို့မျှ မတတ်နိုင်။ လက်မှိုင်ချငေး အရှုံးပေးထားရလေ၏။

သားအတွက် စိတ်လက်မချမ်းမသာနှင့်ပင် ထိုသိင်္ဂါလ သူဌေးကြီး တစ်နေ့တွင် ကွယ်လွန်လေသောအခါ သားအတွက် ရေးသားခဲ့သော သေတမ်းစာတစ်ခုကို သိင်္ဂါလသည် ဖခင်၏အိပ်ရာအောက်က တွေ့ရှိရလေ၏။

**ချစ်စွာသော သား**

> အဖ စကားကို ငါ့သား နားထောင်ရစ်ပါဘိ။ အရပ်ခြောက်ပါးကို ငါ့သား မမေ့ရစ်ပါလေနှင့်။ နေ့တိုင်း နေ့တိုင်း မနက် စောစောထ၍ ရှိခိုးရစ်ပါလေ။ ဤသို့ ရှိခိုးခြင်းဖြင့် ငါ့သားအား အကျိုးများပေလတ္တံ့။

ဤစာကို တွေ့သောအခါ သား သိင်္ဂါလသည် မျက်ရည်များ ကျလာ၏။ အသက်ထင်ရှားရှိစဉ်က အဖ စကားကို နားမထောင်မိခဲ့သည်များကို နောင်တကြီးစွာ ရလာသည်။

ရှေးက အဖစကား ငါနားမထောင်ခဲ့သော်လည်း ယခု လေးစားတော့အံ့။ ဖခင်ကြီး မှာထားခဲ့သည့်အတိုင်း အရပ်ခြောက်ပါးကို နေ့စဉ်မပြတ် ကျင့်ဝတ်တစ်ခုအနေဖြင့် ငါ ရှိခိုးတော့အံ့။

ဤသို့ဆုံးဖြတ်ပြီးလျှင် သိင်္ဂါလသည် ဖခင်ကြီး မျက်နှာလွှဲသော အချိန်မှစ၍ နေ့စဉ် နံနက်စောစောထပြီးလျှင် တစ်ကိုယ်လုံး ရွှဲရွှဲစိုအောင် ရေဆွတ်၍ ဆံပင်များကို ဖားလျားချကာ ရာဇဂြိုဟ်မြို့တွင်းရှိ မင်းလမ်းမကြီးပေါ်မှနေ၍ အရှေ့၊ အနောက်၊ တောင်၊ မြောက်၊ အထက်၊ အောက်ဟုဆိုအပ်သော အရပ်ခြောက်ပါးကို ရှိခိုးခြင်းပြုလေသတည်း။

တစ်နေ့သော နံနက်တွင် ထွက်လာသော နေဝန်းသည် ဘုရားသခင်အား ဖူးမြော်နေဟန် တူ၏။ ရာဇဂြိုဟ်ပြည်တွင်းသို့ ဆွမ်းခံဝင်လာသော မြတ်စွာဘုရားအား နေမင်းသည် ဝပ်စင်းကော်ရော် ကောင်းကင်ပေါ်က ပူဇော်နေသကဲ့သို့ ထင်ရသည်။

ထိုအချိန်မှာပင် လူ့ယဉ်ပါး၊ မိဘစကားကို နားထောင်၍ သားလိမ္မာဖြစ်လာသော သိင်္ဂါလသည်လည်း သူ၏ကျင့်မြဲဝတ်ကို မချွတ်စေဘဲ မြို့လမ်းမကြီး တစ်ခုပေါ်မှာ ရပ်၍ အရပ်ခြောက်ပါးကို ရှိခိုးခြင်းပြုနေစဉ် ဘုရားသခင်သည် သပိတ် တော်ကို ပိုက်၍ သူ၏ရှေ့တူရူမှ ကြွလာတော်မူနေ၏။ သို့သော် သိင်္ဂါလသည် (ကုလား ဘုရားရှိခိုးသကဲ့သို့) မျက်စိစုံမှိတ် လက်နှစ်ဖက်ကို

မိုးပေါ်မြှောက်လျက် ကိုယ်ကို မတ်မတ်ထားပြီးလျှင် ဆုံလှည့်သလို လှည့်၍ ရှိခိုးနေခိုက်ဖြစ်၍ ဗုဒ္ဓ လာနေသည်ကို သူ မတွေ့ရလေ။ ဗုဒ္ဓဘုရားသည် သူ့အနားသို့ ရောက်သွားတော်မူလေ၏။

မေး။ ချစ်သား သိင်္ဂါလ၊ အသင် စောစောစီးစီး ဘာလုပ်နေသနည်း။

ဤသို့မေးလိုက်မှ သိင်္ဂါလသည် သူ့အနားသို့ မြတ်စွာဘုရား ရောက်နေသည်ကို အံ့သြစွာ တွေ့ရလေသည်။ သို့သော် သူကား မိစ္ဆာဒိဋ္ဌိပီပီ ဘုရားသခင်အား ရှိခိုးခြင်း အရိုအသေပေးခြင်း မပြုသေးဘဲ မေးသော စကားကို ရပ်လျက်ပင် အဖြေပေးလိုက်၏။

ဖြေ။ အရှင်၊ ကျွန်ုပ်၏အဖ မှာစကားအရ အရပ်ခြောက်ပါးကို ရှိခိုးခြင်း ပြုနေပေ၏။

မေး။ သင့်အဖက မည်သို့မှာထားခဲ့ပေသနည်း။

ဖြေ။ အရှင်၊ ကျွန်ုပ် အဖက ဤသို့မှာခဲ့ပေ၏။ ငါ့သား၊ နေ့စဉ်မပြတ် နံနက်စောစောထ၍ အရပ်ခြောက်မျက်နှာကို ရှိခိုးရစ်လော့။ ဤသို့ရှိခိုးခြင်းဖြင့် သင့်သား ကောင်းကျိုးဖြစ်လတ္တံ့ဟူ၍ မှာထားခဲ့ပါသည်။

မေး။ ချစ်သား သိင်္ဂါလ၊ မိဘစကား နားထောင်ခြင်းကား ကောင်းလေစွ။ သို့သော် သင့်အဖမှာကြားခဲ့သော အရပ်ခြောက်ပါးကား သင် ယခုရှိခိုးနေသော အရှေ့၊ အနောက်၊ တောင်၊ မြောက်၊ အထက်၊ အောက် အရပ်များ ဟုတ်မည်မထင်။ သင့်ဖခင်ကား ငါဘုရား၏ တပည့်သာဝကတစ်ဦး ဖြစ်၏။ ငါသည် ငါ့တပည့်သာဝကတို့အား ဤသို့ ဤသို့သော အရပ်ခြောက်မျိုးကို ရှိခိုးရမည်ဟူ၍ မည်သည့်အခါကမျှ ဟောပြောခြင်း၊ ညွှန်ကြားခြင်း မပြုခဲ့ပေ။

ဤသို့ မိန့်တော်မူလိုက်ရာ သိင်္ဂါလသည် ထိုခဏမှာပင် ငိုင်ကျသွားလေသည်။ စဉ်းစားတွေးခေါ်မှုများ သူ့အာရုံတွင် ရုတ်ခြည်းထင်လာသည်။ ငါ့အဖမှာထားခဲ့တဲ့ အရပ်ခြောက်ပါးဟာ ဒါဟုတ်ချင်မှဟုတ်မယ်။ ငါ့အဖဟာ သူ(ဘုရား)ပြောသလို သူ့(ဘုရား) တပည့်ဆိုတာလည်း မှန်တယ်။ ငါ့အဖဟာ ဒီအရပ်ခြောက်ပါးကို ရည်ညွှန်းပြီး ငါ့ကို မှာထားခဲ့တာမှ ဟုတ်ပါလေစ။ ဒါမှ တစ်ပါး အရပ်ခြောက်ပါးဆိုတာများ ရှိသေးရော့လား။ ရှိခဲ့ရင် အဲဒါကိုများ ရည်ညွှန်းပြီး မှာထားခဲ့ရော့လား ဟူသော အတွေးများ ဖြစ်လာသည်။ ထိုတွေးမှု၏ လှုံ့ဆော်ချက်ကြောင့် သိင်္ဂါလသည် မြတ်စွာဘုရားအား မေးလျှောက်ခြင်းပြုလေတော့သည်။

မေး။ အရှင်ဘုရား၊ ဤအရပ်ခြောက်ပါးမှ တစ်ပါး အခြားတစ်ပါးသော အရပ်ခြောက်ပါး၊ အရပ်ခြောက်မျက်နှာများ ရှိပါသေးသလော၊ ရှိခဲ့သော် အဘယ်သည်တို့ ဖြစ်ကုန်ပါသနည်း။

ဖြေ။ ချစ်သား သိင်္ဂါလ၊ ငါ၏ သာသနာတွင်း၌ အရပ်ခြောက်ပါး တို့သည် ရှိကုန်၏။ ၎င်းတို့ကား ငါဘုရား သာသနာ၌ မိဘကို အရှေ့အရပ်၊ ဆရာကို တောင်အရပ်၊ သားမယားကို အနောက်အရပ်၊ မိတ်ဆွေအပေါင်းကို မြောက်အရပ်၊ လက်အောက်ငယ်သားကျေးကျွန်များကို အောက်အရပ်၊ ရဟန်း ပုဏ္ဏားတို့ကို အထက်အရပ်၊ ဤသို့အားဖြင့် အရပ်ခြောက်ပါး ရှိကုန်သတည်း။

မေး။ အရှင်ဘုရား၊ သာသနာတွင်း၌ အရပ်ခြောက်ပါးကို အကျွန်ုပ် မှတ်သားရပါပြီ။ ၎င်းတို့ကို အဘယ်သို့လျှင် ရှိခိုးအပ်ပါသနည်း။ လက်အုပ်ချီ မိုး၍ ရှိခိုးခြင်းကို ဆိုပါသလော။ သို့မဟုတ် အခြားအခြားသော ရှိခိုးနည်းဟူ၍ ရှိပါသေးသလော။

ဖြေ။ ချစ်သား သိင်္ဂါလ၊ နာလော့။ လောက၌ အကြင် သားသမီး တို့သည် ရှိကုန်၏။ ထိုသားသမီးတို့က မိဘတို့အား ပြုစုလုပ်ကျွေးရသော ကျင့်ဝတ်ငါးမျိုး ရှိပေသည်။ ထိုသို့သော သားသမီးဝတ်ကို မချွတ်စေရအောင် လုပ်ကျွေးပြုစုခြင်း သည် မိဘတို့အား အမြဲတစေရှိခိုးနေသည် မည်၏။ သင့်ဖခင်သည် ယင်းသည့်အဓိပ္ပာယ်ကို ရည်ညွှန်း၍စောင်း၊ အကြောင်းပြု၍ အရှေ့အရပ်ကို ငါ့သား မမေ့လေနှင့်၊ အမြဲတစေ ရှိခိုးပါလေဟူ၍ မှာခဲ့ခြင်းဖြစ်ပေသည်။

မေး။ အရှင်ဘုရား၊ သားသမီးတို့က မိဘတို့အား ပြုရသော ကျင့်ဝတ် ငါးသွယ်ဟူသည် အဘယ်ပါနည်း။ ဆက်လက်၍ မိန့်တော်မူပါဦး ဘုရား။

ဖြေ။ ချစ်သား သိင်္ဂါလ၊ (၁) မိဘတို့သည် သားသမီးတို့အား ရှေးဦးစွာကျေးဇူးပြုတတ်သောကြောင့် ပုရတ္ထိမဒိသာ=အရှေ့အရပ်မည်ပေကုန်၏။ ထိုမိဘတို့သည် သားသမီးတို့အား ငယ်စဉ်ကာလမှ စ၍ နို့ရည်တိုက်ခြင်း၊ အစားအစာကျွေးမွေးခြင်း၊ နှပ်၊ တံတွေး၊ ကျင်ကြီး၊ ကျင်ငယ် စသော အညစ် အကြေးများကို ရွံရှာခြင်း မရှိ၊ အမွှေးနံ့သာကဲ့သို့ သဘောထားကာ သုတ်သင်ပေးခြင်း၊ အရွယ်အလျောက် ထိုက်တန်သော အဝတ်အစား၊ အဆင်တန်ဆာများ ဆင်ယင် ပေးခြင်း စသည်တို့ကိုပြု၍ ယုယစွာ ကျွေးမွေးလာခဲ့ကြသည်။ သားသမီးများ အရွယ်ရောက်လာသောအခါ အတုံ့အပြန်သဘောအားဖြင့် သားသမီးများက တစ်ဖန်ပြန်၍ မိဘတို့ကို လုပ်ကျွေးခြင်း ပြုစုခြင်းသည် ကျင့်ဝတ်တစ်ပါး။

(၂) မိဘတို့၌ ဆောင်ရွက်စရာ တစ်စုံတစ်ခုသော ကိစ္စကြီးငယ် ပေါ်ပေါက် လာသောအခါများတွင် သားကောင်း၊ သမီးကောင်း ပီသစွာ မိဘကိုယ်စား ဝင်ရောက်လုပ်ကိုင်ခြင်း ကျင့်ဝတ်တစ်ပါး။

(၃) မိဘလက်ထက်က ဆင်းသက်လာသော ကုသိုလ်ကောင်းမှု၊ ယဉ်ကျေးသော အပြုအမူများကို အစဉ်အလာမပျက် ဆက်လက်တည်တွန်းအောင် စောင့်ရှောက် ထိန်းသိမ်းသွားခြင်း ကျင့်ဝတ်တစ်ပါး။

(၄) သားသမီးပင်ဖြစ်သော်လည်း မိဘဆိုဆုံးမသော စကားကို နားထောင်မှသာ မိဘအမွေကို ခံထိုက်၏။ မိဘစကားကို နားမထောင်ဘဲ မိဘကို အမြဲဆန့်ကျင်ဘက်ပြုနေချေက မိဘအမွေကို မခံထိုက်။ ထို့ကြောင့် အမွေကို ခံစားထိုက်သော သားကောင်း၊ သမီးကောင်း ဖြစ်စေခြင်းငှာ မိဘစကားကို နားထောင်ခြင်း၊ လေးစားခြင်း ကျင့်ဝတ်တစ်ပါး။

(၅) မိဘနှစ်ပါး ဆုံးပါးကွယ်လွန်သွားလေသောအခါ သားကောင်း၊ သမီးကောင်းပီပီ 'ကောင်းရာသုဂတိသို့ လားရောက်စေကြောင်း' ရည်ရွယ်၍ ကုသိုလ်ကောင်းမှုပြု၊ အမျှပေးဝေခြင်း ကျင့်ဝတ်တစ်ပါး။ ဤငါးပါးပေတည်း။

ချစ်သား သိင်္ဂါလ၊ ဤအကြောင်းတရား ငါးပါးတို့ဖြင့် လိမ္မာသော သားသမီးသည် အရှေ့အရပ်ဟု သမုတ်အပ်သော မိဘတို့ကို အဖန်တလဲလဲ အမြဲလုပ်ကျွေးအပ်ကုန်၏။ မွေးမြူအပ်ကုန်၏။ ဤသို့ပြုခြင်းသည် အရှေ့အရပ်ကို အမြဲတစေ ရှိခိုးနေသည်မည်သောကြောင့် သင့်ဖခင်သည် ဤသည်ကို ရည်ရွယ်၍ အရှေ့အရပ်ကို ရှိခိုးရစ်၊ မလစ်ဟင်းစေနှင့်ဟု မှာထားခဲ့ခြင်း ဖြစ်ပေသည်။

ချစ်သား သိင်္ဂါလ၊ နားဦးလော့။ သားသမီးတို့က မိဘတို့အား ပြုစုရသော ကျင့်ဝတ်ငါးမျိုး[၁] ရှိသကဲ့သို့ပင် မိဘတို့က သားသမီးတို့အား ပြုရသောကျင့်ဝတ်သည်လည်း ထိုနည်းလည်းကောင်း ငါးမျိုးပင် ရှိပေ၏။ ငါးမျိုးဟူသော်ကား–

(၁) မကောင်းမှုကို မပြုမှားမိအောင် တားမြစ်ခြင်း တစ်ပါး။ (၂) ကောင်းသော အမှုမျိုးကို ပြုလုပ်အောင် ညွှန်ကြားတိုက်တွန်းခြင်း တစ်ပါး။ (၃) အတတ်ပညာတတ်မြောက်အောင် သင်ကြားပေးခြင်း တစ်ပါး။ (၄) လုပ်ကိုင် စားသောက်ရန်အတွက် တတ်နိုင်သလောက် အရင်းအနှီး စိုက်ထုတ်ပေးခြင်း တစ်ပါး။ (၅) အချိန်အရွယ်ရောက်လျှင် သင့်လျော်သူနှင့် လက်ထပ်ထိမ်းမြားပေးခြင်း တစ်ပါး။ ဤငါးပါးပေတည်း။

ဤသို့ ငါးသွယ်ကျင့်ဝတ်၊ မချွတ်စေခြင်းအားဖြင့် မိဘတို့သည် ကောင်းသော အရှေ့အရပ်ဟူသော အရာ၌ တည်ပေကုန်သည်ဖြစ်ရာ ထိုအခါ အရှေ့

---

၁။ မိဘဝတ်၊ ဆရာသမားဝတ်၊ မယားဝတ်၊ လက်အောက်ငယ်သားဝတ်တို့ကို သိင်္ဂါလသူဌေးသားက မမေးသော်လည်း အပြမ်းအလှန်သဘောအားဖြင့် မြတ်စွာဘုရားက ထည့်၍ ဟောသွားတော်မူ၏။

အရပ်နှင့် ပတ်သက်၍ မိဘတို့ဘက်မှလည်းကောင်း၊ သားသမီးတို့ဘက်မှလည်းကောင်း တစ်စုံတစ်ခုသော ချို့ယွင်းခြင်းမရှိသဖြင့် ဘေးရန်ဥပဒ်သုံး လုံခြုံသည် မည်ပေ၏။

မေး။ အရှင်ဘုရား၊ အရှေ့အရပ်ကိုကား ထင်ရှားစွာ သိရပါပြီ။ တောင်အရပ်ဟူသည်ကို ဆက်၍ မှတ်သားလိုပါသေးသည် ဘုရား။ ဟောတော်မူပါဦး ဘုရား။

ဖြေ။ ချစ်သား သိင်္ဂါလ၊ ငါဘုရား သာသနာ၌ ဆရာသမားတို့သည် တပည့်တို့ပြုစုသော ကျင့်ဝတ်ကို အလှူခံထိုက်ပေသောကြောင့် ဒက္ခိဏာဒိသာ= တောင်အရပ် မည်ကုန်၏။ တောင်အရပ်နှင့် တူသည်ဟု ငါဟောတော်မူ၏။ ထိုတောင်အရပ်နှင့်တူသော ဆရာသမားတို့အား တပည့်ဖြစ်သူ တို့က ပြုရာသော ကျင့်ဝတ်သည်လည်း မချွတ်လျှင် ငါးပါးပင်တည်း။ ငါးပါးဟူသော်ကား–

(၁) ဆရာသမား လာသည်ကိုမြင်လျှင် ခရီးဦးကြိုဆိုခြင်း၊ နေရာဖယ်ပေးခြင်း၊ အလေးပြုခြင်း၊ ညောင်းညာသောအခါ နင်းနှိပ်၍ ခြေဆုပ်လက်နယ်ပြုခြင်း တစ်ပါး။ (၂) ဆရာ့ထံပါး တစ်နေ့သုံးကြိမ် ဆည်းကပ်ခြင်း တစ်ပါး။ (၃) ဆရာ့စကားကို အလေးအနက်ပြု၍ မှတ်သားနာယူခြင်း တစ်ပါး။ (၄) ဤမှကြွင်းသော ချိုးရေ၊ မျက်နှာသစ်ရေ တည်ထားခြင်း၊ ညစ်နွမ်းသောအဝတ်ကို လျှော်ဖွပ်ပေးခြင်း၊ အစားအစာကို ရှိသေစွာ လုပ်ကျွေးပြုစုခြင်း တစ်ပါး။ (၅) ဆရာ သင်ကြားပေးသည်ကို မှတ်သားမိနေအောင် အထပ်ထပ် ရွတ်ဖတ်သရဇ္ဈာယ်ခြင်း တစ်ပါး။ ဤငါးပါးပင်တည်း။

ချစ်သား သိင်္ဂါလ၊ ဆရာသမားတို့သည် တပည့်တို့ပြုစုသော ကျင့်ဝတ်ငါးမျိုးကို အလှူခံထိုက်သောကြောင့် ဒက္ခိဏာဒိသာ=တောင်အရပ်မည်ပေကုန်၏။ ဆိုခဲ့ပြီးသော ကျင့်ဝတ်တို့ဖြင့် ဆည်းကပ်ခြင်းသည် တောင်အရပ်နှင့်တူသော ဆရာသမားတို့အား ရှိခိုးသည်လည်း မည်၏။ ပူဇော်သည်လည်း မည်၏။ ထိုသို့ပြုခြင်းအားဖြင့် "ဤသူကား ဆရာမှန်း သမားမှန်း မသိတတ်"ဟူ၍ တစ်ပါးသူတို့ ကဲ့ရဲ့ခြင်း ကင်း၏။ ဘေးရန်ဥပဒ်သုံး လုံခြုံ၍ ငြိမ်း၏။

ချစ်သား သိင်္ဂါလ၊ နာဦးလော့၊ တပည့်ဝတ်ငါးပါး ရှိလေသည့်နည်းတူ တပည့်ပေါ်၌ ဆရာသမားတို့က ထားရှိသော ဝတ်သည်လည်း ငါးပါးပင်တည်း။ ယင်း ငါးပါးဟူသော်ကား–

(၁) သင်သည် ဤသို့ထိုင်၊ ဤသို့ရပ်၊ ဤသို့စား၊ ဤသို့သွား၊ ဤသူနှင့်ပေါင်း၊ ဤသူနှင့် မပေါင်းနှင့် ဟူ၍ ကောင်းရာရှေးရှုလျက် ဆိုဆုံးမခြင်း တစ်ပါး။ (၂) တပည့်တို့အား ရှင်းလင်းပြတ်သားအောင် သင်ကြားပေးခြင်း

တစ်ပါး။ (၃) သင်ကြားရာ၌ ချိုသာသောစကားဖြင့် သင်ကြားပေးခြင်း တစ်ပါး။ (၄) ပညာ အခြေခံရသည်အထိ စိတ်ရှည်ရှည်ထား၍ သင်ကြားပေးခြင်း တစ်ပါး။ (၅) အရပ် ထက်ဝန်းကျင်၌ အပိတ်အပင် အတားအဆီးမရှိ။ မည်သည့်အရပ်၌မဆို ဘဝ ရပ်တည်မှု ရအောင် ပြုလုပ်ပေးခြင်း တစ်ပါး။ (ပညာတတ်မြောက်ထားလျှင် မည်သည့်အရပ်၌မဆို ရပ်တည်နိုင်ခြင်းကို ဆိုခြင်းဖြစ်၏။) ဤ ငါးပါးပင်တည်း။

ချစ်သား သိင်္ဂါလ၊ ဆိုခဲ့ပြီးသော ကျင့်ဝတ်တို့နှင့် ပြည့်စုံလျှင် ဆရာအားလည်းကောင်း၊ တပည့်အားလည်းကောင်း တောင်အရပ်မျက်နှာမှ ဘေးငြိမ်း၏။ တစ်ပါးသူတို့ ဆိုပြောရှုတ်ချ ကဲ့ရဲ့စရာမရှိ ဖြစ်၏။ ဤသည်ကို ရည်၍ သင့်ဖခင်က သင့်အား "တောင်အရပ်ကို မမေ့လင့်၊ အမြဲတစေ ရှိခိုးရစ်ပါလေ"ဟု မှာကြားခဲ့ခြင်း ဖြစ်၏။

မေး။ ကောင်းပါပြီ ဘုရား။ နားလည်ပါပြီ ဘုရား။ အနောက်အရပ် မည်ပုံကို ဆက်၍ ကြားနာမှတ်သားလို၍ ဟောတော်မူပါဦး ဘုရား။

ဖြေ။ ချစ်သား သိင်္ဂါလ၊ မယားဟူသည် လင်၏နောက်သို့သာ အစဉ်တစိုက် လိုက်ရိုးထုံးစံ ရှိလေသောကြောင့် ပစ္ဆိမဒိသာ=အနောက်အရပ် မည်ပေ၏။ လင်ယောကျ်ားဖြစ်သူသည် အနောက်မျက်နှာဖြစ်သော မယားတို့အား ပြုရာသော ကျင့်ဝတ်သည်လည်း ငါးပါးပင် ရှိပေ၏။ ယင်း ငါးပါးကား–

(၁) မထေမဲ့မြင်၊ ကဲ့ရဲ့ရှုတ်ချ၊ နားမခံသာအောင် စကားမျိုးကိုမျှ မဆိုလေဘဲ ချိုသာစကားဖြင့် ဆိုပြောဆက်ဆံခြင်း။ (၂) လုပ်ကိုင်၍ ရသမျှဥစ္စာကို မယားထံအပ်နှံခြင်း။ (၃) မိမိမယားကို လွန်၍ အခြားတစ်ပါးမိန်းမကို မသွားလာခြင်း။ (၄) မိမိအခြေအနေကို လိုက်သော၊ ထိုက်တန်သော အဝတ်အစားများ ဆင်ယင်ပေးခြင်း။ (၅) နိုင်လိုမင်းထက် နှိပ်စက်ကလူ မပြုခြင်း။ ဤငါးပါးပေတည်း။ ချစ်သား သိင်္ဂါလ၊ ဤငါးပါးသော အကြောင်းတို့ဖြင့် လင်ဖြစ်သူသည် မယားအား လုပ်ကျွေးအပ်၏။ ဤသို့ လုပ်ကျွေးခြင်းသည် အန္တရာယ်ခပ်သိမ်း ငြိမ်း၍ အနောက်ကို ရှိခိုးသည်လည်း မည်ပေ၏။ ပူဇော်သည်လည်း မည်ပေ၏။ ထိုအနောက်မှ ဖြစ်သော အန္တရာယ်သည် မရောက်နိုင်ဖြစ်သတည်း။ ဤသည်ကို ရည်ရွယ်၍ သင့်ဖခင်က သင့်အား "ငါ့သား အနောက်အရပ်ကို မမေ့လေနှင့်၊ အမြဲတစေ ရှိခိုးပါလေ"ဟူ၍ မှာထားခဲ့ခြင်း ဖြစ်ပေသည်။

ချစ်သား သိင်္ဂါလ၊ နာဦးလော့။ လင့်ဝတ်ငါးပါး ရှိသည့်နည်းတူပင်လျှင် မယားဝတ်လည်း ငါးပါးပင် ရှိသည်ဖြစ်၏။ ယင်း ငါးပါးဟူသော်ကား–

(၁) အိမ်တွင်းမှုဆိုင်ရာတို့ကို မလစ်ဟင်းရအောင် ပြုလုပ်ခြင်း။ (၂) လင်ဖြစ်သူရှာဖွေ၍ မိမိထံအပ်နှံသော ပစ္စည်းများကို မယိုမဖိတ်ရအောင် သိမ်းဆည်း

ခြင်း။ (၃) လင်မှတစ်ပါး အခြားယောကျ်ားနှင့် လွန်ကျူး၍ မကျင့်မှားခြင်း။ (၄) ပျင်းရိခြင်းမှ ကင်းခြင်း။ (၅) လင့်ဆွေမျိုး၊ မိမိဆွေမျိုး မခွဲခြားဘဲ သင့်လျော်အောင် ပေးကမ်းချီးမြှင့် စီမံခန့်ခွဲခြင်း။ ဤ ငါးပါးတည်း။

ချစ်သား သိင်္ဂါလ၊ ဤငါးပါးသော အကြောင်းတို့ဖြင့် မယားဖြစ်သူသည် လင်ကို လုပ်ကျွေးပြုစုအပ်၏။ ဤသို့ပြုစုခြင်းအားဖြင့် အနောက်အရပ်က လုံခြုံအောင် ဆို့ပိတ်သည် မည်၏။ ဘေးကင်း၏။ ဘေးခပ်သိမ်းမရှိသည် ဖြစ်၏။ အမြဲ လင်ယောကျ်ားကို ရှိခိုးပူဇော်နေသည် မည်၏။ ဤအဓိပ္ပာယ်ကို ရည်ရွယ်၍ အနောက်အရပ်ကို မမေ့လင့်၊ အမြဲတစေ ရှိခိုးရစ်ပါလေဟူ၍ သင့်အား သင့် ဖခင်က မှာကြားခဲ့ခြင်း ဖြစ်သတည်း။

မေး။ ကောင်းလှပါပြီ အရှင်ဘုရား။ နားလည်ပါပြီ။ မြောက်အရပ် ဟူသည်ကို ဆက်လက်၍ မိန့်ကြားတော်မူပါဦး ဘုရား။

ဖြေ။ နာလော့ ချစ်သား သိင်္ဂါလ၊ ကောင်းသော မိတ်ဆွေတို့သည် ဆင်းရဲမှ လွတ်မြောက်စေတတ်သောကြောင့် ဥတ္တရဒိသာ=မြောက်အရပ်မည်ပေ ကုန်၏။ သူတော်ကောင်းဖြစ်သော အမျိုးသားသည် ယင်းမိတ်ဆွေများအား ပြုရသော ကျင့်ဝတ်သည်လည်း ငါးပါး ရှိပေ၏။ ငါးပါးဟူသော်ကား–

(၁) ဘကြီးတန်သူကို ဘကြီး၊ ဦးရီးတန်သူကို ဦးရီး စသောအားဖြင့် ရိုသေစွာ ခေါ်ဝေါ်ပြောဆိုဆက်ဆံခြင်း။ (၂) ပေးကမ်းချီးမြှင့်ခြင်း။ (၃) ဆင်းရဲရောက်သော် ကယ်တင်ခြင်း၊ မိတ်ဆွေအကျိုးကို သယ်ပိုးရွက်ဆောင်ခြင်း။ (၄) မျက်မှောက် မျက်ကွယ် မရွေး ရိုသေလေးစားခြင်း။ (၅) အလိုရှိသောအရာများရှိက ယူပါ ခွင့်ပြုထားခြင်း။ ဤငါးပါးပေတည်း။ ဤငါးပါးသော ဝတ်ကို မချွတ် စေခြင်းအားဖြင့် မြောက်အရပ်ကို လုံခြုံအောင် ပိတ်ဆို့ထားသည်မည်ပေသဖြင့် ထိုအရပ်မှ တစ်စုံတစ်ခုသော ဘေးအန္တရာယ်သည် ရောက်နိုင်တော့မည် မဟုတ်။ ဤသည်ကို ရည်၍ သင့်ဖခင်သည် သင့်အား "မြောက်အရပ်ကို ရှိခိုးရစ်ပါလေ" ဟူ၍ မှာထားခဲ့ခြင်း ဖြစ်ပေသည်။

ချစ်သား သိင်္ဂါလ၊ မိမိက တုံ့ပြန်၍ မိတ်ဆွေအပေါ်၌ ပြုရသော ကျင့်ဝတ်သည်လည်း ငါးပါးရှိပေသည်။ ယင်း ငါးပါးကား–

(၁) တစ်စုံတစ်ခုသော အကြောင်းကြောင့် မိတ်ဆွေဖြစ်သူ သတိမေ့လျော့၍ နေခဲ့သော် စောင့်ရှောက်ချီးမြှောက်ခြင်း။ (၂) မေ့လျော့နေသူ မိတ်ဆွေ၏ ပစ္စည်းများကို မပျောက်မပျက်ရအောင် စောင့်ရှောက်သိမ်းဆည်းထားခြင်း။ (၃) ရွံ့ကြောက် တတ်သော မိတ်ဆွေအား "ငါရှိပြီ" ဟူ၍ မကြောက်အောင် အားပေးခြင်း။

(၄) ဘေးအန္တရာယ်တစ်ခုခု တွေ့ကြုံလေသောအခါ စွန့်လွှတ်၍ မပြေးခြင်း။ (၅) မိမိ၏မိတ်ဆွေပင် မရှိတော့သော်လည်း ၎င်း၏သားသမီးများအား ဆက်လက်၍ တတ်နိုင်သလောက် စောင့်ရှောက်ခြင်း။ ဤငါးပါးပေတည်း။ ဤငါးပါးနှင့် ပြည့်စုံသည်ရှိသော် မြောက်အရပ်ကို ဖုံးလွှမ်းသည် မည်ပေ၏။ ယင်းသို့ပြုခြင်းဖြင့် မြောက်အရပ်မှ ဘေးအန္တရာယ်များ မရောက်လာနိုင်။ ဘေးခပ်သိမ်း ငြိမ်း၏။ ချစ်သား သိင်္ဂါလ၊ ဤသည်ကိုရည်၍ သင့်ဖခင်သည် မြောက်အရပ်ကို ရှိခိုးရစ်ပါလေဟူ၍ သင့်အား မှာကြားသွားခြင်း ဖြစ်ပေ၏။

မေး။ ကောင်းပါပြီ၊ နားလည်ပါပြီ ဘုရား။ အောက်အရပ်ဟူသည်ကို သိလိုပါသေး၏။ ဆက်လက်၍ ဟောတော်မူပါဦး ဘုရား။

ဖြေ။ ချစ်သား သိင်္ဂါလ၊ ကျေးကျွန်အလုပ်သမားတို့သည် မိမိအောက် ယုတ်နိမ့်သူများဖြစ်သော ပစ္ဆိမဒိသာ=အောက်အရပ် မည်ပေကုန်၏။ ယင်းသူတို့အား အကြီးအကဲဖြစ်သူက ပြုရသော ကျင့်ဝတ်သည်လည်း ငါးပါးပင် ရှိပေ၏။ ငါးပါးဟူသည်ကား–

(၁) အားအင်နှင့် မျှတရုံ အလုပ်ကို ခိုင်းခြင်း။ (၂) နာမကျန်းရှိသော အခါ အလုပ်မခိုင်းဘဲ အနာပျောက်ရေး ဆေးဝါးများ ကုသပေးခြင်း။ (၃) လုပ်၍ ရသမျှကို မိမိချည်း မယူလေဘဲ လုပ်သူနှင့် မျှမျှတတခွဲဝေ၍ ယူခြင်း။ (၄) ထိုက်သင့်သော ရိက္ခာ လုပ်ခများကို ပေးခြင်း။ (၅) အလုပ်ကို အားလပ်ခွင့်၊ ရပ်နား အပန်းဖြေခွင့်ပေး၍ နားနားနေနေ လုပ်ကိုင်စေခြင်း။ ဤငါးပါးပေတည်း။ ဤကျင့်ဝတ်နှင့် ပြည့်စုံလျှင် အောက်အရပ်ကို ဖုံးလွှမ်းသည် မည်၏။ အောက်အရပ်မှ ဘေးခပ်သိမ်းငြိမ်း၍ အမြဲတစေ ရှိခိုးနေသည် မည်ပေ၏။ ချစ်သား သိင်္ဂါလ၊ သင့် ဖခင်သည် ဤသည်ကို ရည်ရွယ်၍ သင့်အား အောက်အရပ်ကို ရှိခိုးရစ်ပါလေဟူ၍ မှာကြားသွားခြင်း ဖြစ်ပေ၏။

အို–ချစ်သား သိင်္ဂါလ၊ ထိုနည်းလည်းကောင်း လက်အောက်ငယ်သားများက အကြီးအကဲ အရှင်သခင်များအား ပြုရသော ကျင့်ဝတ်သည်လည်း ငါး ရှိပေ၏။ ငါးပါးဟူသော်ကား–

(၁) အရှင်သခင် အိပ်ရာက မထခင် အလျင်ထခြင်း။ (၂) အိပ်သောအခါ နောက်မှ အိပ်ခြင်း။ (၃) အရှင်သခင်၏ ဥစ္စာကို မခိုးဘဲ ပေးမှသာ ယူခြင်း။ (၄) အလုပ်ကို ရွှင်ရွှင်လန်းလန်းလုပ်ကိုင်ခြင်း။ (၅) အရှင်သခင်ကို အမြဲအားဖြင့် ထုတ်ဖော်ချီးကျူး၍ ပြောဆိုခြင်း။ ဤငါးပါးပေတည်း။ ဤငါးပါးနှင့် ပြည့်စုံသည်ရှိသော် အောက်အရပ်ကို ဖုံးလွှမ်းသည် မည်ပေ၏။ ဘေးခပ်သိမ်းငြိမ်း၍

အောက်အရပ်မှ မည်သည့်အန္တရာယ်မှ မရောက်လာနိုင်တော့။ ထို့ကြောင့် ဤသည်ကို ရည်၍ သင့်အား "အောက်အရပ်ကို မမေ့လေနှင့်" ဟူ၍ သင့်ဖခင်က မှာကြားသွားခြင်း မည်ပေသည်။

မေး။ ကောင်းလှပါပြီ ဘုရား၊ နားလည်ပါပြီ ဘုရား။ အထက်အရပ်ဟူသည်ကို သိလိုပါ၍ ဆက်လက် ဟောကြားတော်မူပါရန် တောင်းပန်ပါသည် ဘုရား။

ဖြေ။ ချစ်သား သိင်္ဂါလ၊ ရသေ့ရဟန်းတို့မည်သည် လူတို့ထက် မြင့်မြတ်သော အကျင့်ရှိပေကုန်သောကြောင့် ဥပရိမဒိသာ=အထက်အရပ်တို့ မည်ကုန်၏။ ထိုအထက်အရပ်ဖြစ်သော ရဟန်းတို့အား လူတို့က ပြုရသော ကျင့်ဝတ်သည်လည်း ငါးပါးရှိပေ၏။ ငါးပါးဟူသော်ကား–

(၁) မေတ္တာဖြင့် ကာယကံမြောက် ကိုယ်တိုင်သွား၍ ပင့်ခြင်း၊ ကိုယ်တိုင် သောက်ရေ၊ သုံးရေ၊ မျက်နှာသစ်ရေများ တည်ထားခြင်း၊ ခြေ ကျောက်ကုန်း စသည်တို့ကို ကိုယ်တိုင်ချေးတွန်းပေးခြင်း၊ အဝတ်သင်္ကန်းကို ကိုယ်တိုင် လျှော်ဖွပ်ပေးခြင်း၊ (၂) မေတ္တာဖြင့် ဝစီကံမြောက် ရဟန်းတော်များအား "လှူကြွပါ"ဟူ၍ နှိုးဆော်ခြင်း၊ ကောင်းချီးပေးခြင်း၊ ချိုသာစကားဖြင့် ရိုသေစွာ ဆက်ဆံခြင်း၊ (၃) မေတ္တာဖြင့် မနောကံမြောက် ကျန်းမာပါစေ၊ ချမ်းသာပါစေဟု မေတ္တာပို့ခြင်း။ (၄) အလှူတံခါးကို အမြဲဖွင့်၍ထားခြင်း။ (၅) ဆွမ်းခဲဖွယ်ဘောဇဉ်ကို လှူဒါန်းခြင်း။ ဤငါးပါးတည်း။ ဤငါးပါးနှင့် ပြည့်စုံခဲ့သော် အထက်အရပ် လုံသည် မည်ပေ၏။

ချစ်သား သိင်္ဂါလ၊ အထက်အရပ်မည်ပေသော ရဟန်းတို့က အလှူဒါယကာတို့အား ပြုရသော ကျင့်ဝတ်တို့ကား ခြောက်ပါးရှိပေ၏။ ခြောက်ပါးဟူသည်ကား–

(၁) မကောင်းမှုကို တားမြစ်ခြင်း။ (၂) ကောင်းမှုကို တိုက်တွန်းခြင်း။ (၃) မေတ္တာဖြင့် ကောင်းကျိုးကို ရှေးရှု၍ ချီးမြှောက်ခြင်း။ (၄) မကြားဖူးသော တရားစကားကို ဟောကြားခြင်း။ (၅) ကြားပြီး နာပြီးတရားတို့ကို လိုက်နာကျင့်ကြံ အားထုတ်စေခြင်း။ (၆) ဒါန၊ သီလ စသော သုဂတိသို့ လားရောက်ကြောင်း ကောင်းသောခရီးကို ညွှန်ကြားခြင်း။ ဤသို့အားဖြင့် ခြောက်ပါးတည်း။ ဤကျင့်ဝတ်နှင့် မချွတ်ပြည့်စုံသော် အထက်အရပ်ကို ပိတ်ဆို့သည်မည်၏။ အထက်အရပ်မှ ဘေးမရှိ ငြိမ်း၏။ ချစ်သား သိင်္ဂါလ၊ ဤသည်ကို ရည်၍ သင့်ဖခင်က သင့်အား "အထက်အရပ်ကို မမေ့လေနှင့်။ အမြဲတစေ ငါ့သား ရှိခိုးရစ်ပါလေ" ဟူ၍ မှာကြားသွားခြင်း ဖြစ်ပေသည်။

အို–ချစ်သား သိင်္ဂါလ၊ သင်သည် သင့်အဖ မှာကြားခဲ့သော စကားကို အကယ်၍ လိုက်နာ နားထောင်လိုသည် ဖြစ်အံ့။ ဤ ငါဟောကြားအပ်ပြီးသော အရပ်ခြောက်ပါးတို့ကို ရှိခိုးလော့။

အရှင်ဘုရား၊ တရားတော်ကား အလွန်နှစ်သက်ဖွယ် ကောင်းပါပေစွ။ ယနေ့မှစ၍ အသက်ရှည်နေသမျှ ကာလပတ်လုံး တပည့်တော်အား ရတနာသုံးပါးကို ဆည်းကပ်ကိုးကွယ်သော ဒါယကာဟူ၍ မှတ်တော်မူပါ ဘုရားဟူ၍ လျှောက်ပြီးလျှင် သိင်္ဂါလသူဌေးသားသည် သရဏဂုံ တည်လေ၏။

(သိင်္ဂါလော ဝါဒသုတ်မှ)

# သာသနာရေး

**ပြဿနာ = အခွန့်ရှည်စွာ တည်မှု၊ မတည်မှု။**

**မေးလျှောက်သူ = အရှင်သာရိပုတ္တရာ။**

အရှင်သာရိပုတ္တရာသည် ဗုဒ္ဓမြတ်စွာဘုရား၏ လက်ယာရံ အဂ္ဂသာဝက[၁] ဖြစ်၏။ မြတ်စွာဘုရား ကြွတော်မူလေရာရာသို့ နောက်တော်မှ ခစားမကွာ လိုက်ပါရသည်က များလေသည်။

မြတ်စွာဘုရားသည် ၁၁ ဝါစေ့ရောက် ၁၂ ဝါမြောက်၌ ဝေရဥ္စာပြည်သို့ ကြွသွားတော်မူလေရာ အရှင်သာရိပုတ္တရာသည်လည်း အရှင်အာနန္ဒာတို့နှင့်အတူ နောက်တော်ပါးမှ ပါသွား၏။

ဝေရဥ္စာပြည်၌ ဝါကပ်တော်မူသောအခါ ဗုဒ္ဓမြတ်ဘုရားနှင့် နောက်ပါ ရဟန်းပရိသတ်အားလုံး အစားဆင်းရဲတော်မူကြသည်သာမက အနေလည်း ဆင်းရဲတော်မူ၏။ အခြားမြို့ရွာများ၌ ရွှေကျောင်းတော်ကြီး မိုးပါးနီးမျှသော အဆောက်အအုံများ၌ သီတင်းသုံးတော်မူသော်လည်း ဝေရဥ္စာပြည်၌ကား ကြမ်းထော်သော မုယောဆွမ်းကြီးကို မဝတဝ မျှတ၍ စားကြရကုန်၏။ နေရာထိုင်ခင်း မှာလည်း တမာပင်ပေါ်များသော ကျူတောကြီးအတွင်း၌ ဆင်းရဲစွာ နေတော်မူ ကြရကုန်၏။

အခါတစ်ပါးတွင် အရှင်သာရိပုတ္တရာသည် သစ်တစ်ပင်အရင်း၊ ဝါးတစ်ပင် အောက် ဆိတ်ငြိမ်ရာအရပ်သို့ ချဉ်းကပ်၍နေစဉ် သာသနာတော်အရေးနှင့် ပတ်သက်၍ ဤသို့ ဆင်ခြင်စဉ်းစားမိလေသတတ်။

ဂင်္ဂါဝါဠု၊ သဲစုမက၊ ဗုဒ္ဓအဆူဆူ၊ ပွင့်တော်မူသွားကြလေကုန်ပြီ။ ထိုအဆူဆူ ပွင့်တော်မူလေပြီးသော ဘုရားသခင်များစွာတို့အနက် အဘယ်မည်သော ဗုဒ္ဓ

---

၁။ အဂ္ဂသာဝက၊ အဂ္ဂ+သာဝက။ အဂ္ဂ=အထွတ်ဆုံး အမြတ်ဆုံးသော၊ သာဝက=တပည့်။ အဂ္ဂသာဝက=အထွတ်မြတ်ဆုံး တပည့်ကြီး။

မြတ်စွာ၏ သာသနာသည် ကြာမြင့်စွာ တည်လေသနည်း။ အဘယ်မည်သော မြတ်ဘုရား၏ သာသနာသည် ကြာမြင့်စွာ မတည်သနည်း။ အရှည်တည်လျှင် အဘယ့်ကြောင့် တည်သနည်း။ မတည်လျှင် အဘယ့်အကြောင်းကြောင့် မတည်လေသနည်း။

အရှင်သာရိပုတ္တရာသည် ထိုအကြောင်းကို ပြဿနာတစ်ရပ်အနေဖြင့် အဖန်ဖန်အထပ်ထပ် သုံးသပ်ဆင်ခြင်သော်လည်း အဖြေမှာ ထွက်မလာဘဲ ဖြစ်နေ၏။ ထို့ကြောင့် အရှင်သာရိပုတ္တရာသည် ဘုရားထံချဉ်းကပ်ပြီးလျှင် ထိုအကြောင်းကို လျှောက်ထားမေးမြန်းခြင်း ပြုလေ၏။

မေး။ ဘုန်းတော်ကြီးလှသော မြတ်စွာဘုရား၊ အဆူဆူပွင့်တော်မူသွားသော ဘုရားသခင်တို့အနက်တွင် အဘယ်ရှင်တော်မြတ်ဘုရား၏ သာသနာသည် အစွန့်ရှည်ကြာစွာ တည်ပါသနည်း။ အဘယ်မြတ်ဘုရား၏ သာသနာသည် ကြာမြင့်စွာ မတည်ပါသနည်း ဘုရား။

ဖြေ။ အို–ချစ်သား သာရိပုတ္တရာ၊ ကိုးဆယ့်တစ်ကမ္ဘာထက်၌ ပွင့်ထွန်းတော်မူသွားသော ဝိပဿီမြတ်စွာဘုရား၊ ၎င်းနောက် ပွင့်တော်မူသွားသော သိခီဘုရား၊ ဝေဿဘူဘုရားသခင်တို့၏ သာသနာကား ကြာမြင့်စွာ တည်ခြင်းမရှိ။ သာဝက နှစ်ဆက်လွန်က ကွယ်ပသွားလေကုန်၏။

အို–ချစ်သား သာရိပုတ္တရာ၊ ဤဘဒ္ဒကမ္ဘာထက်၌ ပွင့်တော်မူသွားကြသော ကကုသန်၊ ကောဏာဂုံ၊ ကဿပဘုရားသခင်တို့၏ သာသနာကား ကြာမြင့်စွာ တည်ပေသည် ချစ်တပည့်။

မေး။ အရှင်ဘုရား၊ ဝိပဿီ၊ သိခီ၊ ဝေဿဘူ ထိုဘုရားသုံးဆူတို့၏ သာသနာမှာ အဘယ့်ကြောင့် ကြာမြင့်စွာ မတည်ပါသနည်း ဘုရား။

ဖြေ။ ချစ်တပည့် သာရိပုတ္တရာ၊ ထိုသုံးဆူသော ဘုရားသခင်တို့ကား တပည့်တို့ကား များစွာ တရားဟောခြင်းလည်း မပြုကြ။ ဝိနည်းသိက္ခာပုဒ်ကိုလည်း များစွာ ပညတ်ခြင်း မရှိကြ။ ပါတိမောက်[၁]ကိုလည်း မပြကြ။ သုတ္တ၊ ဂေယျ၊ ဂါထာ စသော ဒေသနာတို့လည်း အနည်းငယ်မျှသာလျှင် ဖြစ်ကုန်၏။ တပည့်ရဟန်းတို့သည်လည်း ဆရာဖြစ်သော ဘုရားအထံမှောက်သို့ ခြောက်နှစ်တစ်ကြိမ်သာလျှင် လာရောက်၍ ဩဝါဒပါတိမောက်ဖြင့် ဥပုသ်ပြုကြကုန်၏။ ဥပုသ်ပြုအံ့သောအခါ ဇမ္ဗူဒိပ်ကျွန်းအပြင်၌ ရှစ်သောင်းလေးထောင်သော ကျောင်းတိုက်တို့၌ နေထိုင်ကြကုန်သော သံဃာတော်တို့ကို ဥပုသ်ဆောင်သော နတ်တို့သည် ဥပုသ်နေ့နီးကပ်လာသောအခါ–

---

၁။ သိမ်တွင်း၌ သံဃာများ စုဝေး၍ ပရိသတ်ရှေ့တွင် ဝိနည်းသိက္ခာပုဒ် ကျင့်စဉ်များ ရွတ်ဆိုခြင်း။

"အရှင်မြတ်တို့ဘုရား၊ မနက်ဖြန် ဥပုသ်နေ့ကြိမ်ပါပြီ။ သိမ်သို့ကြွတော်မူကြရန် ပြင်ဆင်တော်မူကြပါကုန် ဘုရား" ဤသို့ နှိုးဆော်ပြီးလျှင် နတ်တို့၏ အာနုဘော်ဖြင့် ဘုရားသခင်၏ ရှေ့တော်မှောက်သို့ ရောက်အောင် ဆောင်ပို့ပေးကြကုန်၏။ ရောက်သောအခါ သံဃာအစည်းအဝေး၌ ရှေးဘုရားတို့ ပြမြဲဖြစ်သော ဩဝါဒပါတိမောက်ကို ပြကြကုန်သည်။

ဤသို့လျှင် ဆိုးမဟောကြားအပ်သော တရားဒေသနာတော်သည် အနည်းငယ်သာဖြစ်ရကား ထိုဘုရားတို့၏ သာသနာ အစွန့်ရှည်စွာ မတည်၊ သာဝကတစ်ဆက်၊ နှစ်ဆက်သာ တည်၍ ကွယ်ပလေသတည်း။

အို–ချစ်သား သာရိပုတ္တရာ၊ ကကုသန်၊ ကောဏာဂုံ၊ ကဿပ ဟူသောဘုရားသုံးဆူတို့ကား တပည့်သာဝကတို့အား တရားကို များစွာလည်း ဟောတော်မူကြသည်။ သံဃာများအား ၇ ခွဲ တစ်ကြိမ် ဥပုသ်ပြုတော်မူစေသည်။ ဟောကြားအပ်သော တရားများသည်လည်း သိတ်ဖြင့် သီကုံးအပ်သော ပန်းကဲ့သို့ ပရမ်းပတာ မရှိဖြစ်ကုန်၏။ ထို့ကြောင့် ထိုဘုရားတို့၏ သာသနာကား အစွန့်ရှည်ကြာစွာ တည်သည်ဖြစ်သတည်း။

မေး။ ဘုန်းတော်ကြီးလှသော မြတ်စွာဘုရား၊ ဘုရားတစ်ဆူပွင့်တော်မူရန်မှာ လွန်စွာခဲယဉ်းလှစွာသော ဒုလ္လဘတရားကြီး ဖြစ်ပါ၏။ သာသနာတော်အရှည်သဖြင့် တည်နေမှသာ သတ္တဝါအများ စီးပွားချမ်းသာဖြစ်ထွန်းမည် ဖြစ်ပါသည်။ သို့ပါသောကြောင့် ကိုယ်တော်မြတ်၏ သာသနာသည် ရှည်စွာ ထွန်းပရစ်စေခြင်းငှာ သာဝကတို့အား ဝိနည်းသိက္ခာပုဒ်ကို ပညတ်တော်မူပါ။ တရားကိုများစွာဟောပေးတော်မူပါ ဘုရား။

ဖြေ။ အို–ချစ်တပည့်၊ ငံ့ဦးလော့၊ ဆိုင်းဦးလော့။ သိက္ခာပုဒ်ပညတ်သင့်သော အချိန်အခါကို ငါဘုရား သိတော်မူ၏။ ယခုအခါ သံဃာပရိသတ်သည် ထွတ်မြတ်စင်ကြယ်လျက်ပင် ရှိပေသေးသည်။ သာသနာညစ်ညမ်း၊ စွန်းထင်း၊ ပေကျံအောင် အညစ်အကြေးပြုသူ မရှိ။ မဇ္ဈိမဘဝိကဖြစ်သော ပုဂ္ဂိုလ်မှာ သောတာပန်သာ ဖြစ်ပေသည်။

ချစ်တပည့်၊ နောင်အနာဂတ်အခါတွင် လူမျိုးအသီးသီးမှ အသီးသီးသော သူများသည် သာသနာကို သက်ဝင်ကြည်ညိုကြသဖြင့် ရဟန်းပြုလာကြလာရာ၌ အာသဝတို့၏ တည်ရာဖြစ်သော ငါးပါးအာရုံ ကာမဂုဏ်တို့သည် ပွားစီးကြကုန်လတ္တံ့။ လာဘ်ကို မျှော်ကိုး တောင့်တကြ၍လည်းကောင်း၊ အခြံအရံကို လိုလားကြ၍လည်းကောင်း အကုသိုလ်ဖြစ်ကြောင်း မကောင်းမှုတရားကို ပွားများစေလတ္တံ့။ ထိုအခါ ထိုအဖြစ်တို့ကို ဖျောက်ခြင်းငှာ သိက္ခာပုဒ်ကို ပညတ်ရလတ္တံ့ဟု မိန့်တော်မူ၏။

(ဝိနယပိဋက ပါရာဇိကဏ်ပါဠိတော် ဝေရဉ္ဇကဏ္ဍမှ)

စပယ်ဦးစာပေ

# လက်ဝဲရံ လက်ယာရံ ရာထူးခန့်ထားခြင်း ကိစ္စ

**ပြဿနာ = မျက်နှာလိုက်မှု။**

**မေးလျှောက်သူ = ရဟန်းများ။**

လူတွေကို မက်လုံးပေးနေသော နေရာတွင် ရာထူးသည် ထိပ်ဆုံးနေရာက ပါဝင်နေ၏။ သို့ကြောင့်ပင် လူတို့သည် ရာထူးကို မက်လုံးထားကြသည်။ ငမ်းကြသည်။ မျှော်မှန်းကြ၏။

ရာထူးသည် လူကို ယစ်မူးစေတတ်၏။ ရူးချာသွားအောင် လုပ်တတ်၏။ ကမ္ဘာ၌ လူမျိုးအသီးသီး၊ ဘာသာအသီးသီး၊ နိုင်ငံအသီးသီး ရှိကြသည့်အနက် ရာထူးကို မမက်မောသောလူမျိုး၊ ရာထူးကို မခင်တွယ်သော၊ ရာထူးမလိုချင်သော နိုင်ငံဟူ၍ မရှိ။

ကမ္ဘာသည် လူနှင့် မကင်းနိုင်သကဲ့သို့ လူသည်လည်း ရာထူးနှင့် မကင်းနိုင်ချေ။ ရာထူးကို မက်မောကြ၏။ တောင့်တကြ၏။ လိုချင်ကြ၏။ ရသောသူတို့အဖို့ ပြုံးနိုင်သော်လည်း မရသောသူတို့ကား ရာထူးကို အကြောင်းပြု၍ မကျေနပ်မှုများပင် ဖြစ်ပွားကြကုန်လေ၏။

သို့ကြောင့် သတ္တုချလိုက်သော် ရာထူးကြောင့် ချစ်သောသူငယ်ချင်း မုန်းသွားခြင်း၊ မုန်းရာမှ ဆက်စပ်မရအောင် ကွဲသွားခြင်း၊ ကွဲရာမှ တစ်ယောက်မျက်နှာကို တစ်ယောက် မကြည့်နိုင်သည်အထိ ဖြစ်ရခြင်း စသည့် မလိုလားအပ်သော အဖြေများ ထွက်လာသည်ကို တွေ့နိုင်၏။

ရာထူးသည် အတိတ်၊ အနာဂတ်၊ ပစ္စုပ္ပန် ကာလသုံးပါးတို့ကို ပိုင်၏။ ထင်သလို ချယ်လှယ်နိုင်၏။ ရာထူးကို လက်မခံဘဲ တော်လှန်နိုင်သော ခေတ်ဟူ၍ မရှိ။ ရာထူးကသာ လူတွေကို ခေတ်အမျိုးမျိုး၌ စိုးမိုးခဲ့သည်။ ချယ်လှယ်ခဲ့သည်။ ယစ်မူးစေခဲ့သည်။

စပယ်ဦးစာပေ

သာမန် လူသားလောက မဆိုထားဘိ၊ ရဟန်းလောကတွင်းကိုပင်လျှင် ရာထူးသည် ဝင်ရောက်ထိုးနှက်နိုင်စွမ်း ရှိလေသည်။ ရာထူးကို အကြောင်းပြု၍ ရဟန်းတော်များ ဖြစ်လျက်နှင့်ပင် မတွေးထိုက်သည်ကို တွေးခေါ်ကုန်ခဲ့ပြီ။ မထင်အပ်၊ မထင်သင့်၊ မထင်ထိုက်သည်ကိုပင် ထင်မှားကုန်ခဲ့ဖူးပြီ။

မှန်၏။ အချိန်ကား ဂေါတမရှင်တော်ဘုရား ပွင့်လာ၍ မကြာသေးသော နှစ်ပတ်လည်ကာလ၏ ပတ်ဝန်းကျင်အတွင်းက ဖြစ်ပေ၏။

ထိုအချိန်က ဘုရားသက်တမ်းအားဖြင့် တစ်နှစ်သားမျှသာ ရှိသေးသော မြတ်ဘုရားသည် မြို့ရွာအနှံ့အပြားတို့ကို မရောက်လေသေး။ တရားတော်ကိုလည်း များများ ဟောကြားရခြင်း မရှိလေသေး။

သို့ကြောင့် သာသနာ့ သန်းခေါင်စာရင်း၌–

| | | |
|---|---|---|
| (၁) | ပဥ္စဝဂ္ဂီရဟန်း | ၅–ပါး။ |
| (၂) | အရှင်ယသနှင့် | ၅၅–ပါး။ |
| (၃) | ဘဒ္ဒဝဂ္ဂီရဟန်းများ | ၃၀–ပါး။ |
| (၄) | ဥရုဝေလနှင့် | ၁၀၀၀–ပါး။ |
| | ပေါင်း – | ၁၀၉၀–ပါး။ |

ထိုအချိန်၌ သံဃာ့ဦးရေမှာ ၁၀၉၀–မျှသာ ရှိပေသေးသည်။

ရာထူးသည် လူကိုလည်း မရှောင်၊ ရဟန်းကိုလည်း ချမ်းသာမပေး၊ ဖမ်းစားတတ်၏။ ယစ်မူးစေတတ်၏။ အဆိုပါ သံဃာပေါင်း တစ်ထောင်ကျော် ထဲတွင် ပုထုဇဉ်ရဟန်းများလည်း ပါဝင်နေသည်ဖြစ်ရာ ရာထူးသည် ပုထုဇဉ် ရဟန်းလောကအတွင်းသို့ ထွင်းဖောက်ဝင်ရောက်ပြီး ထိုးနှက်ခြင်းပြုလေ၏။ အကြောင်းကား လက်ယာတော်ရံ၊ လက်ဝဲတော်ရံ ရာထူးခန့်ထားခြင်းမှ ဖြစ်ဖွားခဲ့သတည်း။ ဖြစ်ပုံကား–

ရာဇဂြိုဟ်ပြည်၊ ဗိမ္ဗိသာရမင်းကြီးလှူဒါန်းသော ဝေဠုဝန်ကျောင်းတော်ကို အလှူခံပြီး၍ သုံးရက်မြောက်သောနေ့ ဖြစ်၏။

နောက်လိုက်တပည့် ၂၅၀–စီ ခြံရံလျက် ဥပတိဿနှင့် ကောလိတမည်သော ပရိဗိုဇ်နှစ်ဦး ဘုရားသခင်ထံ ဝင်လာသည်။ ရဟန်းပြုပေးတော်မူပါဟု တောင်းခံကြသည်။ ဧဟိဘိက္ခု ရဟန်းပြုပေး၍ တရားဟောလျှင် ရဟန္တာ ဖြစ်ကုန်လေ၏။

ထိုအခါ မြတ်ဘုရားက သံဃာ့အစည်းအဝေး ခေါ်စေပြီး ယင်းသံဃာ့ အစည်းအဝေး၌ ဥပတိဿအား သာရိပုတ္တရာ ဘွဲ့မည်နှင့် **'လက်ယာတော်ရံ'**

အဖြစ်ဖြင့် ရာထူးခန့်တော်မူလိုက်သည်။ ကောလိတအား မောဂ္ဂလာန် ဟူသော ဘွဲ့မည်နှင့် **'လက်ဝဲတော်ရံ'** အဖြစ် ရာထူးခန့်တော်မူလိုက်သည်။

ထိုအခါ သံဃာ့ပရိသတ်၌ မကျေမနပ် ကြွက်စီကြွက်စီ ဖြစ်ကုန်လေ၏။ အချို့တို့က အလျင်လူ အလျင်၊ နောက်လူ နောက်၊ ကြီးစဉ်ငယ်လိုက်သာ ခန့်ထားထိုက်သည်ဟု ဆိုကုန်၏။

ဥပတိဿ၊ ကောလိတတို့ထက် ရှေးကျသော (ဝါ) အရှင်သာရိပုတ္တရာ၊ အရှင်မောဂ္ဂလာန်တို့ထက် ဦးဦးဖျားဖျား ရဟန်းဖြစ်နှင့်နေကြသော ပဉ္စဝဂ္ဂီရဟန်းများထဲမှ အရှင်ကောဏ္ဍညသော်လည်းကောင်း၊ သို့မဟုတ် အရှင်ဝပ္ပသော်လည်းကောင်း တစ်ဦးဦးကို ခန့်ထားထိုက်သည်။

သို့မဟုတ် အရှင်ယသ၊ ဘဒ္ဒဝဂ္ဂီ ညီနောင်သုံးကျိပ်နှင့် တစ်ထောင်မျှသော ဥရုဝေဠ ရဟန်းများထဲမှ တစ်ဦးဦးကိုဖြစ်စေ "အဂ္ဂသာဝက၊ မဟာသာဝက" ဖြစ်သော လက်ယာရံ၊ လက်ဝဲရံရာထူးကို ပေးသင့်သည်ဟု ယူဆကာ ဖထမသော် တိုးတိုးတိတ်တိတ်ကျိတ်၍ မကျေမနပ်ဖြစ်နေကြသည်။ နောက် မအောင့်နိုင်သည့် အဆုံးတွင်–

"ရာထူးပေးရာ၌ မြတ်စွာဘုရားသည် တရားမျှတခြင်း မရှိ။ မျက်နှာလိုက်၍ ပေးတော်မူသည်။ လက်ရင်းတပည့်ကြီးများကို ကျော်လွန်ကာ နောက်မှ ပေါ်လာသော ရွှေကြာပင်များကို အရေးပေး၍ မြှောက်စားသည်"

ဤသို့လျှင် မြတ်ဘုရားကိုပင် ကဲ့ရဲ့ပြစ်တင်ကုန်ကြလေ၏။ မခံမရပ်ဖြစ်လာကုန်လေ၏။ အချင်းချင်း တီးတိုးစကားဖြင့် အတင်းပြောကြကုန်၏။

မေး။ ငါ့ရှင်၊ အရှင်ကောဏ္ဍညလို ထိပုဂ္ဂိုလ်ကြီးများကို ဘေးချိတ်ပြီး နောက်မှပေါ်လာတဲ့ ဥပတိဿနဲ့ ကောလိတကို လက်ယာ လက်ဝဲရာထူး ခန့်လိုက်ခြင်းဟာ ထရားတယ်ဆိုနိုင်မလား။

ဖြေ။ တရားသည် ဖြစ်စေ၊ မတရားသည် ဖြစ်စေ၊ ငါ့ရှင်ကော ဘာတတ် နိုင်မှာလဲ၊ ဘုရားသခင်က ခန့်ထိုက်လို့သာ ခန့်တော်မူ လိုက်တာဖြစ်မှာပ။

ဤဂယက်သည် သံဃာ့လောကသို့ လှိုင်းပွက်သလို ပွက်လာသည်။ ဒီရေ တက်သည့်ပမာ တက်၍တက်၍သာ လာလျက် ရှိနေသည်။

ထိုအကြောင်းကို (ဝါ) သံဃာများသန္တာန်၌ မကျေမနပ်ဖြစ်နေပုံကို မြတ်စွာဘုရားက သိတော်မူလေသော် ရတ်ခြည်းပင် သံဃာ့အစည်းအဝေးကို ခေါ်စေပြီးလျှင် ထိုပြဿနာကို သံဃာများ သံသယကင်းရှင်းသွားအောင် ရှင်းပေးတော်မူရလေ၏။

စပယ်ဦးစာပေ

"အို-ချစ်သားတို့၊ ငါကား သင်တို့ ထင်ကုန်သကဲ့သို့ မျက်နှာလိုက်၍ အရာပေးသည် မဟုတ်။ ရှေးရှေးသော အတိတ်ဘဝက သူတို့တောင့်တကြသော ဆု၊ ပြုကြသော ပါရမီအတိုင်းသာလျှင် ငါ ပေးတော်မူခြင်း ဖြစ်ပေ၏"

ဤသို့ မိန့်တော်မူလိုက်သော် သံဃာများက ရှိခိုး၍ တောင်းပန်ကြလေကုန်၏။

မေး။ အရှင်ဘုရား၊ ထိုအရှင်များ၏ ရှေးဆုတောင်း၊ သူတို့၏ ပါရမီ ဆန္ဒကို သိလိုကြပါကုန်၏၊ ဟောတော်မူပါ ဘုရား။

ဖြေ။ အို-ချစ်သားတို့၊ လွန်ခဲ့သော ကမ္ဘာတစ်သိန်းထက်၌ ပဒုမုတ္တရ မည်သော မြတ်ဘုရားသည် လောကသုံးပါး၌ ထင်ရှားပွင့်ခဲ့၏။ ကောဏ္ဍညသည် ထိုစဉ်အခါ ထိုဘုရားလက်ထက်၌ လယ်များစွာကိုပိုင်သော လယ်ပိုင်ရှင်သူကြွယ် တစ်ဦး ဖြစ်ခဲ့ပေသည်။

ထိုသူကြွယ်သည် ရဟန်းတစ်ပါးအား "စေတဒဂ်ဘွဲ့" ချီးမြှင့်သည်ကို ဖူးတွေ့ရသော် ယင်းရဟန်းတော်ကို အားကျ၍ မိမိလယ်မှ ထွက်သော စပါးများ အနက်မှ-

(၁) ဦးဦးဖျားဖျား စပါးဖုံး အလှူကိုလည်းကောင်း။

(၂) မုန့်ဆန်းဦး အလှူကိုလည်းကောင်း။

(၃) ရိတ်သောအခါ ရိတ်ဦးအလှူကိုလည်းကောင်း။

(၄) အဆုပ်ပြုသောအခါ ဆုပ်ဦးအလှူကိုလည်းကောင်း။

(၅) လှိုင်းသောအခါ လှိုင်းဦးအလှူကိုလည်းကောင်း။

(၆) နင်းနယ်သောအခါ နယ်ဦးအလှူကိုလည်းကောင်း။

(၇) ခြင်သောအခါ ခြင်ဦးအလှူကိုလည်းကောင်း။

(၈) ရောင်းသောအခါ ရောင်းဦးအလှူကိုလည်းကောင်း။

(၉) စားသောအခါ စားဦးအလှူကိုလည်းကောင်း။

ဤသို့ တစ်နှစ်တည်းလုပ်သောလယ်၌ ကိုးကြိမ်တိုင်တိုင် အဦးသောအလှူကို ပေး၍ "နောင် ပွင့်တော်မူလတ္တံ့သော ဘုရားရှင်တို့၏ အထံ၀ယ် သူတစ်ပါးတို့၏ ရှေးဦးစွာ တရားအရသာကို သောက်ရသည်ဖြစ်ပါစေသော" ဟူ၍ ဆုပန်ခဲ့သူ ဖြစ်ပေသည်။ လက်ဝဲရံ၊ လက်ယာရံ ဆုကို တောင်းခဲ့သူ မဟုတ်ပေ။ (ဓမ္မပဒအဋ္ဌကထာ၌ အကျယ်ဆို၏။)

အို-ချစ်သားတို့၊ နာကြကုန်လော့။ သာရိပုတ္တရာနှင့် မောဂ္ဂလာန်တို့၏ ရှေးဆုတောင်းကို ငါ ဆိုပေဦးအံ့။ ချစ်သားတို့၊ လွန်ခဲ့သော တစ်သင်္ချေနှင့် ကမ္ဘာ

တစ်သိန်းထက်၌ သာရိပုတ္တရာသည် ဗြာဟ္မဏ မဟာသာလအမျိုး၌ ဖြစ်ခဲ့၍ အမည်မှာ သရဒ ဟု တွင်၏။ မောဂ္ဂလာန်ကား အသည်မျိုး၌ ဖြစ်ခဲ့သည်။ အမည်မှာ သိရိဝဍ္ဍန ဟု တွင်၏။

သရဒနှင့် သိရိဝဍ္ဍနသည် အလွန်ချစ်သော သူငယ်ချင်းများ ဖြစ်၏။ သူတို့ချင်း အလွန်ရင်းနှီးကြ၏။ နောင်တွင် သရဒသည် သံဝေဂရ၍ တောထွက်ကာ ရသေ့ပြုသွားသော်လည်း သိရိဝဍ္ဍနကား လူ့ဘောင်မှာပင် ကျန်ရစ်ခဲ့လေသည်။

ထိုအချိန်၌ မနောမဒဿီ မည်သော ဘုရား ပွင့်ထွန်းလျက် ရှိ၏။ ထိုဘုရားသခင်၏ လက်ယာရံမှာ အရှင်နိသဘဖြစ်၍ လက်ဝဲရံမှာ အရှင်အနောမ ဖြစ်လေသည်။ ထိုအခါ သရဒ ရသေ့သည် လက်ယာရံ အရှင်နိသဘကို အားကျ၍ မြတ်စွာဘုရားအား ပန်းထီးဖြင့် ပူဇော်ပြီးလျှင် ဤသို့ ဆုတောင်းခဲ့သတည်း။

"အရှင်ဘုရား၊ အကျွန်ုပ်သည် ဤပန်းထီးကို ပူဇော်ရသော ကောင်းမှု၊ သဗ္ဗညုတဂုဏ်ကျေးဇူးကို ချီးကျူးရသော ကောင်းမှု၊ ဘုရားအမှူးရှိသော သံဃာတော်တို့ကို ရိုသေမြတ်လေး၊ လုပ်ကျွေးရသော ကောင်းမှုအစုစုတို့ကြောင့် အရှင်ဘုရား၏ လက်ယာရံဖြစ်သော နိသဘထေရ်ကဲ့သို့ နောက်ပွင့်တော်မူသော ဘုရားရှင်တို့၏ သာသနာတော်ဝယ် **'လက်ယာရံ အဂ္ဂသာဝက'** ဖြစ်ရပါလို၏"ဟု ဆုတောင်းလေ၏။

"အို–ချစ်သားတို့၊ ထိုရောအခါ အနောမဒဿီဘုရားက ဗျာဒိတ်မြွက်ကြားတော်မူသည်ကား "အချင်း သရဒ၊ ဤကမ္ဘာမှ စ၍ရေသော် တစ်သင်္ချေနှင့် ကမ္ဘာတစ်သိန်း လွန်သောကာလ ဘဒ္ဒကမ္ဘာ၌ ဘုရားသုံးဆူတို့နောက်မှ 'ဂေါတမ' အမည်ရှိသော ဘုရားပွင့်လတ္တံ့။ ထိုအခါ သင်သည် သာဝကပါရမီတို့၏ အထွတ်အထိပ်ရောက်၍ **'ဓမ္မသေနာပတိ သာရိပုတ္တရာ'** ဟူသော အမည်ဖြင့် ကြေညာလျက် 'လက်ယာရံ' အဂ္ဂသာဝက ဖြစ်လတ္တံ့။ ယင်း၏ ဉာဏ်သည် ပံသုပထဝီ၊ မဟီဗျူနှနှင့် မတုနိုင်သည်သာ ဖြစ်လတ္တံ့"ဟု ဗျာဒိတ်ရခဲ့သူ ဖြစ်ပေသည်။

အို–ချစ်သားတို့၊ ထိုအခါ သရဒ ရသေ့သည် မိမိဗျာဒိတ်ရရှိသော အကြောင်းကို မိတ်ဆွေဖြစ်သူ သိရိဝဍ္ဍနထံ သွားရောက်၍ ပြောကြားပြီးလျှင် လက်ဝဲရံဆုကို တောင်းရန် အကြံပေးတိုက်တွန်းခြင်း ပြုလေရာ သိရိဝဍ္ဍနသည် အလွန်ဝမ်းမြောက် ရွှင်လန်းသောစိတ်ရှိသည်ဖြစ်၍ ဘုရားအမှူးရှိသော သံဃာတော်များအား တိစီဝရိတ် သင်္ကန်းများဖြင့် ဆက်ကပ်လှူဒါန်းပြီးလျှင်–

"အရှင်ဘုရား၊ အကျွန်ုပ်၏ အဆွေဖြစ်ပါသော သရဒ ရသေ့သည် နောင်ပွင့်တော်မူလတ္တံ့သော ဂေါတမ ဘုရားသခင်၏ သာသနာတော်ဝယ် လက်ယာရံ

အဂ္ဂသာဝကအဖြစ်ကို ရလိုသောဟု ဆုတောင်းပါ၏။ အကျွန်ုပ်လည်း ယခုပြု ရသော ဤပုညကောင်းမှုကြောင့် ထိုဂေါတမဘုရား ပွင့်တော်မူသောအခါ **'လက်ဝဲရံ'** အဂ္ဂသာဝကအဖြစ်ကို ရလိုပါသော''ဟု ဆုတောင်းလေသော် ''ချစ်သား သိရိဝဍ္ဎန၊ သင့်ဆုတောင်းအတိုင်း ထိုဂေါတမဘုရား ပွင့်တော်မူသောအခါ သင်သည်လည်း 'မဟာမောဂ္ဂလာန်'အမည်ရသော 'လက်ဝဲရံ' အဂ္ဂသာဝကကြီး ဖြစ်ပေလတ္တံ့''ဟူ၍ ဗျာဒိတ်ရရှိလာခဲ့သူ ဖြစ်ပေ၏။

အို–ချစ်သားတို့၊ ငါကား ဤသူတို့အား မျက်နှာလိုက်၍ ရာထူးပေးခြင်း မဟုတ်။ ဤဆိုအပ်ပြီးသောအတိုင်း သူတို့၏ ရှေးဆုတောင်းများ အရသာလျှင် ပေးခြင်းဖြစ်သည်ကို သင်တို့နားလည်ကြကုန်လော။

ဤတွင် ရဟန်းတို့၌ ဖြစ်ရှိနေသော သံသယများ ကင်းစင်သွားသတည်း။

(ဓမ္မပဒ အဋ္ဌကထာ၌ အကျယ်တဝင့် ဖွင့်ဆို၏။)

# ကဲ့ရဲ့ ခုနစ်ရက်

**ပြဿနာ = ဘုရားကို ဆဲရေးခြင်း။**

**မေးလျှောက်သူ = အရှင်အာနန္ဒာ။**

ရမည်ဆိုက ဘာနဖူးကိုပင် ရိုက်ခွဲ၍ သိုက်တူးရဲသော မိုက်ခဲတစ်စုကို ရှေ့တော်ခေါ်၍ မာဂဏ္ဍီမိဖုရားက တံစိုးလက်ဆောင်များပေးပြီးလျှင် မြတ်စွာဘုရားကို အရှက်ကွဲအောင် နောက်ကလိုက်၍ အဆဲခိုင်းလေသည်။

လူမိုက်တစ်စုသည် ရှင်ပျူမူအပြည့်ဖြင့် မာဂဏ္ဍီမိဖုရားထံမှ ရွှေထုပ်ပိုက်၍ ထွက်လာခဲ့ပြီးနောက် နောက်တစ်နေ့တွင် ကောသမ္ဗီမြို့တွင်းသို့ ဆွမ်းခံကြွဝင်တော်မူလာသော မြတ်စွာဘုရားအား နောက်ကလိုက်၍ မကြားဝံ့မနာသာ ဆဲဆိုကြလေကုန်၏။

မြတ်စွာဘုရားအား ရဲတင်းစွာ "သူခိုး၊ သူခိုး"ဟု စွပ်စွဲသူက စွဲ၊ မိုက်မဲသော လူယုတ်မာကြီးဟူ၍ ဆိုသူကဆို၊ ဓွေဝေသူ၊ ထိုင်းမှိုင်းသူ ဟူ၍ လည်းကောင်း၊ နွားကြီး၊ ကျွဲကြီး၊ ကုလားအုတ်ကြီး၊ မြင်းကြီးဟူ၍ လည်းကောင်း၊ ကောင်းသော လားရာသုဂတိ မရှိ၊ အပါယ် လေးပါး၊ တစ်လမ်းသွားပုဂ္ဂိုလ်ဟူ၍ လည်းကောင်း ဤသို့ စသောအားဖြင့် နောက်တော်ပါးက တည်းညည်လိုက်၍ ဆဲရေးနေသည်ကို အရှင်အာနန္ဒာက ကြား၍ ဤသို့ လျှောက်ထားလေ၏။

အရှင်ဘုရား၊ များစွာသော ကောသမ္ဗီပြည်သားတို့သည် တပည့်တော်တို့ နောက်က လိုက်၍ မကြားဝံ့ မနာသာ ဆဲရေးနေကြပါကုန်သည်။ ဤမြို့မှ ထွက်ခွာလျှင် ကောင်းပါလိမ့်မည် ဘုရား။

မေး။ ချစ်သား အာနန္ဒာ၊ ဆဲရေးသံများကို ငါလည်း ကြားပေ၏။ ဤမြို့မှ ခွာ၍ အဘယ်ကို သင် သွားလိုသနည်း။

ဖြေ။ ဤမြို့မှ လွတ်ရာကျွတ်ရာ အခြားတစ်နေရာသို့ သွားလိုပါသည် ဘုရား။

မေး။ ချစ်သား အာနန္ဒာ၊ သင် သွားလိုခြင်းမှာ ဟုတ်တန်စေ၊ ထိုအရပ် ၌လည်း ထိုနည်းလည်းကောင်း ငါတို့အား ဆဲရေးကြပြန်ကုန်သော် သင် အဘယ် သို့သွားမည်နည်း။

ဖြေ။ အရှင်ဘုရား၊ ထိုအရပ်၌ ဆဲရေးကြပြန်သော် အခြားတစ်နေရာသို့ ရွှေ့ပြောင်းပါမည် ဘုရား။

မေး။ ထိုအရပ်၌လည်း ဆဲရေးခြင်း ဘေးနှင့် ကြုံနေဦးမည်ဆိုပါက သင် ဘယ်ကို သွားမည်နည်း။

ဖြေ။ အရှင်ဘုရား၊ အခြား ကျွတ်ရာလွတ်ရာ တစ်နေရာကို ရွှေ့ပြောင်းပါမည် ဘုရား။

မေး။ အို-ချစ်သား အာနန္ဒာ၊ ဤသို့ မပြုအပ်၊ မပြုသင့်၊ မပြုထိုက်ပေ။ အကြင်အရပ်၌ ဆဲရေးတိုင်းထွာခြင်း စသော အဓိကရဏ်းသည် ဖြစ်ပွားနေ၏။ ထိုအဓိကရဏ်း မပြီးမချင်း ထိုအရပ်မှ မခွာသင့်။ အဓိကရဏ်းကို ငြိမ်းအောင် ပြုပြီးမှသာ ဖဲခွာသင့်ပေသည် အာနန္ဒာ။ ဆဲရေးသူတို့ကား အဘယ်သူတို့ ဖြစ်ကုန်သနည်း။

ဖြေ။ မည်သူမည်ဝါဟူ၍ ခွဲခြား၍ မသိနိုင်၊ များစွာသော လူအုပ်ကြီးက ဆဲရေးကြောင်းပါ ဘုရား။

မေး။ ချစ်သား အာနန္ဒာ၊ ရှုစေတော့။ ငါဘုရားကား စစ်မြေသို့ထွက်သော ဆင်ပြောင်ကြီးနှင့် အလားတူ ပေ၏။ အရပ်ရှစ်မျက်နှာတို့မှ ပစ်လွှတ်သော မြှားတို့သည် ဆင်ပြောင်ကြီးပေါ်သို့ချည်း ကျလေသဖြင့် ဆင်ပြောင်ကြီးကား ကျသမျှ မြှားဒဏ်ကို သည်းခံရသူ ဖြစ်ပေ၏။ ထိုနည်းလည်းကောင်း ဒုဿီလ ပုဂ္ဂိုလ်တို့ပြောဆိုအပ်လေသမျှ စကားအရပ်ရပ်ကို သည်းခံခြင်းမည်သည် ငါ့တာဝန် သာလျှင် ဖြစ်ချေ၏။

အို-ချစ်သား အာနန္ဒာ၊ နာလော့။ လူထုထပ်ပေါမျိုးများရာ သဘင်အရပ်သို့ သွားသောသူသည် မိမိစီးသော လှည်းယာဉ်ကို ယဉ်ကျေးပြီးသော နွား၊ မြင်းတို့ကို ယှဉ်က,၍ သွားကြကုန်၏။ ပြည်ပိုင်ရှင်ဘုရင် မင်းမြတ်သည်လည်း ယဉ်ကျေး လိမ္မာပြီးသော ဆင်ယာဉ်၊ မြင်းယာဉ်များကိုသာ စီး၍ ထွက်တော်မူ၏။ အကြင် သူသည် လွန်ကျူးပြစ်မှား၊ စော်ကား၊ မော်ကား၊ ဆဲရေးတိုင်းထွာခြင်းကို သည်းခံ၏။ ထိုသို့သည်းခံခြင်းဂုဏ်နှင့် ပြည့်စုံသော ထိုသူသည်သာ ယဉ်ကျေးသူ မည်၍ လူတို့တွင် ထိုလူမျိုးကား ချီးမွမ်းအပ်၍ မြတ်သောသူ ဟု ဆိုအပ်၏။

အို–ချစ်သား အာနန္ဒာ၊ အဿာထိုရ်မြင်းမှ ဖွားမြင်သော သားငယ်သည်လည်းကောင်း၊ အာဇာနည်မြင်းကောင်းတို့သည်လည်းကောင်း၊ သိန္ဓောမြင်းတို့သည်လည်းကောင်း၊ ဆင်ပြောင်ကြီးတို့သည်လည်းကောင်း ကောင်းစွာ သွန်သင်ဆုံးမအပ်သည်ဖြစ်၍ ယဉ်ကျေးပြီးမှသာလျှင် မြတ်ကုန်၏။ မဂ်ဉာဏ်ဖြင့် ဆုံးမအပ်သည်ဖြစ်၍ ကောင်းစွာယဉ်ကျေးပြီးသောသူကား ထိုအာဇာနည် ဆင်ကောင်း၊ မြင်းကောင်းတို့ထက် အထူးသဖြင့် မြတ်၏။

ချစ်သား အာနန္ဒာ၊ စနိုးစနောင့် သင် မဖြစ်လေလင့်။ မစိုးရိမ်လေလင့်။ ဤသူတို့ကား **ခုနစ်ရက်မျှသာ ဆဲရေး၊ ကဲ့ရဲ့နိုင်ကြလတ္တံ့**။ ရှစ်ရက်မြောက်သော နေ့၌ ပျောက်ပြယ်ကာ တိတ်ဆိတ်သွားလတ္တံ့။

(ဓမ္မပဒအဋ္ဌကထာ၊ အပ္ပမာဒဂ် သာမာဝတီ ဝတ္ထုမှ)

# သလ္လေခ ၄၄ ပါး

**ပြဿနာ = အကုသိုလ်ကို ပါးအောင် ခြစ်ပစ်ခြင်း။**

**မေးလျှောက်သူ = ဘိက္ခု မဟာစုန္ဒ။**

လူ၊ နတ်၊ ဗြဟ္မာ သတ္တဝါခပ်သိမ်းတို့ကား အကုသလ၊ ပါပညစ်ကျူ မကောင်းမှု အညစ်အကြေးများဖြင့် အမြဲလူးလဲပေကျံနေသူများ ဖြစ်ကုန်၏။ ဒုစရိုက်တောရှုပ်၊ တောအုပ်ကြီးကြီးကို အိမ်သဖွယ်ပြုလုပ်၍ မှီတင်းနေထိုင်ကြသူများဖြစ်သောကြောင့် လူ့ပတ်ဝန်းကျင်၊ နတ်ပတ်ဝန်းကျင်၊ ဗြဟ္မာပတ်ဝန်းကျင် တစ်လျှောက်၌လည်းကောင်း၊ လူ၊ နတ်၊ ဗြဟ္မာဟု ဆိုအပ်သော သတ္တဝါ၏ သန္တာန်၌လည်းကောင်း၊ အကုသိုလ်မှု ဒုစရိုက်များသည် ဒုနှင့်ဒေး ဖြစ်ရှိနေ၏။

လူသည်လည်းကောင်း၊ နတ်သည်လည်းကောင်း၊ ဗြဟ္မာသည်လည်းကောင်း၊ မည်သူမဆို သန့်ရှင်းသည့်ကိုသာ ကြိုက်ကြသူချည်း ဖြစ်ပေသည်။ သို့သော် ဒုစရိုက်မှု အကုသိုလ်တည်းဟူသော အညစ်အကြေးကို စင်ကြယ်အောင် မဆေးနိုင်ကြသည့်အတွက် လူပေ၊ နတ်ပေ၊ ဗြဟ္မာပေတွေ ဖြစ်နေကြရ၏။

သူ့ပစ္စည်း၊ သူ့ဥစ္စာကို ခိုးခြင်း၊ သူ့အသက်ကို သတ်ခြင်း၊ သူ့အတင်းကို ပြောခြင်း စသည်တို့သည် လူတို့အဖို့တွင် အလွန်အရုပ်ဆိုး၊ အကျည်းတန်သွားစေသော အညစ်အကြေးများ ဖြစ်လေသည်။

ယင်းအညစ်အကြေးများကို လုံးဝဖြူစင်အောင် မလုပ်နိုင်သည့်တိုင်အောင် "လုံးပါးပါး"ဆိုသကဲ့သို့ တစ်နေ့တခြား ပါးပါးသွားအောင် လုပ်ခြင်း၊ အုန်းခြစ်နှင့် ခြစ်သကဲ့သို့ ခြစ်ပစ်ခြင်းကို သလ္လေခဟု ခေါ်၏။ အကုသိုလ်ပါးအောင် လုပ်နည်းဟု ဆိုလိုသည်။

ယင်းအကြောင်းနှင့်ပတ်သက်၍ စုန္ဒဟူ၍ အမည်ရှိသော ရဟန်းတစ်ပါးသည် ဘုရားသခင်ထံ ချဉ်းကပ်၍ မေးလျှောက်ခဲ့ဖူးပေသည်။

စပယ်ဦးစာပေ

မေး။ ခပ်သိမ်းသော တရားတို့ကို မဖောက်မပြန် သယမ္ဘူဉာဏ်ဖြင့် ကောန်တီတိ ထိုးထွင်း၍ သိတော်မူပါသော တရားသခင် မြတ်ရှင်ပင် ဘုရား။ ခန္ဓာငါးပါး၌ဖြစ်သော အတ္တဝါဒစွဲ သက္ကာယဒိဋ္ဌိ နှစ်ဆယ်၊ သဿတ အသဿတ အစရှိသော လောကဝါဒစွဲ ဒိဋ္ဌိရှစ်ပါး၊ ယင်းဒိဋ္ဌိများကို သောတာပတ္တိမဂ်သို့ မရောက်သေးဘဲ ဝိပဿနာမိဿက အာဒိမနသိကာရဖြင့် ပယ်ချစွန့်ပစ်နိုင်ပါ သလား ဘုရား။

ဖြေ။ ချစ်သား စုန္ဒ၊ တဏှာ၊ မာန၊ ဒိဋ္ဌိဟူသော ပပဉ္စတရား သုံးပါး။ ယင်းသုံးပါးတို့ ကိန်းဝပ်ရာဖြစ်သော ခန္ဓာငါးပါးကို "နေတံ မမ=ဤခန္ဓာ ငါးပါးသည် ငါ့ဥစ္စာမဟုတ်။ နေသောဟ မသ္မိ=ဤခန္ဓာငါးပါးသည် ငါမဟုတ်။ န မေသော အတ္တာ=ဤခန္ဓာ ငါးပါးသည် ငါ့ကိုယ်မဟုတ်ဟု ဝိပဿနာအဆက် ဆက်ဖြင့် တက်၍ သောတာပတ္တိမဂ်သို့ ရောက်မှ အထူးထူးသော ဝါဒစွဲ၊ နည်း အမျိုးမျိုးဖြင့် ဖန်တီးထားသော မိစ္ဆာအယူတို့ကို စွန့်ပစ်နိုင်သည်။ ဝိပဿနာ၏ အခြေအမြစ်ဖြစ်သော သမာပတ် ရှစ်ပါးသည် ကိလေသာကို ပါးရှားကုန်ခန်း အောင် ခြစ်၍ပစ်တတ်သော "သလ္လေခ တရားမဟုတ်"ဟု မိန့်တော်မူပြီးလျှင် ၄၄ ပါးသော အခြင်းအရာတို့ဖြင့် တန်ဆာဆင်၍ သလ္လေခဝတ္ထု၊ သလ္လေခတရား တို့ကို ဟောကြားတော်မူလေ၏။

အို-ချစ်တပည့် စုန္ဒ၊ ကောင်းစွာ မှတ်ယူလေလော့။ သူ့အသက်ကို သတ် ခြင်း၊ သူ့ဥစ္စာကို ခိုးခြင်း စသော ဝီတိ'သဝတ္ထု၌ အကုသိုလ်ပါးသည်ထက် ပါး အောင် လုပ်ခြင်း၊ ကုန်အောင်ခြစ်ပစ်ခြင်း အမှုကို စင်စစ်လျှင် သင်တို့ပြုအပ်၏။ ပြုသင့်၊ ပြုထိုက်လှပေသည်။ အဘယ်သို့ ပြုအပ်၊ ပြုသင့်၊ ပြုထိုက်သနည်းဆိုသော်-

အို-ချစ်တပည့် စုန္ဒ၊ ဖာစ်ပါးကုန်သော မိုက်မဲလှစွာသော လူတို့သည်-

(၁) သူတစ်ပါးအား နိုင်လိုမင်းထက်၊ နှိပ်စက်ကလူပြုမူကြကုန်ဘိ၏။ ဤဝိဟိံသအမှု၌ ငါတို့ကား နိုင်လိုမင်းထက်၊ နှိပ်စက်ကလူခြင်းမှ ရှောင်ကြကုန်အံ့ဟူ၍လည်းကောင်း။

(၂) သူ့အသက်ကို ရက်ရက်စက်စက် သတ်လေ့ရှိကုန်ဘိ၏။ ဤပါဏာတိ ပါတ အမှု၌ ငါတို့ကား သူ့အသက်ကို သတ်ခြင်းမှ ရှောင်ကြဉ် ကြကုန်အံ့ ဟူ၍လည်းကောင်း။

(၃) ပိုင်ရှင်ဖြစ်သူက ကိုယ်နှုတ်တို့ဖြင့် မပေးအပ်သော သူ့ဥစ္စာ၊ သူ့ ပစ္စည်းကို ခိုးယူလေ့ရှိကြကုန်ဘိ၏။ ဤအဒိန္နာဒါန အမှု၌ ငါတို့ကား သူ့ဥစ္စာကို ခိုးခြင်းမှ ရှောင်ကြကုန်အံ့ဟူ၍ လည်းကောင်း။

(၄) မမြတ်သော မေထုန်မှီဝဲမှုကို ပြုလေ့ရှိကြကုန်ဘိ၏။ ဤအဗြဟ္မစရိယ အမှု၌ ငါတို့ကား မေထုန်မှုမှ ရှောင်ကြကုန်အံ့ဟူ၍ လည်းကောင်း။

(၅) တစ်ပါးသော လူမိုက်တို့သည် လိမ်လည်လှည့်ဖြားရှ်၍ စကားဆို တတ်ကုန်ဘိ၏။ ဤမုသာဝါဒအမှု၌ ငါတို့ကား မုသားဆိုခြင်းမှ ရှောင်ကြကုန်အံ့ဟူ၍လည်းကောင်း။

(၆) တစ်ပါးသော လူမိုက်တို့သည် ချစ်သူနှစ်ဦးကို မုန်းတီးသွားအောင် ချောပစ် ကုန်းတိုက်လေ့ရှိကြကုန်ဘိ၏။ ဤ ပိသုနဝါစာ အမှု၌ ငါတို့ကား ကုန်းတိုက်ခြင်းမှာ ရှောင်ကြကုန်အံ့ဟူ၍လည်းကောင်း။

(၇) တစ်ပါးသော လူမိုက်တို့သည် ကြမ်းတမ်းသော စကားကို ဆိုလေ့ ရှိကြကုန်ဘိ၏။ ဤဖရုသဝါစာ အမှု၌ ငါတို့ကား အပြောအဆို ရှန့်ကြမ်းခြင်းမှ ရှောင်ကြကုန်အံ့ဟူ၍လည်းကောင်း။

(၈) တစ်ပါးသော လူမိုက်များသည် အနက်အဓိပ္ပာယ်ကင်းသည့် ပြိန်ဖျင်း သော စကားကို ဆိုလေ့ရှိကြကုန်ဘိ၏။ ဤသမ္ဖပ္ပလာပ အမှု၌ ငါတို့ကား ပြိန်ဖျင်းသော စကားမျိုးကို ပြောဆိုခြင်းမှ ရှောင်ကြဉ် ကြကုန်အံ့ဟူ၍လည်းကောင်း။

(၉) တစ်ပါးသော လူမိုက်တို့သည် သူတစ်ပါးကောင်းစားသည်ကို မနာလို၊ သူ့ဥစ္စာကို လိုချင်မှုဖြင့် ရှေးရှုကြံစည်ခြင်း များလှဘိကုန်၏။ ဤ အဘိဇ္ဈာအမှု၌ ငါတို့ကား မနာလိုခြင်းမှ ရှောင်ကြကုန်အံ့ဟူ၍လည်း ကောင်း။

(၁၀) တစ်ပါးသော သူတို့သည် သူတစ်ပါးကို ပျက်စီးစေလိုသော သဘော ဆိုး ထားရှိကြကုန်၏။ ဤဗျာပါဒအမှု၌ ငါတို့ကား သူတစ်ပါး အပေါ် မကောင်းသော စိတ်သဘောဆိုး ထားခြင်းမှ ရှောင်ကြကုန် အံ့။ ဤသို့ ခေါင်းပါးအောင် ပြုအပ်၊ ပြုသင့်၊ ပြုထိုက်၏။

အို–ချစ်သား စုန္ဒ။

(၁၁) သူတကာတွေ မိစ္ဆာဒိဋ္ဌိအယူ ယူကြသလို ငါတို့မယူကြကုန်။

(၁၂) သူတကာတွေ မှားသော အတွေးအခေါ် ရှိကြသော်လည်း ငါတို့ကား အမှန်ကိုသာ တွေးခေါ်ကြကုန်အံ့။

(၁၃) သူတကာတွေ မှသားစကားကို ဆိုကြကုန်သော်လည်း ငါတို့ကား အမှန်ကိုသာ ဆိုကြကုန်အံ့။

(၁၄) သူတကာတွေ မကောင်းသောအမှုကို ပြုကြသော်လည်း ငါတို့ကား မပြု၊ မှန်သည်ကိုသာ ပြုကြကုန်အံ့။

(၁၅) သူတကာတွေ မိစ္ဆာဇီဝဖြင့် အသက်မွေးကြသော်လည်း ငါတို့ကား မမွေး၊ သမ္မာအာဇီဝဖြင့်သာ အသက်မွေးကြကုန်အံ့။

(၁၆) သူတကာတွေ အမှားမှား အယွင်းယွင်း အားထုတ်ခြင်းပြုသော်လည်း ငါတို့ကား မပြု၊ မှန်သောအားထုတ်မှုကိုသာ ပြုကြကုန်အံ့။

(၁၇) သူတကာတွေ သတိမှားကြသော်လည်း ငါတို့ကား မမှား၊ ကောင်းသော သတိထားရှိကြကုန်အံ့။

(၁၈) သူတကာတွေ မှားသော သမာဓိရှိကြသော်လည်း ငါတို့ကား သမာဓိမမှား၊ ကောင်းသောသမာဓိ ရှိကြကုန်အံ့။

(၁၉) သူတကာတွေ အသိအမြင် မှားကြသော်လည်း ငါတို့ကား မမှား၊ မှန်သော အသိ၊ မှန်သော အမြင် ရှိကြကုန်အံ့။

(၂၀) သူတကာတွေ မလွတ်ဘဲကို လွတ်သည်ဟု အယူရှိကြသော်လည်း ငါတို့ကား မှန်ကန်သော လွတ်မြောက်ခြင်း ရှိကြကုန်အံ့။ ဤသို့ ပါးအောင် လုပ်အပ်၊ လုပ်သင့်၊ လုပ်ထိုက်၏။

အို–ချစ်သား စုန္ဒ။

(၂၁) သူတကာတွေ ထိနမိဒ္ဓ အားကြီး၍ ကုသိုလ်မှုတို့၌ တွေဝေထိုင်းမှိုင်း ဆုတ်ဆိုင်းဆိုင်း ဖြစ်နေကြသော်လည်း ငါတို့ကား တွေဝေထိုင်းမှိုင်းခြင်းမရှိ၊ တက်တက်ကြွကြွ ဖြစ်ကြကုန်အံ့။

(၂၂) သူတကာတွေ တုန်လှုပ်ပြန့်လွင့်ကြကုန်သော်လည်း ငါတို့ကား ပြန့်လွင့်ခြင်း၊ တုန်လှုပ်ခြင်း မရှိ ဖြစ်ကုန်အံ့။

(၂၃) သူတကာတွေ သို့လောသို့လော တွေးတောယုံမှား ဝိစိကိစ္ဆာဖြစ်ကြသော်လည်း ငါတို့ကား မဖြစ်ကြကုန်အံ့။

(၂၄) သူတကာတွေ အမျက်ဒေါမာန်ကြီးကြသော်လည်း ငါတို့ကား ဒေါ အမျက် ထွက်ခြင်းမှ ကင်းကုန်အံ့။

(၂၅) သူတကာတွေ ရန်ငြိုးဖွဲ့တတ်ကုန်သော်လည်း ငါတို့ကား မဖွဲ့ကုန်။

(၂၆) သူတကာတွေ သူ့ကျေးဇူးကို ခြေဖျက်ကြကုန်သော်လည်း ငါတို့ကား သူ့ကျေးဇူးကို မဖျက်၊ ကျေးဇူးမကန်းကြကုန်။

(၂၇) သူတကာတွေ ဂုဏ်ပြု ဂုဏ်ပြိုင် အနိုင်လုကာ လုကာ ပြုကြသော်လည်း ငါတို့ကား ပြိုင်ဆိုင်မှုကို မပြုကြကုန်။

(၂၈) သူတကာတွေ ဖြူစွာစောင်းမြောင်းကြကုန်သော်လည်း ငါတို့ကား မစောင်းမြောင်းကုန်။

(၂၉) သူတကာတွေ သဝန်တိုတတ်ကုန်သော်လည်း ငါတို့ကား သဝန် မတိုကုန်။

(၃၀) သူတကာတွေ ဂုဏ်မရှိပါဘဲ ဂုဏ်ပုဒ်တွေထုတ်၍ ကြွားဝါကြသော်လည်း ငါတို့ကား မကြွားဝါကြကုန်။ ဤသို့ ပါးသည်ထက် ပါး အောင် ခြစ်၍ခြစ်၍ ပစ်အပ်၏။

အို–ချစ်သား စုန္ဒ။

(၃၁) သူတကာတွေ ရှိသောအပြစ်ကို ရှိမှန်းမသိအောင် ဖုံးဖိလှည့်ပတ်ကြသော်လည်း ငါတို့ကား သူတို့လို မလှည့်စားကြကုန်။

(၃၂) သူတကာတွေ ကြမ်းတမ်း ခက်ထန်ကြသော်လည်း ငါတို့ကား နူးညံ့ကြကုန်အံ့။

(၃၃) သူတကာတွေ ထောင်လွှား တက်ကြွ မာန်မာနကြီးကြသော်လည်း ငါတို့ကား မာနမကြီးကုန်။

(၃၄) သူတကာတွေ ပြောရဆိုရ ဆိုဆုံးမ၍ ခက်ကြသော်လည်း ငါတို့ကား ပြောလွယ် ဆိုလွယ်သူ ဖြစ်ကုန်အံ့။

(၃၅) သူတကာတွေ လူဆိုးသူဆိုးတွေနှင့် အပေါင်းအသင်းလုပ်ကြသော်လည်း ငါတို့ကား ထိုသို့မလုပ်ဘဲ သူတော်ကောင်းများနှင့်သာ ပေါင်းသင်းကြကုန်အံ့။

(၃၆) သူတကာတွေ မေ့လျော့ပေါ့ဖျင်းကြကုန်သော်လည်း ငါတို့ကား မမေ့ မလျော့ သတိတရား အမြဲလက်ကိုင် ထားကြကုန်အံ့။

(၃၇) သူတကာတွေ ရတနာသုံးပါးကို မဆည်းကပ်၊ ကံ ကံ၏အကျိုးကို ယုံကြည်ခြင်း မရှိ၊ သဒ္ဓါတရား ခေါင်းပါးကြသော်လည်း ငါတို့ကား ရတနာသုံးစုံ၊ ထိပ်ဝယ်မုံလျက်၊ ယုံကြည်ခြင်း သဒ္ဓါစိတ်ဖြင့် ဆည်းကပ်ကြကုန်အံ့။ ကိုးကွယ်ကြကုန်အံ့။

(၃၈) သူတကာတွေ မကောင်းမှုပြုရမှာကို မရှက်ကြသော်လည်း ငါတို့ကား ရှက်ကြကုန်အံ့။

(၃၉) သူတကာတွေ အကုသိုလ်ကို မကြောက်ကြသော်လည်း ငါတို့ကား ကြောက်ကြကုန်အံ့။

စပယ်ဦးစာပေ

(၄၀) သူတကာတွေ အကြားအမြင် ဗဟုသုတမရှိကြသော်လည်း ငါတို့ကား ကြားဖူးနား၀၊ ဗဟုသုတများကြကုန်အံ့။

(၄၁) သူတကာတွေ ပျင်းရိကြကုန်သော်လည်း ငါတို့ကား မပျင်းရိကြကုန်အံ့။

(၄၂) သူတကာတွေ သတိကင်းလွတ် ချုတ်ချော်တိမ်းစောင်းကြသော်လည်း ငါတို့ကား သတိမလွတ် ခါး၀တ်ပုဆိုးကဲ့သို့ မြဲကြကုန်အံ့။

(၄၃) သူတကာတွေ သတိသမ္ပဇဉ် ဉာဏ်အမြင်မရှိကြသော်လည်း ငါတို့ကား ဉာဏ်ပညာနှင့် ပြည့်စုံသူ ဖြစ်ကြကုန်အံ့။

(၄၄) သူတကာတွေ ငါ့အယူသာ မှန်သည်ဟု မိမိအယူကို သုံးသပ်ကုန်၊ မိကျောင်းခဲသကဲ့သို့ စွဲမြဲစွာ စွဲလမ်းကုန်၊ ပြောဍ် နားမ၀င် (ကိုယ်အင်္ဂါကို လိပ်ခွံတွင်း သွင်းသော လိပ်နှင့်အတူ) မိမိအယူကို စွန့်နိုင်ခဲကြသော်လည်း ငါတို့ကား မိမိအယူကို မသုံးသပ်ကုန်၊ မြဲစွာ မစွဲလန်းကုန်၊ စွန့်လွယ်ကုန်သည်ဖြစ်အံ့။ ဤသို့ပါးအောင်၊ ကုန်အောင် ခြစ်ပစ်ခြင်း၊ ဖြတ်တောက်ခြင်းကို ပြုအပ်၊ ပြုသင့်၊ ပြုထိုက်လှ၏။

အို-ချစ်သား စုန္ဒ၊ အပြစ်မရှိ ကောင်းသောကုသိုလ်မှု တရားတို့၌ ငါပြုရသော် ကောင်းလေစွဟူ၍ စိတ်ဓာတ်ဖြစ်ပေါ်လာခြင်းကိုပင်လျှင် ကျေးဇူးများလှပေ၏ဟု ငါဘုရား ဟောကြားတော်မူ၏။ စိတ်၌ ဖြစ်ပေါ်လာသော အကြံအစည်များအတိုင်း လိုက်၍ ကိုယ် နှုတ်တို့ဖြင့် အကောင်အထည်ပေါ်အောင် လုပ်လျှင်မူကား အဘယ်မှာလျှင် ဆိုဖွယ်ရာရှိပါအံ့နည်း။

အို-ချစ်သား စုန္ဒ၊ ယင်းသို့ဖြစ်ဘိရကား တစ်ပါးသော မိုက်မဲစွာသော သူတို့သည် နှိပ်စက်ညှဉ်းပန်းခြင်းအမှုကို ပြုကြကုန်ဘိ၏။ ငါတို့သည် ဤဝိဟိံသ အမှု၌ သူတစ်ပါးတို့အား နိုင်လိုမင်းထက် နှိပ်စက်ညှင်းပန်းသော အမှုကို မပြုကြကုန်အံ့။ ဤသို့သော စိတ်ဓာတ်မျိုးကို ဖြစ်စေအပ်၊ မွေးမြူအပ်ပေသည် ချစ်သား။

အို-ချစ်သား စုန္ဒ၊ ဥပမာ-သွားလာမကောင်း၊ ခရောင်းသစ်ငုတ်၊ ခလုတ်ကန်သင်း၊ တွင်းကျင်းချိုင့်ဝှမ်းသော လမ်းသည် ရှိလေရာ၏။ ခလုတ်ကန်သင်း၊ ကျင်းမြောင်းထူထပ်၊ အသွားအလာကတ်သော ထိုလမ်းဆိုးကို ဖယ်ရှား၍ သွားရန် အလို့ငှာ သာယာကောင်းမွန်သော လမ်းတစ်ခုသည် ရှိမြဲဖြစ်သကဲ့သို့လည်းကောင်း၊ အို-ချစ်သား စုန္ဒ၊ ဥပမာတစ်မျိုးကို ငါဆိုဦးအံ့။ တံစုန်းသစ်ငုတ်၊ ကျောက်ရှုပ်ကမ်းစောင်း၊ မိကျောင်း မကန်း စသည်တို့ဖြင့် ရောပြွမ်းနေသော ရေဆိပ်တစ်ခုသည် ရှိလေရာ၏။ ထိုမကောင်းသော ရေဆိပ်ကို ရှောင်ရှား၍ သွားလာရန်

အလို့ငှာ အလွန်သာယာသော ဆိပ်ကမ်းတစ်ခုသည် ရှိမြဲဖြစ်သကဲ့သို့လည်းကောင်း၊ အို–ချစ်သား စုန္ဒ၊ ဤနည်းတူသာလျှင် သူတစ်ပါးအား နိုင်လိုမင်းထက် နှိပ်စက်ကလူပြုမှုလေ့ရှိသောသူအား ထိုအပြုအမူ ထိုအကျင့်စာရိတ္တမျိုးမှ ရှောင်လွှဲခြင်းငှာ (၀ါ) ရှောင်လွှဲရန်အတွက် အဝိဟိံသ တရားသည် ဖြစ်လျက်ရှိပေ၏။ ထို့အတူ သတ်လေ့ရှိသူအား မသတ်မိအောင် ထိုပါဏာတိပါတမှ ရှောင်လွှဲသောတရား၊ သူ့ပစ္စည်းကို ခိုးလေ့ရှိသူအား မခိုးမိအောင် ထိုအဒိန္နာဒါနမှ ရှောင်လွှဲသောတရား စသည်တို့သည် ဖြစ်လျက်ရှိပေကုန်၏။

အို–ချစ်သား စုန္ဒ၊ ဥပမာအားဖြင့် မကောင်းမှု အကုသိုလ်တရားသည် ထင်ရှားရှိကုန်၏။ ခပ်သိမ်းကုန်သော ထိုအကုသိုလ်တရားကား အောက်သို့ လားရောက်စေတတ်သောကြောင့် ရေစုန်တရား မည်သကဲ့သို့လည်းကောင်း၊ ကောင်းသောအမှု ကုသိုလ်တရားအစုတို့သည် ထင်ရှားရှိကုန်၏။ ခပ်သိမ်းကုန်သော ထိုကုသိုလ်တရားတို့သည် အထက်အထက်သို့ လားရောက်စေတတ်သောကြောင့် ရေဆန်တရား မည်ကုန်သကဲ့သို့လည်းကောင်း၊ အို–ချစ်သား စုန္ဒ၊ ဤဥပမာနှင့် အလားတူစွာသာလျှင် နိုင်လိုမင်းထက်၊ နှိပ်စက်ကလူ မပြုမှုတတ်သော ပုဂ္ဂိုလ်၏ အဝိဟိံသ တရားတို့ကား လူ့ရွာနတ်ထံ၊ နိဗ္ဗာန်မရှို့၊ အထက်အထက်သို့ လားရောက်ခြင်းငှာ ဖြစ်ပေါ်လာပေ၏။ သူ့အသက်ကို သတ်လေ့ရှိသော ပုဂ္ဂိုလ်အား အထက်ထက်သို့ လားရောက်ခြင်းငှာ သူ့အသက်ကို သတ်ခြင်းမှ ရှောင်ခြင်းတရားသည် ဖြစ်ပေါ်လာပေ၏။ ဤသို့ စသောအားဖြင့် အထက်အထက်သို့ လားရောက်စေရန်အတွက် လွှဲရှောင်နည်းတရားများသည် ဖြစ်ရှိလျက်သာတည်း။

အို–ချစ်သား စုန္ဒ၊ အကြင်ပုထုဇဉ် လူသားတစ်ယောက်သည် မိမိကိုယ်တိုင် နက်ရှိုင်းသော ညွန်ပျောင်း၌ နှာခေါင်းဖျားအထိ ကျွံနစ်နေသူကဲ့သို့ ကာမဂုဏ် ညွန်ဗွက်ကြီးထဲ၌ ကျွံလျက်နစ်နေ၏။ ထိုသူသည် စင်စစ် ကာမဗွက်ကြီးထဲ၌ နစ်နေသော အခြားသူတစ်ဦးကို ကယ်တင်နိုင်အံ့သော အကြောင်းမည်သည် မရှိ။

အို–ချစ်သား စုန္ဒ၊ အကြင်ဘုရား၊ ရဟန္တာ အစရှိသော သူတော်ကောင်း ပုဂ္ဂိုလ်မူကား ကိုယ်တိုင်လည်း ကာမငါးချက် ညွန်အိုင်ဗွက်ကြီးထဲ၌ နစ်မြုပ်မနေ။ ဘုရား ရဟန္တာအစရှိသော ထိုပုဂ္ဂိုလ်တို့သည် ကာမသမုတ်၊ ဝဲဂယက်ကြီးထဲ၌ နှာခေါင်းမဖော်နိုင်အောင် နစ်မြုပ်နေသော အခြားသူ တစ်ဦးကို ထုတ်ဆယ်ကယ်တင် နိုင်သော အကြောင်းမည်သည် ရှိပေ၏။

အို–ချစ်သား စုန္ဒ၊ အကြင်ပုထုဇဉ်ပုဂ္ဂိုလ်သည် မိမိကိုယ်တိုင် မယဉ်ကျေးသေး။ မဆုံးမအပ်သေး။ ကိလေသာဟူ အပူမအေးသေး။ ထိုသူ သည် စင်စစ်

အားဖြင့် သူတစ်ပါးကို ယဉ်ကျေးစေနိုင်လိမ့်မည်၊ ဆုံးမနိုင်လိမ့်မည်၊ ကိလေသာ ဟူ အပူ အေးအောင် တတ်နိုင်လိမ့်မည်ဆိုသော အကြောင်းမည်သည် မရှိ။

အို-ချစ်သား စုန္ဒ၊ အကြင် ဘုရားအစရှိသော သူတော်ကောင်း ပုဂ္ဂိုလ်သည်ကား ကိုယ်တိုင် ကိလေသာအဆိပ် ကင်းဝေးယဉ်ကျေး၏။ သိက္ခာသုံးဝ ဆုံးမပြီးဖြစ်၏။ ဝန်းကျင်ပတ်ချာ၊ ကိလေသာဟူ၊ အပူငြိမ်းအေး၏။ ထိုသူသည် စင်စစ်အားဖြင့် သူတစ်ပါးကို ယဉ်ကျေးအောင် တတ်နိုင်လတ္တံ့၊ ဆုံးမနိုင်လတ္တံ့၊ ကိလေသာ အပူငြိမ်းအောင် တတ်နိုင်လတ္တံ့ဆိုသော အကြောင်းမည်သည် ရှိပေ၏။

အို-ချစ်သား စုန္ဒ၊ ဤဥပမာအတူသာလျှင် သူတစ်ပါးအား နှိုင်ထက်ကလူ နှိပ်စက်မှုလေ့ရှိသော သူအား၊ ဝန်းကျင်ပတ်ချာ၊ ကိလေသာအပူ ငြိမ်းအေးရန်အလို့ငှာ နှိုင်ထက်ကလူ နှိပ်စက်မမှုသော အဝိဟိံသ တရားသည် ထင်ရှားစွာပေါ်လာပေ၏။ သူ့အသက်သတ်လေ့ရှိသူအား သတ်ဖြတ်မှု ငြိမ်းအေးရန်အတွက် သူ့အသက်သတ်ခြင်းမှ ရှောင်ကြဉ်ခြင်း ပါဏာတိပါတာ ဝေရာမဏီ တရားသည် ထင်ရှားဖြစ်ပေါ်လာပေ၏။ (ရှေးနည်းကိုမှီး၍ ပရိဗ္ဗာန = ငြိမ်းအေးခြင်းပရိတ် လေးဆယ့်လေးပုဒ်ကို ပြည့်စုံအောင် ထုတ်ရာ၏။)

အို-ချစ်တပည့် စုန္ဒ၊ ဤသို့လျှင် သလ္လေခ=ပါးအောင်၊ ကုန်အောင်ခြစ်ပစ်ခြင်း၏ အကြောင်းတရားကောင်းကိုလည်း ငါဟောကြားအပ်ပြီ။ စိတ်ဖြစ်ခြင်း၏ အကြောင်းတရားကိုလည်း ငါ ဟောကြားအပ်ပြီ။ ဝိဟိံသ စသည်ကို ရှောင်လွှဲခြင်း အကြောင်းတရားကိုလည်း ငါဟောကြားအပ်ပြီ။ အထက်သို့ လားရောက်ကြောင်းတရားကောင်းကိုလည်း ငါဟောကြားအပ်ပြီ။ ဝိဟိံသ စသည့် အပူငြိမ်းကြောင်း တရားကောင်းကိုလည်း ငါဟောကြားအပ်ပြီ။

အို-ချစ်သား စုန္ဒ၊ ငါ၏တပည့်ဖြစ်ကုန်သော သင်တို့၏အကျိုးစီးပွားကို လိုလားစွာ ရှာမှီးတော်မူလေ့ရှိသော၊ သင်တို့အပေါ်၌ သနားခြင်း ကရုဏာစိတ်ဓာတ် ထားဝစဉ် ကိန်းဝပ်လျက် တည်ရှိနေပေသော ငါဘုရားသည် သင်တို့အား သနားခြင်းကို အစွဲပြု၍ အကျိုးရှိသော အကြင်အမှုကို သင်တို့သည် ပြုအပ်၊ ပြုသင့်၊ ပြုထိုက်၏။ ထိုအမှုကို သင်တို့အကျိုးငှာ ငါ ပြုအပ်ပေပြီ။

အို-ချစ်သား စုန္ဒ၊ ဤသည် ဤသည်တို့ကား ဝိဟိံသ စသော အကုသိုလ်တရားတို့ကို ပါးအောင်၊ ကုန်စင်အောင် ခြစ်ပစ်ဖို့ရာ ကောင်းသော၊ ပယ်ဖျောက်မည်ဟူသော စိတ်ဓာတ်များ ဖြစ်ပွားစေဖို့ရာ ကောင်းသော၊ လွှဲရှောင်ဖို့ရာကောင်းသော၊ အထက် အထက်သို့ တက်ရောက်ဖို့ရာကောင်းသော၊ ကိလေသာ အပူဘေးကို ငြိမ်းအေးစေဖို့ရာကောင်းသော၊ သစ်တစ်ပင်ရင်း၊ ဝါးတစ်ပင်အောက် ကျောင်းသခ်မ်းတို့ပေတည်း။

စပယ်ဦးစာပေ

အိုး–ချစ်သား စုန္ဒ၊ ဤသည် ဤသည်တို့ကား ဝိဟိ သ စသော လေးဆယ့်လေးပါးသော အကုသိုလ်တရားကို ပါးအောင်၊ ကုန်စင်အောင် ခြစ်ပစ်စရာကောင်းသော၊ ပယ်ဖျောက်ရေးစိတ်ဓာတ် မွေးဖို့ကောင်းသော၊ တိမ်းရှောင်ဖယ်လွှဲစရာကောင်းသော၊ အထက်စခန်းသို့တက်လှမ်းဖို့၊ အပူအေးအောင် ငြိမ်းသတ်ဖို့ကောင်းလှသော သုညာဂါရ ခေါ်သော ဆိတ်ငြိမ်ရာ ကျောင်းဝိဟာရများပေတည်း။

အိုး–ချစ်သား စုန္ဒ၊ မကောင်းမှုဟူသမျှတို့ကို ဖုတ်ကြည်းသဂြိုဟ်ပစ်ကြလေကုန်။ သမထဝိပဿနာ၊ ဘာဝနာနှစ်ပါးကို သင်တို့ပွားများအားထုတ်ကြလေကုန်။ ဘယ်သောအခါမှ မမေ့ကြလေကုန်လင့်။ ငါမရှိတော့သည့် နောက်ကာလကျမှ နောင်တပူရှိန်၊ စိုးရိမ်စိတ်ပျက်ခြင်း မဖြစ်ကြလေကုန်လင့်။ ဤ ငါ့စကားသည်ကား သင်တို့အတွက် ငါဘုရား၏ ဆုံးမချက် ဩဝါဒစကားဖြစ်သတည်း။ (ပြီး၏။)

ဤ သလ္လေခသုတ် အဆုံး၌ ဆိဒ္ဓဝိဓာနနီကျမ်းတွင် ဝိသုဒ္ဓါရုံ ဆရာတော်ဘုရားကြီးက မှတ်ချက်ချ ဩဝါဒပေးသွားတော်မူသည်ကား "ဤ သလ္လေခသုတ်ကို တွေ့မြင်၍ မပြတ်ရွတ်ဖတ် ဆင်ခြင်ရကုန်သော သမ္မာဒိဋ္ဌိ အမျိုးကောင်း သားသမီးတို့သည် အလွန်အားရှိဖွယ်ကောင်းလှ၏။ မဂ်ဖိုလ်ကို ရမည့်အရေးသည် ဝန်လေးခဲယဉ်းရန် မရှိဟု ထင်မှတ်ဖွယ်ကောင်းလှ၏။ ဗုဒ္ဓဘာသာ အယူမရှိသော မိစ္ဆာဒိဋ္ဌိများကို သနားဖွယ်ကောင်းလေ၏" ဖြစ်သော ဟူသတတ်။

# ရဟန်းတို့ ထားရမည့် စိတ်သဘော

**ပြဿနာ = မာတုဂါမနှင့် ကင်းနိုင်ရဲ့ မကင်းနိုင်။**

**မေးလျှောက်သူ = အရှင်အာနန္ဒာ။**

အသက်အရွယ်ကြီးရင့်ပြီး အားအင်ကုန်ခန်း နွမ်းပါးနေသော ဂိလာန ရဟန်းကြီးတစ်ပါးကို အခြားရဟန်းတစ်ပါးက တွဲကာ တောကြီးမျက်မည်းထဲ အတိုင်း ဒယီးဒယိုင်နှင့် ခေါ်လာသည်။ ရဟန်းနှစ်ပါး၏ လှုပ်ရှားမှုသွင်ပြင် ကြောင့် လောကဓာတ်ကြီးသည်ပင် မရွှင်နိုင်အောင် ဖြစ်နေသည် ထင်ရ၏၊ နွေရာသီ၏ ရှုကွက်သည် မရှုရက်စရာ မျက်ရည်များပင် ကျရှာသည့်ပုံ ပတ်ဝန်းကျင် အားလုံးသည် မှုန်ရီရီကြီးဖြစ်နေပေသည်။

"ချစ်သား အာနန္ဒာ၊ ဤနေရာတွင် မသင့်သေး၊ ဟိရညဝတီမြစ်၏ ဟိုမှာ ဘက်သို့ ငါတို့ ကြွကုန်အံ့။ ကုသိနာရုံပြည် မလ္လာမင်းတို့၏ အင်ကြင်းဥယျာဉ် သို့ ဝင်ကြကုန်အံ့"

အားအင်ချည့်နဲ့စွာ မိန့်တော်မူသည်ကား မြတ်စွာဘုရား။ အမိန့်ကို နာခံ သူကား အရှင်အာနန္ဒာတည်း။ ဝမ်းတော်လားသဖြင့် အားအင်ကုန်ခန်း နေထိပန်း သို့ နွမ်းလျပြီဖြစ်သော မြတ်စွာဘုရား၏ ကိုယ်ကို အရှင်အာနန္ဒာက တွဲ၍ အင်ကြင်းတောသို့ ခေါ်လာနေသည်။

မလ္လာမင်းတို့ မြူးပျော်ကစားရာ အင်ကြင်းဥယျာဉ်ကြီးအတွင်းသို့ ရောက် ကြလေပြီ။ အင်ကြင်းပင် နှစ်ပင်သည် တစ်ပင်က မြောက်ဘက်၊ တစ်ပင်က တောင်ဘက်၊ အခက်ချင်းယှက်လျက် တည်နေသည်။ အင်ကြင်းဖူး၊ အင်ကြင်းပန်း ကလေးတွေလည်း ဝေနေသည်။

"ချစ်သား အာနန္ဒာ၊ အားတော်ကုန်ခန်း၍ ငါပန်းတော်မူလှပြီ။ ဤညောင်စောင်းကို ယူ၍ ဟို အင်ကြင်းပင် နှစ်ပင်ကြားမှာ မြောက်သို့ ခေါင်းပြုပြီး ရွှေ့ပြောင်း၍ ခင်းပါဘိ"

မလ္လာမင်းတို့ ဥယျာဉ်ထွက်တော်မူလာသောအခါ နေထိုင်သည့် ညောင်စောင်းအနီးတွင် တန့်နားလျက် မြတ်ဘုရားက အရှင်အာနန္ဒာအား ညောင်စောင်းကို ရွှေ့ပြောင်း၍ အင်ကြင်းနှစ်ပင်ကြား၌ ခင်းထားရန် စေခိုင်း၍ အရှင်အာနန္ဒာက ညောင်စောင်းကို အမိန့်တော်အတိုင်း မြောက်ဘက်သို့ ဦးခေါင်းပြု၍ ခင်းထားပေသည်။ မြတ်စွာဘုရားသည် ထိုညောင်စောင်းထက်၌ မြောက်သို့ ဦးခေါင်းပြု၍ လျောင်းတော်မူနေသည်။

မဟာသက္ကရာဇ် ၁၄၈ ခု၊ ရတုဂိမှန္တ၊ ကဆုန်လပြည့်နေ့ ဖြစ်လေသည်။

ဤနေ့တွင် ဗုဒ္ဓမြတ်ဘုရား နိဗ္ဗာန်လားတော့မည်ဟု သိကြသောကြောင့် နောက်ဆုံးဖူးမြော်ခြင်းဖြင့် လာရောက်ဖူးမြော်ကြကုန်သော ရဟန်းပရိသတ်၊ လူ၊ နတ်၊ ဗြဟ္မာပရိသတ်များမှာ ဖိုတလှိုက်လှိုက်၊ ရှိုက်ငို၍ မဆုံးနိုင်အောင် ဖြစ်နေကြသည်။

အရှင်အာနန္ဒာသည် အမြော်အမြင်ကြီးစွာဖြင့် ရဟန်းတော်များနှင့် မာတုဂါမတို့ ဆက်ဆံရမည့် နောင်ရေးကို တွေးမိလာသည်။ ရဟန်းတော်များမှာ "ပရူပဇီဝိပုဂ္ဂိုလ်" သူတစ်ပါးကိုမှီ၍ အသက်မွေးကြသူများဖြစ်သောကြောင့် ပေါင်းသင်းဆက်ဆံရေးနှင့် မာတုဂါမများနှင့် ကင်း၍လည်း မဖြစ်နိုင်။ ဆက်ဆံရမည်သာဖြစ်လေရာ ထိုမာတုဂါမများနှင့် ဆက်ဆံသောအခါ၌ ရဟန်းတော်များအနေဖြင့် မည်သို့မည်ပုံ ကျင့်ကြံရမည်၊ နေထိုင်ရမည်ဟူသော အချက်ကို မြတ်ဘုရားသက်တော်ထင်ရှားရှိခိုက် လျှောက်ထားထိုက်သည်ဟု တွေးတောမိသဖြင့် နိဗ္ဗာန်စံပျော်တော်မူခါနီး ကာလတွင် အရှင်အာနန္ဒာက ကပ်၍ လျှောက်ထားလေ၏။

မေး။ အရှင်ဘုရား၊ ရဟန်းတို့မည်သည် သူတစ်ပါး (ဒါယကာ၊ ဒါယိကာမများ)ကို မှီ၍ အသက်မွေးကြရသူများ ဖြစ်ပါသောကြောင့် မာတုဂါမ[၁] များသည် ရဟန်းတော်များထံသို့ လာရောက်ဆည်းကပ်ကြ၊ လှူဒါန်းကြပါလိမ့်မည်။ ထိုရောအခါ ရဟန်းတော်များအနေဖြင့် မည်သို့ ကျင့်ကြံဆက်ဆံရပါမည်နည်းဘုရား။

ဖြေ။ ချစ်သား–အာနန္ဒာ၊ ကိလေသာကို ပယ်ခွာလိုသော ရဟန်းသည် စည်းစောင့်ရန် လုံ့လြုရာ၌နေသော နွားကဲ့သို့ တံခါးလုံခြုံသောကျောင်း၌ ကိန်းအောင်း၍

---

၁။ မာတုဂါမ = အမိသည် ဣတ္ထိဇာတ်နွယ် မိန်းမသားဖြစ်သကဲ့သို့ မိခင်အလားတူ ဣတ္ထိယနွယ်ဖွား မိန်းမသား။

နေရာ၏။ မာတုဂါမတို့ ရောက်လာသော်လည်း အကြင်မျှလောက်သော ကာလ ပတ်လုံး မာတုဂါမတို့၏ အဆင်းသဏ္ဌာန်ကို မမြင်ရသေး၊ ထိုမျှလောက် မာတုဂါမတို့၏ ရုပ်အဆင်းကို မမြင်မချင်း ရုန့်ရင်းတပ်မက်သော ရာဂသည် ရဟာန်း၌ မဖြစ်လာနိုင်။ မြင်ရသော်သာလျှင် ပြင်းစွာသော ရာဂသည် ဖြစ်လွယ်၏။ ထို့ကြောင့် မာတုဂါမကို မမြင်ရရာ၌ နေခြင်းသည်သာလျှင် ပဋိပတ်ကျင့်စဉ် ဖြစ်သတည်း။ မာတုဂါမတို့နှင့် မတွေ့မမြင်အောင် နေကြကုန်လော့။

မေး။ အရှင်ဘုရား၊ အကယ်၍ ဆွမ်းခံလေသောအခါမျိုး၊ လှူဖွယ်ဝတ္ထု ကို လှူလာသောအခါမျိုးတို့၌ မြင်ရျမှုကား အဘယ်သို့ ကျင့်အပ်ပါသနည်း ဘုရား။

ဖြေ။ ချစ်သား အာနန္ဒာ၊ အကယ်၍ မာတုဂါမတို့ကို မြင်တုံငြားအံ့၊ စကားမပြောဘဲ နေခြင်းသည်ပင် မြတ်သော ပဋိပတ်၊ မြတ်သောဆက်ဆံရေး ကျင့်စဉ်ဖြစ်၏။ ချစ်သား အာနန္ဒာ၊ ယောကျ်ားတစ်ယောက်သည် ထက်စွာသော သံလျက်ကို ကိုင်လျက် "ငါနှင့် စကားဆိုခဲ့သော်၊ ပြောခဲ့သော် သင့်ခေါင်းကို ဖြတ်ပစ်မည်"ဟူ၍ ဆိုလေအံ့။ ဦးခေါင်းကို အဖြတ်ခံ၍ ထိုယောကျ်ားနှင့် စကား ဆိုခြင်း၊ ပြောခြင်းက မြတ်သေး၏။ မာတုဂါမတို့အား စကားပြောခြင်းသည် မမြတ်လေ။ တစ်ဖန် ငါ့ကို ခေါ်ပြောခြင်းမပြုမူကား သင်၏အသားကို ဖောက် ထွင်း၍ စားပစ်မည်ဆို၍ အနားတွင် ရပ်လာသော ဘီလူးမအား စကားပြောခြင်း သည် မြတ်သေး၏။ ချစ်ဖွယ်ရှိသော မာတုဂါမတို့အား စကားပြောခြင်းသည် မမြတ်။

ချစ်သား အာနန္ဒာ အဘယ်ကြောင့်ဆိုသော် မာတုဂါမတို့နှင့် စကားပြော ဟောရသည်ရှိသော် ချစ်ကျွမ်းဝင်ခြင်းသည် ဖြစ်၏။ ချစ်ကျွမ်းတဝင် ရာဂဖြစ် လာသည်ရှိသော် အထူးထူးသော ကိစ္စကို ကြံခြင်းဟူသော သက်ပွရာဂသည် ဖြစ်၏။ ယင်း သက်ပွရာဂ ဖြစ်သည်ရှိသော် တဏှာဥပါဒါန်တို့သည် ဖြစ်လာ ကုန်၏။ ထိုတဏှာ၊ ဥပါဒါန်တို့ ဖြစ်လာကုန်သည်ရှိသော် သီလပျက်စီးခြင်း၊ ညစ်နွမ်းခြင်းရောက်၍ အပါယ်လေးပါးသို့ လားခြင်းသည်ဖြစ်၏။ ထို့ကြောင့် မာတုဂါမတို့အား စကားပြောခြင်းသည် မမြတ်ဟု ငါဆိုတော်မူသတည်း။

မေး။ အရှင်ဘုရား၊ မာတုဂါမတို့သည် သူတို့သိလေသော ပြဿနာ အထွေထွေကို မေးလျှောက်ရန် ကျောင်းသို့ လာကြပါကုန်လိမ့်မည်။ ကျောင်းက မပြန်ဘဲ တစ်နေကုန် တစ်နေခန်း မေးမြန်းခြင်း ပြုချင်ပြုကြပါလိမ့်မည်။ ဥပုသ် သီတင်း စောင့်သုံး ဆောက်တည်လို၍ သီလတောင်းချင်လည်း တောင်းကြပါ လိမ့်မည်။ တရားဟောပါရန် တောင်းပန်ချင်လည်း တောင်းပန်ကြပါလိမ့်မည်။

ရဟန်းတို့၏ ပြုဖွယ်ကိစ္စအဝဝကိုလည်း ကူညီ၍ လုပ်ကိုင်ပေးခြင်း ပြုချင်လည်း ပြုကြပါလိမ့်မည်။ ထိုအခါမျိုးတွင် စကားမပြော၊ တုံဏှိဘော နှုတ်ဆိတ်၍နေပါက "ရဟန်းတို့သည် ဆွံ့အ,ကုန်၏၊ နားပင်းကုန်၏၊ လောကရေးရာ ပေါင်းသင်း ဆက်ဆံမှုကို ဘာမှ နားမလည်ကြကုန်"ဟု ဆိုကြပါလိမ့်မည် ဘုရား။ သို့ပါ သောကြောင့် မလွှဲသာ၍ မာတုဂါမများနှင့် စကားပြောရချေသော် အဘယ်သို့ နှလုံးသွင်းရပါမည်နည်း ဘုရား။

ဖြေ။ ချစ်သား အာနန္ဒာ၊ ကျောင်းသို့ ရောက်လာကြသော မာတုဂါမများအား စကားပြောလိုသည်ရှိသော် အမိအရွယ်ရှိသော၊ အမိလောက်ရှိသူများကို ငါ့ အမိ၊ ငါ့မိခင်ဟု နှလုံးသွင်းကြကုန်။ စိတ်ကို ဖြစ်စေကြလေကုန်။ နှမအရွယ် ရှိသူအား "ငါ့နှမ၊ ငါ့ညီမ"ဟူ၍ သဘောထားကြကုန်။ သမီးမျှလောက် ရှိသူ များအား "ငါ့သမီး"ဟူ၍ အမှတ်ထား၍ ဆက်ဆံကြလေကုန်။ ချစ်သား အာနန္ဒာ၊ မာတုဂါမတို့နှင့် စကားဆိုပြောရသော အခါမျိုး၌ အထူးသဖြင့် သတိကြီးစွာ ထား၍ ဆက်ဆံကြကုန်လော့။

ဤကား ဗုဒ္ဓ ပရိနိဗ္ဗာန်စံခါနီး ဩဝါဒ၊ မာတုဂါမတို့နှင့် ပေါင်းသင်း ဆက်ဆံနည်း နိဿရည်း ဖြစ်၏။

(မဟာပရိနိဗ္ဗာနသုတ်နှင့် ဝိနည်းအဋ္ဌကထာ ဋီကာများမှ)

# ဗုဒ္ဓ၏ ရုပ်အလောင်း သင်္ဂြိုဟ်ရန် ကိစ္စ

ပြဿနာ = မြေမြှုပ်၊ မီးရှို့၊ ရေမျှော။

မေးလျှောက်သူ = အရှင်အာနန္ဒာ

မဟာသက္ကရာဇ် ၁၄၈–ခု၊ ကဆုန်လပြည့်နေ့ည ဖြစ်၏။ မိုးပြင်ပေါ်မှ သော်တာလသည် အသုဘအိမ်၌ ထွန်းညှိထားသော ဓာတ်မီးအလား လင်းထိန်နေ၏။

လရောင်အောက် ဥယျာဉ်တွင်းရှိ အင်ကြင်းပင်ကြီးများ အောက်၌ ဟိုအနားစုစု၊ သည်အနားစုစု တရှုတ်ရှုတ်ငိုရှိုက်နေသံများမှာ မျောက်မင်းအူသံတီးလုံးနှင့် တူလှသည်။ ရဟန်းသံဃာတော်များကလည်း သက်နံကြီး ခေါင်းမြီးခြုံ၍ ငိုတော်မူနေကြသည်။ ပြည်ပိုင်ရှင် ဘုရင်ကြီးများ၊ မိဖုရားကြီးများနှင့် မှူးမတ် စသူတို့မှာလည်း မျက်ရည်မဆည်နိုင်အောင် ဖြစ်နေကြသည်။

ဘာ့ကြောင့် ဤသို့ သူတို့ ငိုနေကြသည်ကို သူတို့အကြောင်း သူတို့သာ သိကြသည်။ သူတို့သာ နားလည်ကြသည်။ ရဟန်းတန်မဲ့၊ အကြောင်းမဲ့သက်သက် သူတို့ ငိုချင်းချနေကြသည် မဟုတ်ကုန်။

ဥယျာဉ်သည် မလ္လာမင်းတို့၏ အင်ကြင်းဥယျာဉ်ဖြစ်၏။ ဥယျာဉ်၏ အလယ် ဗဟိုလောက်၌ တောင်ဘက်က တစ်ပင်၊ မြောက်ဘက်က တစ်ပင်၊ အင်ကြင်း နှစ်ပင်မှာဉ်၍ ပေါက်နေသည်။ ပင်စောက်ဖြစ်၍ အကိုင်းအခက်တို့သည် အပေါ်၌ ပြန့်ကားလျက်ရှိရာ ထီးနှစ်လက်ကိုဖွင့်၍ မြေမှာ စိုက်ထားသည်နှင့် တူ၏။ အင်ကြင်းပန်းခိုင်တို့လည်း အခိုင်လိုက် အခိုင်လိုက် အပြိုင်ပွင့်လျက် ရှိနေကြကုန်၏။

ထိုအင်ကြင်းနှစ်ပင်ကြား၌ တောင်ဘက်ကို ခြေရင်း၊ မြောက်ဘက်ကို ခေါင်းရင်းပြု၍ ခင်းထားသော မင်းသုံး ညောင်စောင်းတစ်ခုပေါ်တွင် ဗုဒ္ဓမြတ်

ဘုရားသည် ကျောင်းတော်မှုလျက် ရှိနေ၏။ အားအင်ကုန်ခန်း ပန်းလျတော်မူသည့်အသွင်ဖြင့် မျက်လုံးတော်ကို မှိတ်၍ မေးနေတော်မူရာက တရှုတ်ရှုတ် ငိုသံများကို ကြားတော်မူနေရ၏။

မြတ်ဘုရားသည် မျက်လုံးတော်ကို ဖွင့်ကြည့်လိုက်သည်။ ပြုစုနေသူများ အကြား၌ တွေ့လိုသူကို မျက်လုံးတော်ဖြင့် ရှာတော်မူသည်။ မတွေ့သည့်အဆုံး၌ အာနန္ဒာ ဘယ်သွားသလဲဟု မေးတော်မူသည်။

ခေါ်တော်မူချိန်၌ အရှင်အာနန္ဒာကား ဘုရားအပါးတော်၌ မရှိ။ ဤနေ့ညနာရီပိုင်းအတွင်းမှာပင် မြတ်ဘုရားသည် ပရိနိဗ္ဗာန်ပြုတော့မည် ဖြစ်သောကြောင့် အင်ကြင်းပင်ကြီးတစ်ပင်အောက် သွား၍ တစ်ပါးတည်းထိုင်၍ ငိုနေလေသည်။

မကြာခင်အတွင်းမှာပင် အရှင်အာနန္ဒာသည် မျက်ရည်ကို သင်္ကန်းဖြင့် သုတ်ရင်း ဘုရားရှေ့တော်သို့ ဝင်လာပြီး မြတ်ဘုရားကို ရှိသေစွာ ဖူးမြော်လျက်မှ မျက်ရည်များက ကျလာပြန်လေသည်။ ဤတွင် ပုထုဇဉ်နှင့် ရဟန္တာတို့၏ ခြားနားချက်ကို ယှဉ်၍ပြသကဲ့သို့ ဖြစ်နေ၏။

ကိလေသာ အာသဝေါ ကုန်ခန်းပြီးသော မြတ်စွာဘုရားကား အားအင်ကုန်ခန်း၍ ပန်းလျရုံမှတစ်ပါး မျက်နှာတော်အမူအရာမှာ တစ်စုံတစ်ရာ ညှိုးနွမ်းခြင်းအသွင် မထင်။ အရှင်အာနန္ဒာမှာကား စိုရွှဲမျက်ရည် တတွေတွေနှင့် ဖြစ်နေရှာ၏။ ပရိဒေဝ ဒဏ်ကို မတော်လှန်နိုင်သေး။

"ချစ်သား အာနန္ဒာ၊ သင်သို့သောသူကား အရှိန်အဟုန် ပြင်းစွာဖြင့် စီးဆင်းနေသည့် မျက်လုံးစမ်းချောင်းအသွင် မဖြစ်ထိုက်။ ယင်းမျက်ရည်စမ်းပေါက်ကို ပိတ်ဆို့ဟန့်တားသော တာတမံသော်လည်းကောင်း၊ ကန်သင်းဘောင်သော်လည်းကောင်း ဖြစ်ထိုက်ပေသည်။

"ချစ်သား အာနန္ဒာ၊ အကြင် ကိုယ်ခန္ဓာသည် တဏှာဟူသော အကြောင်းတရားကြောင့် ထင်ရှားစွာဖြစ်၏။ ထိုဖြစ်သမျှသော ကိုယ်ခန္ဓာသည် ပျက်မြဲဓမ္မတာသာတည်း။ တစ်စုံတစ်ယောက်သော ဗြဟ္မာ၊ သိကြား၊ ဘုရားတို့မှလည်း မပျက်စီးရအောင် တောင့်တ၍ မဖြစ်နိုင်သည်သာ။ ငါဟောတော်မူသည် မဟုတ်လော။ စိုးရိမ်ခြင်းကို ဖျောက်လော့"

ဤသို့ နှစ်သိမ့်စေသော်လည်း အရှင်အာနန္ဒာကား ဗုဒ္ဓ၏စကားကို ကြားရကာမှပင် ပို၍ယူကြုံးမရ ဖြစ်လာလေ၏။ "ငါ မနက်ဖြန်တွင် ဗုဒ္ဓ၏အသံမျိုး ကြားရတော့မှာ မဟုတ်ပါကလား"ဟူ၍ သည်းစွာ ငိုကြွေးပြန်လေ၏။

သို့သော် အရှင်အာနန္ဒာသည် သတိရှိသောအရာတွင် ဧတဒဂ်ရသူဖြစ်သည့်အလျောက် ဗုဒ္ဓနှင့် ခွဲခွာရတော့မည် ဖြစ်သည့်အတွက် အပူမီးတောက်နေသည့်

ကြားက သတိကား အမြဲရှိပေ၏။ ဗုဒ္ဓ ပရိနိဗ္ဗာန်စံသွားလေသောအခါ အလောင်းတော်ကို မြေမြှုပ်ရမည်လော၊ မီးသင်္ဂြိုဟ်ရမည်လော၊ ရေမျှောရမည်လော။ မည်သို့မည်ပုံ သင်္ဂြိုဟ်ရေးကို ပြေး၍ တွေးခေါ်လာမိသည်။ ဗုဒ္ဓ၏အလိုတော် အတိုင်းသာလျှင် သင်္ဂြိုဟ်ရန် သင့်ပေသည်ဟူ၍ စဉ်းစားမိလာသည်။

သို့ကြောင့်လည်း အရှင်အာနန္ဒာသည် သက်တော်ထင်ရှားရှိခိုက် အလောင်းတော်ကို သင်္ဂြိုဟ်ရေးကိုပါ မျက်ရည်စက်လက်နှင့် လျှောက်ထားလေ၏။

မေး။ အရှင်ဘုရား၊ ကိုယ်တော်မြတ် နိဗ္ဗာန်လားခဲ့သော် အလောင်းတော်၌ ဆောင်ရွက်ဖွယ်ကိစ္စကို အဘယ်သို့ ပြုလုပ်ဆောင်ရွက်ကြရပါမည်နည်း ဘုရား။

ဖြေ။ ချစ်သား အာနန္ဒာ၊ ငါဘုရား၏ အလောင်းတော်ကို မီးပူဇော်မှုစသည်၌ သင်တို့ မကြောင့်ကြကုန်လင့်။ ကိုယ့်စီးပွား ကိုယ့်ကိစ္စဖြစ်သော အရဟတ္တဖိုလ်ရရေးကိုသာ အားထုတ်ကြကုန်၊ ကြိုးစားကြကုန်၊ လုံ့လပြုကြကုန်။ ကိုယ့်အသက်ကို ငဲ့ကွက်ခြင်းမရှိဘဲ သတိသမ္ပဇဉ်ဖြင့်သာ ငါ၏သာသနာကို ရွက်ဆောင်ကြလေကုန်။ ငါ၏ အလောင်းတော်ကိုကား ရတနာသုံးပါး၌ ကြည်ညိုကုန်သော မင်းမျိုး၊ ပုဏ္ဏားမျိုး၊ သူကြွယ်မျိုး ဖြစ်ကုန်သော ပညာရှိ ဒါယကာတို့က မီးပူဇော်ကြကုန်လတ္တံ့။

မေး။ မြတ်စွာဘုရား၊ ထိုအမျိုးလေးပါး ဒါယကာတို့သည် တပည့်တော်ထံလာ၍ မေးမြန်းကြပါလိမ့်မည်။ အရှင်အာနန္ဒာ၊ မြတ်ဘုရား၏ အလောင်းတော်ကို မည်သို့သင်္ဂြိုဟ်ရပါမည်နည်းဟု မေးလျှောက်လာကြလျှင် တပည့်တော် မဖြေတတ်အောင် ရှိပါလိမ့်မည်။ အလောင်းတော်ကို သင်္ဂြိုဟ်ရမည့် အစီအစဉ်ကို အမိန့်ရှိတော်မူပါ ဘုရား။

ဖြေ။ ချစ်သား အာနန္ဒာ၊ စကြဝတေး၏ အလောင်းကို သင်္ဂြိုဟ်သည့်နည်းတူ ငါ့အလောင်းတော်ကို သင်္ဂြိုဟ်စေကုန်လော့။ စကြဝတေးမင်း၏ အလောင်းကို သင်္ဂြိုဟ်ဖူးသော ထုံးဟောင်းကား ရှေးဦးစွာ အလောင်းကို ကာသိတိုင်းဖြစ် ပုဆိုးတို့ဖြင့် ထုပ်ပိုးရစ်ပတ်သည်။ ထိုအပေါ်တွင် နူးညံ့သော ဂွမ်းများဖြင့် ရစ်ပတ်ပြီး အဝတ်ပုဆိုးတို့ဖြင့် တစ်ထပ်ရစ်ပတ်သည်။ ဤသို့ အဖန်များစွာ ငါးရာသော ပုဆိုးတို့ဖြင့် ရစ်ပတ်ပြီးသော် လျှော်ပြီးသော သိင်္ဂနိက် ရွှေဇလားသို့ သွတ်သွင်း၍ နံ့သာထင်းပုံထက် တင်ပြီးမှ မီးတိုက်သည်။ အရိုးကိုယူပြီးသော် ခရီးလေးကြောင်း ဆုံရာ၌ ကောင်းစွာ စေတီတည်လုပ်ကုန်သည်။ ဤသို့ စကြဝတေးမင်း၏ အလောင်းကို သင်္ဂြိုဟ်သကဲ့သို့ ငါ၏အလောင်းတော်ကို ကောင်းစွာ သင်္ဂြိုဟ်ကြကုန်လော့။

ချစ်သား အာနန္ဒာ၊ ကြွင်းသော ဓာတ်တော်ကိုလည်း ခရီးဆုံ၌ ကောင်းစွာ စေတီတည်အပ်၏။ ထိုစေတီကို ပူဇော်ချီးမြှောက်ရသော လူ၊ နတ်များတို့သည် စီးပွားချမ်းသာ လွန်စွာဖြစ်ကုန်လတ္တံ့။

ချစ်သား အာနန္ဒာ၊ စေတီတည်ခြင်းငှာ အားထုတ်ကုန်သော ပုဂ္ဂိုလ်တို့ကား ၄ါ ဘုရားလည်း တစ်ပါး၊ ပစ္စေကဗုဒ္ဓါလည်း တစ်ပါး၊ ရဟန္တာလည်း တစ်ပါး၊ စကြဝတေးမင်းလည်း တစ်ပါး၊ ဤလေးပါးတည်း။ အဘယ်အကျိုးထူးကို စွဲ၍ စေတီတည်ခြင်းငှာ ထိုက်သနည်းဟူမူကား "အကြင် ဒါယကာတို့သည် သစ္စာ လေးပါးတရားတို့ကို အလိုလို သိမြင်တော်မူသော သဗ္ဗညုတဘုရား၏ သရီရ ဓာတ်တော် တည်ရာပေတကား"ဟု စေတီ၌ ကြည်ညိုခြင်း၊ လေးမြတ်ခြင်းကို ဖြစ်စေကုန်လတ္တံ့။ အထူးထူးသော ပန်းနံ့သာပူဇော်ရာ ဝတ္ထုတို့ဖြင့် ငါဘုရားဂုဏ်ကို အာရုံပြု၍ ပူပြင်ချီးမြှောက်ကုန်လတ္တံ့။ ထိုဒါယကာတို့သည် ဤကြည်ညိုသော စေတနာကြောင့် ခန္ဓာပျက်ကြွေသောအခါ နတ်ရွာ သုဂတိဘဝသို့လည်း တက်ရ ကုန်လတ္တံ့။ သူဌေးသူကြွယ် ပဒေသရာဇ်စသော လူကောင်းလူမြတ်တို့၏ စည်းစိမ် ချမ်းသာကိုလည်း ရလတ္တံ့။ ထိုသို့အကျိုးထူးရှိသည်ကို စွဲ၍ စေတီတည်ခြင်းငှာ ထိုက်သတည်း။ ပစ္စေကဗုဒ္ဓါ၊ ရဟန္တာ၊ စကြဝတေးမင်းတို့၏ စေတီ၌လည်း ဤနည်းတူပင် လူတို့ အကျိုးစီးပွားများရာသတည်းဟု အလောင်းတော် သင်္ဂြိုဟ်ရန် အစီအမံနှင့် စေတီလေးမျိုးကိုပါ ဟောကြားတော်မူပြီးသော် ဖလသမာပတ် ချမ်းသာဖြင့် ဆိတ်ငြိမ်စွာ နေတော်မူ၏။

(သုတ္တန္တ ပိဋက၊ မဟာဝါပါဠိ၊ မဟာပရိနိဗ္ဗာနသုတ်မှ)

# ဗကဗြဟ္မာ၏ အယူစွဲ

**ပြသနာ = သဿတဝါဒ။**

**မေးလျှောက်သူ = ဗကဗြဟ္မာ။**

အာရုံတစ်ခုခုကို အမြဲမြင်နေရလျှင်သော်လည်းကောင်း၊ အမြဲကြားနေရလျှင်သော်လည်းကောင်း လူတို့အနေအားဖြင့် ထိုသည့်အာရုံကို "မြဲသည်၊ မပျက်စီး၊ မပြောင်းလဲ၊ မရွေ့ရှား"ဟူ၍ ထင်မြင်လေ့ရှိကြသည်။

အာရုံတစ်ခုကို မြင်ရဖန်၊ တွေ့ရဖန် များလာသောအခါ ယင်းအမြင်အာရုံ၊ အတွေ့အာရုံမှ မြဲ၏ဟူသော အယူအစွဲ သဿတဒိဋ္ဌိသည် ဖြစ်လာတတ်လေ၏။ ထိုအယူအစွဲသည် ဆင့်ကဲဆင့်ကဲ ပြင်းထန်လာတတ်လေ၏။

မြဲ၏ဟူသော အယူဝါဒစွဲ သဿတဒိဋ္ဌိနှင့် ပတ်သက်၍ ဗကအမည်ရှိသော ဗြဟ္မာကြီးတစ်ဦးသည် အထွတ်အထိပ်ရောက် လျှမ်းလျှမ်းတောက် အယူသည်းလှသော ဗြဟ္မာကြီး ဖြစ်လေသည်။

ထိုဗကဗြဟ္မာကြီး၏ သမိုင်းစဉ်ကား ထွေပြားဆန်းကြယ်လှ၏။ သူ၏ဘဝကပင်လျှင် ဤသို့မြဲ၏ဟု အယူရှိသော ဒိဋ္ဌိကြီးဘဝရောက်အောင် ပို့ဆောင်ပေးလိုက်ခြင်းဖြစ်၏။ ဖြစ်ပုံကား–

သူသည် ဗြဟ္မာထဲတွင် အလွန်အသက်အရှည်ဆုံးသော ဗြဟ္မာကြီး ဖြစ်လေ၏။ ရှေးဦးစွာ ဝေဟပ္ဖိုလ်ဘုံ၌ သွား၍ ဗြဟ္မာဖြစ်လေ၏။ ထိုဘုံ၏သက်တမ်းကား မဟာကပ်ခေါ်သော ကပ်ပေါင်း ငါးရာတိုင်တိုင်တည်သော ဟူ၏။ ထိုဘုံမှ စုတေခဲ့သော် သုဘကိဏှမည်သော ဗြဟ္မာ့ပြည်၌ ဖြစ်လေ၏။ ထိုပြည်၏ သက်တမ်းကား ကမ္ဘာပေါင်း ခြောက်ဆယ့်လေးကမ္ဘာ ဖြစ်၏။ ထိုမှစုတေခဲ့ပြန်သော် ရှစ်ကမ္ဘာ အသက်ရှည်သော အာဘဿရာဘုံ၌ ဖြစ်ပြန်၏။

ယင်းသို့ ဘုံအဆင့်ဆင့် ဘုံစဉ်အတိုင်း ဖြစ်ခဲ့သော်လည်း သူသည် စုတေရသော နာမ်ရုပ်အစဉ်ကိုလည်း မမှတ်မိ။ ပဋိသန္ဓေလည်း မထင်။ သို့မထင်သောကြောင့် ပကတိဖြစ်မြဲတိုင်းသော ကိုယ်အတိုင်းသာလျှင် ဖြစ်သည်ဟု ထင်မှတ်နေ၏။

သို့ကြောင့် ငါတို့ ဗြဟ္မာဇာတ်ကား မြတ်သော၊ မြဲသော နိစ္စရူပချမ်းသာပင်တကား။ ဤအဖြစ်ထက် လွန်၍ရှာရန် နိဗ္ဗာန်မည်သည် မရှိတော့ပြီ။ ဤဗြဟ္မာ့ကိုယ်သည်လည်း အိုခြင်း၊ နာခြင်း၊ သေခြင်း စသော ဆင်းရဲမရှိ။ အတိသုခ ဖြစ်သော နိဗ္ဗာန်ပင်တည်းဟု စွဲလမ်းစွာ အယူသည်းခြင်းဖြစ်သတည်း။

သူသာလျှင် ဤအယူဝါဒ သဿတဒိဋ္ဌိကို စွဲယူနေသည် မဟုတ်။ သူ၏ မိတ်ဆွေရောင်းရင်း အပေါင်းအသင်းဖြစ်သော ဗြဟ္မာပေါင်း ခုနစ်ဆယ်တို့သည်လည်း ဤနည်းနှင်နှင်ပင် မြဲ၏ဟူ၍ သဿတဒိဋ္ဌိ အယူကို စွဲမြဲစွာ လက်ဆုပ်လက်ကိုင် ပြုထားကြကုန်၏။

အခါတစ်ပါးတွင် မြတ်စွာဘုရားသည် ဗကဗြဟ္မာကြီး၏ အယူအစွဲကို ချွေချွတ်တော်မူရန်အတွက် ဗြဟ္မာ့ပြည်သို့ ကြွသွားတော်မူလေ၏။

ကောင်းသောလာခြင်းပါ အရှင်ဂေါတမဟု ဖော်ရွေစွာ ခရီးဦးကြိုဆိုမှုပြု၍ ဗကဗြဟ္မာကြီးက မြတ်စွာဘုရားအား ဧည့်ခံရှာပေသည်။ "ဗြဟ္မာ့ရွာသို့ အကြာကြီးကြာမှ တစ်ခေါက်လောက် ကိုယ်တော် ကြွရောက်တော်မူလာပေသည်"ဟူ၍ အားမလိုအားမရ စကားဖြင့် အာလာပ သလ္လာပ စကားများဆို၏။

ထိုသို့ဘုရားနှင့် စကားဆိုပြောရင်းမှ သူ၏ စေတနာရိပ်တွင်း၌ မြတ်ဘုရားအား အသက်ရှည်ရှည်နေစေချင်လှသော ဆန္ဒများ ဖြစ်ပေါ်လာသောကြောင့် အသက်ရှည်ရှည်နေသော ဤဗြဟ္မာ့ဘုံသို့ရောက်လာအောင် ကြိုးစားအားထုတ်ပါရန် ဘုရားသခင်အား သူက တိုက်တွန်းလေသည်။

အို-အရှင်ဂေါတမ၊ သေလျှင် ဤဗြဟ္မာ့ဘုံသို့ ရောက်ရှိလာအောင် လုံ့လပြုပါလော့၊ အားထုတ်တော်မူပါလော့။ ဤဗြဟ္မာ့ပြည်၌ဖြစ်လျှင် စင်စစ် ဆင်းရဲခြင်းမှ ကင်းပါလေတော့သည်။ မအို၊ မသေ၊ အမြဲနေရသော ရွှေပြည်နိဗ္ဗာန် မှန်ပါတော့သည်ဟု လျှောက်ထားတိုက်တွန်းခြင်း ပြုလေ၏။ သဿတဝါဒီ အယူရှိသော ဗြဟ္မာများ၏ အလယ်တွင် မြတ်ဘုရားအား ဆွယ်စကားကို ဆိုပေသည်။

ထိုအခါ မြတ်စွာဘုရားက ဗကဗြဟ္မာကား သနားဖွယ်ကောင်းလေစွ။ အဝိဇ္ဇာတည်းဟူသော မှောင်တွင်းသို့ချဉ်းကပ်တိုးဝင်နေဘိသည် တကား။ မြုံးတွင်းရှိသော ငှက်က လွှတ်ထွက်ပြီး သတ္တဝါကို "ချမ်းသာလိုကြလျှင် ငါ့ထံသို့ လာလည့်ကုန်"ဟု ခေါ်နေဘိသကဲ့သို့ ချွတ်ချော်သော မိစ္ဆာဉာဏ်ဖြင့် ဗြဟ္မာ့သဏ္ဌာန်

ကို နိဗ္ဗာန်ဟု ထင်မှားနေဘိသည်တကား။ မိမိကား ဖြစ်လတ္တံ့သော ဘေးကို သော်မှ မမြင်။ အနိစ္စကိုပင် နိစ္စ၊ အသုခကိုပင် သုခဟု ပြောပရှာဘိသည် တကား။ ဝဋ္ဋတရား၏ ကင်းရာဖြစ်သော နိဗ္ဗာန်သည် အမှန်ရှိပါလျက် မသိရှာ လေတကား။

ထိုသို့ မဦးမချွတ် ဆိုလိုလေသော် ဗကဗြဟ္မာသည် ပရိသတ်အလယ်တွင် လွန်စွာ ရှက်စနိုးသွားပြီးလျှင် ဘုရား၏ အနတ္တဝါဒကို တွန်းလှန်တိုက်ခိုက်သော ပွဲ၌မိမိ၏ ရဲဘက်အဖြစ် ပါဝင်ရန် "သူခိုးသေဖော်ညှိ"ဆိုသကဲ့သို့ ကြွင်းသော ဗြဟ္မာများအား သွေးညှိရာလည်း ကျ၊ တုံ့ပြန်ချေပမှုလည်း ဖြစ်စေသော အောက်ပါ စကားဖြင့် ရှေးဦးစွာ ဆိုလေ၏။

"အိုး-လူသားသာဖြစ်သော ဂေါတမ၊ ဤသဿတဝါဒကို ကျွန်ုပ်တစ်ယောက် တည်းသာ စွဲယူနေသည် မဟုတ်။ ကျွန်ုပ်၏ သွေးသောက်ရောင်းရင်း ခုနစ်ကျိပ် ကုန်သော ဤဗြဟ္မာမင်းကြီးတို့သည်လည်း သဿတဝါဒကို လက်ခံကြပါကုန်၏။ ဇာတိ၊ ဇရာ၊ ဗျာဓိ၊ မရဏ ကင်းလွတ်သောကြောင့် အနိစ္စ၊ ထာဝရတည်သော နိဗ္ဗာန်ဟူ၍ပင် ထင်မှတ်ပေကုန်သည်။ ကျွန်ုပ်တို့အား များစွာသော ဗြဟ္မာအပေါင်း တို့က လွန်စွာကောင်းချီးပေး ပူဇော်ခြင်းပြုကြကုန်သည်။ နိစ္စ ထာဝရအမြဲတစေ တည်နေပါသော အရှင်ဗြဟ္မာမင်းကြီးတို့ကဲ့သို့ ဖြစ်လိုပါသောဟူ၍ ဆုတောင်း ပတ္ထနာခြင်း ပြုကြပေကုန်သည်။

"အိုး-အရှင်ဂေါတမ၊ ထို့ကြောင့် ဗြဟ္မာ၏ အဖြစ်ကို စင်စစ် နိဗ္ဗာန်ဟု ကျွန်ုပ် ဆိုခြင်းဖြစ်သတည်း။"

"အချင်းဗက၊ ဤဗြဟ္မာ့ရွာ၌ သင် ကြာမြင့်သော ကာလကား အန္တရကပ် အရေအတွက်အားဖြင့် တစ်သိန်း သုံးသောင်းခြောက်ထောင့်သုံးရာ လေးဆယ့်ငါး (၁၃၆၃၄၅) ကပ်သာ ဖြစ်သည်။ ဇာတိ၊ ဇရာ၊ မရဏကိုလည်း မလွန်ဆန်ရသေး ချေ။ စုတေရမည် မချွတ်ဟု ငါမြင်တော်မူ၏။ သင်သည် ပညာကင်းသောကြောင့် အသက်ကြွင်းကိုမျှ သင် မမြင်လေ"

မြဲသည်ဟု အယူသည်းနေသူအား မမြဲဟု ဆိုလိုက်ရာ ဗကဗြဟ္မာကြီးမှာ အောင့်သက်သက်ဖြစ်သွားရာက မြတ်စွာဘုရားအား ပုစ္ဆာထုတ်လေတော့၏။

မေး။ အိုး-လူသားဘုရား အရှင်ဂေါတမ၊ ငါကဲ့သို့သော ထာဝရတည်နေ သူအား "စုတေရမည် မချွတ်၊ ငါမြင်သည်"ဟု အသင် ဆိုဝံ့ပလေသည်။ အကယ်၍ သင်ဆိုသောအတိုင်း မှန်ခဲ့သော် "ငါအတိတ်က မည်သို့ဖြစ်ခဲ့သည်၊ မည်သို့ မည်သို့သော ကုသိုလ်ကောင်းမှုမျိုးကို ငါပြုခဲ့သည်။ ငါ၏တန်ခိုးဣဒ္ဓိပါဒ် မည်မျှ ကြီးမားသည်" ဟူသော ငါ၏ဘဝဖြစ်ရပ်ကို ငါ့အား တပ်အပ်သေချာ

ပြောပြ စေချင်ပါ၏။ ဤသို့ ပြောပြနိုင်စွမ်းရှိဘိမူကား သင်သည် ငါ့ထက်သာလွန်မြင့်မြတ်သူ ဖြစ်ပေ၍ သင့်အား ငါ ဒူးထောက်ပါအံ့၊ ကိုးကွယ်ပါအံ့၊ ဆည်းကပ်ပါအံ့။ ငါ၏အတိတ်ဘဝ ဖြစ်ရပ်များကို သင် ဆိုပါလေ။

ဖြေ။ အို-ဗကဗြဟ္မာ၊ အမှန်အားဖြင့် ငါသည် သင်၏လားရာကိုလည်း ကောင်း၊ သင်၏ဆိုက်ရောက်ရာကိုလည်းကောင်း၊ သင်၏တန်ခိုးစွမ်းပကားကိုလည်းကောင်း၊ ဗကဗြဟ္မာသည် ဤဘဝမှ လာ၏။ ဤသို့ ထိုဘဝသို့ ဆိုက်ရောက်၏။ ဤမျှ တန်ခိုးစွမ်းပကား ရှိ၏ဟု အားလုံးကို ငါသိ၏။

အို-ဗကဗြဟ္မာ၊ သင်သည် ဤမျှသော ကမ္ဘာ၌ ဗာရာဏသီပြည်တွင် ကေသဝဟူသော အမည်ဖြင့် ပုဏ္ဏားသူကြွယ် ဖြစ်ခဲ့၏။ နောက် လူ့ဘောင်မပျော်မွေ့၍ တောထွက်ကာ ရသေ့ပြုလုပ်ခဲ့ပြီး လွန်စွာသိမ်မွေ့သော၊ နူးညံ့သော သူတော်စင် ရသေ့ပါပေ။ မရကန္တာရ မည်သော သဲကန္တာရကြီးအနီး တောအုပ်ကြီးတစ်ခုကို အမှီပြု၍ သင်နေခဲ့ပေသည်။

အို-ဗကဗြဟ္မာ၊ တစ်ခါသ၌ ထိုသဲကန္တာရသို့ ရောက်လာကြကုန်သော လှည်းကုန်သည် ငါးရာတို့သည် မျက်စိလည် လမ်းမှားလေသဖြင့် ထိုသဲကန္တာရမှ မထွက်နိုင်ဘဲ တချာလည်လည်နှင့် ဖြစ်နေကုန်၏။ ပါလာသမျှသော စားနပ်ရိက္ခာများ ကုန်လတ်၍ နေ့သေရာအံ့လော၊ ညသေရာအံ့လော မွတ်သိပ်ပင်ပန်းလှ ကုန်ရကား လှည်းအောက်၌ အခွေခွေအိပ်နေကြကုန်လေ၏။

အို-ဗကဗြဟ္မာ၊ ထိုအခါက သင်သည် လောကီဈာန် အဘိညာဉ်ရ ရသေ့ ဖြစ်သည့်အလျောက် ဒုက္ခရောက်နေကြသော လှည်းသားငါးရာတို့ကို မြင်လေသောအခါ "ငါကဲ့သို့သောသူ ရှိပါလျက် ဤသတ္တဝါများ အသက်မဆုံးရှုံးစေသင့်" ဟူ၍ သောက်ချိုးမကုန်နိုင်သော ရေများကိုလည်းကောင်း၊ အရိပ်အာဝါသနှင့် ပြည့်စုံသော တောအုပ်ကြီးကိုလည်းကောင်း၊ အသီးနှင့်ပြည့်စုံသော သစ်ပင်များကို လည်းကောင်း ဖန်ဆင်း၍ ပေးခြင်းအားဖြင့် လူသား၊ ကျွဲ၊ နွားတို့၏ အသက်ပေါင်း များစွာတို့ကို သင်ကယ်တင်ခဲ့ဖူးပြီ။ ဤကား ရှေးဦးစွာသော သင်၏ ကုသိုလ် ပေတည်း။

အို-ဗကဗြဟ္မာ၊ တစ်ခါသ၌လည်း ကေသဝရသေ့ဖြစ်ခဲ့သော သင်သည် တစ်ခုသော ကျေးလက်ဇနပုဒ်ကို မှီ၍ ဏေမ်ညီသော မြစ်ကမ်းအနီးတွင် နေခဲ့၏။ တစ်နေ့သောအခါ ထိုကျေးလက်ဇနပုဒ်ကို သောင်းကျန်းသူလူဆိုးဓားပြများ ဝင်ရောက်တိုက်ခိုက်ကြလေရာ ပစ္စည်းကို ယူရုံမက လူအချို့တို့ကိုလည်း ဖမ်းဆီးသွားကြကုန်၏။

အို–ဗကမြဟ္မာ၊ ထိုလူဆိုးဓားပြများသည် သင်နေသော ကျောင်းသခ်မ်းအနီး၌ စခန်းချနား၍ ထမင်းချက်နေကြစဉ် ဖမ်းဆီးယူဆောင်လာသော ကလေးသူငယ်တို့သည်လည်းကောင်း၊ မိန်းမ ယောကျ်ား လူကြီးတို့သည်လည်းကောင်း သေဘေးမှ ကြောက်ကုန်ရကား သည်းစွာငိုကြွေးကြကုန်လေ၏။ ထိုအသံကို သင် ကြားရလေသော် "ငါကဲ့သို့သောသူရှိလျက် သတ္တဝါအပေါင်းသည် အကျိုးမဲ့ မပျက်စီးစကောင်း"ဟူ၍ ကြံပြီးလျှင် ကြီးစွာသော စစ်တပ်ကြီးတစ်တပ် ချီတက်လာပုံကို သင် ဖန်ဆင်း၍ လူဆိုးဓားပြများရှိရာသို့ သွားခဲ့ပေသည်။

အို–ဗကမြဟ္မာ၊ ထိုရောအခါ အစောင့်ချထားသော ကင်းတပ်က မြင်လေသော် ပြည့်ရှင်မင်းတရားသည် ငါတို့ကို နှိမ်နင်းရန် လိုက်လာချေပြီဟူ၍ အကြီးအကဲဖြစ်သူ များထံ ပြေး၍ အကြောင်းကြားလျှင် ဓားပြက ဘုရင်ကို ပြိုင်၍ နိုင်ရိုးမရှိဟူ၍ ကိုယ်လွတ်ပြေးကြလေရကား သင်သည် ထိုဒုက္ခသည်များအား ကယ်တင်ယူဆောင်လျက် ချမ်းသာစွာ စောင့်ရှောက်ခဲ့ဖူးပြီ။ ဤကား နှစ်ကြိမ်မြောက် သင်၏ကုသိုလ်ပေတည်း။

အို–ဗကမြဟ္မာ တစ်ခါသ၌လည်း ဗာရာဏသီပြည်မှ ဆင်ဖမ်းအတတ်၊ မြင်းဖမ်းအတတ်၌ ကျွမ်းကျင်လှကုန်သော ဆင်ဖမ်းသမား ငါးရာတို့သည်လည်းကောင်း၊ မြင်းကောင်းများ ဖမ်းရန်အလို့ငှာ များစွာသော လှေတို့ကိုဖောင်ဖွဲ့၍ မြစ်ညာမှ အောက်သို့စုန်မျှောလာကြခဲ့ပြီး သင် နေသော ကျောင်းသခ်မ်းအနီး၌ ခေတ္တမျှ စခန်းချကာ ထမင်းစားကြကုန်၏။ စားကြွင်းစားကျန်များကိုလည်းကောင်း၊ ဆေးရေအညစ်အကြေးများကို လည်းကောင်း မြစ်တွင်းသို့ စွန့်ချကြလေကုန်၏။

အို–ဗကမြဟ္မာ၊ ထိုမြစ်တွင်း၌ ဂင်္ဂေယျမည်သော နဂါးသည် နေ၏။ ထိုနဂါးသည် ပြင်းစွာ အမျက်ထွက်လာလေ၏။ ချင်းတို့ စားဖတ် ဝါးဖတ် အညစ်အကြေးကို ငါ့ခေါင်းပေါ် ပစ်ချရာသလောဟူ၍ ဖောင်ပေါ်ရှိသူအားလုံးကို သတ်ခြင်းငှာ ကြီးစွာသော ကိုယ်ကို ဖန်ဆင်းလျက် ပါးပျဉ်းကြီးထောင်ကာ ဖောင်ဆီသို့ ရှေ့ရှုလာလေသော် လူတို့မြင်လေကုန်၍ ကြောက်လန့်ရကား သည်းစွာ ဟစ်ကြွေး ငိုယိုခြင်း ပြုကြလေကုန်၏။

အို–ဗကမြဟ္မာ၊ ထိုအခါ ထိုသူတို့၏ သေဘေးကို သင်မြင်လေသော် ငါ၏အပါးတွင် လူများ မပျက်စီးပါစေလင့်ဟူ၍ ဂဠုန်အသွင်ဖန်ဆင်းပြီးလျှင် နဂါးကို သတ်ဟန်ပြု၍ ခြိမ်းခြောက်မောင်းထုတ်ခဲ့၏။ နဂါးလည်း ကြောက်၍ ထွက်ပြေးခြင်းအားဖြင့် သတ္တဝါများစွာတို့ ချမ်းသာရာရစေခဲ့ဖူးပြီ။ ဤကား သင်၏ တတိယမြောက် ကုသိုလ်ကောင်းမှုပေတည်း။

အိုဗကဗြဟ္မာ၊ သင်သည် ကေသဝ ရသေ့ဖြစ်ခဲ့စဉ်အခါ၌ ငါကား သင်၏ အန္တေဝါသိက "ကပ္ပရ မည်သော ရသေ့" ဖြစ်ခဲ့၏။ တစ်ရံရောအခါ ဟိမဝန္တာအနီး တောအုပ်ကြီး၌ ငါနေစဉ် သင့်အား ဗာရာဏသီမင်းက ပင့်ဆောင်၍ ပူဇော်ပါသော်လည်း သင် ငြင်းပယ်လိုက်၏။ မြို့ရွာအနီး၌ ငါမနေလိုဟုဆို၍ တောသို့ပြန်လာခဲ့ပြီး ငါနှင့်အတူနေလေရာ သင့်ကို ပင့်ဆောင်ခြင်းငှာ မင်း၏ အမိန့်ဖြင့် နာရဒအမတ်လိုက်လာပြီး သင့်ကို ပင့်ပြန်လေသည်။

အိုဗကဗြဟ္မာ၊ ထိုသို့ပင့်လာသောအခါတွင် သင်က ဤသို့ဆိုလေပြီ။ အမောင်နာရဒ၊ ရဟန်းဟူသမျှကား တောအရပ်၌သာ ထူးမြတ်သော ရွှန်းလန်း သမာပတ် စည်းစိမ်မြတ်ကို ရအပ်သတည်း။ တောရပ်သမီး၊ ဖနီးအဝင်၊ သစ်ပင်တို့က လုပ်ကျွေးကြ၊ ပြုစုကြသော အာဟာရသည်သာ ပြစ်ဆာကင်းဘိ ဘေးမရှိ၍ အဘိရမ္မ၊ အလွန်တရာ မွေ့လျော်ဖွယ်ဖြစ်သတည်း။ မိန်းမ ယောကျ်ား၊ ရွာသူ ရွာသားတို့၏ လှည့်ဖြား ကာမဂုဏ် အာရုံခြောက်ဖြာမှ ဝေးကွာလှဘိ၍ ဝိတက် သုံးပါး[၁] ယင်ရဲများတို့သည် ငါ့အား မခံနိုင်သတည်း။ ထူးသောအကျင့်၊ အခွင့်သင့်ငြား၊ ငါ့အားကြည်ညို၊ ငါ့အလိုလိုက်မှ၊ ပိယဝါစာ၊ ဆိုတတ်စွာ၍၊ လိမ္မာလှသော၊ ကပ္ပရမည်ရှောင်း၊ တပည့်ကောင်းနှင့် ပေါင်းရခြင်းကြောင့်လည်း တောတွင်း၌သာ ငါမွေ့လျော်သတည်းဟုဆိုသော် ထိုနာရဒအမတ်လည်း အရှင်မြတ်၏ တရားသည် ဖြောင့်သားဟုတ်မှန်ပေစွဟု ချီးပပူဇော်၍ပြန်လေ၏။

အိုဗကဗြဟ္မာ၊ သင်သည် လူ့ပြည်က ကြီးကျယ်လှသော ဇီဝိတ ဒါန အများချမ်းသာကို အခါခါပြုခဲ့ဖူးသော ကံထူးပုညကြောင့် ဤဗြဟ္မာ့ပြည်၌ မြင့်ရှည်စွာ သင် နေရသတည်း။ ထိုမျှကောင်းမှုပြုသောအခါ ငါဘုရားသည် သင်၏ တပည့်ဖြစ်၍ နှစ်သက်စွာ ညီညာယှိုင်းပင်းခဲ့သတည်း။ သင် အောက်မေ့ လေလော့။

အိုဗကဗြဟ္မာ၊ ဤမှတစ်ပါး ဤသည့် သင်သိစွမ်းနိုင်ရာမှတစ်ပါး အခြားသော အပေါင်းစု မြောက်မြားစွာသည် ဗြဟ္မာအပေါင်းစုတွေ ရှိသေး၏။ ၎င်းတို့ကို သင် မသိ၊ မမြင်။ ငါကား သိ၏၊ မြင်၏။ အိုဗကဗြဟ္မာ၊ အာဘဿရာ မည်သော ဗြဟ္မာအပေါင်းသည် ထင်ရှားစွာရှိ၏။ သင်ကား ထိုမှ သေလွန်ခဲ့၍ ဤဘုံမှာဖြစ်လာခဲ့၏။ သင်သည်ကား ဤသည့် ယခုလက်ရှိဘုံ၌ ရှည်လျားကြာမြင့်စွာ နေထိုင်ရပေသဖြင့် ၎င်းကို သင် မေ့လျော့ခဲ့လေပြီ။

---

၁။ ကာမဂုဏ် တွေးကြံမှု = ကာမဝိတက် စိုးရိမ်ကြောင့်ကြဖွယ် တွေးကြံမှု = ဗျာပါဒဝိတက်၊ ငါ့ကို နှိပ်စက်ကလူပြုလေမလား တွေးကြံမှု = ဝိဟိံသာဝိတက်၊ ဝိတက်သုံးပါး။

သတိမရတော့ပြီ။ ထို့ကြောင့် ၎င်းကို သင် မသိ၊ မမြင်။ ငါကား သိ၏၊ မြင်၏။ အို–ဗကဗြဟ္မာ၊ ဤသို့အားဖြင့်လည်း ငါသည် အသိဉာဏ်အားဖြင့် သင်နှင့်မတူချေ။ အဘာယ်မှာ ငါ့ထက်လောက် နိမ့်ကျမည်နည်း။ စင်စစ်ကား ငါသာ သင့်ထက် လွန်ကဲ၏။

အို–ဗကဗြဟ္မာ၊ သုဘကိဏှာ မည်သော ဗြဟ္မာအပေါင်းမည်သည်လည်း ရှိသေး၏။ ၎င်းတို့ကို သင် မသိ၊ မမြင်။ ငါကား သိ၏၊ မြင်၏။ ဤသို့အား ဖြင့်လည်း ငါသည် အသိဉာဏ်အားဖြင့် သင်နှင့်မညီမျှချေ။ အဘယ်မှာလျှင် ငါ သင့်အောက် ယုတ်နိမ့်အံ့နည်း။ စင်စစ်ကား ငါသာ သင့်ထက် လွန်ကဲ၏။

ဖြေ။ အို–အရှင်ရဟန်းဂေါတမ၊ အားလုံးကို အားလုံးအဖြစ် အကယ်၍ မတပ်မက်အံ့၊ မစွဲမက်အံ့၊ ၎င်းကို သိမြင်ခြင်းအားဖြင့် သင့်မှာ အချည်းနှီးမဖြစ် ပါစေလင့်၊ အကျိုးမဲ့ မဖြစ်ပါစေလင့်။ ဝိညာဉ်သည် မမြင်အပ်၊ အပိုင်းအခြား မရှိ။ ထက်ဝန်းကျင်လင်းထိန်၏၊ တောက်ပ၏။ ထိုဝိညာဉ်သည် မြေကို မြေအားဖြင့် မတပ်မက်၊ မစွဲလမ်းအံ့။ ရေကို၊ မီးကို၊ လေကို၊ သတ္တဝါတို့ကို၊ နတ်တို့ကို၊ ဗြဟ္မာတို့ကို၊ အားလုံးကို အားလုံးအဖြစ်ဖြင့် အကယ်၍ မတပ်မက်အံ့။ အို– အရှင်၊ ယခု သင့်မျက်စိအောက်မှ ငါပျောက်ကွယ်ပြမည်။ ကြည့်လော့၊ ပျောက်ကွယ် တော့အံ့။

မေး။ အို–ဗကဗြဟ္မာ၊ မည်သို့ပင် သင် ဆိုစေကာမူ ငါ့မျက်စိအောက်က သင် မပျောက်ကွယ်နိုင်လတ္တံ့။

သင့်မျက်စိအောက်မှ ငါပျောက်ကွယ်မည်၊ ငါပျောက်ကွယ်မည်ဆို၍ ဗကဗြဟ္မာသည် ဗုဒ္ဓမျက်စိအောက်က ပျောက်သွားရန်၊ ကိုယ်ရောင်ဖျောက်ရန် အားထုတ်လေရာ မတတ်နိုင်။ ကိုယ်ရောင် မဖျောက်နိုင်ဘဲ ဖြစ်နေလေ၏။

မေး။ အို–ဗကဗြဟ္မာ၊ သင်ကား သင့်ကိုယ်သင်ပျောက်အောင် မတတ် နိုင်ခဲ့။ သင်၏ မျက်စိအောက်မှ ငါကွယ်ပျောက်ပြမည်။

ဖြေ။ အို–ရဟန်းဂေါတမ၊ သင် စွမ်းနိုင်ခဲ့သော် ယခုပင် ငါ့မျက်စိ အောက်က ကွယ်ပျောက်ပြစမ်းလော့။

ထိုအခါ မြတ်စွာဘုရားသည် အသံသာကြား၍ ရုပ်ကိုမမြင်နိုင်အောင် ဖုန်ဆင်းကွယ်ပျောက်ပြလေ၏။ ထိုအခါကျမှ ဗကဗြဟ္မာကြီးသည်လည်းကောင်း၊ များစွာသော ဗြဟ္မာတို့သည်လည်းကောင်း အံ့ဖွယ်ဘနန်း အဆန်းအထူး သိမှတ် အံ့သြကုန်ပြီး တစ်ခဲနက် ကောင်းချီးပေးကြလေကုန်သတည်း။ ဗကဗြဟ္မာက ဤသို့ချီးကျူးလိုက်လေ၏။

"အို–အချင်းတို့၊ ရဟန်းဂေါတမ၏ တန်ခိုးစွမ်းပကားကား အာနုဘော်ကြီးမားခြင်းမှာ အံ့သြစရာ၊ ချီးကျူးစရာဖြစ်ပါပေသည်။ ဤသို့သော တန်ခိုးစွမ်းပကားကြောင့်ပင် သာကီဝင်နွယ်ဖွား၊ သာကီမင်းသား ရဟန်းဂေါတမသည် ဘုံဘဝ၌ မွေ့လျော်ပျော်ပိုက်သော ဗြဟ္မာအပေါင်းနှင့် ဘုံဘဝကိုပွားစီးရန် အားကြီးကြောင့်ကြနေသော ဗြဟ္မာအပေါင်း၏ တပ်မက်ခြင်း တဏှာ အမြစ်ရင်းနှင့်တကွသော ဘုံအယူအစွဲကို နုတ်ပယ်တော်မူလေပြီ။ ဘဝအများ လွှမ်းထားသော ငါ၏ခန္ဓာ၊ ရုပ်နာမ်ကိုလည်း ကေန်တိတိ သိမြင်တော်မူပါပေသည်။ ကြာမြင့်စွာသော ငါ၏အသက်ကိုလည်း အမှန်ရေတွက်၍ မျက်မှောက်ဆိုနိုင်ပါပေသည်။ ထိုသို့ ပညာရှိလှစွာသောကြောင့်ပင် ခန္ဓာကိုယ်မှဖြစ်သော ရောင်ခြည်သည် ကွန့်လည် တောက်ပသတည်း။ ဤသို့သော ပညာရှင်တစ်ဦး၏ တပည့်ဖြစ်ရခြင်းသည် ရက်ချင်းကောင်းမြတ်သည့်သာတည်း။

ဤသို့ချီးကျူးပြီးလျှင် ဘုရားသခင်ထံ တပည့်ခံလေ၏။ "အို–အရှင်မြတ်ဘုရား၊ ယနေ့မှစ၍ အကျွန်ုပ်တို့၏ အယူအစွဲကို ပယ်ပါတော့အံ့။ အရှင်ဟောကြားအပ်သော တရားကို အလေးအမြတ်ပြု၍ အားထုတ်ပါတော့အံ့။

(မဇ္ဈိမနိကာယ်။ မူလပဏ္ဏာသ။ ဗြဟ္မနိမန္တိ ယသုတ္တန်။ သုတ္တနိပါတ်၊ ဓာတ်အဋ္ဌကထာမှ)

# အဆွေးအပေါက်

ပြဿနာ = လောကကို သုံးသပ်ချက်။

မေးလျှောက်သူ = နတ်သားတစ်ဦး။

အခါတစ်ပါးတွင် ဗုဒ္ဓရှင်တော်ဘုရားသည် သာဝတ္ထိပြည်၊ ဇေတဝန်ကျောင်းတော်၌ နေတော်မူ၏။ ထိုအခါ နတ်သားတစ်ဦးသည် ဘုရားသခင်အထံတော်သို့ ချဉ်းကပ်လာပြီးလျှင် အောက်ပါ ပြဿနာရှစ်ချက်ကို မေးလျှောက်လေ၏။

မြတ်စွာဘုရားလည်း ထိုပြဿနာအတွက် ဒေဝဆိုသူနှင့် အမေးအဖြေ ပြုတော်မူလေ၏။

မေး။ အရှင်ဘုရား၊ လောက၌ ဆွေးမြည့်တတ်သော သဘော၊ မဆွေးမြည့်တတ်သော သဘောတွေ ရှိပါ၏။ ယင်းနှစ်မျိုးအနက် ဆွေးမြည့်တတ်သော သဘောကား အဘယ်အရာများပါနည်း။ မဆွေးမြည့်တတ်သော သဘောကား အဘယ်အရာများပါနည်း။ တပည့်တော်များ မည်သို့ မှတ်သားရပါမည်နည်း ဘုရား။ ဖြေကြားတော်မူပါ။

ဖြေ။ အို-ဥပါသကာ နတ်သား၊ သတ္တဝါတို့၏ ခန္ဓာငါးပါး အစုအဝေး ဖြစ်သော ရုပ်ဝတ္ထုဟူဟူသမျှကား ဆွေးမြည့်ယိုယွင်း ပျက်စီးခြင်းသဘော ရှိပေသည်။ နာမံ=အမည်နာမဖြစ်သော နာမ်ဝတ္ထုသည်လည်းကောင်း၊ ဂေါတ္တံ=အမျိုးအနွယ်သည်လည်းကောင်း၊ နဇီရတိ=ဆွေးမြည့်ခြင်းသဘော မရှိလေ။ အို-ဥပါသကာ၊ ထို့ကြောင့် ရုပ်ဝတ္ထုဟူဟူသမျှကို ဆွေးမြည့်တတ်သော သဘောရှိသည်ဟူ၍ လည်းကောင်း၊ နာမ်ဝတ္ထုဟူဟူသမျှကို ဆွေးမြေ့တတ်သော သဘောမရှိဟူ၍ လည်းကောင်း သင် မှတ်လေလော့။

မေး။ အရှင်ဘုရား၊ အဘယ်မည်သော သဘောတရားကို လမ်းမှား၊ လမ်းကောက်ဟူ၍ ဆိုအပ်ပါသနည်း။

ဖြေ။ အို–ဥပါသကာ နတ်သား၊ ရာဂဟူသည် ရှိ၏။ ယင်းရာဂသည် ဆိုးရည်နှင့် အလားတူ၏။ အာရုံငါးပါးသည် အဝတ်များနှင့် တူ၏။ ဆိုးရည်သဘောကား အဝတ်ကိုဆိုးသော် ချွတ်၍မရအောင် စွဲလေ၏။ အနီရောင်ဆိုးလျှင် နီရဲနေ၏။ အပြာရောင်ဆိုးလျှင် ပြာနေ၏။ အစိမ်းရောင်ဆိုးလျှင် စိမ်းနေ၏။ ထိုနည်းလည်းကောင်း ရာဂသည်လည်း အာရုံ၌ တပ်စွဲလာသောအခါ ချွတ်မရအောင် စွဲတတ်လေ၏။ ရာဂအစွဲအလမ်းရှိနေသမျှ (ဝါ) ရာဂကို လက်ကိုင်ထားရှိနေသူအား ဆိုးရည်ဖြင့်စွဲနေသော အဝတ်သည် အဖြူဖြစ်မလာနိုင်သကဲ့သို့ ယင်းရာဂသည် လမ်းကောင်းလမ်းမှန်သို့ရောက်အောင် မပို့ဆောင်ခဲ့။ ထို့ကြောင့် ဥပါသကာ၊ ရာဂကို လမ်းကောက် လမ်းမှားဟူ၍ သင်မှတ်ပါလေ။

မေး။ အရှင်ဘုရား၊ သီလ၊ သမာဓိ အစရှိသော သူတော်ကောင်းတရားများကို ဟန့်တားတတ်သော အန္တရာယ်၊ သူတော်ကောင်းတရားများကို ဖွဲ့ချည်ရစ်ပတ် တားမြစ်တတ်သော အန္တရာယ်ဟူသည် အဘယ်တရားဖြစ်ပါသနည်း။

ဖြေ။ အို–ဥပါသကာ နတ်သား၊ လောဘဟူသည် ရှိ၏။ ယင်းလောဘသည် မျောက်နှံစေးနှင့် အလားတူ၏။ ငါးပါးအာရုံ ကာမဂုဏ်တို့ကို ခုံမင်ရစ်ပတ်လိုချင်တတ်သော သဘောရှိ၏။ ထို့ကြောင့် အို–ဥပါသကာ၊ သီလ၊ သမာဓိ အစရှိသော သူတော်ကောင်းတရားကို ဟန့်တားရစ်ပတ် အန္တရာယ်ပြုတတ်သော တရားကား လောဘတည်း။ ထိုလောဘကို ဓမ္မအန္တရာယ်ဟူ၍ သင် မှတ်သားလေလော့။

မေး။ အရှင်ဘုရား၊ ညဥ့်၊ နေ့တို့သည် ရှိပါကုန်၏။ ယင်း ညဥ့်၊ နေ့တို့ကို ကုန်စေတတ်သော တရားကား အဘယ်ပါနည်း။ အဘယ်တရားသည် ညဥ့်၊ နေ့တို့ကို ကုန်စေပါသနည်း။

ဖြေ။ အို–ဥပါသကာ၊ ပထမ၊ ဒုတိယ၊ တတိယ ဟူ၍ အရွယ်သုံးပါးသည် ရှိလေ၏။ ယင်းအရွယ်သုံးပါးသည် တစ်စတစ်စ ကြီးပြင်းလာခြင်းအားဖြင့် ညဥ့်၊ နေ့တို့ကို ကုန်စေရာရောက်ပေ၏။ သို့ကြောင့် အို–ဥပါသကာ၊ ညဥ့်၊ နေ့တို့ကို ကုန်စေတတ်သောတရားကား အခြားမဟုတ်၊ ဝယ ခေါ်သော အရွယ်ဟူ၍ သင် မှတ်ပါလေ။

မေး။ အရှင်ဘုရား၊ သာသနာတော်တည်းဟူသော အကျင့်မြတ်၏ အညစ်အကြေးကား အဘယ်ပါနည်း။ အဘယ်တရားသည် ဗြဟ္မစရိယခေါ်သော မြတ်သော အကျင့်၏ အညစ်အကြေးဖြစ်ပါသနည်း။

ဖြေ။ အို–ဥပါသကာ၊ ဣတ္ထိခေါ်သော မာတုဂါမဟူသည် ရှိသည်။ ယင်း မာတုဂါမသည် ခုန်အုပ်၍ စားတတ်သော ကျားရဲနှင့် အလားတူ၏။

မာတုဂါမ သည် ဗြဟ္မစရိယတည်းဟူသော အကျင့်မြတ်ကို ညစ်နွမ်းစွန်းထင်အောင် ပြုတတ်၏။ ထို့ကြောင့် အို-ဥပါသကာ၊ သင် သိလိုသော ဗြဟ္မစရိယအကျင့်၏ အညစ်အကြေး ကား မာတုဂါမဟူ၍ မှတ်လေလော့။

မေး။ ဘုန်းတော်ကြီးလှသော အရှင်ဘုရား၊ ရေစင်စစ်ကား မဟုတ်ပါပေ။ သို့ရာတွင် ကိလေသာတည်းဟူသော အညစ်အကြေးချေးညှော်များကို ဆေးကြောရာ၌ အသုံးဝင်သော ရေစင်တစ်မျိုးဖြစ်နေပါသည်။ ထိုရေစင်ကား အဘယ်ပါနည်း။

ဖြေ။ သိလိုရေးနှင့် မေးလျှောက်ထားသော အို-ဥပါသကာ၊ သင် မှတ်သားသွားပါလေ။ ရာဂနယ်တွင်းမှ မလွတ်ကင်းကြသေးသော သတ္တဝါဟူဟူသမျှတို့ကား မာတုဂါမ၏ ငါးဖြာအာရုံ ကာမဂုဏ်၌ မျှောက်နဲ့စေးမှာ မျှောက်ပမာကဲ့သို့ တွယ်တာငြိယှက် မခွာရက်အောင် ရှိနေကြကုန်၏။ အခြားတစ်ဖက်၌ တပခေါ်သော ခြိုးခြံခြိုး ကျင့်ကြသည့် ဓုတင် စသော အကျင့်များ၊ ဗြဟ္မစရိယ ခေါ်သော ငါးပါးသီလ၊ ဆယ်ပါးသီလ စသော အကျင့်များသည် ရှိပေ၏။ ထို တပ အကျင့်၊ ဗြဟ္မစရိယအကျင့်များသည် အကျင့်သာဖြစ်၏။ ရေစင်စစ်မဟုတ်ပေ။ သို့ရာတွင် ကိလေသာဆိုး အညစ်မျိုးကို ဆေးကြောရာ၌ အသုံးဝင် လေ၏။ ထို့ကြောင့် အို-ဥပါသကာ၊ ရေမဟုတ်ဘဲလျက်ကို ကိလေသာကို စင်ကြယ်အောင် ဆေးကြောနိုင်စွမ်းသောအရာကား တပအကျင့်၊ ဗြဟ္မစရိယ အကျင့်များဟူ၍ သင် မှတ်သားပါဘိ။

မေး။ ရွှေဘုန်းတော်သခင် အရှင်မြတ်ဘုရား၊ လောက၌ ဆိဒ္ဓခေါ်သော အပေါက်ကြီးများ ထင်ရှားရှိနေပါကုန်၏။ စုဆောင်းရရှိထားအပ်သော လာဘ်သပ်ပကာ၊ ဥစ္စာစီးပွား အခြားအခြားတို့သည်လည်းကောင်း၊ ကျင့်ကြံအားထုတ်ထားအပ်သော သူတော်ကောင်းတရားများသည်လည်းကောင်း ထိုအပေါက်ကြီးများမှ ယိုဖိတ်၍ထွက်ကုန်လေသောကြောင့် အိတ်ပေါက်နှင့် ဖားကောက်သကဲ့သို့ အဖတ်တင်သည်ဟူ၍ မရှိ ပျောက်ပျက်ကုန်ပါလေ၏။ လောက၌ ထိုကဲ့သို့ အိတ်ပေါက်နှင့်တူသော ယိုပေါက်၊ ထွက်ပေါက်ကြီးများ ဘယ်နှစ်မျိုးရှိပါသနည်း ဘုရား။

ဖြေ။ သဘာဝဖြစ်ရပ်ကို မေးစာတ်ရှာသော အို-ဥပါသကာ၊ အကြွင်ထွက်ပေါက်၊ ယိုပေါက်တို့၌ (ဝါ) အကြွင်ထွက်ပေါက်၊ ယိုပေါက်ကြီးများ ရှိနေခြင်းကြောင့် ရှာဖွေစုဆောင်းထားအပ်သော ဥစ္စာစီးပွားများသည်လည်းကောင်း၊ အားထုတ်အပ်သော သူတော်ကောင်းတရားများသည်လည်းကောင်း အရှည်စွဲ၍ တည်မြဲမနေမူဘဲ ပျောက်ပျက်ယိုထွက်ကုန်လေ၏။ ထိုယိုပေါက်၊ ထွက်ပေါက်ကြီးများကား အမျိုးအစားအားဖြင့် ခြောက်မျိုးရှိပေသည်။ ယင်းခြောက်မျိုးကား-

(၁) **အလဿျဆိဒ္ဓ** = ပျင်းရိသော အပေါက်ကြီးက တစ်ပေါက်။

(၂) **ပမာဒဆိဒ္ဒ** = ကိလေသာပွား၊ အိပ်ခြင်းများ၍ တရားမရှိ၊ သတိလွတ်ကင်း၊ မေ့လျော့ခြင်း ယိုပေါက်ကြီးက တစ်ပေါက်။

(၃) **အနုဋ္ဌာနဆိဒ္ဒ** = လုပ်စရာ၊ ရှိပါလျက်သား၊ လုပ်ရှားထကြွ၊ လုံ့လဖွဲ့မရှိခြင်း၊ ထွက်ပေါက်ကြီးက တစ်ပေါက်။

(၄) **အသံယမဆိဒ္ဒ** = ကိုယ်ကြမ်း နှုတ်ကြမ်း၊ လူ့စည်းကမ်းကို၊ ဖြတ်သန်းနင်းကျော်၊ လျှပ်ပေါ်လော်လီ၊ မတည်ကြည် မစောင့်စည်းသော ယိုပေါက်ကြီးက တစ်ပေါက်။

(၅) **နိဒ္ဒါဆိဒ္ဒ** = သွားရာ၊ ရပ်ရာ၊ ထိုင်နေရာ၌ပင် မျက်လွှာကျမှိန်း၊ တဖိန်းဖိန်းငိုက်မျဉ်းလျက် အိပ်ချင်ခြင်းတည်းဟူသော ထွက်ပေါက် ယိုပေါက်ကြီးက တစ်ပေါက်။

(၆) **တန္ဒီဆိဒ္ဒ** = ချမ်းသေးသည်၊ ပူသေးသည်၊ စောသေးသည် ဟူ၍ စိတ်ကောင်းမဝင်၊ ဆန့်ငင်လိမ်တွန့်၊ တလွန့်လွန့်နေခြင်းဟူသော ယိုပေါက်ကြီးက တစ်ပေါက်။

ဤသို့အားဖြင့် ယိုပေါက် ထွက်ပေါက်ကြီးတို့သည် ခြောက်မျိုးရှိပေကုန်၏။ ထိုဆိုအပ်ပြီးသော ထွက်ပေါက်၊ ယိုပေါက်ကြီး ခြောက်မျိုးစလုံးသော်လည်းကောင်း၊ တစ်မျိုးမျိုးသော်လည်းကောင်း အကြင်သူ၌ ရှိနေ၊ ဆင်နေသည်ဖြစ်အံ့။ ထိုသူ ရှာမှီးသမျှ ပစ္စည်း၊ ထိုသူ အားထုတ်သမျှ အကျင့်တရားများသည် ထိုအပေါက်မှ ထွက်၍ ပျောက်ပျက်ယိုကျမည်သာ ဖြစ်၏။ အဖတ်တင်နိုင်မည် မဟုတ်ပေ။ ထို့ကြောင့် အို-ဥပါသကာ၊ ရှာမှီးစုဆောင်းထားသမျှ ပစ္စည်းများ အဖတ်မတင်၊ အကျင့်တရားများ ဆုတ်ယုတ်ပျက်စီးတတ်၊ ယိုထွက်ကုန်တတ်သော အပေါက်ကြီးများ လောက၌ ဆိုအပ်ပြီးသောအတိုင်း ခြောက်မျိုးရှိကြောင်းကို သင် မှတ်သွားပါလေ။

(သံယုတ္တနိကာယ်၊ ဒေဝတာသံယုတ်)

# ပျက်စီးကြောင်း ပုစ္ဆာ ၁၂

**ပြဿနာ = ကြီးပွားမှုရှိလျှင် ပျက်စီးမှု ရှိမည်။**

**မေးလျှောက်သူ = နတ်သားတစ်ပါး။**

ယမန်နေ့က ကိုယ်စားလှယ်စေလွှတ်လိုက်သော နတ်သားသည် ဘုရားသခင့်အထံတော်မှ ပြန်ရောက်လာပြီဖြစ်သောကြောင့် နတ်ပရိသတ်ကြီးသည် ရုတ်ရုတ်သဲသဲအချို့ရောက်နေပြီး အချို့လာနေဆဲ ဖြစ်လေသည်။

ကိုယ်စားလှယ် စေလွှတ်လိုက်ခြင်းမှာ မင်္ဂလာဟူသည် အဘယ်နည်း။ အဘယ်ကို မင်္ဂလာခေါ်သည်။ မင်္ဂလာသမုတ်အပ်သည်ဆိုချက်ကို နတ်တို့သည် အလေးအနက်ပြု၍ ကြံဆလာခဲ့ကုန်သည်။ မရ။ သို့နှင့် တစ်နှစ်မှသည် နှစ်နှစ်၊ နှစ်နှစ်မှသည် သုံးနှစ်။ ဤသို့စသည်ဖြင့် နှစ်နှင့်ချီ၍ မင်္ဂလာကို တွေးခေါ်ကြံဆလာခဲ့ရာ ဆယ့်နှစ်နှစ်တိုင်တိုင် အချိန်ကာလကြာညောင်းလာပြီဖြစ်သော်လည်း မင်္ဂလာ၏ အဓိပ္ပာယ်၊ မင်္ဂလာ၏အနက်မှာ အရိပ်အမြွက်မျှပင် မထွက်လာသောကြောင့် နတ်သဘင် အစည်းအဝေးခေါ်ပြီးလျှင် ထိုအစည်းအဝေးမှ နတ်သားတစ်ယောက်ကို ကိုယ်စားလှယ်အဖြစ် ရွေးကောက်တင်မြှောက်ကြပြီး မင်္ဂလာအကြောင်းကို မေးလျှောက်ချေရန် ဘုရားသခင်ထံတော်သို့ စေလွှတ်လိုက်ခြင်း ဖြစ်လေသည်။

ထိုကိုယ်စားလှယ် နတ်သားသည် ဘုရားသခင်ထံမှ ကြားနာမှတ်သားခဲ့ရသော မင်္ဂလာတရား ၃၈ ပါးကို စည်းဝေးရောက်လာကုန်သော နတ်ပရိသတ်များအား တစ်ဆင့်ဖောက်သည်ချကာ ပြောပြလျှင် နတ်, ဗြဟ္မာအပေါင်းတို့သည် များစွာ နှစ်ထောင်းအားရဖြစ်ကုန်လေ၏။

ဗုဒ္ဓဘုရား ဟောကြားတော်မူလိုက်သော မင်္ဂလာတရား ၃၈–ပါးသည် ယဉ်ကျေးမှုအခြေခံ ကြီးပွားကြောင်း တရားများဖြစ်၍ အနှစ်သာရ ပြည့်ဝလှပါပေသည်။ ဤမင်္ဂလာတရားစုတို့ကား စင်စစ်ပြုလုပ်အပ်၊ ဆောင်ရွက်အပ်သော

အရာများသာ ဖြစ်ကုန်၏။ ဆောင်အပ်သောအရာရှိခဲ့သော် ရှောင်အပ်သောအရာလည်း ရှိပေရာသည်။ ကြီးပွားကြောင်း ရှိခဲ့သော် ဆုတ်ယုတ်ကြောင်း၊ ပျက်စီးကြောင်းတရားများလည်း ရှိပေရာသည်။ ယင်းပျက်စီး ဆုတ်ယုတ်ကြောင်းတရားများကိုလည်း သိရှိနားလည်ထိုက်ပေသည်။ ယင်းအရာ ရှောင်ကြဉ်ရန် အချက်အလက်များကို သိနားလည်ထားလျှင်လည်း လူ နတ်၊ ဗြဟ္မာတို့အတွက် များစွာ အကျိုးသက်ရောက်လာနိုင်စရာ အကြောင်းရှိသဖြင့် ထိုအချက်အလက်များကိုလည်း ဘုရားသခင်ထံ မေးမြန်းလျှောက်ထားသင့်ပါသည်။

နတ်ပရိသတ်ထဲမှ နတ်သားတစ်ယောက်က ထ၍ အကြံပေးတိုက်တွန်းလိုက်၏။ အဆိုပြုလိုက်၏။ ထိုအဆိုပြုချက်ကို နတ်သဘင်အစည်းအဝေးကြီးက ခြွင်းချက်မရှိ လက်ခံလိုက်ကြကုန်ပြီးနောက် ဘုရားသခင့်ထံ စေလွှတ်ရန်အတွက် ကိုယ်စားလှယ်တစ်ဦးကို ရွေးကြပြန်လေသည်။

မင်္ဂလာတရားကို ကြားနာရပြီး၍ ၂–ရက်မြောက်သောနေ့၌ ဖြစ်၏။ နတ်သဘင်အစည်းအဝေးက ရွေး၍ မေးလျှောက်ရန် ကိုယ်စားလှယ်တင်မြှောက်လိုက်သော နတ်သားမှာ ယခင် နတ်သားပင် ဖြစ်နေသည်။ ဘုရားသခင်ထံ ရောက်ဖူးခြင်း၊ ဘုရားသခင်အား လိုအပ်ချက်များကို ကျေကျေလည်လည် လိမ္မာပါးနပ်လည်အောင် လျှောက်ထားမေးမြန်းနိုင်စွမ်း ရှိခြင်းတို့ကိုထောက်၍ ထိုနတ်သားကိုပင် ကိုယ်စားလှယ်အဖြစ် ထပ်မံအတည်ပြု ရွေးချယ်လိုက်ကြပြီးလျှင် ထိုနတ်သားကို ရှေ့တန်းမှတင်၍ နတ်၊ ဗြဟ္မာအများတို့သည် ဘုရားသခင်ထံသို့ ချဉ်းကပ်လာကြပြန်ကုန်၏။

ထိုအချိန်၌ အစိန္တေယျ၊ သုံးလောက" ထွတ်ထား၊ ဘုရားမြတ်စွာသည် ဇေတဝန်ကျောင်းတော်၌ပင် သီတင်းသုံးနေထိုင်တော်မူလျက်ပင် ရှိနေပေသေးသောကြောင့် များစွာသော နတ်၊ ဗြဟ္မာတို့သည် ကိုယ်စားလှယ် နတ်သားကို ရှေ့မှထား၍ အကာလ ညအခါတွင် တိတ်တဆိတ် ဘုရားသခင်ထံ ဝင်ရောက်ဖူးမြော်ကြကုန်ပြီးသော် ဆုတ်ယုတ် ပျက်စီးကြောင်း တရားများကို အဆိုပါ ကိုယ်စားလှယ် နတ်သားက အောက်ပါအတိုင်း မေးမြန်းလျှောက်ထားလေ၏။

မေး။ မြတ်စွာဘုရား၊ ကြီးပွားကြောင်း မင်္ဂလာတရားတော်ကို အရှင်ဘုရားထံမှ ကြားနာ မှတ်သားရပါသဖြင့် နတ်၊ ဗြဟ္မာအပေါင်းတို့ များစွာ နှစ်ထောင်းအားရခြင်း ဖြစ်ကြရပါကုန်သည် ဘုရား။ ယခုတစ်ဖန် တပည့်တော်များ ရောက်လာကြရပြန်ခြင်းမှာ နတ်၊ ဗြဟ္မာတို့၏ ဆန္ဒအရ ဖြစ်ပါသည်။ ကြီးပွားကြောင်း မင်္ဂလာတရားကို သိကြရသည့်နည်းတူ ပျက်စီးဆုတ်ယုတ်ကြောင်း တရားကိုလည်း နတ်၊ ဗြဟ္မာအပေါင်းတို့က များစွာ မျှော်လင့်တောင့်တလျက်

ရှိနေကြပါသည်။ အို–ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ ပျက်စီးဆုတ်ယုတ်ကြောင်း သဘောတရားများကား အဘယ်အရာပါနည်း ဘုရား။ နတ်၊ ဗြဟ္မာအပေါင်းတို့၏ ကိုယ်စားလျှောက်ထားရခြင်း ဖြစ်ပါသည်။ ဟောကြားတော်မူပါဘုရား။

ဖြေ။ အို–ဒါယကာ နတ်သား၊ အကြင်သူသည် ဝမ်းတွင်းခေတ်ခံ၊ ပဋိသန္ဓေဉာဏ် ရင့်သန်၍ သိလွယ်၊ မြင်လွယ်၊ အမြင်ကျယ်၏။ ထိုသူသည် ကြီးပွားတတ်သည်၊ ချမ်းသာတတ်သည်။ အို–ဒါယကာနတ်သား၊ အကြင်သူ၌ ပင်ကိုခေတ်ခံ ရင့်သန်သော ပဋိသန္ဓေမရှိ၊ အသိကျဉ်း၊ အမြင်ကျဉ်း၏။ ထိုသူသည် ဆုတ်ယုတ်တတ်၊ ပျက်စီးတတ်ပေသည်။

အို–နတ်သား၊ နာဦးလော့။ အကြင်သူသည် အမှန်တရားကို လိုလား၏။ နှစ်ခြိုက်၏။ ထိုသူသည် ကြီးပွားတတ်သည်၊ ချမ်းသာတတ်သည်။ အကြင်သူကား အမှန်တရားကို မလိုလား၊ သဘောမှန် အကြောင်းမှန်ကို နှစ်ခြိုက်ခြင်း မရှိဖြစ်ဘိ၏။ ထိုသူသည် ပျက်စီးတတ်၊ ဆုတ်ယုတ်တတ်ပေသည်။

မေး။ မြတ်စွာဘုရား၊ တစ်အချက် အနေအထားဖြင့် ဆုတ်ယုတ်ပျက်စီးကြောင်း တရားကို ကြားနာမှတ်သားကြရပါပြီ။ ဒုတိယမြောက် ပျက်စီးကြောင်းတရားကို ကြားနာမှတ်သားလိုပါကုန်သေးသည်။ ဟောကြားတော်မူပါရန် နတ်၊ ဗြဟ္မာများကိုယ်စား တပည့်တော် တောင်းပန်ပါသည် ဘုရား။

ဖြေ။ အို–နတ်သား၊ နာလော့။ ငါ ဟောကြားပေအံ့။ အကြင်သူသည် သူတော်မဟုတ်၊ ယုတ်မာသောအကျင့်ဆိုး၊ ညာဉ်ဆိုးရှိသူအား နှစ်နှစ်ကာကာ ချစ်ခင်တတ်၏။ စိတ်နေသဘော ဒုစရိုက်ထူပြောသူအား အထင်ကြီးတတ်၊ မြတ်နိုး ကိုးစားတတ်၏။ သူတော်စဉ် ပုဂ္ဂိုလ်မျိုး၌ ချစ်ခင်မှု၊ မြတ်နိုးမှုကို မပြု၊ ဒုစရိုက်တရားကို လိုလားစွာ နှစ်ခြိုက်နေ၏။ ထိုသို့သော သဘောဆိုး၊ ညာဉ်ဆိုး၊ ဝသီဆိုး၊ အကျင့်ဆိုးရှိနေသူသည် ပျက်စီးတတ်၊ ဆုတ်ယုတ်တတ်ပေသည်။

မေး။ အို–မြတ်စွာဘုရား၊ ကြားနာရသော ဓမ္မသည် အနှစ်သာရ ပြည့်ဝလှပါသဖြင့် များစွာ ရွှင်ပျခြင်း ဖြစ်ရပါကုန်၏။ တတိယမြောက်ပျက်စီးကြောင်း တရားကား အဘယ်ပါနည်း။ ၎င်းကို ဆက်လက်ဟောကြားတော်မူပါဦး ဘုရား။

ဖြေ။ အို–ဒါယကာ နတ်သား၊ ငါ ဟောပေအံ့၊ နာဦးလော့။ အကြင်သူသည် အအိပ်အနေများ၏။ ပွဲလမ်းသဘင်လိုက်စား၍ အပျော်အားကြီး၏။ နိုးကြားထကြွမှု မရှိ၊ ပျင်းရိ၏၊ ဒေါသစက်ထန်၏။ ထိုသူ၏ ထိုအပြုအမူမျိုးကား ပျက်စီးကြောင်း၊ ဆုတ်ယုတ်ကြောင်းများ ဖြစ်ပေသည်။

မေး။ အို–မြတ်စွာဘုရား၊ နှစ်ထောင်းအားရ ဝမ်းမြောက်လှပါကုန်၏။ ဆက်လက်၍ စတုတ္ထမြောက် ပျက်စီးကြောင်းကို ဟောတော်မူပါဦး ဘုရား။ ၎င်းကား အဘယ်ပါနည်း။

ဖြေ။ အို–နတ်သား၊ အကြင်သူသည် စွမ်းအားရှိလျက် အိုမင်းမစွမ်း ဖြစ်နေသော မိအို၊ ဖအိုများကို လုပ်ကျွေးခြင်း မရှိ၊ အလေးမပြု၊ ဂရုမစိုက်၊ ရှိသေ ကိုင်းရှိုင်းမှု မပြု၊ ထိုသူ၏ ထိုသည့်အပြုအမူမျိုးကား ပျက်စီးကြောင်း စင်စစ် ဖြစ်ပေသည်။

မေး။ နှစ်ထောင်းအားရ အလွန်ဝမ်းမြောက်လှကြောင်းပါ ဘုရား။ အို– မြတ်စွာဘုရား၊ ပဉ္စမမြောက် ပျက်စီးဆုတ်ယုတ်ကြောင်း တရားကို ဆက်၍ ကြားနာ မှတ်သားလိုပါ၏။ ဟောကြားတော်မူရန် တောင်းပန်ပါသည်။ ၎င်းကား အဘယ်ပါနည်း ဘုရား။

ဖြေ။ အို–နတ်သား၊ အကြင်သူသည် ပုဏ္ဏားကိုလည်းကောင်း၊ ရဟန်း သံဃာတော်များကိုလည်းကောင်း၊ အထီးကျန် တောင်းရမ်းစားသောက်သူများကို လည်းကောင်း လှူဒါန်းပါမည်၊ ပေးကမ်းစွန့်ကြဲပါမည်ဟူ၍ ဝန်ခံပြီးမှ ရောက် လာသောအခါ၌ လှူဒါန်းခြင်းမပြု၊ ပေးကမ်းခြင်းမပြုဘဲ နေသဖြင့် လှည့်စား၏။ လှူယောင်ယောင် ပေးကမ်းယောင်ယောင်ဆောင်၍ မလှူ၊ မပေးလေဘဲ ပြက်ရယ် ပြု၏။ ထိုသူ၏ ထိုကဲ့သို့သော အပြုအမူမျိုးသည် ပျက်စီးကြောင်း ဖြစ်ပေသည်။

မေး။ ဝမ်းမြောက်ဖွယ်ရာ မှတ်သား နာယူကြရပါပြီ ဘုရား။ အို– မြတ်စွာဘုရား၊ ဆဋ္ဌမမြောက် ပျက်စီးကြောင်းတရားကိုလည်း ကြားနာမှတ်သား လိုပါသေးသည်။ ၎င်းကား အဘယ်ပါနည်း။ ဆက်၍ ဟောကြားတော်မူပါဦး ဘုရား။

ဖြေ။ အို–နတ်သား၊ အကြင်သူသည် ကျိုကျိုတက်မျှ ချမ်းသာပါလျက်၊ သုံးစွဲစရာ ရတနာရွှေငွေ ကြွယ်ဝပါလျက်၊ အစားအစာ ပေါများပါလျက်၊ သူ တစ်ပါးအား ဝေမျှပေးကမ်းခြင်း မပြု။ တစ်ကိုယ်ကောင်းဆန်ဆန် ကိုယ်ချည်းသာ ကျိတ်၍ စားသောက်၏။ ထိုသူ၏ ထိုကဲ့သို့ တစ်ကိုယ်ကောင်းဆန်သော အပြု အမူများကား ပျက်စီးကြောင်းတရား ဖြစ်ပေသည်။

မေး။ ကြားနာ မှတ်သားရပါပြီ ဘုရား။ အို–မြတ်စွာဘုရား၊ သတ္တမမြောက် ပျက်စီးရာပျက်စီးကြောင်း တရားကို မှတ်သား နာယူလိုပါသေး၏။ ၎င်းကား အဘယ်ပါနည်း။ ဆက်၍ ဟောကြားတော်မူပါဦး ဘုရား။

ဖြေ။ အို–နတ်သား၊ အကြင်သူသည် အခြားသူများအပေါ်၌ "ငါနှင့် မတူမတန်"ဟူ၍ ဇာတိမာန်တက်၍ ခက်ထန်၏။ "ငါ့လောက် ပစ္စည်းမရှိ"ဟူ၍

ခနဝဂ္ဂဏ်မောက်၏။ ငါ့အမျိုး၊ ငါ့အနွယ်သာ မြတ်သည်ဟူ၍ အမျိုးမာန် ဝင့်၏။ ယုတ်စွအဆုံး ကိုယ့်မွေးချင်းဖော်၊ ကိုယ်နှင့် သွေးသားတော်စပ်သူများကိုပင်လျှင် အထင်သေး၏။ မထိမဲ့မြင်ပြုမူ ဆက်ဆံ၏။ ထိုသူ၏ ထိုကဲ့သို့သော မာနထောင်လွှားမှု၊ သူတစ်ပါးအား အထင်သေးမှုများသည် ပျက်စီးကြောင်း တရားများပင် ဖြစ်ပေသည်။

မေး။ ကြားနာ မှတ်သားကြရသဖြင့် အထူးနှစ်သိမ့်ဝမ်းမြောက်လှပါကုန်သည် ဘုရား။ အို–မြတ်စွာဘုရား၊ ရှစ်ခုမြောက် ပျက်စီးကြောင်းတရားကား အဘယ်ပါနည်း။ နာခံမှတ်သား လိုပါသေးသည်။ ဆက်၍ ဟောတော်မူပါဦး ဘုရား။

ဖြေ။ အို–နတ်သား၊ အကြင်သူသည် အလွန်အကျွံ မိန်းမလိုက်စား၏။ အလွန်အကျွံ အရက်သေစာ သောက်စား ယစ်မူး၏။ အလောင်းအစား၊ အပျော်အပါး အားကြီး၏။ ရသမျှပစ္စည်းကို တစ်နည်းနည်းဖြင့် ဖြုန်းတီးနေ၏။ ထိုသူ၏ ထိုကဲ့သို့သော အလွန်အကျွံ အပြုအမူမျိုးသည် ပျက်စီးကြောင်း၊ ဆုတ်ယုတ်ကြောင်းပင် ဖြစ်ပေသည်။

မေး။ များစွာ မှတ်သားဖွယ်ပါ ဘုရား။ အို–မြတ်စွာဘုရား၊ ထပ်မံလျှောက်လိုပါသေး၏။ ခွင့်ပြုတော်မူပါ။ ကိုးခုမြောက် ပျက်စီးကြောင်းတရားများ ရှိပါသေးသလော။ ရှိလျှင် ၎င်းကား အဘယ်ပါနည်း။ ဆက်လက်ကြားနာပါရစေပါ ဘုရား။

ဖြေ။ အို–နတ်သား၊ အကြင်သူသည် မိမိမယားနှင့် ရောင့်ရဲခြင်း မရှိဘဲ ပြည့်တန်ဆာမများနှင့် ပျော်ပါး၏။ သူတစ်ပါး၏မယားကို သွားလာလွန်ကျူး၏။ ထိုသူ၏ ထိုကဲ့သို့ ဖောက်ပြန်ကျူးလွန်၍ ကျင့်သောအမူအကျင့်များသည် ပျက်စီး ဆုတ်ယုတ်ခြင်း၏အကြောင်းပင် ဖြစ်ပေသည်။

မေး။ အို–မြတ်စွာဘုရား၊ ကြားနာမှတ်သားကြရပါကုန်ပြီ။ ထပ်မံလျှောက်ထားပါရစေ။ ဆယ်ခုမြောက် ပျက်စီးခြင်း၏အကြောင်းကား အဘယ်ပါနည်း။ ဆက်လက် ဟောကြားတော်မူပါဦး။

ဖြေ။ အို–နတ်သား၊ အကြင်သူသည် ဇရာဒုဗ္ဗလ၊ အိုမင်းမစွမ်းရှိလျက်နှင့် နုပျိုသော သတို့သမီးကို လက်ထပ်၍ ယူ၏။ ယင်းသို့ ဇရာအိုဖြစ်လျက်နှင့် ကညာပျိုနှင့် လက်ထပ်ခြင်းသည် မိမိ၏ ဇနီးအား သူတစ်ပါးနှင့် စိတ်မချခြင်း စသည်တို့က နှိပ်စက်အပ်လာရကား ပျက်စီးခြင်း၏အကြောင်းတရားပင် ဖြစ်ပေသည်။

မေး။ အို–မြတ်စွာဘုရား၊ ကြားနာ မှတ်သားရပါကုန်ပြီ။ ထပ်မံလျှောက်ထားလိုပါသေး၏။ ခွင့်ပြုတော်မူပါ။ ဆယ့်တစ်ခုမြောက် ပျက်စီးခြင်း၏ အကြောင်းတရားကား အဘယ်ပါနည်း။

ဖြေ။ အို–နတ်သား၊ အကြင်သူသည် အဝတ်အစား၌ လော်လီသော မိန်းမ၊ အိမ်ထောင်ထိန်းသိမ်းမှု၊ အုပ်ချုပ်မှုကို နားမလည် မကျွမ်းကျင်သော မိန်းမကိုလည်းကောင်း၊ ထိုနှင့်အလားတူ အုပ်ချုပ်မှု မကျွမ်းကျင်သော ယောကျ်ား မျိုးကိုလည်းကောင်း အကြီးအကဲ "ဘဏ္ဍာစိုး"အဖြစ် လွှဲအပ်ထား၏။ ထိုသူ၏ ထိုကဲ့သို့သော လော်မာသူ၊ အုပ်ချုပ်မှု မကျွမ်းကျင်သောသူများအား တာဝန်ပေး လွှဲအပ်ထားခြင်းသည် ပျက်စီးခြင်း၏ အကြောင်းပင် ဖြစ်ပေသည်။

မေး။ အို–မြတ်စွာဘုရား၊ ဝမ်းမြောက်စွာ နာခံမှတ်သားကြရပါပြီ။ တောင်းပန်ပါရစေ။ ဆယ့်နှစ်ခုမြောက် ပျက်စီးခြင်း၏ အကြောင်းကို ဟောကြားတော် မူပါဦး။ ၎င်းကား အဘယ်ပါနည်း ဘုရား။

ဖြေ။ အို–နတ်သား၊ အကြင်သူသည် ပစ္စည်းဥစ္စာမရှိ၊ ကျောမွဲ လူတန်းစားဖြစ်လျက် တဏှာကြီး၏။ မင်းမျိုး၌ ဖြစ်လို၏။ ဘုရင်အဖြစ် မျှော်မှန်း တောင့်တခြင်းသည် ပျက်စီးခြင်း၏အကြောင်းပင် ဖြစ်ပေသည်။

ထိုအခါ ကိုယ်စားလှယ် နတ်သားက စဉ်းစား၏။ ငါဆက်၍ မေးလျှောက် ခြင်းပြုချေက မြတ်စွာဘုရားသည် ဖြေဆိုတော်မူလေမည်သာ ဖြစ်ပေသည်။ စင်စစ်အားဖြင့် ဖြေဆိုဟောကြားလေသမျှသည် ပျက်စီးကြောင်းသာ ထင်ပြီး ကြီးပွားကြောင်း မထင်။ မေးလျှောက်ခြင်းဖြင့် ဘုရားသခင်အား ပန်းလျအောင် လုပ်ရာ ကျပေမည်။ ငါဆက်၍ မေးလျှောက်ရန် မသင့်တော့ဟူ၍ စဉ်းစားကာ မည်သို့မျှ နောက်ထပ် မလျှောက်တော့ဘဲ ဆိတ်ဆိတ်သာ နေလေ၏။ ထိုအကြောင်း ကို မြတ်စွာဘုရားက သိ၍ နိဂုံးချုပ် မိန့်တော်မူသည်ကား–

အို–နတ်သား၊ အကြင်သူသည် ငါ ဟောကြားအပ်ပြီးသော ပျက်စီးကြောင်း "ပရာဘဝ တရား"တို့ကို ဆင်ခြင်သုံးသပ်၍ လိုက်နာကျင့်သုံးမှုကို ပြု၏။ ထိုသူ သည် အသိဉာဏ်ရင့်သန်ဖွံ့ဖြိုးသူ မည်၏။ မွန်မြတ်သူဖြစ်၏။ အမှန်တရားကို မြင်တတ်သော အသိရှင်၊ ဉာဏ်ရှင် ဖြစ်၏။ မိမိ၏ ဘဝလောကကို ချမ်းသာရာသို့ ပို့ဆောင်ချဉ်းကပ်စေ၏။ ပျက်စီး ဆုတ်ယုတ်ခြင်းမည်သည် မဖြစ်။ ကြီးပွားခြင်း သာလျှင် စင်စစ် ဖြစ်သတည်း။

(သုတ္တနိပါတ် ပါဠိတော်)

---

**(မှတ်ချက်)** နတ်သားက ပျက်စီးကြောင်းတရားကိုသာ မေးမြန်းလျှောက်ထားသည်။ သို့သော် ပျက်စီးကြောင်းရှိက ၎င်း၏ ဆန့်ကျင်ဘက် ကြီးပွားကြောင်းလည်း ရှိကြောင်းကို ပြလို၍ မြတ်ဘုရားက ကြီးပွားကြောင်းပါ ထည့်၍ ဟောတော်မူ၏။

စပယ်ဦးစာပေ

# ဒေါသထွက်ခြင်း အကြောင်းရင်း

**ပြဿနာ = စွဲလမ်း၊ စိတ်ဆိုး၊ ကြွက်သီးထ။**

**မေးလျှောက်သူ = သုစိလောမ ဘီလူး။**

မြတ်စွာဘုရားသည် တဏှာခြောက်လျှင် ကြောက်တော်မူသလော၊ သရဲ၊ သဘက်၊ ရက္ခိုက်ဘီလူးတို့ ခြောက်လျှင် ကြောက်တော်မူသလော၊ ထို တဏှာ၊ သရဲ၊ သဘက် စသော နာနာဘာဝ အကောင်းမျိုးတို့သည် မြတ်ဘုရားအား ခြောက်နိုင်ကြကုန်သလောဟု မေးဖွယ်ရှိပေသည်။

အဖြေမှာ မြတ်ဘုရားအား သရဲ၊ တဏှာ စသည်တို့သည် ခြောက်နိုင်ကုန်၏။ ဘုရားသခင်ကိုယ်တော်တိုင် ဘီလူး၏ ခြောက်လှန့်ခြင်းကို ခံခဲ့ရဖူးလေသည်။

ထိုစကား မှန်ပါသည်။ မဇ္ဈိမဒေသ၊ အိန္ဒိယနိုင်ငံ၊ မဟာဗောဓိပင်အနီး၌ ဂယာ အမည်ရှိသော ရွာကြီးတစ်ရွာရှိ၏။ ရွာဆိုသော်လည်း မြို့တမျှပင် စည်ကား ဝေဆာ အလွန်သာယာသော ရွာကြီးဖြစ်လေသည်။

ရွာတံခါးအထွက် ရွာပြင်ဘက်၌ တစ်ရွာလုံးက စွန့်ပစ်ထားသော အမှိုက်ပုံကြီး ရှိ၏။ ခွေးသေကောင်ပုပ် စသော ရွံစဖွယ် အနိဋ္ဌာရုံတို့ စုပုံရာဖြစ်သော ကြောင့် ယင်တလှောင်းလှောင်း၊ အပုပ်နံ့တွေ တထောင်းထောင်းနံစော်လွန်းရကား ထိုအမှိုက်ပုံနားသို့ ရောက်သောအခါ လူတို့သည် နှာခေါင်းကို ပိတ်၍ သွားကြရကုန်၏။

ထိုအမှိုက်ပုံကြီး၌ ကြီးစွာသော သစ်ပင်ကြီးတစ်ပင် ရှိ၏။ ထိုသစ်ပင်ကို ဗိမာန်ပြု၍ သုစိလောမ၊ ခရလောမ အမည်ရသော ဘီလူးနှစ်ယောက် နေထိုင်ကြလေသည်။ ထိုဘီလူးနှစ်ယောက်ကား ချစ်စွာသော သူငယ်ချင်းများ ဖြစ်ကြ၏။ အပ်သွားကဲ့သို့ ချွန်ထက်သော အမွေးများ တစ်ကိုယ်လုံး ပေါက်ရောက်နေသည်ကို အစွဲပြု၍ တစ်ယောက်သော ဘီလူး၏ အမည်မှာ သုစိလောမဟု တွင်၏။

တစ်ယောက်မှုကား ဖွတ်ကျောကုန်း၊ မိကျောင်းကျောကုန်းအလား ကြမ်းခက်ထရော်သော အမွေးရှိသောကြောင့် ခရလောမဟု တွင်သတည်း။

တစ်ခါသ၌ မြတ်စွာဘုရားသည် ထိုဘီလူးများ နေထိုင်ရာ အမှိုက်ပုံသို့ ကြွ၍ ယင်တလှောင်းလှောင်း မြင်မကောင်းအောင် အမှိုက်ပုံထက်၌ ထိုင်တော်မူလာသည်ကို ခရလောမ ဘီလူးမြင်၍ သူငယ်ချင်း သုစိလောမ ဘီလူးကို လက်ညှိုးထိုး၍ ပြောပြ၏။

"သူငယ်ချင်း၊ ဟိုမှာ ရဟန်းတစ်ပါး၊ လှက လှပါဘိသနဲ့။ သင့်ဗိမာန်ပေါ်မှာ လာထိုင်နေချေသည်၊ သင် မမြင်သလော"

"ဩ-ဟုတ်ပေစွ သူငယ်ချင်း၊ ဤရဟန်းကား ရဟန်းတု ရဟန်းယောင်တကား။ ငါတို့၏ တန်ခိုးစွမ်းအားကို မသိရှာ၍သာ ဝင်လာခြင်း ဖြစ်ဘိ၏။ သိအောင် ငါ အစွမ်းပြလိုက်အံ့"

ထိုသို့ပြောပြီးနောက် သုစိလောမ ဘီလူးသည် ဘုရားကို ကြောက်အောင် အမျိုးမျိုးအဖုံဖုံ ခြောက်ပြလေ၏။ သစ်ပင်တမျှ ကြီးမားသော ခန္ဓာကိုယ်ကြီးကို ဖန်ဆင်း၍ ခြောက်သည်။ စားတော့ ဝါးတော့မယောင် ပါးစပ်ကြီးကို တဟဟ လုပ်ပြသည်။ သပိတ်လုံးခန့်ရှိသော မျက်လုံးကြီးဖြင့် ပြူးပြဲပြဲလုပ်ပြ၍ လှန့်သည်။ လျှာကြီးကို အလိပ်လိုက် အောက်သို့ထုတ်ချ၍ တရှူရှူ လုပ်ပြသည်။ အစူးထက်စွာ အမွေးရှိသော ကိုယ်လုံးကြီးဖြင့် ဘုရားသခင်အား ပစ်တိုက်လိုက်မာန်ပြသည်။ ဤသို့စသည်ဖြင့် ကြောက်လောက်အောင် အမျိုးမျိုးခြောက်ပြသော်လည်း အနည်းငယ်မျှ တုန်လှုပ်ခြင်းမရှိသည် အဆုံး၌ ဘုရားအနားသို့ ချဉ်းကပ်၍ မေးလေ၏။

မေး။ အို-ရဟန်း၊ သင် ငါ့ကို မကြောက်သလော။

ဖြေ။ အချင်း သုစိလောမ၊ ငါကား သင့်ကို မကြောက်။ သင်၏ ကိုယ် အတွေ့သည် အလွန်လျှင် ကြမ်းတမ်းယုတ်မာလှစွာ၏။ စက်ဆုပ်ဖွယ်စွာသော မစင်ပုပ်ကဲ့သို့လည်းကောင်း၊ ထက်စွာသော သံဆူးကဲ့သို့လည်းကောင်း ဖြစ်၍ ငါ၏ နူးညံ့လှစွာသော ကိုယ်ဖြင့် တွေ့ထိခြင်းမှာ မလျှောက်ပတ်သောကြောင့် ငါ ရှားတော်မူသည်။

ယင်းသို့ မိန့်တော်မူလိုက်သောအခါ ငါ့အား ဤသို့ ဆိုရာသလော ဟူ၍ ဘီလူးသည် ပြင်းစွာ အမျက်ထွက်လာပြီး ဆွဆွဖြူသော မျက်နှာ၊ နက်ကြုတ်စွာသော ကိုယ်၊ စိမ်းညိုသော ခြေလက်၊ ပြူးပြူးထွက်သော မျက်လုံး၊ မီးပုံးကြီးကဲ့သို့သော သွား၊ ရှည်လျားစွာသော လျှာတို့ဖြင့် ကြောက်မက်ဖွယ်ရာသော ကိုယ်ကြီးကို ဖန်ဆင်းလျက် တစ်ဖန်ခြောက်ပြန်၏။ စားဝါးတော့ မယောင်၊ ကိုယ်တစ်ခေါင်းဖြင့် ပစ်တိုက်လိုက်တော့မယောင် လုပ်ပြ၏။ မြတ်စွာဘုရားကား

မတုန်လှုပ်။ ဘီလူးလုပ်ပြလေသမျှ၊ ခြောက်ပြလေသမျှကို ပြုံး၍သာ ကြည့်တော်မူနေ၏။

ဤနည်းအားဖြင့် ခြောက်၍ မရလေသောအခါ ဘီလူးသည် မိမိ၏တန်ခိုးအရှိန်ကို ပြန်၍ ရုပ်သိမ်းလိုက်ရပြီးလျှင် ဘုရားအပါးသို့ ချဉ်းကပ်၍ စကားဆိုလာပြန်၏။

"အို–ရှင်ရဟန်း၊ သင်ကား တည်တံ့ပေစွ။ ရင့်ကျက်သော ဣန္ဒြေတော်လည်းရှိပေစွ။ ထို့ကြောင့် ငါထင်၏။ သင်၏သန္တာန်၌ သတိပညာများစွာတို့သည် အစိုင်အခဲဖြစ်၍ တည်နေကိန်းဝပ်လျက် ရှိနေလိမ့်မည်ဟု ငါတွေးမိ၏။ ငါ၏အထင်နှင့်အမြင် မှန်မမှန်၊ ကိုက်၏ မကိုက်၏ ထင်ရှားစိမ့်သောငှာ သင့်ကို ပုစ္ဆာတစ်ခု ထုတ်မေး၍ ငါ စူးစမ်းလိုပေသည်။ အကယ်၍ ငါမေးသည်ကို သင် မဖြေဆိုနိုင်ခဲ့သော် သင့်စိတ်ကို လက်ဝါးထဲထည့်၍ ဖျစ်ညှစ်ချေမွပစ်အံ့။ သင့်နှလုံးသားကို ငါခွဲပစ်အံ့။ သို့မဟုတ် သင့်ခြေနှစ်ချောင်းကို ကိုင်၍ သမုဒ္ဒရာထဲကိုသော်လည်း ငါ ပစ်ချလိုက်အံ့"

"အို–သုစိလောမ၊ သင့်လို ဘီလူးမျှကို မဆိုထားဘိ၊ သုံးဆယ့်တစ်ဘုံအတွင်း မိုတင်းနေထိုင်ကြသော နဂါး၊ ဂဠုန်၊ ဂုမ္ဘဏ်၊ ရက္ခိုက်၊ သိကြား၊ ဗြဟ္မာ၊ အသူရာတို့တွင် ငါ့စိတ်နှလုံးကို ချေမှုန်းခြင်းငှာ စွမ်းနိုင်သသူ တစ်လူ တစ်ယောက်ကိုမျှ ငါမမြင်။ သို့ရာတွင် အို–သုစိလောမ၊ သင် မေးလိုသော ပြဿနာကို မေးနိုင်ပေသည်။ ငါဖြေရန် အသင့်ရှိ၏"

မြတ်စွာဘုရားသည် သုစိလောမ ဘီလူး၏ မေးခွန်းကို လက်ခံတော်မူလိုက်၏။ ထိုအခါ ဘီလူးက ရုတ်ခြည်းပင် ဘုရားအား မေးခွန်းထုတ်လိုက်လေပြီ။

မေး။ အို–ရဟာန်း၊ ငါ့ကိုယ်ခန္ဓာအစဉ်၌ ရာဂသည်လည်းကောင်း၊ ဒေါသသည်လည်းကောင်း ဖြစ်နေ၏။ ထိုသို့ဖြစ်ခြင်းကား အဘယ်အကြောင်းကြောင့်ပါနည်း။

ဖြေ။ အို–သုစိလောမ ဘီလူး၊ သင်တို့သန္တာန်၌ ရာဂ၊ ဒေါသတို့ဖြစ်နေခြင်းကား အခြားသော အကြောင်းကြောင့် မဟုတ်။ ဤခန္ဓာကိုယ် အတ္တဘောတည်းဟူသော အကြောင်းကြောင့်သာလျှင် ဖြစ်၏။ အတ္တဘောမရှိက ရာဂလည်း မဖြစ်။ ဒေါသလည်း မဖြစ်လေ။

မေး။ အို–ရဟာန်း၊ ငါတို့ခန္ဓာအစဉ်၌ မမွေ့လျော်ခြင်းသည်လည်းကောင်း၊ မွေ့လျော်ခြင်းသည်လည်းကောင်း ဖြစ်ရ၏။ ထိုသို့ဖြစ်ရခြင်း၏

အကြောင်းကား အဘယ်ပါနည်း။ အဘယ်မည်သော အကြောင်းကြောင့် မွေ့လျော်ခြင်း၊ မမွေ့လျော်ခြင်းတို့ ဖြစ်ရပါကုန်သနည်း။

ဖြေ။ အို-သုစိလောမ ဘီလူး၊ ဤသို့မွေ့လျော်ခြင်း၊ မမွေ့လျော်ခြင်းတို့ ဖြစ်ကြရသည်မှာလည်း အခြားကြောင့် မဟုတ်ကုန်။ သင်တို့၌ ဤခန္ဓာကိုယ် အတ္တဘော မရှိမူကား အဘယ်မည်သော မွေ့လျော်ခြင်း၊ မမွေ့လျော်ခြင်းမှ ဖြစ်လာမည်မဟုတ်။

မေး။ အို-ရဟန်း၊ ကြောက်ဖွယ် အာရုံနှင့် ကြုံကြိုက်လာသောအခါ ကြက်သီးမွေးညှင်းထခြင်းတို့သည် ဖြစ်လာကုန်၏။ အဘယ်မည်သော အကြောင်းကြောင့် ကြက်သီးမွေးညှင်းထခြင်းများ ဖြစ်လာပါကုန်သနည်း။

ဖြေ။ အို-ဘီလူး၊ ကြက်သီးမွေးညှင်း ထခြင်းသည်လည်း အတ္တဘောမှ တစ်ပါး အခြားအကြောင်း မရှိ။ အတ္တဘောရှိသောကြောင့်သာ အတ္တဘောကို မှီတွယ်၍ ကြက်သီးထခြင်းတို့ဖြစ်ကုန်သတည်း။

မေး။ အို-ရဟန်း၊ ကလေးသူငယ်တို့သည် ကျီးငှက်တစ်ကောင်ကို ဖမ်းယူကြပြီး ကြိုးရှည်ရှည်ဖြင့် ချည်နှောင်၍ စွန့်ထားကြကုန်၏။ ဤအတူ ထွေထူးဆန်းပြားစွာသော ဝိတက်တရားတို့သည် အဘယ်တရားမှ အကြောင်းရှိသောကြောင့် ကုသိုလ်စိတ်ကို စွန့်ခွာဘိကုန်သနည်း။

ဖြေ။ အို-ဘီလူး၊ ကာမဂုဏ်၌ စိတ်ကူးယဉ်ပါးမှု=ကာမဝိတက်၊ စိုးရိမ်ကြောင့်ကြဖွယ်ကို တွေးခေါ်မှု=ဗျာပါဒဝိတက်၊ ညှဉ်းဆဲသတ်ပုတ်ရန် ကြံစည်မှု = ဝိဟိံသဝိတက် တည်းဟူသော ဝိတက်တရား သုံးပါးတို့သည်လည်း ဤခန္ဓာကိုယ်တည်းဟူသော အတ္တဘောရှိနေခြင်းကြောင့်သာလျှင် ကုသိုလ်စိတ်ကို စွန့်လွှတ်ကြကုန်၏။

အို-သုစိလောမ ဘီလူး၊ နာလော့။ သင် နားလည်စေခြင်းငှာ အကျယ်ပွား၍ ငါ ဟောကြားပေဦးအံ့။ အို-ဘီလူး၊ ဤစွဲလမ်းခြင်းဟူသော ရာဂ၊ အမျက်ထွက် စိတ်ဆိုးခြင်းဟူသော ဒေါသ၊ မွေ့လျော်ခြင်းဟူသော ရတိ၊ မပျော်ခြင်းဟူသော အရတိ၊ ကြက်သီးမွေးညှင်းထခြင်းဟူသော လောမဟံသန၊ တွေးကြံခြင်းတည်း ဟူသော ဝိတက်တရားတို့ကား တဏှာဟူသော အစေးအညှိကြောင့် ဖြစ်ကုန်၏။ ပမာဆိုသော် သစ်မြစ်တို့သည် ညောင်ပင်ကြီးကို ပွားစီးစေကြကုန်ဘိသကဲ့သို့ ထို့အတူ အတ္တဘောကို စွဲ၍သာလျှင် ထိုရာဂ စသည်တို့သည် ပွားစီးခြင်းဖြစ်ကုန်၏။ ပင်စည်အခက်၊ အောက် ထက် လွှမ်းအုပ် မြွေးယှက်ချုပ်သော မာလောနွယ်ကဲ့သို့ ကိလေသာတို့သည် ကာမဝတ္ထုတို့၌ အရှုပ်ရှုပ်အထွေးထွေး၊ မြွေးယှက် လွှမ်းမိုးကုန်၏။

အို–ဘိလူး၊ သင် နားထောင်လေဦး။ အကြင် ပညာရှိသောသူတို့သည် အတ္တဘောတည်းဟူသော အကြောင်းရင်းရှိသော ထိုရာဂ အစရှိသော ဒုက္ခသစ္စာကို သိကြကုန်၏။ ထိုသူတို့ကား ထိုဒုက္ခဖြစ်ခြင်း၏ အကြောင်း ရေသောက်မြစ်ဖြစ်သော သမုဒယသစ္စာကို ဖျောက်ပယ်ကြကုန်၏။ သမုဒယကို ပယ်ပြီးသော ထိုသူတို့သည် ကူးရန် အလွန်ခက်လှစွာသော၊ တစ်ခါတစ်ခေါက်မျှ မကူးမြောက်ဖူးသေးသော သံသရာဩဃကို ကူးမြောက်ကြရကုန်၏။ တစ်ဖန် ဘဝသစ်၌ ဖြစ်ခြင်းမည်သည် မရှိတော့ချေ။

သုစိလောမ၊ ခရလောမ ဘီလူးနှစ်ယောက်တို့သည် ဤတရားကို ကြားနာရပြီးသည့် အဆုံး၌ မာန်ချ၍ ဗုဒ္ဓ၏ ဩဝါဒကို ခံယူကြလေကုန်၏။ ထိုအခါ အစွယ်တွေ ကျွတ်၍ ကြမ်းတမ်းသော အမွေးတို့ ပျောက်ကွယ်ကာ ဘုမ္မစိုးနတ်များ ဖြစ်လာကြလေသတည်း။

(သစ္စနိပါတ်၊ သဂါထာဝဂ္ဂသံယုတ် ပါဠိတော်။ ယက္ခသုတ်)

# အရှင်မောဂ္ဂလာန်၏ တန်ခိုးတော်

ပြဿနာ = အတော်ပြဿနာ ဖြေရှင်းရေး။

မေးလျှောက်သူ = အရှင်မောဂ္ဂလာန်။

ဘုရား၊ ရဟန္တာ၊ သံဃာတော်များသည် ပရူပဇီဝိ သူတစ်ပါးကို မှီ၍ အသက်မွေးကြရသူများ ဖြစ်သောကြောင့် ဆွမ်းဒါယကာတို့ ငတ်လျှင် သံဃာတော်များလည်း ငတ်လေတော့သည်။

သုံးလူ့ထွတ်ထား သဗ္ဗညုမြတ်စွာဘုရား ကိုယ်တော်သည်ပင်လျှင် ဒုဗ္ဘိက္ခန္တရကပ် အငတ်ပြဿနာနှင့် ရင်ဆိုင်တော်မူခဲ့ရဖူး၏။

ဝေရဉ္စာပြည်၌ ဖြစ်၏။ သံဃာတော် ငါးရာနှင့် ဝါကပ်လာတော်မူသော နှစ်တွင်မှ ဝေရဉ္စာပြည်၌ မကြုံစဖူး ထူးထူးခြားခြား မိုးခေါင်ရေရှားကာ အငတ်ပြဿနာ ကပ်ဆိုးကြီး ဆိုက်ရောက်လာသောကြောင့် လူတို့သည် အတိဒုက္ခရောက်ကုန်လေ၏။ သံဃာတော်များလည်း ဆွမ်းခံ၍မရ ဖြစ်ကုန်လေ၏။

ကံအားလျော်စွာ ဘုရားသခင်နှင့် သံဃာတော်များ ဝါကပ်တော်မူသော ကျောင်းတိုက်ကြီးအနီးသို့ မြင်းကုန်သည် ငါးရာတို့ ရောက်လာကြသည်။ သစ်ခက်တဲထိုး၍ စတည်းချလာကြလေရာ သံဃာတော်များသည် ဝေရဉ္စာမြို့တွင်း၌ ဆွမ်းခံ၍ မရကြသဖြင့် အဆိုပါ မြင်းတဲသို့ ဝင်၍ ဆွမ်းခံကြသောအခါ မြင်းကုန်သည်တို့သည် လှူစရာ အထူးမရှိသဖြင့် မြင်းစာအလို့ငှာ ယူဆောင်ခဲ့ကြကုန်သော မုယောဆန်ကြမ်းများကို သံဃာတစ်ပါးလျှင် တစ်စလယ်စီ လှူဒါန်းလိုက်ကြကုန်၏။

သံဃာတို့သည် ထိုဆန်ကြမ်းကို ဆုံငယ်တွင် ထည့်ကာ ထောင်း၍ စားနေကြရရှာသည်။ အရှင်အာနန္ဒာသည် ဘုရားသခင်အတွက် ဝေပုံကျရရှိသော ဆန်ကြမ်းတစ်စလယ်ကို ကျောက်ပြင်တွင် ကြိတ်၍ ချက်ပြီးလျှင် ဘုရားသခင်အား ဆက်ကပ်လှူဒါန်းရှာသည်။

ထိုသံဃာ ပရိသတ်ထဲ၌ တန်ခိုးကြီးသော အရာတွင် ပြိုင်ဘက်ကင်းပ "တေဒဂ် ဘွဲ့ထူးကြီး"ကို ရရှိထားသော အရှင်မောဂ္ဂလာန်ကိုယ်တော်လည်း ပါလာသည်။

အရှင်မောဂ္ဂလာန်သည် ဘုရားသခင်နှင့်တကွ သံဃာတော်အားလုံး ဆွမ်းအတွက် အခက်အခဲကြုံပြီး ငတ်ပြတ် နေတော်မူရှာပုံကို မြင်ရသောအခါ များစွာ စိတ်နှလုံး ထိခိုက်တော်မူလာဟန် တူပေ၏။ "ငါသို့သော တပည့်ကောင်း တစ်ယောက် ရှိပါလျက်နှင့် မြတ်ဘုရား အမှူးရှိသော သံဃာတော်များ အစားအတွက် သို့စင်မျှလောက် ဒုက္ခရောက်ခြင်းငှာ မသင့်။ ငါ့တန်ခိုးဖြင့် ငါရှာကျွေးအံ့" ဤသို့ကြံပြီးလျှင် မြတ်စွာဘုရားအား ဤသို့ ခွင့်ပန်လျှောက်ထားလေသည်။

"ဘုန်းတော်ကြီးလှသော မြတ်စွာဘုရား၊ ဤဝေရဉ္ဇာပြည်သားတို့ကား ရှားပါးငတ်မွတ်ခြင်း ပြင်းပြလှပါကုန်သည်။ သေရအံ့လော၊ ရှင်ရအံ့လောဟု တွေးတောခြင်း နှလုံးဖြင့် ယူကြုံးမရဖြစ်နေကြပါသည်။ အရိုးဖွေးဖွေးမျှ သေကြေ ပျက်စီးလျက် ရှိနေကြပါကုန်သည်။ သံဃာတော်တို့လည်း ဆွမ်းအတွက် လွန်စွာ ပင်ပန်းလျက် ရှိနေကြပါကုန်သည်။ ဤသို့ မရှုမလှ အတိဒုက္ခရောက်နေကြ သည်ကို အကြောင်းပြု၍ တပည့်တော်၌ အကြံတစ်ခုဖြစ်ပေါ်လာပါ၏။ ထိုအကြံမှာ ဤမဟာပထဝီမြေကြီးအောက်၊ ကျောက်မြေ၏ အထက်၌ ပျားလဘို့ပမာ ဃနာ စိုင်အသွင် သန့်ရှင်းကောင်းမြတ်စွာ အရသာနှင့်ပြည့်စုံသော မြေဆီမြေလွှာ မြေဩဇာများ ရှိပါ၏။ ထိုမြေလွှာကို ယူ၍ လူ၊ ရဟန်းတို့အား ကျွေးမွေးရပါမူ ချမ်းသာကြရာပါသည်။ အကယ်၍ တပည့်တော်အား ခွင့်ပြုတော်မူပါက မဟာ ပထဝီအောက်မှ မြေဆီမြေလွှာကို ခွာယူ၍ သံဃာတော်များအား တပည့်တော် ကျွေးမွေးပါရစေ၊ ခွင့်ပြုတော်မူပါ ဘုရား"

မေး။ ချစ်သား မောဂ္ဂလာန်၊ များစွာကုန်သော သတ္တဝါတို့သည် ဤမဟာ ပထဝီမြေကြီးကို မှီတွယ်၍ နေကြကုန်၏။ ထိုသတ္တဝါတို့ကို သင် အဘယ်သို့ ပြုမည်နည်း။

ဖြေ။ အရှင်ဘုရား၊ ဤအရေးကား မခက်ခဲပါ။ အကျွန်ုပ်၏ လက်ဝါး တစ်ဖက်ကို ဤကျွန်းမြေထက် ကျယ်သော မြေအပြင်ဖန်ဆင်း၍ သတ္တဝါတို့ကို ထိုလက်ဝါးထဲ ထည့်ပါမည်။ တစ်ဖက်သော လက်ဖြင့် မြေကြီးကို လှန်၍ မြေဆီ မြေလွှာ မြေဩဇာများကို ယူပါအံ့ ဘုရား။

"အို–ချစ်သား မော်ဂ္ဂလာန်၊ သင့်အကြံအတိုင်း မြေကြီးကို လှန်၍ ယူနိုင်စွမ်း ရှိသည်ကို ငါယုံကြည်တော်မူ၏။ သို့သော် ဤအမှုကို သင် မပြုလေနှင့် ချစ်သား။ အဘယ်ကြောင့်ဆိုသော် ဤ ဒုဗ္ဘိက္ခန္တရကပ် ငတ်မွတ်ခြင်းဘေး

မည်သည်ကား ဤခေတ် ဤအခါ၌သာ ဖြစ်မည်မဟုတ်။ နောက်နောင်ကာလတို့၌လည်း ဖြစ်ပေလတ္တံ့။ ထိုသို့ဖြစ်လာသောအခါ ငါ၏ သာသနာတော်၌ ဘုန်းသမ္ဘာနည်းကုန်သော ရဟန်းတို့သည် မြေလွှာကို မယူစွမ်းနိုင်သဖြင့် ပန်းလျကြလေကုန်သော ထိုထိုလူအပေါင်းတို့သည် "ရှေးသူတော်ကောင်းဖြစ်သော ရဟန်းမြတ်တို့ ရှိသောအခါ ဤသို့ ငတ်မွတ်သောအရပ်၌ မြေလွှာကိုယူ၍ သုံးဆောင်ကြကုန်၏။ ယခုမူကား သူတော်ကောင်း ရဟန်းစစ်တို့ မရှိလေ၍ မိမိတို့တွင် မွတ်သိပ်ခြင်း ဒုက္ခကို ခံကြရကုန်သည်" ဟု ကြည်ညိုခြင်း ပျက်စီးဘိရာ၏။ ထို့ကြောင့် မြေကိုလှန်၍ မြေဆီမြေလွှာကို ယူခြင်းကို သင် အလိုမရှိလေနှင့်"

"အရှင်ဘုရား၊ ဤသို့ မြေလှန်၍ မြေဆီမြေလွှာကိုယူ၍ ကျွေးမွေးခြင်း ခွင့်ပြုတော်မမူပါလျှင် သံဃာတော်များအား မြောက်ကျွန်းသို့ ဆွမ်းခံကြွရန် ခွင့်ပြုတော်မူပါ ဘုရား"

မေး။ ချစ်သား မောဂ္ဂလာန်၊ မြောက်ကျွန်းသို့ သံဃာတော်များ အဘယ်သို့ သွားကြမည်နည်း။

ဖြေ။ အရှင်ဘုရား၊ သီတာခုနစ်တန်၊ သတ္တရဘန် ခုနစ်ထပ်၊ ရံချပ်ကာတည်သော မြင့်မိုရ်တောင်မင်းကို ဖောက်၍ သမုဒ္ဒရာထုတ်ချောက်ဖြင့် တစ်လျှောက်တည်း တပည့်တော် တံတားသွယ်ပါမည်။ သံဃာတော်များသည် ထိုတံတားမှ သွားကြပါလတ္တံ့။ ဤအမှုကို ခွင့်ပြုတော်မူပါ ဘုရား။

အို-ချစ်သား မောဂ္ဂလာန်၊ သင့်စွမ်းအင်ကို ငါယုံကြည်တော်မူပေ၏။ သို့သော် ဤအကြံအစည်ကိုလည်း သင် အလိုမရှိလေလင့်။ ထိုထိုသတ္တဝါသန္တာန်၌ ဤကား ငါတို့နေရာ ဟုတ်လေသလော၊ မဟုတ်လေသလောဟူ၍ ဖောက်ပြန်သော ဝိပလ္လာသတရားများ ဖြစ်ပွားလာကုန်လတ္တံ့။ ဤမျှသော ဆင်းရဲကို အညီးခံကြလေဟု တားမြစ်တော်မူသဖြင့် အရှင်မောဂ္ဂလာန်မှာ တန်ခိုးပြခွင့် မရဘဲ ရှိလေ၏။

(ဝိနယပိဋက၊ ပါရာဇိကဏ်ပါဠိတော်၊ ဝေရဉ္ဇကဏ္ဍ)

# ရဟန္တာစုတေသော်

**ပြဿနာ = မေဟာဘိက္ခုနီမ ကေားနှင့် ညီ မညီ။**

**မေးလျှောက်သူ = ကောသလမင်း။**

ဘုရားရဟန္တာပုဂ္ဂိုလ်များ စုတေလျှင် နိဗ္ဗာန်ရောက်သည်ဟု ပြောလေ့၊ ဆိုလေ့ရှိကြသည်။ ထိုနိဗ္ဗာန်ကား အဘယ်သို့နည်း။ ပျော်စရာ ကောင်းသလော။ နတ်ဘုံ၊ ဗြဟ္မာဘုံများနှင့် တူသလော။ နိဗ္ဗာန်၌ မည်သည့်အရာတွေ ရှိသနည်းဟု မေးမြန်းတတ်ကြ၏။

မေးစရာဖြစ်၍ မေးထိုက်သော သိစရာဖြစ်၍ သိထိုက်သော အကြောင်းအရာဖြစ်သောကြောင့် မေးသူအား အပြစ်မဆိုသာချေ။ သိလျှင် သိလျောက်၊ မသိလျှင် မသိလျောက် ပြေပြေလည်လည် ပြောဖို့သာ ရှိပေ၏။

ထိုပြဿနာနှင့်ပတ်သက်၍ ကောသလမင်းကြီးက ဘုရားသခင်အား မေးလျှောက်ခဲ့ဖူးပေသည်။ ထိုအမေးကို ဘုရားသခင်ကလည်း ဖြေကြားတော်မူခဲ့ပေသည်။ ယင်းအမေးအဖြေမှာ ဘာသာစွဲ၊ အယူဝါဒစွဲနှင့် ပတ်သက်၍ များစွာမှတ်သားဖွယ်ကောင်းလှ၏။

တစ်ခါသ၌ ပသေနဒီ ကောသလမင်းသည် မြတ်စွာဘုရားထံ ချဉ်းကပ်၍ ဤသို့ နားတော်လျှောက်လေ၏။

မေး။ အရှင်ဘုရား၊ ရဟန္တာဖြစ်သောသူသည် သေသည်မှ နောက်၌ ဖင်စစ်ဖြစ်ပါသေးသလော။

ဖြေ။ မင်းကြီး၊ "ရဟန္တာပုဂ္ဂိုလ် သေပြီးသည့်နောက် ဖြစ်သေး၏" ဟူသော စကားကို ငါဟောကြားတော်မမူ။

မေး။ မြတ်စွာဘုရား၊ ထိုသို့ ဟောကြားတော်မမူပါလျှင် ရဟန္တာပုဂ္ဂိုလ်သည် သေသည်၏နောက်၌ မဖြစ်ပါဘဲ အမြဲပျောက်၍ သွားပါသလား ဘုရား။

ဖြေ။ မင်းကြီး၊ ဤရဟန္တာပုဂ္ဂိုလ် သေပြီးသည့်နောက်၌ ပျောက်၍သွားလေပြီ၊ မဖြစ်ဟူသော စကားကိုလည်း ငါ ဟောကြားတော်မမူ။

မေး။ ရွှေဘုန်းတော်သခင် ထိပ်ခေါင်တင်ဘုရား၊ ယင်းသို့မဟုတ်ပြန်ခဲ့ပါလျှင် ရဟန္တာပုဂ္ဂိုလ်သည် သေသည်မှ နောက်၌ အချို့လည်း ဖြစ်သေး၏။ အချို့လည်း မဖြစ်ဟူ၍ မှတ်ရပါမည်လော။

ဖြေ။ ဒကာတော် မင်းမြတ်၊ ဤရဟန္တာပုဂ္ဂိုလ်သေပြီးသည့်နောက် အချို့လည်း ဖြစ်၏။ အချို့လည်း မဖြစ်ဟူသော စကားကိုလည်း ငါ ဟောကြားတော် မမူ။

မေး။ ဘုန်းတော်ကြီးလှသော မြတ်စွာဘုရား၊ ထိုသို့ဟောကြားတော်မမူခဲ့ပါလျှင် ရဟန္တာဖြစ်သော ပုဂ္ဂိုလ်သည် သေပြီးသည့်နောက်၌ ဖြစ်သေးသည်လည်း မဟုတ်၊ မဖြစ်သေးသည်လည်း မဟုတ်ဟု မှတ်ရပါမည်လော။

ဖြေ။ မြတ်သောမင်းကြီး၊ ဤရဟန္တာပုဂ္ဂိုလ်သည် သေပြီးသည့်နောက် ဖြစ်သေးသည်လည်း မဟုတ်၊ မဖြစ်သေးသည်လည်း မဟုတ်ဟူသော စကားကိုလည်း ငါ ဟောကြားတော်မမူ။

မေး။ ဘုန်းတော်ကြီးလှသော မြတ်စွာဘုရား၊ ရဟန္တာပုဂ္ဂိုလ် သေပြီးသည့်နောက် ဖြစ်ပါသေးသလောဟူ၍ တပည့်တော် မေးလျှောက်ပါသည်ရှိသော် ငါ ထိုသို့ မဟောဟူ၍ မိန့်တော်မူပါသည်။

တစ်ဖန် တပည့်တော်က ထိုသို့ဟောကြားတော်မမူပါလျှင် ထိုရဟန္တာပုဂ္ဂိုလ်သည် သေသည်မှ နောက်၌ မဖြစ်ပါဘဲ အမြဲပျောက်သွားပါသလောဟု မေးလျှောက်ပြန်သောအခါ၌လည်း ငါ ထိုသို့ မဟောဟူ၍ မိန့်တော်မူပြန်ပါသည်။

တစ်ဖန် ထိုသို့မဟုတ်လျှင် သေပြီးသည့်နောက် အချို့လည်းဖြစ်သေး၏။ အချို့လည်း မဖြစ်တော့ဟု မှတ်ရမည်လောဟု တပည့်တော် မေးလျှောက်ရာတွင်လည်း ငါ ထိုသို့ မဟောဟု မိန့်တော်မူပြန်ပါသည်။

တစ်ဖန် တပည့်တော်က "ထိုသို့ မဟောပါလျှင် ထိုရဟန္တာသည် သေပြီး သည့်နောက် ဖြစ်သည်လည်း မဟုတ်၊ မဖြစ်သည်လည်း မဟုတ်"ဟု မှတ်ရပါ မည်လောဟူ၍ မေးလျှောက်သောအခါ၌လည်း ငါ ထိုသို့မဟောဟူ၍ပင် မိန့်ကြားတော်မူခဲ့ပါသည်။

ဘုန်းတော်သခင် အရှင်မြတ်စွာဘုရား၊ တပည့်တော်မေးလျှောက်သော ထိုပြဿနာလေးရပ်ကို အကြင်အကြောင်းကြောင့် ဖြေကြားတော်မမူအပ်၊ ထို အကြောင်းကား အဘယ်ပါနည်း ဘုရား။ အကြောင်းတစ်ခုခု ရှိတန်ရာပါသည်။ ထိုအကြောင်းကို မြွက်ကြားတော်မူပါ ဘုရား။

မေး။ မြတ်သောမင်းကြီး၊ ထိုသို့ သင်ဆိုခဲ့သော် ငါ မဖြေကြားမီ သင့် ကိုပင် ငါ ပြန်မေးဦးအံ့။ သင့်စိတ်၌ နှစ်ခြိုက်သလိုသာ သင်ဖြေပါလေ။ မင်းကြီး၊ ငါ မေးမည့်စကားကို သင် ဘယ်လိုထင်သနည်း။ အသို့အောက်မေ့သနည်း။ အသင်မင်းကြီးအား တစ်စုံတစ်ယောက်သော ပှူးရားကိုးကြောင်း အပေါင်းဂဏန်းတတ်သသူ၊ လက်ချိုး၍ ရေတွက်သသူရှိသည် မဟုတ်ပါလော။ ဂဏန်းအတတ်၌ တစ်ဖက်ကမ်းခပ်တတ်မြောက် ကျွမ်းကျင်လှသော ထိုလူများသည် ဂင်္ဂါမြစ်ထဲတွင် ရှိသော သဲလုံးများကို မည်၍မည်မျှ ရှိသည်ဟူ၍ ရေတွက်ခြင်းငှာ စွမ်းနိုင်ပါမည်လော။

ဖြေ။ မစွမ်းနိုင်ပါ ဘုရား။

မေး။ မင်းကြီး၊ သင် မင်းကြီးအား ဂဏန်းအတတ်ကျွမ်းကျင်သူ၊ လက်ချိုးရေတွက်သသူ၊ သချ်ာတတ်မြောက်သူများ ရှိမည် မဟုတ်ပါလော။ ထိုသူများသည် သမုဒ္ဒရာရေများကို စလယ်၊ ခွက်၊ ပြည်၊ တင်းအားဖြင့် မည်၍ မည်မျှ ရှိသည်ဟူ၍ ရေတွက်ခြင်းငှာ စွမ်းနိုင်ပါမည်လော။

ဖြေ။ မစွမ်းနိုင်ပါ ဘုရား။ ဤသမုဒ္ဒရာ ရေအစုကို ရေတွက်ခြင်းငှာ စွမ်းနိုင်မည့်အရာသည် မသင့်ပါ ဘုရား။

မေး။ မင်းကြီး၊ ထိုမသင့်ခြင်းကား အဘယ့်ကြောင့်နည်း။

ဖြေ။ မြတ်စွာဘုရား၊ သမုဒ္ဒရာသည် အလွန်ကြီးကျယ်လှပါ၏။ အလွန် နက်ရှိုင်းလှပါ၏။ ကြိုး၊ ချည်မျှင် စသည်တို့ဖြင့် မနှိုင်းယှဉ်စကောင်းပါ ဘုရား။ တာဝါးစသည်တို့ဖြင့် မထောက်လှမ်းနိုင်စကောင်းပါ ဘုရား။

အို–ဒကာတော် မင်းတရား၊ ဤနည်းအတူသာလျှင် အကြင်ရုပ်ဝတ္ထု အနေအားဖြင့် ရဟန္တာကို အဖြူ အမည်း၊ အနိမ့်၊ အမြင့် စသည်ဖြင့် ခေါ်ဝေါ် ပညတ်မှုကား ပညတ်ရာ၏။ သတ္တဝါဟူ၍ ခေါ်ဝေါ်ပညတ်ကြောင်း ထိုသည့် ရုပ်တရားအပေါင်းကို (ဝါ) ရုပ်၌ သတ္တဝါဟု ထင်မှားတတ်သော သညာ၊ တဏှာ၊ မာန၊ ဒိဋ္ဌိအပေါင်းကို ပယ်တော်မူအပ်ပြီးပြီ။ နောက်ထပ်တစ်ဖန် ရှင်သန်လာခြင်း မရှိအောင် လည်ဆစ်ပြတ်ပြတ် ထန်းပင်ငုတ်ကဲ့သို့ ပြုအပ်ပြီးပြီ။ တစ်ဖန် အသစ် လူဟူ၍ မဖြစ်နိုင်အောင် ပြုအပ်ပြီးပြီ။ နောက် ဘဝတစ်ခု၌ ဖြစ်လာနိုင်ဖွယ် သဘောမရှိရအောင် ပြုအပ်ပြီးပြီ။

ဒကာတော် မင်းတရား၊ စင်စစ် ရုပ်ဟူသော ပညတ်မှလွတ်၍နေသော (ဝါ) ရုပ်နှင့်စပ်သော လူ၊ နတ်၊ သတ္တဝါဟူသော ပညတ်မှလွတ်၍နေသော ရဟန္တာပုဂ္ဂိုလ်သည် **ဂမ္ဘီရော**=မိမိ လွတ်၍နေရာ နိဗ္ဗာန်၌ ရှိ၏၊ မရှိ၏ဟူ၍ မဆိုနိုင်၊ မယူနိုင်အောင် ဒိဋ္ဌဇ္ဈာသယ အရာအားဖြင့် နှိုက်နဲခြင်း၊ ဤမျှလောက်

သော ဂုဏ်ရှိ၏ဟူ၍ မဆိုနိုင်စရာ ဂုဏ်၏အရာအားဖြင့် နှိုက်နဲခြင်းတို့ဖြင့် နှိုက်နဲ၍နေ၏။ **အပ္ပမေယျော**=အမျိုးအမည်အားဖြင့် "ဤသူကိုတည်း"ဟု နှိုင်းယှဉ်စရာမရှိ ဖြစ်၍နေ၏။ **ဒုပ္ပရိယောဂါဟော**=ဤသည့်ခြင်းရာ၊ ဤလိုဟာဟု ဝေနေယျတို့ ဉာဏ်ဖြင့် သက်ဝင်နိုင်ခဲ၏။ မဟာသမုဒ္ဒရာ ရေစုကဲ့သို့ ဖြစ်၍နေ၏။

ဒကာတော် မင်းမြတ်၊ ထို့ကြောင့် "ရဟန္တာပုဂ္ဂိုလ်သည် သေသည်မှ နောက်၌ ဖြစ်သေး၏"ဟူ၍ ငါဘုရား ဟောကြားသော်လည်း မသင့်နိုးနိုင်။ (ဝါ) ရူပဿခါဝိမုတ္တပုဂ္ဂိုလ်၌ သတ္တဝါဟု ခေါ်ဝေါ်ကြောင်း ရုပ်မရှိသဖြင့် သတ္တဝါဟူသော ပညတ်မရှိ ဖြစ်၍နေသည်ကို မြင်တော်မူသော ငါဘုရားနှင့် တော်တန်လျော်ကန်သော စကားပင် မဟုတ်။

ဒကာတော် မင်းတရား၊ ရဟန္တာသည် သေသည်မှ နောက်၌ မဖြစ်ဟူ၍ ငါဘုရား ဟောကြားသော်လည်း မသင့်နိုင်။ (ဝါ) သတ္တသညာ၊ တဏှာ၊ မာန၊ ဒိဋ္ဌိတို့ကို ပယ်ပြီးသော သဗ္ဗညုသခင် ငါဘုရားနှင့် တော်တန်လျော်ကန်သော စကားပင် မဟုတ်။ ရဟန္တာပုဂ္ဂိုလ်သည် သေသည်မှ နောက်၌ "ဖြစ်သူလည်း ဖြစ်၏။ မဖြစ်သူလည်း မဖြစ်"ဟု ငါဘုရားဟောကြားသော်လည်း မသင့်လျော်၊ ငါဘုရားနှင့် မတော်။ (ငါသိလျက်နှင့် မတော်သည့် စကားတို့ ငါမိန့်မြွက်၍ မတော်နိုင်ဟု ဆိုလိုသည်။)

ဒကာတော် မင်းတရား၊ ရဟန္တာပုဂ္ဂိုလ်သည် သေပြီးသည့်နောက် ဖြစ်သည်လည်း မဟုတ်၊ မဖြစ်သည်လည်း မဟုတ်ဟု ငါဘုရားဟောကြားသော်လည်း မသင့်မလျော်၊ ငါဘုရားနှင့် မတော်၊ (ဝါ) ရုပ်ပညတ်မှ လွတ်နေသော ပုဂ္ဂိုလ်၏ သတ္တဝါခေါ်ကြောင်း ရုပ်မရှိသဖြင့် သတ္တဝါဟူသော ပညတ်မရှိ။ ပညတ်အရာကို လွန်၍နေသည်ကို ငါ သိတော်မူလျက်ဖြစ်၍ မသင့်နိုင်။ ငါနှင့် မသင့်လျော်၊ မတော်ဟု မြွက်ကြားတော်မူလေသော်–

ဘုန်းကြီးလှသော မြတ်စွာဘုရား၊ အံ့ဖွယ်ရှိစွ။ အရှင်ဘုရား၊ မဖြစ်ဖူးမြဲ၊ ထူးကဲစွာဖြစ်စွ။ အဘယ့်ကြောင့်ဆိုပါသော် အရှင်ဘုရား ဟောကြားအပ်သော စကားတော်နှင့် ခေမာမည်သော ဘိက္ခုနီသခင်မ ဟောကြားအပ်သော စကား နှစ်ရပ်သည် အနက်အနက်ချင်း၊ သဒ္ဒါသဒ္ဒါချင်း တစ်မြေးတည်း တူညီနေပါသည်။ နီးနှောမိပါသည်။ မဆန့်ကျင်ပါ ဘုရား။

ရှေးဘုန်းတော်သခင် အရှင်ဘုရား၊ တပည့်တော်သည် အခါတစ်ပါး၌ ခေမာမည်သော ဘိက္ခုနီမထံသို့ချဉ်းကပ်၍ ရဟန္တာပုဂ္ဂိုလ် စုတေပြီးသည့်နောက်၌ ဖြစ် မဖြစ် စသည်နှင့် စပ်လျဉ်းသော အကြောင်းအခြင်းအရာကို မေးလျှောက်မိခဲ့ဖူးပါသည်။ ထိုအရှင်မကလည်း အရှင်ဘုရား ယခုမြွက်ကြားတော်မူသည့်အတိုင်း

တပည့်တော်အား ဖြေကြားလိုက်ပါ၏။ ဟောကြားပုံ နှစ်ရပ်စလုံးသည် အနက်အားဖြင့်လည်းကောင်း၊ သဒ္ဒါအားဖြင့်လည်းကောင်း တစ်သားတည်းစပ်၊ တစ်ထပ်တည်း နှီးနှောတိုက်ဆိုင် တူညီနေပါသဖြင့် အံ့ဩချီးမွမ်းမကုန်ခန်းနိုင်ပါ ဘုရား။

ကောသလမင်းသည် ရဟန္တာများ စုတေလျှင် တစ်ဖန်ပြန်၍ ဖြစ်မဖြစ်နှင့် ပတ်သက်၍ မြတ်စွာဘုရားနှင့် အမေးအဖြေပြုပြီးနောက် ဝမ်းမြောက်စွာ ပြန်သွားလေသည်။

**မှတ်ချက်**

(၁) ရဟန္တာ ပုဂ္ဂိုလ်တို့ နိဗ္ဗာန်သို့ တည်ရောက်နေသည့်အခါ သတ္တဝါဟူသော ခေါ်ဝေါ်ကြောင်း ရုပ်နာမ်အပေါင်း မရှိသည်ဖြစ်၍ သတ္တဝါဟူသော ပညတ်ကို လွန်၍ တည်နေသည်ဟု မြတ်စွာဘုရားက သိမြင်တော်မူသည်။ ယင်းသို့ သိမြင်တော်မူလျက်နှင့် ရဟန္တာပုဂ္ဂိုလ်သည် စုတေသည်မှ နောက်၌ ဖြစ်သေး၏ဟု ဆိုခဲ့သော် ထိုရဟန္တာပုဂ္ဂိုလ်သည် နိဗ္ဗာန်၌ သတ္တဝါ၏အဖြစ်ဖြင့် ရုပ်နာမ်နှင့်တကွ တည်နေ၊ ဖြစ်နေ၊ အမြဲနေသည်ဟု ဆိုရာရောက်သဖြင့် ယင်းသို့သော သဿတ အယူစကားကို ငါဘုရား ဆိုတော်မူရန် မသင့်ဟု ကောသလမင်းအား မြွက်ကြားတော်မူလိုက်ခြင်း ဖြစ်၏။

(၂) ဤနည်းတူ ရဟန္တာပုဂ္ဂိုလ်ဟို့ အနုပါဒိသေသ နိဗ္ဗာန်၌ တည်ရောက်၍ နေသည့်အခါ သတ္တဝါဟု ခေါ်ဝေါ်ကြောင်း ရုပ်၊ နာမ် အပေါင်း မရှိသဖြင့် သတ္တဝါဟူသော ပညတ်မျှသာ မရှိ၊ ထိုသူ လုံးလုံးပြတ်သွားသည် မဟုတ်သည်ကို မြတ်ဘုရား သိတော်မူ၏။ ယင်းသို့ သိတော်မူလျက်နှင့်ပင် "ရဟန္တာပုဂ္ဂိုလ်သည် စုတေသည်မှနောက် ပျောက်လေပြီ။ လုံးလုံးကြီး မဖြစ်တော့ပြီ" ဟူ၍ ဥစ္ဆေဒ အယူဝါဒအရာကို ငါ ဟောတော်မူရန် မသင့်ဟု မြွက်ကြားတော်မူလိုက်ခြင်း ဖြစ်၏။

(၃) ဤနည်းတူ ရဟန္တာပုဂ္ဂိုလ် စုတေပြီးသည့်နောက် အနုပါဒိသေသ နိဗ္ဗာန်၌ တည်နေသောအခါ သတ္တဝါ ခေါ်ဝေါ်ကြောင်း ရုပ်၊ နာမ်အပေါင်း မရှိသဖြင့် လူ၊ နတ်၊ သတ္တဝါဟူသော ပညတ်မျိုးမရှိ၊ ပညတ်ဟူသမျှကို လွန်၍ နေသည့်အခါ ထိုသူသည် ထိုနိဗ္ဗာန်၌လည်း ရှိ၏။ ရှိလည်း မရှိ။ ဤသို့မျှ လည်း မဆိုပိုင်၊ မဆိုနိုင်အောင် လွန်စွာ နူးကိန်ခဲ့၍နေသည်ကို မြတ်ဘုရား သိတော်မူ၏။ ယင်းသို့ သိတော်မူလျက်နှင့် "ဤဘဝက ရဟန္တာစုတေပြီးနောက် ဖြစ်သူလည်း ဖြစ်၏။ မဖြစ်သူ လည်း မဖြစ်"ဟု ဆိုခဲ့သော် ထိုရဟန္တာသည် ထိုနိဗ္ဗာန်၌လည်း ရှိ၏၊ ရှိလည်း မရှိဟု ဆိုရာရောက်သောကြောင့် ယင်းသို့ ဧကစ္စသဿတဝါဒအဖြစ်

ရောက်မည့်စကားကိုလည်း ငါဖြွက်ကြားရန် မသင့်ဟု ဆိုတော်မူလိုက်ခြင်း ဖြစ်၏။

(၄) ဤနည်းတူ ရဟန္တာပုဂ္ဂိုလ် စုတေပြီးနောက် နိဗ္ဗာန်၌ တည်ရောက်၍ နေသောအခါ လူ၊ နတ် စသည်၊ ဘုရား ပစ္စေကဗုဒ္ဓါ စသည် ခေါ်ဝေါ် ပညတ်ကြောင်း ရုပ်၊ နာမ်အပေါင်း မရှိသဖြင့် ယင်းသို့သော သတ္တဝါပညတ်ကို လွန်၍ ရူပါဒိသင်္ခါ ဝိမုတ္တ (ရုပ် စသည်မှလွတ်) ဖြစ်၍ နေသည့်အခါ ထိုရဟန္တာသည် ထိုနိဗ္ဗာန်၌ ရှိသည်လည်း မဟုတ်၊ မရှိသည်လည်း မဟုတ်ဟု မဆိုသင့်အောင် လွန်စွာ နက်နဲ၍ နေသည်ကို မြတ်ဘုရား သိမြင်တော်မူ၏။ ယင်းသို့ သိမြင်တော် မူလျက်နှင့် ရဟန္တာပုဂ္ဂိုလ် စုတေပြီးသည့် နောက်၌ ဖြစ်သည်လည်း မဟုတ်၊ မဖြစ်သည်လည်း မဟုတ်ဟု ဆိုခဲ့လျှင် ထိုရဟန္တာသည် နိဗ္ဗာန်၌ ရှိသည်လည်း မဟုတ်၊ မရှိသည်လည်း မဟုတ်ဟု ဆိုရာရောက်သောကြောင့် ယင်းသို့သော အမရာဝိက္ခေပ ဝါဒအရာကိုလည်း ငါဘုရား မိန့်ကြားတော်မူရန် မသင့်ဟု ကောသလမင်းအား ဟောကြားတော်မူလိုက်ခြင်း ဖြစ်၏။

(သဠာယတနသံယုတ်ပါဠိတော်၊ ၎င်းအဋ္ဌကထာ)

# သတိ

**ပြဿနာ = ရဟန်းတို့၏ လူမြွေ။**

**မေးလျှောက်သူ = ပဏ္ဍုသ မင်းသား။**

သတိမမူ ဂူမမြင်၊ သတိမူသော်ကား မြူကိုသော်မှပင် မြင်နိုင်၏။ သတိ၏ တန်ခိုးစွမ်းအားကို ပြဆိုသော စကားပုံ ဖြစ်၏။

လူတို့သည် နား၊ မျက်စိ ပါကြကုန်သော်လည်း အာရုံတစ်ခု၌ စူးစိုက်စွာ စိတ်ဝင်စားနေသောအခါ ဘာကိုမျှ မမြင်ဘဲ၊ မကြားဘဲ ဖြစ်နေတတ်ကုန်၏။ သတိတရားကို အခြားသို့ လွင့်ပါမသွားအောင် တစ်နေရာ၌ ချုပ်ကိုင်ထား သော ကြောင့် ဖြစ်၏။

စိတ်ကူးယဉ်ယဉ်နှင့် လမ်းလျှောက်သွားသူသည် ကားကိုလည်း မမြင်လေ၊ ကားသံကိုလည်း မကြားလေ။ သူ့အာရုံသည် တစ်နေရာ၌ စူးစိုက်ထားသော ကြောင့် ဖြစ်၏။ နီးနားခြင်း၊ နား၊ မျက်စိပါးခြင်းသည် ကြားခြင်းနှင့် မဆိုင်၊ သတိဦးစီးပါမှ၊ သတိထားပါမှ မြင်နိုင်၊ ကြားနိုင်သည်ဟူသော သဘောပင် ဖြစ်၏။

အနားတွင် ကပ်၍ မိုးကြိုးပစ်လိုက်သည်ကို နား၊ မျက်စိပါပါလျက် မမြင်လိုက်၊ မကြားလိုက်ဟု ဆိုခဲ့သော် အံ့ဖွယ်မဟုတ်ပါလော၊ ယုံနိုင်စရာ ရှိပါမည်လော။ သို့သော် ဤအဖြစ်အပျက်မျိုးကား အံ့ဖွယ်ဘနန်း တကယ်ပင် ထူးဆန်းစွာ ဖြစ်ခဲ့ဖူးချေ၏။

မဟာသက္ကရာဇ် ၁၄၈ ခုနှစ်၊ ကဆုန်လဆန်း ၁၄ ရက်နေ့က ဖြစ်၏။ ပဏ္ဍုသမည်သော မင်းသားသည် လှည်းငါးရာခြံရံလျက် ဂင်္ဂါမြစ်ကို ဖြတ်ကူး လေသောကြောင့် မြစ်ရေတို့သည် ကြည်လင်ခြင်းမရှိ၊ နှံ့နှစ်မြူမှုန်တို့သည် ထလျက် ရှိနေကုန်၏။

ထိုနေ့ ထိုရက်၌ မြတ်စွာဘုရားသည် ပါဝါပြည်မှ ကုသိနာရုံပြည်သို့ ကြွလာတော်မူလေရာ ဂင်္ဂါမြစ်အနီးသို့ အရောက်တွင် ခရီးပန်းတော်မူသော ကြောင့်–

"ချစ်သား– အာနန္ဒာ၊ အင်အားကုန်ခန်း ငါ ခရီးပန်းတော်မူလှပြီ။ ခေတ္တ ငါ နားဦးအံ့။ သစ်ပင်အောက်၌ ဒုကုဋ်သင်္ကန်းကြီး လေးထပ်ခေါက်၍ ငါ့ကို ခင်းပေးလော့"

ဤသို့ မိန့်တော်မူလျှင် အရှင်အာနန္ဒာလည်း ဆောလျင်စွာပင်လျှင် အမိန့်တော်အတိုင်း သင်္ကန်းကြီးကို လေးထပ်ခေါက်၍ ခင်းပေးတော်မူ၏။ မြတ်စွာဘုရားသည် ခင်းထားအပ်သော နေရာ၌ ထိုင်၍ အပန်းဖြေတော်မူရင်း ရေ မွတ်သိပ်တော်မူလာလေသည်။ ထိုအခါ အရှင်အာနန္ဒာကိုပင် ခေါ်လိုက်ပြီး စေတော်မူလေ၏။

"ချစ်သား–အာနန္ဒာ၊ ငါ ရေမွတ်တော်မူလှသည်။ ရေကြည်တော်များ ရှာ၍ ငါ့အား ဆက်ကပ်ပါဘိ"

ဤသို့ စေတော်မူလျှင် အရှင်အာနန္ဒာလည်း ဂင်္ဂါမြစ်သို့ အဆောတလျင် ပြေး၍ ရေခပ်လေသော် မြစ်ရေမှာ လှည်းများ ဖြတ်ကူးထားသောဒဏ်ကြောင့် အနယ်အမှုန်များ ထကာ သောက်သုံးရန် မသင့်ဖြစ်နေသည်ကို ဝမ်းနည်းဖွယ်ရာ တွေ့မြင်ရသဖြင့် ဘုရားအထံ ပြန်၍ အကျိုးအကြောင်းကို လျှောက်ထားလေ၏။

"ဂင်္ဂါမြစ်ရေများ အလွန်နောက်ကျိနေပါသည်။ သောက်သုံးရန် မသင့်ပါ ဘုရား။ ရှေ့စခန်းမှာ မဝေးလှတော့ပါ။ ထိုစခန်း၌ အေးမြကြည်လင်သော ရေနှင့် တကုဓမြစ် ရှိပါသည်။ ထိုမြစ်ရောက်မှ သောက်တော်မူပါ ဘုရား"

"ချစ်သား–အာနန္ဒာ၊ နောက်ခြင်း၊ ကြည်ခြင်းသည် အကြောင်းမဟုတ်။ ငါ ရေကိုသာ အလိုရှိတော်မူသည်။ သင်သွား၍ ဆောင်ခဲ့လော့"

အရှင်အာနန္ဒာက မသင့်ကြောင်း သုံးကြိမ်လျှောက်သော်လည်း မရဘဲ မြတ်ဘုရားက ထပ်ပြန်တလဲလဲ စေခိုင်းတော်မူနေသဖြင့် အရှင်အာနန္ဒာသည် မနေသာတော့ဘဲ ဂင်္ဂါမြစ်သို့ တစ်ဖန်ပြန်သွားရလေသည်။ ရောက်သောအခါ အာနန္ဒာမှာ များစွာ အံ့အားသင့်သွားလေ၏။ မိမိမြင်တွေ့ခဲ့ရသော ဂင်္ဂါမြစ်မှာ အနယ်အမှုန်များ ထနေသော်လည်း ယခုအခါတွင်မူ သန့်ရှင်းကြည်လင်နေသည်ကို တွေ့ရလေသောကြောင့်–

ဩ–ဘုရားသခင်၏ အာနုဘော်ကား ကြီးမားလှပါပေစွ၊ အံ့ဖွယ်ကောင်း လေစွ။ အသက်မရှိသော ရေစင်လျက် ကိုယ်တော်၏ အလိုအတိုင်း ကြည်လင် ရပါတကား။

ဤသို့ တအံ့တသြ သပိတ်ဖြင့် ရေကိုခပ်ခဲ့ပြီး ဘုရားသခင်အား ဆက်သ လေ၏။ ဘုရားမြတ်စွာသည် ရေကြည်တော်ကို သောက်၍ အပန်းဖြေတော်မူ နေခိုက်တွင် ပက္ကုသမင်းသားသည် မနီးမဝေး၌ လှည်းသားငါးရာနှင့် အတူ စခန်းချလျက် ရှိနေသဖြင့် ဘုရားသခင် ဂင်္ဂါမြစ်ကမ်း၌ စခန်းချ အပန်းဖြေနေ တော်မူသည်ကို သိရလေသောအခါ ဖူးမြော်ရန် ဘုရားသခင်ထံသို့ လာလေ၏။

ပက္ကုသမင်းသားသည် သစ်ပင်အောက်၌ သီတင်းသုံးနေသော မြတ်ဘုရား သည် မလှမ်းမကမ်းမှပင် မြင်လေရာ မြတ်စွာဘုရား၏ တည်ငြိမ်သော ဣန္ဒြေ တော်ကို ဖူးမြော်ရလေသောအခါ များစွာကြည်ညိုခြင်း ဖြစ်လာသည့်အလျောက် အပါးတော်သို့ ချဉ်းကပ် ရှိခိုးပြီးလျှင် ဤသို့ လျှောက်ထားလေ၏။

"ရွှေဘုန်းတော်သခင် မြတ်ရှင်ပင်ဘုရား၊ ရဟန်းတော် အရှင်သူမြတ်တို့၏ ငြိမ်သက် တင့်တယ်စွာ ဈာန်သမာပတ်ဖြင့် နေတော်မူခြင်းကား အလွန်ကြည်ညို ဖွယ် ရှိလှပါ၏တကား။ အကြောင်းတိုက်ဆိုင်၍ တပည့်တော်၏ ကျေးဇူးရှင် ဆရာတော် အာဠာရ ရသေ့၏ အကြောင်း အလျင်လျှောက်ပါရစေဦး...

– ဆရာတော် အာဠာရ ရသေ့သူမြတ်သည် တစ်ခါတစ်ပါးက ခရီးထွက် သွားတော်မူပါသည်။ ခရီးပန်းသဖြင့် လမ်းဘေးရှိ သစ်ပင်ကြီး တစ်ပင်အောက်မှာ ကွန်းထောက်ချ၍ ခေတ္တဝင်ရောက် အပန်းဖြေနေပါသည်။

– ထိုအခါ လှည်းကုန်သည် ငါးရာတို့သည် ဆရာတော်၏အနီးမှ ဖြတ်၍ လှည်းလမ်းကြောင်းအတိုင်း မောင်းသွားကြပါကုန်သည်။ လှည်းသမားတစ်ယောက် မှာ လှည်းများ၏နောက်တွင် တစ်ယောက်တည်း ကျန်နေရစ်ခဲ့ရာမှ ထိုနေရာသို့ ရောက်လေသောအခါ သစ်ပင်အောက်၌ အပန်းဖြေနေသော ဆရာတော်ကို မြင်၍ အကျိုးအကြောင်း မေးမြန်းကြည့်ပါလေ၏။

လှည်းသမား။ အရှင်ဘုရား၊ လှည်းငါးရာ ရှေ့ကသွားနှင့်သည်ကို မြင် လိုက်ပါသလား ဘုရား။

ရသေ့။ ဒကာ၊ ငါ မမြင်မိပေ။

လှည်းသမား။ အရှင်ရသေ့၊ လှည်းငါးရာကို မမြင်လိုက်သည်မှာ ရှိပါ စေတော့၊ အသံကိုကော မကြားလိုက်ဘူးလား ဘုရား။

ရသေ့။ ငါ မကြားလိုက်ဘူး ဒကာ။

လှည်းသမား။ ဒါဖြင့် အရှင်ဘုရား၊ အိပ်များ ပျော်နေပါသလား။

ရသေ့။ ဒကာ၊ ငါ အိပ်နေသည်လည်း မဟုတ်။

လှည်းသမား။ ဘယ်လိုပါလဲ အရှင်ဘုရား၊ အရှင်ဘုရားမှာ သညာနှင့် ပြည့်စုံပါ၏လား ဘုရား။

ရသေ့။ ဒကာ၊ ငါ့မှာ သညာနှင့်လည်း ပြည့်စုံပေ၏။

လှည်းသမား။ အရှင်ဘုရားဟာ နိုးလည်း နိုးတော်မူပါလျက်၊ သညာ လည်း ရှိပါလျက် လှည်းပေါင်းငါးရာ မောင်းသွားသည်ကိုမျှ မမြင်၊ မကြား ဖြစ်ရခြင်းသည် အကြောင်း အသို့ပါနည်း ဘုရား။

ရသေ့။ ဒကာ၊ ငါ၏ သင်္ကန်းမှာ မြူမှုန်တွေ အလိမ်းအလိမ်းကပ်နေ သည် မှန်၏။

ဤသို့ မိန့်တော်မူလိုက်သောအခါကျမှ ထိုယောကျ်ားဟာ များစွာအံ့ဩ သွားပါလေသည်။ 'ရဟန်းတို့မည်သည် အလွန်အံ့ဩဖွယ် ရှိစွတကား။ မိမိတို့ ဈာန်သမာပတ် တရားကိုသာ ပွားစီးကာ နေနိုင်ပေ၏ တကား'ဟု ကြံစည် အောက်မေ့လျက် ဆရာရသေ့ကို များစွာကြည်ညိုခြင်း ဖြစ်သွားပါသတည်း'ဟု ပက္ကုသ မင်းသားက အားရဝမ်းသာစွာ ချီးကျူးလျှောက်ထားလိုက်သည်။ ထိုအခါ မြတ်စွာဘုရားက မင်းသားအား မေးတော်မူလိုက်သည်မှာ–

ဗုဒ္ဓ။ ပက္ကုသ၊ သင့်ကို ငါ မေးဦးအံ့။

ပက္ကုသ။ မေးတော်မူပါ ဘုရား။

ဗုဒ္ဓ။ အကြင်သူသည် သတိပညာပြည့်စုံစွာလျက် မအိပ်စက်ဘဲ လှည်း ငါးရာတို့ နှင်လာသည်ကို မမြင်၊ မကြားလိုက်။ အကြင်သူ တစ်ယောက်သည် လည်း ထိုနည်းလည်းကောင်း၊ သတိပညာရှိလျက် မအိပ်စက်ဘဲ နေထိုင်လျက် လျှပ်စစ်ပြက်၍ သုံးချက် မိုးကြိုးကျလတ်သည်ကိုမျှ မမြင်၊ မကြားလိုက်။ ထိုသူ နှစ်ဦးတွင် အဘယ်သူ သာ၍ ခဲယဉ်းစွာ ဖြစ်သနည်း။

ပက္ကုသ။ အရှင်ဘုရား၊ ကြီးစွာသောမိုး ရွာသွန်းဖြိုးလျက်၊ မိုးကြိုးထစ် သည်ကို မကြားသောသူသာလျှင် အဆအရာ သာ၍ ခဲယဉ်းမည် ထင်ပါသည် ဘုရား။

ဗုဒ္ဓ။ အချင်းပက္ကုသ၊ တစ်ရံသောအခါ ငါသည်လည်း အာတုမံ မည်သော ပြည်ဝယ် ကောက်နယ်တလင်းခန့်မျှသော တဲအံ့၌ သမာပတ်အာရုံဖြင့် နေတော်မူ၏။ ထိုအခါ သည်းစွာသောမိုးသည် ရွာသွန်း၍ လျှပ်စစ်တိမ်မီး လေကြီး မုန်တိုင်းသံတို့နှင့်တကွ သုံးချက်သော မိုးကြိုးတို့သည် ကျ၍ ငါနေသော ဌာန၏ အပါး၌ ယောကျ်ားညီနောင် နှစ်ယောက်တို့ လေးကောင်သော နွားတို့ဖြင့် လယ် ထွန်၍နေရာ၌ နွားသတ္တဝါတို့ သေလေကုန်၏။

ထိုနေရာသို့ အာတုမံပြည်သား လူအများတို့သည် အုန်းအင်းတက်မျှ လာလတ်ကုန်သည်။ မိုးစဲသောအခါ ငါဘုရားသည် တဲ၏အပါး၌ စင်္ကြံသွား၍

နေတော်မူစဉ် တစ်ဦးသောယောက်ျားသည် ငါ့ထံပါးသို့ကပ်၍ တုံ့ဝပ် ရှိခိုးကာ နေ၏။ ထိုယောက်ျားကို ငါဘုရားသည် ဤသို့ မေးတော်မူ၏။

ဒါယကာ၊ များစွာသော လူတို့သည် အဘယ့်ကြောင့် စည်းဝေးလာကြကုန်သနည်းဟု မေးတော်မူလျှင် အရှင်ဘုရား၊ ယခုမိုးကြီးအရွာတွင် မိုးကြိုးကျလာ၍ နွားလေးကောင် သေရာသောကြောင့် ကြည့်ရှုခြင်းငှာ စည်းဝေးလာကြပါသည်။ အရှင်ဘုရား ဘယ်မှာရှိ၍ မသိသနည်းဟု မေး၏။

ဒါယကာ၊ ငါသည် ဤတဲအုံမှာပင် နေ၏ဟုဆိုလျှင် အရှင်ဘုရားသည် လျှပ်စစ်တိမ်မီးဖြင့် မိုးကြီးရွာသည်ကို မမြင်သလောဟု မေး၏။ ဒါယကာ၊ ငါ မမြင်ဟု ဆိုလျှင်– အရှင်ဘုရား၊ မိုးကြိုးသံကို မကြားသလောဟု မေးပြန်၏။ ဒါယကာ၊ ငါမကြားလိုက်ဟု ဆိုလျှင်– အရှင်ဘုရား အသို့တုံနည်း။ သညာ ရှိပါ၏လောဟု လျှောက်ပြန်၏။ ဒါယကာ၊ သညာလည်း ရှိ၏ဟု မိန့်တော်မူပြန်လျှင်–

အရှင်ဘုရား၊ နိုးလည်း နိုးကြားပါလျက်၊ သညာလည်း ရှိပါလျက် လျှပ်ပြက် မိုးရွာသည်ကိုလည်းကောင်း၊ မိုးကြိုးထစ်သည်ကိုလည်းကောင်း မမြင်၊ မကြားလိုက်ခြင်းသည် အံ့ဖွယ်ရှိပေစွတကား။ မဖြစ်ဖူးမြဲ ထူးကဲလေစွတကား။ အရှင်မြတ်တို့သည် တည်ကြည်ငြိမ်သက်လှစွာ သမာပတ်ချမ်းသာဖြင့် နေနိုင်ကုန်စွတကားဟု ငါဘုရားအား အတိုင်းထက် အလွန် ချီးကျူး၍ ခယပူဇော်ကာ လက်ယာရစ် သုံးပတ်လှည့်၍ သွားလေ၏။

ဤသို့သော အကြောင်းစကားကို မိန့်တော်မူလေသော် ပက္ကုသမင်းသားသည် အရှင်ဘုရား၊ အကျွန်ုပ်သည် ရှေးသောအခါက အာဠာရ ရသေ့၏ သိမ်မွေ့ ငြိမ်သက်ခြင်းကိုပင် အလွန်ကြည်ညိုခြင်း ဖြစ်ခဲ့ပါသည်။ ယခု အရှင်ဘုရား၏ ဂုဏ်ကျေးဇူးတော်ကို ကြားရသော် ရှေးကထက် အဆတစ်ရာ သာလွန်၍ ကြည်ညိုစုံမက်ပါသည်။ ယနေ့မှစ၍ ကျွန်ုပ်ကို ဥပါသကာဟူ၍ မှတ်တော်မူပါဟု လျှောက်ကြား၍ သုံးပါးသော သရဏဂုံ၌ တည်လေ၏။

ထို့နောက် ပက္ကုသမင်းသားသည် ယောက်ျားတစ်ယောက်ကိုခေါ်၍ အချင်း ယောက်ျား၊ သင် ငါ့အိမ်သို့ သွားတည့်ချေ။ သိင်္ဂီရွှေအဆင်းနှင့် တူသော အလွန် နူးညံ့သိမ်မွေ့ပြေပြစ်လှသော ပုဆိုးအစုံကို သွားယူခဲ့ချေဟု စေခိုင်းလိုက်ပြီး ထိုယောက်ျားသည် သွား၍ ပုဆိုးအစုံကို ယူလာသောအခါ ပက္ကုသမင်းသားသည် ထိုပုဆိုးအစုံကို ယူ၍ ဘုရားသခင်ထံ ချဉ်းကပ်ပြီးလျှင်–

ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ အကျွန်ုပ်အား သနားတော်မူပါသဖြင့် ဤပုဆိုးအစုံကို ဝတ်ရုံ သုံးဆောင်တော်မူပါဟု ဆက်ကပ်လှူဒါန်းလေ၏။

ကိုယ်တော်မြတ်ကလည်း အချင်းပက္ကုသ၊ ပုဆိုးတစ်ထည်ကို ငါ့အား လှူ၍ တစ်ထည်ကို အာနန္ဒာအား[၁] လှူလောဟု မိန့်တော်မူ၏။ ပက္ကုသလည်း ဘုရား အမိန့်တော်အတိုင်း လှူပေ၏။

မြတ်စွာဘုရားသည် ပက္ကုသမင်းသားအား တရားဒေသနာတော်ကို များစွာ ဟောလိုက်လေ၏။ ပက္ကုသမင်းသား သွား၍ မကြာမြင့်မီ သိင်္ဂီရွှေအဆင်းနှင့် တူသော၊ နူးညံ့သိမ်မွေ့ချောမွေ့ ပြေပြစ်လှသော ပုဆိုးကို အရှင်အာနန္ဒာလည်း မြတ်စွာဘုရားအား ကပ်လှူ၏။ ဘုရားကိုယ်တော်မြတ်လည်း တစ်ထည်ကို ဝတ်၍ တစ်ထည်ကို ရုံတော်မူ၏။

ယင်းသို့ ဝတ်ရုံတော်မူပြီးလျှင် ရှင်တော်မြတ်ဘုရား၏ အဆင်းသည် ဝင်းဝင်းညီးညီး တောက်လောင်ပြီးသော မီးကျီး၏ အလျှံကဲ့သို့လည်းကောင်း၊ ယုဂန္ဓိုရ်တောင်ဦးမှ ကွန့်မြူးထွက်ပြူလာသော သူရိယစက်ဝန်းကဲ့သို့လည်းကောင်း၊ အသောင်းအသိန်းသော နတ်ပရိသတ်တို့၏ အလယ်၌ တင့်တယ်စွာ စံပယ်သော အာဘဿရာ ဗြဟ္မာမင်းကြီးကဲ့သို့လည်းကောင်း၊ ချီးမွမ်းတွက်ကျူး၍ မဆုံးနိုင် ကုန်အောင် ရောင်ခြည်တော် ခြောက်ဆိုင် တစ်ပြိုင်တည်း ပွင့်၍ တင့်တယ်ခြင်း အထွတ်အထိပ်သို့ ရောက်တော်မူ၏။

ထိုအခါ အရှင်အာနန္ဒာသည် မြတ်စွာဘုရားအား ဤသို့ နားတော် လျှောက်၏။ "ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ အရှင်မြတ်၏ ကိုယ်တော်သည် အံ့ဖွယ်သရဲ မဖြစ်ဖူးမြဲ ထူးကဲဆာင့်တယ်လှ၏တကား။ ကိုယ်တော်ရောင်တို့သည် ပြောင်ပြောင် ညီးညီး ယှိစီးဘနန်းဖြစ်သည်တကား"ဟု နားတော် လျှောက်တင်လေသော် ဘုရားသခင်ကလည်း–

"ချစ်သား–အာနန္ဒာ၊ ထွန်းခါစဖြစ်သော တန်ဆောင်ဆီမီးသည်လည်း ကောင်း၊ ငြိမ်းခါနီးသော ဆီမီးသည်လည်းကောင်း ကြီးစွာသော အလျှံဖြင့် အလွန်ထွန်းပခြင်း ဖြစ်သကဲ့သို့ ငါဘုရားကိုယ်တော်သည်လည်း ဗောဓိပင်နှင့် ရွှေပလ္လင်ကို ရ၍ ဘုရားဖြစ်ဦးစအခါ၌လည်းကောင်း၊ ပရိနိဗ္ဗာန်စံရအံ့သောနေ့၌

---

၁။ အရှင်အာနန္ဒာသည် မြတ်စွာဘုရား ချီးမြှောက်အပ်သော လာဘ်ကိုပယ်၍ လုပ်ကျွေးသူ ဖြစ်လျက် ထိုပုဆိုးကို ခံလတ်သည်ကား ဥပဋ္ဌာက ကိစ္စအပြီးသို့ ရောက်သောကြောင့် လည်းကောင်း၊ အရှင်အာနန္ဒာ လုပ်ကျွေးပါသော်လည်း မြတ်စွာဘုရားထံမှ တစ်ခုသော လာဘ်ကိုမျှ မရရှာစဖူး၊ သူတစ်ထူးကဲ့ရဲ့ခြင်း ကင်းစိမ့်သောငှာလည်းကောင်း ခံတော် မူသည်။

(ကျီးသဲလေးထပ် ဆရာတော်၏ ဒီနဋ္ဌပကာသနီ–၆၃၂ အမှာ)

လည်းကောင်း ဤကာလနှစ်ပါး၌ ထူးခြားတင့်တယ်ခြင်း အသရေကို ဆောင် လေသတည်း။...

"အာနန္ဒာ၊ ယနေ့ ကုန်မြောက်၍ မိုးသောက်ယံအခါ၌ ကုသိနာရုံပြည်ဝယ် မလ္လာမင်းတို့၏ အင်ကြင်းပင်စုံကြား၌ ငါဘုရား ပရိနိဗ္ဗာန်စံတော်မူလတ္တံ့"ဟု မိန့်ကြားတော်မူပြီး၍ "ချစ်သား အာနန္ဒာ၊ နေရာကို သိမ်းလော့၊ သွားကြကုန်ဦး အံ့"ဟု မိန့်တော်မူ၍ ကြွတော်မူလေသဖြင့် ရေခတက်ပင် ပေါက်ရောက်သော ကကုမြစ်သို့ ရောက်လေသော် ရေလည်း သောက်တော်မူလိုသည်၊ သပ်လည်း သပ္ပာယ်တော်မူလိုသည်ဟု မိန့်တော်မူ၍ ကိုယ်တိုင်ဆင်းလျက် မြစ်တွင်း ရေသပ္ပာယ် တော်မူလေ၏။

(သုတ္တန္တပိဋက၊ မဟာပရိနိဗ္ဗာနသုတ်)

# လောကအကြောင်း မကြံစည်အပ်

**ပြဿနာ** = **လောက မြဲ မမြဲ။**

**ဟောတော်မူ** = **ဗုဒ္ဓမြတ်ဘုရား။**

လူအမျိုးမျိုး၊ နတ်အမျိုးမျိုးဆိုသကဲ့သို့ သံဃာလောကဌ်လည်း ပုဂ္ဂိုလ်အမျိုးမျိုး၊ အတွေးအခေါ်အမျိုးမျိုး ကိုယ်စီကိုယ်စီ အသီးအသီး ရှိကြကုန်၏။

အချို့သော ရဟန်းတော်များက လောကသည် မြဲလေသလော၊ မမြဲလေသလော။ အခြား တစ်နေရာဌ်လည်း ဤလောကကဲ့သို့သော လောကတစ်မျိုးရှိပါသေးသလော၊ မရှိသလော။ လောက တစ်မျိုးမျိုး၏ အကျယ်အဝန်း၊ အပိုင်းအခြားသည် မည်ရွေ့မည်မျှ ရှိပါလိမ့်နည်းဟူ၍ လောကအကြောင်းကို တွေးခေါ်ကြံစည်ကြကုန်၏။

အချို့သော ရဟန်းများကမူ သတ္တဝါတို့အကြောင်းကို တွေးခေါ်ကြံစည်ကြလေ၏။ သည်သတ္တဝါသည် မြဲလေသလော၊ မမြဲလေသလော။ သတ္တဝါအဆုံးရှိသလော၊ မရှိသလော။ အသက်သည် ကိုယ်မည်လေသလော၊ ကိုယ်နှင့်အသက်သည် တူလေသလော၊ တခြားစီလော စသောအားဖြင့် တွေးခေါ်ကြံစည်၍နေကြကုန်၏။

ထိုအချိန်ဌ် အစိန္တေယျ လောကထွတ်ထား မြတ်ဘုရားသည် ဝေဠုဝန်ကျောင်းဌ် နေတော်မူ၏။ ရဟန်းတို့၏ သန္တာန်ဌ် ဖြစ်ပွားနေသော အကြံအစည်များကို သိရှိတော်မူသဖြင့် ရဟန်းတို့အား ဆုံးမဩဝါဒ ပေးတော်မူခြင်းငှာ သံဃာ့အစည်းအဝေး ခေါ်စေတော်မူ၏။ သံဃာတော်များ ရောက်ရှိလာကြသောအခါတွင် လောကအကြောင်း၊ သတ္တဝါတို့အကြောင်းကို မကြံစည်ထိုက်ကြောင်း၊ ကြံစည်ခြင်းဖြင့် အကျိုးမရှိသည့်ပြင် မဂ်ဖိုလ်၏ အန္တရာယ်ပင် ဖြစ်စေနိုင်ကြောင်း အောက်ပါအတိုင်း ဟောကြားဆုံးမ ဩဝါဒ ပေးတော်မူလေ၏။

စပယ်ဦးစာပေ

ချစ်သား ရဟန်းတို့၊ အတိတ်ဖြစ်ရပ် ဇာတ်ကြောင်းတစ်ခုကို သင်တို့အား ငါ ပြောပြအံ့၊ နာကြကုန်လော့။

ဤရာဇဂြိုဟ်ပြည်၌ တစ်ဦးသော ယောကျ်ားသည် လောကစိန္တာမည်သော အကြံကို ကြံစည်လို၍ မြို့မှထွက်ကာ သုမာဂဓမည်သော ရေကန်သို့ သွားလေသည်။ ထိုယောကျ်ားသည် ရေကန်သို့ ရောက်သွားလေသောအခါ ကမ်းနဖူး၌ ရပ်လျက် လောကစိန္တာအကြံကို ကြံစည်လေ၏။ ဤလောကသည် မြဲသလော၊ မမြဲသလော၊ အဘယ်မျှ ကျယ်ဝန်းလေသနည်း စသည်ဖြင့် လောကအကြောင်းကို အပြန်ပြန်အလှန်လှန် ကြံစည်တွေးတော၍နေ၏။

ချစ်သားတို့၊ ထိုယောကျ်ားသည် ယင်းသို့ လောကအကြောင်းကို စိတ်ကူးယဉ်နေခိုက် စစ်အင်္ဂါလေးပါးနှင့် ပြည့်စုံသော စစ်တပ်ကြီးတစ်တပ်သည် ထိုရေကန်သို့ရောက်လာပြီးလျှင် ရေကန်တွင်းသို့ ဆင်းကာ ကြာရိုးများအတွင်းသို့ တစ်တပ်လုံး ဝင်သွားသည်ကို အံ့သြစွာ မျက်ဝါးထင်ထင် တွေ့မြင်ရလေ၏။ ထိုအခါ ထိုယောကျ်ား စဉ်းစားမိသည်မှာ–

ငါ ရူးများ ရူးသွားလေပြီလော၊ ငါ စိတ်မှ နှံ့ပါ၏လော၊ ငါ့စိတ်တွေ ပျံ့လွင့်ကုန်ပြီလော၊ ကြာရိုးတွင်းသို့ စစ်တပ်ကြီးတစ်တပ်လုံး ဝင်သွားခြင်းမှာ ဖြစ်နိုင်သောအရာပင် မဟုတ်ပါတကား။ ဤသို့ စဉ်းစားပြီးလျှင် မြို့သို့ပြန်သွားကာ ကျုပ် ရူးပြီလား၊ ရူးပြီလားဟူ၍ လူအပေါင်းကို မိမိမြင်တွေ့လိုက်ရသော အလွန်ထူးဆန်းသော ဖြစ်ရပ်ကို ပြောပြသောအခါ လောကဖြစ်စဉ် မမှတာနှင့် ဆန့်ကျင်လေသော စကားကို ကြားရလေသောကြောင့် လူအပေါင်းတို့ကလည်း ထိုယောကျ်ားအား ရူးသွားပြီဟူ၍ ထင်ကြသည့်အတိုင်း–

အချင်း ယောကျ်ား၊ သင်ကား အကယ်ပင် ရူးသွားပါချေပြီ။ သင့်စိတ်နှလုံးသည် ကောင်းကောင်းမနှံ့ ဖြစ်ဘိ၏။ သင့်စိတ်များသည် ပကတိ သဘောကို စွန့်၍ ပျံ့လွင့်ကုန်လေပြီတကား။ လောက၌ သင် မြင်လိုက်ရသည်ဆိုသော စစ်တပ်ကြီး ကြာရိုးတွင်းသို့ တပ်လုံးကျွတ် ဝင်သွားသည်ဆိုခြင်းမှာ ယုံဖွယ်ရာ မရှိပြီ။ အမောင်ယောကျ်ား၊ သင်ကား အမှန်ပင် ရူးချေပြီတကား။

ချစ်သားတို့၊ ထိုယောကျ်ား မြင်အပ်သောအရာသည် ဟုတ်မှန်သည်ကိုပင် မြင်ခြင်း ဖြစ်ပေ၏။ မဟုတ် မမှန်သည်ကို မြင်ခြင်းမဟုတ်။

ချစ်သားတို့၊ ရှေးလွန်လေပြီးသောအခါ တာဝတိံသာနတ်တို့နှင့် အသူရာတို့သည် စစ်ဖြစ်ကြကုန်လေ၏။ ထိုစစ်ပွဲ၌ တာဝတိံသာနတ်တို့က စစ်ရေးသာ၍ အနိုင်ရကြပြီး အသူရာတို့က ရှုံးလေကုန်၏။ စစ်ရှုံး အသူရာတို့သည် ကြောက်လန့်ခြင်းဖြစ်ရကား တာဝတိံသာနတ်တို့ မမေ့လျော့နေခိုက် ထွက်ပြေးခဲ့ကြ၍

ထိုသုမာဂဓ ရေကန်တွင်းဆင်းကာ ကြာရိုးများအတွင်း ဝင်ကြပြီး ၎င်းမှတစ်ဆင့် အသူရာပြည်သို့ ဝင်ကြကုန်၏။

ချစ်သားတို့၊ ထိုသို့ အကျိုးမရှိ ရှုးသွပ်ခြင်းသို့ ရောက်ရာသည်၏အဖြစ်ကြောင့် လောကစိန္တာမည်သော ဤအကြံမျိုးကို သင်တို့ မကြံစည်ကြကုန်လင့်။ သတ္တဝါသည် မြဲ၏ဟူ၍လည်းကောင်း၊ သတ္တဝါသည် မမြဲဟူ၍လည်းကောင်း၊ သတ္တဝါသည် အဆုံးရှိ၏ ဟူ၍လည်းကောင်း၊ အဆုံးမရှိ ဟူ၍လည်းကောင်း၊ အသက်သည် ကိုယ်မည်၏ ဟူ၍လည်းကောင်း၊ အသက်သည် ကိုယ်မှတခြား ဟူ၍လည်းကောင်း၊ သတ္တဝါသည် သေသည်မှ အခြားမဲ့၌ ဖြစ်သေး၏ဟူ၍လည်းကောင်း၊ မဖြစ်ပြီဟူ၍လည်းကောင်း၊ သတ္တဝါသည် သေသည်မှ အခြားမဲ့၌ မဖြစ်ဟူ၍လည်းကောင်း၊ သတ္တဝါသည် သေသည်မှ အခြားမဲ့၌ မဖြစ်သည်မဟုတ်ဟူ၍လည်းကောင်း မကြံစည်ကြကုန်လင့်။

ချစ်သားတို့၊ ထိုသို့ ကြံစည်ခြင်းကား အကျိုးစီးပွားနှင့်လည်း မစပ်၊ ရှေးဦးစွာ ရအပ်သော မြတ်သော အရိယာမဂ်ဟူသော အကျင့်နှင့်လည်း မစပ်၊ ဝဋ်ဆင်းရဲမှ ငြီးငွေ့ခြင်းငှာ မဖြစ်၊ ရာဂ၏ချုပ်ငြိမ်းခြင်းငှာ၊ ကိလေသာ၏ ချုပ်ငြိမ်းခြင်းငှာ၊ ထူးသောဉာဏ်ဖြင့် သိခြင်းငှာ၊ သစ္စာလေးပါးကို ထိုးထွင်း၍ သိခြင်းငှာ၊ နိဗ္ဗာန်ကို မျက်မှောက်ပြုခြင်းငှာ မဖြစ်။

ချစ်သားတို့၊ သင်တို့ ကြံလေကုန်မူကား ဤတရားကား ဒုက္ခသစ္စာတည်းဟု ဤသို့ သင်တို့ ကြံကြလေကုန်။ ဤတရားကား ဒုက္ခဖြစ်ကြောင်း သမုဒယသစ္စာတည်း။ ဤတရားကား ဒုက္ခသစ္စာ၊ သမုဒယသစ္စာတို့၏ ချုပ်ငြိမ်းရာ နိရောဓသစ္စာတည်း။ ဤတရားကား ဒုက္ခ၏ချုပ်ရာ နိဗ္ဗာန်သို့ရောက်ကြောင်း အကျင့်ဖြစ်သော မဂ္ဂသစ္စာတည်းဟု သင်တို့ ဤသို့ ကြံကြလေကုန်။

ချစ်သားတို့၊ အဘယ်ကြောင့်ဆိုသော် ထိုသစ္စာလေးပါးကို ကြံစည်တွေး ခေါ်ခြင်းသည် ရှေးဦးစွာ ရအပ်သော မြတ်သော အရိယာမဂ်နှင့် စပ်၏။ ဝဋ် ဆင်းရဲမှ ငြီးငွေ့ခြင်းငှာ၊ ရာဂကင်းခြင်းငှာ၊ ရာဂချုပ်ငြိမ်းခြင်းငှာ၊ ကိလေသာ ငြိမ်းခြင်း၊ ထူးသောဉာဏ်ဖြင့် သိခြင်း၊ အနိစ္စကို မျက်မှောက်ပြုခြင်းငှာ ဖြစ်၏။

ချစ်သားတို့၊ အတိတ်ဘဝ၊ အနာဂတ်ဘဝ အဆက်ဆက်တို့၌ ဖြစ်ပြီး ဖြစ်လတ္တံ့ဖြစ်ကုန်သော ခန္ဓာငါးပါးတို့သည် အမြဲမရှိကုန်။ ဤပစ္စုပ္ပန် ဘဝ၌ ဖြစ်သော ခန္ဓာငါးပါးတို့၏ မမြဲသော အဖြစ်သည်ကား အဘယ်ဆိုဖွယ်ရှိအံ့နည်း။ စင်စစ် မမြဲသည်သာလျှင် ဖြစ်သတည်း။

ချစ်သားတို့၊ ဤသို့ ပြအပ်ခဲ့ပြီးသော နည်းဖြင့် ခန္ဓာငါးပါးတို့ မမြဲသော အဖြစ်ကို မြင်ပြီးသော၊ ပရိယတ္တိအာဂမ၌ သုတနှင့် ပြည့်စုံသော

အရိယာ၏ တပည့်သည် အတိတ်ဘဝ အဆက်ဆက်တို့၌ ဖြစ်ကုန်ပြီးသော ခန္ဓာငါးပါးတို့၌ ငဲ့ကွက်ခြင်း မရှိပြီ။ အနာဂတ်ဘဝ အဆက်ဆက်တို့၌ ဖြစ်လတ္တံ့သော ခန္ဓာငါးပါး တို့ကိုလည်း ငြီးငွေ့စေခြင်းငှာ၊ တပ်စွန်းခြင်း ကင်းစေခြင်းငှာ၊ ချုပ်ငြိမ်းစေခြင်းငှာ ကျင့်သည်ဖြစ်အံ့၊ ထိုအလုံးစုံသော ခန္ဓာငါးပါးတို့သည် အမြဲမရှိသည်သာ မဟုတ်သေး၊ ထိုခန္ဓာငါးပါးတရား အစုတို့သည် ဆင်းရဲသည်ဖြစ်၍ ဒုက္ခလည်း မည်ကုန်၏။ အစိုးမရသည်ဖြစ်၍ အနတ္တလည်း မည်၏ဟု ဟောတော်မူ၏။

(သံယုတ္တနိကာယ်၊ ခန္ဓဝဂ္ဂသံယုတ် ပါဠိတော်)

(၁)

# ...မှ တစ်ဆင့် ဗုဒ္ဓထံတော်သို့

အချိန်မှာ ညဥ့်သန်းခေါင်ယံအချိန် ဖြစ်၏။ အန္ဓဝန မည်သော တောအုပ် ကြီးသည် တုတ်တုတ်မျှ မလှုပ်၊ အိပ်မောကျလျက် ရှိနေ၏။ တောကြက်တွန်သံ များသာ တစ်ခါတစ်ခါ တောအုပ်ကြီးထဲမှ ဆွဲဆွဲငင်ငင် ဖောက်ထွက်လာ၏။

ညဥ့်လွှာရုံအောက်တွင် တုတ်တုတ်မျှ မလှုပ်သော ထိုတောအုပ်သည် လျှပ်စီးပြက်လိုက်သည့်ပမာ ရုတ်တရက် လင်းထိန်လာပြီး ထိုအလင်းရောင်အောက် တွင် နတ်သားတစ်ပါးကို တောက်ပသော ကိုယ်ရောင်ဖြင့် တွေ့ရ၏။

ထိုနတ်သားသည် ကျောင်းသခ်မ်းတစ်ခု၏ ရှေ့မျက်နှာစာအရပ်တွင် ရပ်လျက် စဉ်းစားနေဟန် ရှိ၏။ ခဏမျှကြာလျှင် ကျောင်းတော်ပေါ်သို့ တစ်ချက်မျှ မော့ကြည့်ပြီး တက်သွားလေသည်။

ထိုအချိန်တွင် အရှင်ကုမာရကဿပသည် မကြုံစဖူး အကာလ ညအခါတွင် တောအုပ်ကြီးတစ်ခုလုံး လင်းထိန်လာပုံ ထူးသောကြောင့် တအံ့တဩဖြစ်နေ ခိုက်တွင် ထိုနတ်သားသည် "အို-ရဟန်း၊ အို-ရဟန်း" ဟု အာမေဍိတ်သံဖြင့် ခေါ်ရင်း သူ့ရှေ့တော်မှောက်သို့ ရောက်ရှိလာပြီး ပြဿနာတစ်ခုကို အရှင်ကုမာရ ကဿပအား မေးမြန်းပြီးနောက် ရုတ်ခြင်း ပြန်သွားလေ၏။

အရှင်ကုမာရကဿပသည် စကားတတ်၊ စာတတ်၊ အကျော်အမော်ဖြစ် သော်လည်း နတ်သားက လျှောက်ထားသော ပြဿနာအတွက် အဖြေမထွက်နိုင်ဘဲ ဖြစ်နေ၏။ ထိုပြဿနာမှာ လျှောက်သူအတွက်သာ မဟုတ်။ လျှောက်ထားခြင်း ခံရသူ အတွက်ဟု ဆိုသွားသောကြောင့် အရှင်ကုမာရကဿပမှာ ထိုပြဿနာကို စိတ်မဝင်စားဘဲ မနေနိုင်အောင် ဖြစ်လာသည်။

အရှင်ကုမာရကဿပသည် ပြဿနာကို အပြန်ပြန်အလှန်လှန် ဝေဖန် သုံးသပ်ရင်း မိုးလင်းပါစေ ဟု ဆုတောင်းနေ၏။ မိုးလင်းသောအခါ ပျာယီး

ပျာယာ မျက်နှာသစ်ပြီးလျှင် ဘုရားသခင်ရှိရာ ဇေတဝန်ကျောင်းတော်သို့ ခပ်သုတ်သုတ်ပြေးကာ နတ်သား လျှောက်ထားသောအတိုင်း မြတ်ဘုရားအား ပြန်၍ လျှောက်ထားခြင်း ပြုလေ၏။

"အရှင်မြတ်ဘုရား၊ ညက နတ်သားတစ်ပါး တပည့်တော်ထံသို့ အချိန်မတော် ရောက်လာပြီး ပြဿနာတစ်ရပ် ပေးအပ်သွားပါသည်။ သူ့ပြဿနာမှာ ဤသို့ပါ ဘုရား။

"အို–ရဟန်း၊ အို–ရဟန်း"ဟု တပည့်တော်ကို ခေါ်၍ ကျောင်းပေါ် တက်လာပြီး သူက ဤသို့ လျှောက်ထားသွားပါသည်။ ဤတောင်ပို့သည် ညအခါများတွင် အခိုးအလျှံများထွက်၍ နေ့အခါတွင် အရောင်တလက်လက်နှင့် ရှိနေသည်။ ပုဏ္ဏားတစ်ယောက်က ပညာရှင်တစ်ဦးအား ထိုတောင်ပို့ကြီးကို အတူးခိုင်း၏။ ပညာရှင်က တူးသောအခါ တံခါးကျည် (တံခါးမင်းတုပ်)ကို တွေ့လေသည်။ "ဒီမှာ တွေ့ပြီ" ဟု ပညာရှင်က ပုဏ္ဏားကို ပြောသည်။

ထိုအခါ ပုဏ္ဏားက "အို–ပညာရှင်၊ ဤတံခါးကျည်ကို အသာထား။ ဆက်၍ တူးဘိဦး"ဟု စေခိုင်းသဖြင့် တူးပြန်သောအခါ ဖားတစ်ကောင်ကို တွေ့ပြန်လေ၏။ ထိုအခါ "သည်မှာ တွေ့ပြီ"ဟု ပညာရှင်က ပုဏ္ဏားကို ပြောလေသည်။

ပုဏ္ဏားသည် ဖားကောင်ကို ကြည့်ကာ "အို–ပညာရှင်၊ ဤဖားကို အသာထား။ ဆက်၍ တူးလေဦး"ဆိုချက်အရ ဆက်၍ တူးပြန်လေသောအခါ တောင်ပို့တွင်း၌ အောက်သို့စိုက်၍ လိုက်သွားသော လမ်းနှစ်သွယ်ကို တွေ့ရပြန်လေသောအခါ "တွေ့ပြီ"ဟု ပုဏ္ဏားအား ပြော၏။

ထိုအခါ ပုဏ္ဏားက ဆိုပေသည်ကား "အို–အချင်းပညာရှင်၊ ဤလမ်းနှစ်သွယ်ကိုလည်း ထားလိုက်ဘိဦး။ ဆက်၍သာ တူးပါလေ"ဟု ခိုင်းပြန်သောကြောင့် တူးပြန်လေရာ ဆပ်ပြာရေစစ်ကို တွေ့သဖြင့် "တွေ့ပြီ"ဟု ပညာရှင်က ပုဏ္ဏားအား ပြောပြ၏။

ထိုအခါ "အို–ပညာရှင်၊ ဤဆပ်ပြာရေစစ်ကိုလည်း ထားလိုက်ဘိဦး။ ဆက်၍သာ သင် တူးပါဘိ"ဟူ၍ ပုဏ္ဏား၏ စေစားချက်အရ ဆက်၍ တူးပြန်သောအခါ လိပ်တစ်ကောင်ကို တွေ့လေ၏။ "တွေ့ပြီ"ဟု ပုဏ္ဏားအား လိပ်ကိုပြ၍ ဆိုပေ၏။

ထိုအခါ ပုဏ္ဏားက "အို–ပညာရှင်၊ ဤလိပ်ကိုလည်း ထားလိုက်ဘိဦး။ ဆက်၍သာ တူးပါလေဘိ"ဟူ၍ ခိုင်းပြန်သဖြင့် တူးလေသောအခါ သားလှီးဓားနှင့် စဉ်းတီတုံးကို တွေ့လေ၏။ "တွေ့ပြီ"ဟု ပုဏ္ဏားအား ပြ၏။

ထိုအခါတွင်လည်း ပုဏ္ဏားက ဆက်၍ တူးခိုင်း၏။ ပညာရှင်လည်း ခိုင်းတိုင်း တူးလေရာ သားတစ် တစ်ခုကိုတွေ့၍ ပုဏ္ဏားအား ပြလေ၏။ ပုဏ္ဏားလည်း ရှေးနည်းအတိုင်း ဆက်၍ တူးစေသောအခါ မြွေနဂါးတစ်ကောင်ကို တွေ့လေ၏။ ပုဏ္ဏားကို ပြသောအခါ "ဤနဂါးကို ရိုက်ပုတ်ခြင်း မပြုလေနှင့်။ ထိုနဂါးကြီးအား အမြဲတစေ ရိုသေစွာ သင် ရှိခိုးပါလေ"

"အို–ရဟန်း၊ အကျွန်ုပ် တင်လျှောက်သော ဤပြဿနာများကို ဘုရားသခင်အား တစ်ဆင့်လျှောက်ထားလိုက်ပါလေ။ မြတ်စွာဘုရားက သင့်အား ဖြေကြားတော်မူသောအတိုင်း ထိုပြဿနာ၏ အနက်အဓိပ္ပာယ်ကို ကောင်းစွာ မှတ်လည်း မှတ်သားပါလေ။

"အို–ရဟန်း၊ အကျွန်ုပ် ဝံ့ရဲစွာဆိုပါအံ့၊ မြတ်ဘုရားကိုလည်းကောင်း၊ မြတ်ဘုရား၏ တပည့်သာဝကကိုလည်းကောင်း၊ အကျွန်ုပ်ထံမှ တစ်ဆင့်ကြားစကားကိုလည်းကောင်း ဖယ်၍ အကြင်သူသည် အကျွန်ုပ်အား မေးလျှောက်အပ်သော ပြဿနာတို့ကို ပြေလည်အောင် ဖြေဆိုခြင်းအားဖြင့် သူ့ ခပ်သိမ်းတို့အား နှစ်သက်မှု ဖြစ်စေရာ၏။ ထိုပုဂ္ဂိုလ်မျိုးကို လူ့ပြည်၊ နတ်ပြည်၊ ဗြဟ္မာပြည်၌ အကျွန်ုပ်မမြင်။ ဤပြဿနာများကို အရှင်ဘုရားမှ တစ်ဆင့် ဘုရားသခင်အား ဆက်ဆက် မေးလျှောက်တော်မူပါဘိ" ဟူ၍ တပည့်တော်ကို ပန်ကြားပြီး ထိုနတ်သားသည် ရုတ်ချည်းပင် ပြန်သွားပါသည် ဘုရား။

"အရှင်မြတ်ဘုရား၊ ထိုနတ်သား မေးလျှောက်သွားသည့် ပြဿနာများ အနက်မှ–

၁။ တောင်ပို့ဟူသည် အဘယ်ပါနည်း။
၂။ ညဉ့်၌ အခိုးအလျှံထွက် ဟူသည် အဘယ်ပါနည်း။
၃။ နေ့အခါ၌ အရောင်တောက်ပဟူသည် အဘယ်ပါနည်း။
၄။ ပုဏ္ဏားဟူသည် အဘယ်ပါနည်း။
၅။ ပညာရှင်ဟူသည် အဘယ်ပါနည်း။
၆။ လက်နက်ဟူသည် အဘယ်ပါနည်း။
၇။ တူးဆွခြင်းဟူသည် အဘယ်ပါနည်း။
၈။ တံခါးကျည် (မင်းတုပ်) ဟူသည် အဘယ်ပါနည်း။
၉။ ဖားပြုပ်ဟူသည် အဘယ်ပါနည်း။
၁၀။ လမ်းနှစ်သွယ်ဟူသည် အဘယ်ပါနည်း။
၁၁။ ဆပ်ပြာရေစစ်ဟူသည် အဘယ်ပါနည်း။
၁၂။ လိပ်ဟူသည် အဘယ်ပါနည်း။

စပယ်ဦးစာပေ

၁၃။ သားလိမ္မာနှင့် စဉ်းတီတုံးဟူသည် အဘယ်ပါနည်း။

၁၄။ သားတစ်ဟူသည် အဘယ်ပါနည်း။

၁၅။ နဂါးဟူသည် အဘယ်ပါနည်း။

အရှင်ကုမာရကဿပသည် မြတ်ဘုရားအား ဤသို့မေးလျှောက်လေသော အခါ မြတ်ဘုရားက ဤသို့ ဖြေကြားတော်မူလိုက်၏။

"အို–ချစ်သား ကုမာရကဿပ၊

၁။ တောင်ပို့ဟူသည်ကား အခြားကို ဆိုသည်မဟုတ်။ မဟာဘုတ်လေးပါး၏ အစုအဝေးဖြစ်သော၊ မိဘတို့၏ သုက်သွေးကြောင့် ဖြစ်ရသော၊ ထမင်း စသော အာဟာရတို့ကြောင့် ကြီးပွားရသော၊ မမြဲခြင်း၊ လိမ်းကျံခြင်း၊ ဆုပ်နယ်ခြင်း၊ ပျက်စီးခြင်း၊ ဖရိုဖရဲကျခြင်း သဘောရှိသော ဤခန္ဓာကိုယ်ကောင်ပင် ဖြစ်၏။ ခန္ဓာကိုယ်ကောင်ကို တောင်ပို့နှင့် တင်စား၍ နှိုင်းဆိုခြင်း ဖြစ်ပေ၏။

၂။ ချစ်သား ရဟန်း၊ လူတို့သည် နေ့အခါ၌ တကုပ်ကုပ် အလုပ်လုပ်ကြရပြီး ညရောက်သောအခါ လုပ်ငန်းကိစ္စများအတွက် အဖန်ဖန်ကြံကြ၊ စည်ကြ၊ တွေးတောစိတ်ကူးကြ၏။ အကြိမ်ကြိမ် အထပ်ထပ် သုံးသပ်ကြ၏။ ဤသို့ ကြံစည် တွေးခေါ် စိတ်ကူး သုံးသပ်ခြင်းသည် ညအခါ အခိုးလျှံထွက်သည် မည်၏။

၃။ အို–ချစ်သားရဟန်း၊ လူတို့သည် ညအခါ တွေးတော ကြံစည်ကာ အကြံဉာဏ်များ ထုတ်ကြပြီးလျှင် နေ့အခါ၌ တလှုပ်ရှားရှား မနားမနေ အလုပ်လုပ်ကြကုန်၏။ ဤသို့အလုပ်လုပ်ကြရသည်ကို နေ့အခါတွင် အရောင်တောက်ပသည်ဟု ဆိုခြင်းဖြစ်၏။

၄။ အို–ချစ်သား ရဟန်း၊ ပုဏ္ဏားဟူသည်ကား ငါဘုရားကို ဆိုခြင်း ဖြစ်၏။

၅။ အို–ချစ်သား ရဟန်း၊ ပညာရှင် ဟူသည်ကား သိက္ခာသုံးပါးကို ကျင့်ဆဲဖြစ်သည့် ရဟန်းကို ဆိုပေ၏။

၆။ အို–ချစ်သား ရဟန်း၊ လက်နက်ဟူသည်ကား ပညာတည်း။ ပညာကို လက်နက်ဟု ဆိုသတည်း။

၇။ ချစ်သား ရဟန်း၊ တူးဆွခြင်းဟူသည်ကား အလုပ်ကို ကြိုးကြိုးကုတ်ကုတ် အားထုတ်လုပ်ကိုင်ခြင်းကို ဆိုပေ၏။

၈။ ချစ်သား ရဟန်း၊ တံခါးကျည် ဟူသည်ကား မသိနားမလည်မှု အဝိဇ္ဇာပင်တည်း။ 'အို-ပညာရှင်၊ တံခါးကျည်နှင့်တူသော အဝိဇ္ဇာကို ဖယ်ရှားပစ်လော့။ ပညာတည်းဟူသော လက်နက်ကို ယူ၍ တူးဆွခြင်းတည်းဟူသော ကြိုးစားအားထုတ်မှုကို ပြုလော့'ဟု ဆိုခြင်းပင်တည်း။

၉။ ချစ်သား ရဟန်း၊ ဖားပြုပ်ကောင်ဟူသည်ကား အမျက်ဒေါသကို ဆိုသတည်း။ 'အို-ပညာရှင်၊ သူ့ကို ထိတို့လျှင် ဖောင်းပွ၍ ထလာတတ်သော ဖားပြုပ်ကောင်နှင့် တူသည်။ ထိုအမျက်ဒေါသကို ဖယ်ရှားပစ်လော့'ဟု ဆိုခြင်းပေတည်း။

၁၀။ အို-ချစ်သား ရဟန်း၊ လမ်းနှစ်သွယ်ဆိုသည်ကား အဖြူ အမည်း မခွဲခြားနိုင်၊ အကောင်းအဆိုး မပိုင်၊ သို့လော သို့လော တွေးတောယုံမှားမှု၊ ဝိစိကိစ္ဆာကို ဆိုသတည်း။ 'အို-ပညာရှင်၊ လမ်းနှစ်သွယ်နှင့် အလားတူသော ဝိစိကိစ္ဆာအကြွင်းမဲ့ ပယ်ဖျောက်လော့။ ပညာလက်နက်စွဲကိုင်၍ ဖြိုင်ဖြိုင်တူးလော့'ဟု ဆိုခြင်းပင်တည်း။

၁၁။ အို-ချစ်သား ရဟန်း၊ ဆပ်ပြာရေစစ်ဟူသည်ကား နီဝရဏတရား[၁] ငါးပါးကို ဆိုသတည်း။ ၎င်းတို့ကို ဖယ်ရှားလော့။ ပညာလက်နက်ကို စွဲကိုင်၍ တူးလော့ဟု ဆိုခြင်းပင်တည်း။

၁၂။ အို-ချစ်သား ရဟန်း၊ လိပ်ဟူသည်ကား ဥပါဒါနက္ခန္ဓာ ငါးပါးကို ဆိုသည်။ အို-ပညာရှင်၊ လိပ်သတ္တဝါနှင့် အလားတူကုန်သော ၁။ ရူပုပါဒါနက္ခန္ဓာ၊ ၂။ ဝေဒနုပါဒါနက္ခန္ဓာ၊ ၃။ သညုပါဒါနက္ခန္ဓာ၊ ၄။ သင်္ခါရုပါဒါနက္ခန္ဓာ၊ ၅။ ဝိညာဏုပါဒါနက္ခန္ဓာတို့ကို အကြွင်းမဲ့ ပယ်လော့။ ပညာလက်နက်ကို စွဲကိုင်၍ တူးဖြိုလော့ဟု ဆိုခြင်းပင်တည်း။

၁၃။ အို-ချစ်သား ရဟန်း၊ သားလှီးဓားနှင့် စဉ်းတီတုံးဟူသည်ကား ကာမဂုဏ်ငါးပါးကို ဆိုသတည်း။ 'အို-ပညာရှင်၊ အလိုရှိအပ်၊ [illegible]ှင့်တအပ်၊ မြတ်နိုးအပ်၊ နှစ်သက်အပ်၊ တပ်စွမ်းကြောင်း ဖြစ်ကုန်သော သားလှီးဓား၊ စဉ်းတီတုံးနှင့် အလားတူသည့် ငါးပါးအာရုံကာမဂုဏ်တို့ကို ဖယ်ရှားလော့။ ပညာလက်နက် စွဲကိုင်လျက် တူးဖြိုလော့'ဟု ဆိုခြင်းပေတည်း။

---

၁။ ၁-ကာမစ္ဆန္ဒနီဝရဏ၊ ၂-ဗျာပါဒနီဝရဏ၊ ၃-ထိနမိဒ္ဓနီဝရဏ၊ ၄-ဥဒ္ဓစ္စနီဝရဏ၊ ၅-ဝိစိကိစ္ဆာနီဝရဏ။

၁၄။ အို–ချစ်သား ရဟန်း၊ သားတစ်ဟူသည်ကား ရာဂကို ဆိုသတည်း။ 'အို–ပညာရှင်၊ သားတစ်နှင့် အလားတူသော ရာဂကို အမြစ်ပြုတ်အောင် သုတ်သင်လော့။ ပညာလက်နက်ကိုင်၍ ဖြိုင်ဖြိုင်ဖြိုခွင်းလော့'ဟု ဆိုခြင်းပင်တည်း။

၁၅။ အို–ချစ်သား ရဟန်း၊ မြွေနဂါးဟူသည်ကား ရဟန္တာပုဂ္ဂိုလ်ကို ဆိုသတည်း။ ထိုမြွေနဂါးတည်းဟူသော ရဟန္တာပုဂ္ဂိုလ်ကို ဦးထိပ်ထက်၌ တည်ထားလော့။ ညှဉ်းပန်းခြင်း မပြုအပ်။ အမြဲတစေ ရှိသေစွာ ရှိခိုးလော့။ ပူဇော်လော့ဟု ဆိုခြင်းပေတည်း။

အို–ချစ်သား ရဟန်း၊ နတ်သား မေးလျှောက်အပ်သော ပြဿနာတို့၏ အဖြေကား ဤသည်တို့ပင် ဖြစ်သတည်း"ဟု မိန့်တော်မူ၏။ အဆုံးတွင် အရှင်ကုမာရကဿပသည် ရဟန္တာဖြစ်သွားလေ၏။[၁]

(မဇ္ဈိမနိကာယ်၊ မူလပဏ္ဏာသပါဠိတော်၊ ဩပမ္မဝဂ်၊ ဝမ္မိကသုတ်၊ ၁၉၅၊ ဆဋ္ဌမူ)

---

၁။ ပဉ္စဝီသတိနာသာနေ အရဟတ္တံပါပုဏိ။ ဒီဃနိကာယ်၊ မဟာဝါအဋ္ဌကထာ၊ ပါယာသိရာဇညသုတ်၊ ၃၉၇၊ ဆဋ္ဌမူ။

(၂)

# ပရလောကကို သုတေသနပြုသူ မြို့စားကြီးတစ်ဦး

ကျောက်ခဲချင်း ခတ်မိလျှင် မီးပွင့်၏။
ဒေါသချင်း ခတ်မိလျှင် ရန်မီးပွင့်၏။
ပညာရှိချင်း ခတ်မိလျှင် ဉာဏ်မီးပွင့်၏။

ပညာရှိ စာတတ်ပေတတ်၊ စကားတတ် ရဟန်းတော်တစ်ပါးနှင့် မိစ္ဆာဝါဒကို ရင်ဝယ်ပိုက်ထွေးထားသူ လူစကားတတ် လူကတတ် လူကလန့် မြို့စားတစ်ဦး။ ထိုဗုဒ္ဓဝါဒီနှင့် မိစ္ဆာဝါဒီနှစ်ဦးတို့ ယှဉ်ပြိုင် ရင်ဆိုင်မိလေသောအခါ ပွဲကြီးပွဲကောင်း သဖွယ် "ဝါဒတိုက်ပွဲ" ပုံသဏ္ဌာန်မျိုး ဖြစ်ပေါ်လာသည်။

တမလွန်လောက "ရှိ၊ မရှိ"ကိုလည်းကောင်း၊ သတ္တဝါသည် သေသည်မှ နောက်၌ "ဖြစ်၊ မဖြစ်"ကိုလည်းကောင်း၊ ကုသိုလ်ကောင်းမှုပြုလျှင် အကျိုး "ရ၊ မရ" အကုသိုလ်ပြုလျှင် အပြစ် "ဖြစ်၊ မဖြစ်"ကိုလည်းကောင်း၊ အချင်းချင်း အပြန်ပြန်အလှန်လှန် တင်ပြချက်၊ ဆွေးနွေးချက်၊ ဝေဖန်သုံးသပ်ချက်များမှာ နှောင်းသောအခါတွင် ရာဇဝင်တွင်ရစ်စေမည့် "အဖိုးတန်မှတ်တမ်းကြီး" တစ်ခု ဖြစ်လာသည်။ ဖြစ်ပုံကား ဤသို့တည်း။

ထိုသမိုင်းမှတ်တမ်းကြီး၏ နိဒါန်းအစတွင် မြို့စားတစ်ဦးက ပလ္လင်ခံ၏။ အမည်မှာ "ပါယာသိ"ဟု တွင်သည်။ ပါယာသိသည် ကောသလမင်းကြီးက သေတဗျအမည်ရှိသော မြို့ကို အပိုင်စားပေးထားသောကြောင့် မြို့ကို အစွဲပြု၍ "သေတဗျမြို့စား"ဟု တွင်ဖွယ်ဖြစ်သော်လည်း သူ၏ ပြောင်မြောက်မှုကြောင့် မြို့၏အမည်ကို လူအမည်က လွှမ်းကာ "ပါယာသိမြို့စား"ဟူ၍သာ တွင်နေ၏။

ပါယာသိမြို့စားသည် သတ္တိရှိ၏။ တစ်စုံတစ်ခုကို လုပ်မိလျှင် ဝံ့ဝံ့ရဲရဲ ပြတ်ပြတ်သားသား လုပ်တတ်၏။ ဝံ့ဝံ့ရဲရဲ သတ္တိ ဗျတ္တိရှိစွာဖြင့် ပြတ်ပြတ်သားသား

လုပ်တတ်သောကြောင့် သူသည် မိစ္ဆာဝါဒ သရဖူဆောင်းကာ မိစ္ဆာဝါဒတို့၏ အရှင်သခင် ဖြစ်လာသည်။ အုပ်ချုပ်ရေးထက် ဝါဒရေးကြောင့် (ပါယာသိရာဇညာ) ပါယာသိမြို့စားကြီးဆိုသော အမည်ဂုဏ်သတင်းမှာ ပျံ့နှံ့ကြီးမြင့်လျက် ရှိလေသည်။

ပါယာသိမြို့စားသည် ယခုအချိန်တွင် မိစ္ဆာဝါဒကို အမြတ်တနိုး ရင်ဝယ် ပိုက်ထွေးထားမိပြီဖြစ်သော်လည်း ထိုမိစ္ဆာဝါဒကို သူသည် အရမ်းကာရော ယုံကြည်လက်ခံခြင်း မဟုတ်ပေ။ သူပြော လူပြောကိုလည်း မယုံကြည်တတ်၊ ကိုယ်တိုင်ကိုယ်ကျ ကျေနပ်လောက်အောင် သုတေသနပြုလျက် စိတ်ချလောက်သည့် အခြေဆိုက်မှ နှစ်ခြိုက်လေ့ရှိ၏။ ထိုခေတ်တွင် ဤအချက်သည် ပါယာသိမြို့စားကြီး၏ ထူးခြားသောဂုဏ် ဖြစ်လေသည်။

သူ ယခု သိမ်းပိုက်ခံယူထားသော မိစ္ဆာဝါဒကို လက်မခံမီက အကြိမ်ကြိမ် အထပ်ထပ် ဝွမ်းဖတ်ကဲ့သို့ ကျေညက်နေအောင် နှစ်နှင့်ချီ၍ လေ့လာစူးစမ်းကာ လက်တွေ့သုတေသနပြုလာခဲ့ရသည်။ နှစ်နှစ်ကာကာ အူထဲ အသည်းထဲက လှိုက်လှိုက်လှဲလှဲ မကျေမနပ်မချင်း ထိုဝါဒကို လက်ခံခြင်း သူ မပြုသေး။

ထိုဝါဒကို သုတေသနပြုစဉ်က ပါယာသိမြို့စားသည် သူ ဉာဏ်မီသလောက် မူတစ်ခုကို "စောက်ချ"ခဲ့၏။ ထိုမူအရ သူ သုတေသနပြုခဲ့ခြင်း ဖြစ်၏။

သူ့မူကား မူထူး မူဆန်း ဖြစ်၏။

အကြင်သူသည် ကံငါးပါးကို လုံခြုံအောင် စောင့်စည်းပြီးလျှင် ဒါန၊ သီလ စသော ကုသိုလ်ကောင်းမှုတို့ကို တတ်နိုင်သမျှပြု၏။ ထိုသူ ကွယ်လွန်သောအခါ နတ်ရွာသုဂတိသို့ လားရောက်ရလေ၏။

အကြင်သူ တစ်ဦးကား ကံငါးပါးကိုလည်း ကျူးလွန်၏။ ဒါန၊ သီလ စသော ကောင်းမှုတို့ကိုလည်း ပြုခြင်းမရှိ။ ထိုသူကွယ်လွန်သွားလေသောအခါ အပါယ်လေးပါးသို့ လားရောက်ရလေ၏ဟု သမဏဗြာဟ္မဏကြီးတို့ ဆိုပြောဆုံးမလေ့ရှိသည့် "ရှေးဟောင်းသြဝါဒများ"အပေါ် သူ့မူကို အခြေခံပန္နက်စွဲလိုက်ပြီးနောက် ဒုစရိုက် မိုက်တုံးတာများကိုလည်းကောင်း၊ သုစရိုက် ကုသိုလ်ရှင်များကိုလည်းကောင်း သူ၏ သုတေသန ဇာတ်လမ်းအတွက် လက်တွေ့အစမ်းသပ်ခံ ဇာတ်ကောင်အဖြစ် ရွေးလိုက်လေသည်။

ဆန္ဒပြင်းစွာဖြင့် ပါယာသိမြို့စား လေ့လာလိုက်စားနေသော အရာကား "တမလွန်လောက ရှိ မရှိ၊ သေလျှင် ဘဝသစ်တစ်ခု၌ ပြန်၍ ဖြစ် မဖြစ်၊ ကုသိုလ်ပြုလျှင် ကုသိုလ်၏ အကျိုးကို စံရမည်၊ မစံရမည်၊ အကုသိုလ်ပြုလျှင် အကုသိုလ်၏ အပြစ်ကို ခံရမည်၊ မခံရမည်"ကို အတိအကျ သိရအောင် ကိုယ်တွေ့ သုတေသနပြုခြင်းပင် ဖြစ်၏။

ပါယာသိမြို့စား တွက်ဆမိလေသည်ကား အကယ်၍ သမဏဗြာဟ္မဏကြီးတို့ ဆိုလေတိုင်း အကုသိုလ်မှုကို ပြုလုပ်ကြသော ဒုစရိုက် မိုက်တုံးတာကောင်များ သေခဲ့သော် အပါယ်လေးပါ အစာဖြစ်မည်။ ငရဲကျမည်။ ငရဲရောက်လျှင် ငရဲအကြောင်းကို ထိုသူတို့ ကောင်းကောင်းသိကြမည်။ သုစရိုက်မှု ကုသိုလ်ပြုကြသော အလှူရှင်၊ ဒါနရှင်များ ကွယ်လွန်၍ နတ်ရွာသုဂတိလားခဲ့သော် ထိုသူဤသူတို့သည် နတ်ပြည်အကြောင်းကို ကောင်းကောင်း သိကြမည်။

သူ၏ သုတေသနအတွက် ထိုသူတို့ထံမှ (ဝါ) နတ်ပြည်ရောက်သူ၊ ငရဲလားသူတို့ထံမှ (ဝါ) အထက်လူ၊ အောက်လူတို့ထံမှ အထောက်အကူများစွာ ရနိုင်သည်ဟု တွက်ဆထားသည့်အလျောက် သူ၏ သုတေသနမှုတွင် ထိုကုသိုလ်ရှင်၊ အကုသိုလ်ရှင် (ဝါ) ထိုလူလိမ္မာနှင့် လူမိုက်တို့အား ကျကျနန အသုံးချလေတော့သည်။

သူ၏အသုံးချပုံမှာ ယဉ်ယဉ်ကလေးနှင့် ဆွဲဆောင်မှု ရှိလှ၏။ လူတစ်ဖက်သားတို့အား စိတ်ဝင်စားစရာဖြစ်စေ၏။ ထိုသူ ထိုသူများ သေခါနီး ကာလတွင် သူတို့ထံမှောက်သို့ ကိုယ်တိုင်သွားရောက်ပြီး ထိုသူတို့နားသို့ စကားသွင်းလိုက်သည်။

ဥပမာ၊ ကံငါးပါးကို လုံခြုံအောင် ထိန်းစောင့်ပြီး ကုသိုလ်ကောင်းမှုပြုကြသော လူ့သူတော်ကောင်းများအား "သင်တို့ ကွယ်လွန်သွားခဲ့သော် ဆရာသမဏ၊ ဗြာဟ္မဏတို့၏ အဆိုအမိန့်အရဆိုလျှင် နတ်ရွာသုဂတိသို့ လားရောက်ရမှာ သေချာသည်။ နတ်ပြည်ရောက်လေသောအခါ ကျွန်တော်၊ ကျွန်မဖြင့် မည်သည့်နတ်ဘုံမှာ မည်သည့်နတ်သမီး၊ နတ်သား ဖြစ်နေပါသည်" ဟူ၍လည်းကောင်း၊ ကံငါးပါးကို အတုံးလိုက် အတစ်လိုက် ကျိုးလွှန်ထားကြသော ဒုစရိုက်မိုက်ခဲများ အားလည်း "သင်တို့ ကွယ်လွန်သောအခါ အပါယ်လေးပါးအစာဖြစ်၍ ငရဲသို့ လားမှာ သေချာသည်။ အကယ်၍ ငရဲသို့ကျရောက်ခဲ့သော် မည်သည့် ငရဲမှာ မည်သို့ခံနေရပါသည်" ဟူ၍လည်းကောင်း၊ မိမိ၏ အပေါင်းအသင်း ရောင်းရင်း မိတ်သင်္ဂဟများအားလည်း သေသည်၏ အခြားမဲ့၌ ရောက်ရာဘဝက လာပြီး "ဘယ်နေရာမှာ ဘာဖြစ်နေသည်" ဟူ၍လည်းကောင်း သူ့ထံလာ၍ အကြောင်း ပြန်ကြားလှည့်ပါရန် တင်ကြို၍ မှာလိုက်လေသည်။

ထိုသူ ဤသူများကလည်း "ကောင်းပါပြီ၊ လာရောက်အကြောင်းပြန်ပါမည်။ သတင်းပို့ပါမည်" ဟူ၍ အသီးသီး လေးလေးစားစား အာမခံသွားကြကုန်သဖြင့် ထိုသူတို့ ကွယ်လွန်သွားလေသောအခါတွင် ပါယာသိမြို့စားသည်

ဟိုက သည်က သတင်းစကားများ ကြားရနိုးနိုးဖြင့် အမျှော်ကြီး မျှော်ကိုးနေခဲ့သော်ငြားလည်း ကာလကြာညောင်းအချိန်သာ ဟောင်းဟောင်းလာခဲ့သည်။ မည်သူတစ်ဦးတစ်ယောက်မျှ သူ့ထံ အကြောင်းပြန်ကြားလာသူ မရှိ။ နတ်ပြည်ကလည်း သတင်းမရောက်၊ အောက်ငရဲပြည်ကလည်း သတင်းမရ။ ဘာမျှ မသိရသည့် အဆုံးတွင် သူ၏သုတေသနလုပ်ငန်းကို နိဂုံးချုပ်လိုက်သတည်း။

"တမလွန်လောကဆိုသည်မှာ တကယ်ရှိသည် မဟုတ်။ လံကြုပ်၊ လုပ်ကြံစကားမျှသာပါတကား။ အကယ်၍ ရှိခဲ့သော် တစ်ယောက်မဟုတ်လျှင် တစ်ယောက်ယောက်တော့ ဧကန် ငါ့ထံသို့ အကြောင်းပြန်ကြားလာလေတန်ရာသည်။ သတ္တဝါ သည် သေသည်မှ နောက်ကာလ၌ ဘာမျှမဖြစ်၍သာ မလာခြင်းဖြစ်မည်။ စင်စစ် ကုသိုလ်ကံ၊ အကုသိုလ်ကံ တို့၏ အကျိုးဖလ ဆိုသည်မှာလည်း အပြောသာရှိသည်။ လက်တွေ့အားဖြင့်ကား ဘာမျှမဟုတ်။ ကောင်းတာကိုပဲ လုပ်လုပ်၊ မကောင်း တာကိုပဲ လုပ်လုပ်၊ လုပ်သောကြောင့် အကျိုးလည်း မဖြစ်။ အပြစ်လည်း မဖြစ်။ ထို့ကြောင့် ကောင်းကျိုးကို မျှော်ကိုး၍လည်း ကုသိုလ်ကောင်းမှုကို ပြုစရာမလို။ အပါယ်လားမည်စိုး၍လည်း အကုသိုလ် ဒုစရိုက်အလုပ်မျိုးအတွက်လည်း ရှိုးတိုး ရှန့်တန့်ဖြစ်ဖွယ်မရှိဟု စွဲမြဲစွာ သန္နိဋ္ဌာန်ချလိုက်ပြီးနောက် အောက်ပါအတိုင်း "ဝါဒလမ်းစဉ်"သတ်မှတ်လေသတည်း။

> "ထိုထိုအကြောင်းကြောင်း[၁]တို့ကို ထောက်၍ တမလွန်လောက ဟူသည် မရှိ။ သတ္တဝါသည် သေသည်မှ နောက် ပြန်၍ မဖြစ်။ ကုသိုလ်ကံ၊ အကုသိုလ်ကံတို့၏ အကျိုးဝိပါက်ဆိုသည်မှာလည်း စကားတွင်သာ ရှိသည်။ လက်တွေ့ အကောင်အထည်အားဖြင့် ဘာမျှ မထင်၊ ဘာမျှ မရှိ"

ဤသည်ကား ပါယာသိမြို့စား၏ သုတေသနပြုချက်မှ ထွက်လာသည့် ကောက်ချက် ဖြစ်ချေ၏။ ဤကောက်ချက်အရ ကိုယ်တိုင်လည်း ခံယူကျင့်သုံး၏။ သူတစ်ပါးအားလည်း ကျင့်သုံးစေ၏။

ပါယာသိမြို့စား၏ မိစ္ဆာကောက်ချက်ကို အကယ်ပင် လှိုက်လှိုက်လှဲလှဲ စွဲမြဲစွာ လက်ခံ ယုံကြည်ကြသူများလည်း ရှိသည်။ အချို့ကမူ ယင်းမိစ္ဆာ အယူဝါဒကို ယုံကြည်ခြင်းမရှိသော်လည်း ပါယာသိမြို့စား၏ အကြိုက်ကိုလိုက်ကာ

---

၁။ ဣတိပိ နတ္ထိတိ တံတံကာရဏံ အပဒိသိတွာ ဓဝမ္ပိ နတ္ထိတိ ဝဒတိ၊ (ဒီဃနိကာယ်၊ သုတ်မဟာဝါအဋ္ဌကထာ၊ ပါယာသိရာဇညသုတ်-၃၉၇၊ ဆဋ္ဌမူ)

မိစ္ဆာအယူ ကပ်မြှောင် အယောင်ဆောင်ကြသည်။ အချို့မှုကား ပါယာသိမြို့စား၏ အယူအစွဲကို ကြိုက်သည်လည်း မဟုတ်၊ မကြိုက်သည်လည်း မဟုတ်။ ဘာသိဘာသာပင် နေကြသည်။

ထိုအခါ ပါယာသိမြို့စားမှာ တမလွန်ဘဝနှင့် ပတ်သက်၍ လက်တွေ့ကျကျ သုတေသနပြု၍ တီထွင်လိုက်သော "ဝါဒတီထွင်ရှင်မြို့စား"ဖြစ်လာသည်။ နဂိုက မြို့စားအရှိန်အဝါဖြင့် အရပ်ထက်ဝန်းကျင်၌ ထင်ရှားကျော်ကြားလျက် ရှိနေသည့်အထဲတွင် ဝါဒသစ်တစ်မျိုးကို အောင်မြင်စွာ ပျိုးထောင်လိုက်နိုင်ပေသည့်အတွက် သေတဗျမြို့နယ်တွင်သာမက ကောသလမင်းကြီး စိုးစံတော်မူရာ နေပြည်တော်ကြီးအထိ ပါယာသိမြို့စား၏ သတင်းမှာ တောမီးလောင်သည့်အလား ကူးစက်ပြန့်ပွားသွားလေရာ ကောသလမင်းကြီးမှာလည်း ဝါဒရေးရာနှင့် ပတ်သက်၍ လွတ်လပ်စွာ ခံယူကျင့်သုံးခွင့်ပေးသည့်သဘောဖြင့် မိစ္ဆာဝါဒ တီထွင်ရှင် ပါယာသိမြို့စားအား ထိုကိစ္စနှင့်ပတ်သက်၍ လျစ်လျူရှုကာသာ နေတော်မူသောကြောင့် ပါယာသိမြို့စား၏ မိစ္ဆာအယူမှာ အညွန့်တလူလူ ရှိနေလေတော့သည်။

သို့သော်–သို့သော်–

တစ်နေ့သ၌ ပါယာသိမြို့စားအဖို့ မနှစ်မြို့ဖွယ်၊ စိတ်နှလုံးနောက် တုန်လှုပ်ချောက်ချားစရာ အကြောင်းတစ်ခု ပေါ်လာလေ၏။ အယူမှားနေသော ပါယာသိမြို့စား၏ နယ်ထဲသို့ စာတတ်၊ စကားတတ်၊ ဉာဏ်ပဋိဘာန် လျှင်မြန်လှသည်ဟု ကျော်ကြားသော ရဟန်းတော်တစ်ပါး ကြွရောက်လာသောကြောင့်ဖြစ်သည်။ ပါယာသိမြို့စား စိုးပိုင်သော သေတဗျမြို့၏ ထက်ဝန်းကျင်တွင် စုရုံးစုရုံးနှင့် ပြဿနာကို ခေါင်းချင်းရိုက်ရင်း ဟိုက သည်က ထွက်ထွက်လာကြသောလူများကိုလည်းကောင်း၊ ထိုလူတို့သည် တစ်နေရာ၌ တစ်ပေါင်းတည်း တစ်ခဲနက်စုရုံးကြပြီးလျှင် သေတဗျမြို့ မြောက်စူးစူးအရပ် ယင်းတိုက်တောဆီသို့ အလုံးအရင်းနှင့် ချီတက်သွားကြသည်ကိုလည်းကောင်း ပါယာသိမြို့စားသည် ပြာသာဒ်ထက် လေသာနန်းတံခါးမှ မြင်ရလေသောအခါ အမတ်တစ်ဦးကို ခေါ်၍ အကျိုးအကြောင်း မေးလေသည်တွင် ထိုအမတ်က တင်လျှောက်လေသည်ကား–

"အို–အရှင့်သား၊ ဂေါတမ မြတ်စွာဘုရား၏ တပည့်၊ အရှင်ကုမာရကဿပ မည်သော ရဟန်းတစ်ပါးသည် နောက်ပါ သံဃာငါးရာ ခြံရံလျက် ဤမြို့သို့ ဆိုက်ရောက်လာပြီး ယခု ယင်းတိုက်တောနန်းတွင် စခန်းချလျက် ရှိနေပါသတဲ့ ဘုရား။ ထိုကိုယ်တော်သည် ပညာလည်း တတ်သည်။ စကားအရာမှာလည်း လိမ္မာသည်။ ဉာဏ်ပဋိဘာန် အလွန်လျင်သည်။ ပရိယာယ်ကြွယ်ကြွယ်ဖြင့် သူမတူအောင် ဆန်းကြယ်လှစွာသော တရားစကားကိုလည်း ဟောပြောတတ်

သည်။ ထေရ်ကြီး ဝါကြီး၊ ရဟန္တာကိုယ်တော်ကြီးဟူ၍လည်း ကျော်ကြားပါသည်။ တစ်မြို့လုံး အုတ်အုတ်ကျက်ကျက်နှင့် ဂယက်ရိုက်ပြီး ဟိုလူအုပ်ကြီး ချီတက်သွားသည်မှာ ထိုရဟန္တာ အရှင်သူမြတ် ကုမာရကဿပ ကိုယ်တော်ကြီးကို ဖူးမြော်ကြရန် သွားကြခြင်းပါ အရှင့်သား"

ထိုစကားကို ကြားလတ်သော ပါယာသိမြို့စားမှာ မျက်လုံးများပင် ပြူး သွားလေသည်။ "ရော-ခက်ရချည့်၊ မလိမ်မိုး မလိမ်မာနဲ့ ဒီမြို့ပေါ်က ငါ့ပရိသတ်၊ လူတွေကို သည်ကိုယ်တော်က ဉာဏ်ကလည်း လျင်၊ အပြောအဆိုက လိမ္မာ၊ စကားတတ်ဆိုလျှင်ဖြင့် မဖြစ်ဘူး၊ မဖြစ်ဘူး။ ငါ့အကောင်တွေက စိတ်ချရတာ မဟုတ်ဘူး။ သူ့တရားဆွဲရာသို့ ပါကုန်ရင် အခက်။ ငါကိုယ်တိုင်လိုက်၍ ကြိုးကိုင်လေမှ တော်မည်" ဟူ၍ အမတ်အား "အချင်း အမတ်၊ ဟိုလူ အုပ်ကြီးကို သွားဆိုင်းထားလိုက်စမ်း။ ငါပါလိုက်ခဲ့မည် ပြော" ဟူ၍ စေခိုင်းလျှင် အမတ်လည်း လူအုပ်ကြီးနောက်သို့ အမီလိုက်၍ အကျိုးအကြောင်းပြောပြကာ လူအုပ်ကြီးကို ဆိုင်းထားသည်။ လူအုပ်ကြီးလည်း မြို့စားကိုယ်တိုင် လိုက်မည်ဆိုသဖြင့် ဆိုင်းငံ့နေကြသည်။

ခဏကြာလျှင် ပါယာသိမြို့စား ရောက်လာသည်။ လမ်းလျှောက်လာရင်း စိတ်နှစ်ခွဖြစ်လာ၏။ ပထမတွင် မိမိ၏ပရိသတ်အား ဖျားယောင်းသွေးဆောင် သွားမည်ကို စိုးရိမ်ခြင်းဖြစ်ရာမှ "အရှင်ကုမာရကဿပသည် စာတတ် ပေတတ်၊ စကားတတ်၊ ဆန်းဆန်းကြယ်ကြယ် ပရိယာယ်ကွယ်ကွယ်နှင့် ဟောပြောတတ် သည်ဆိုချက်ကို ကွက်ခနဲ စိတ်ဝင်စားမိလာသည်။ ထိုမှတစ်ဆင့် သူ၏ ဝါဒကို ရှင်ဖွင့်တင်ပြကာ ဆွေးနွေးကြည့်ရလျှင် ကောင်းလေမည်လောဟူ၍ "ဝါဒချင်း နှီးနှော"လိုသည့် ဆန္ဒကလည်း မသိမသာ သူ့ဦးနှောက်ထဲ ရောက်လာသည်။

ပါယာသိမြို့စားကဲ့သို့သော မိစ္ဆာဝါဒီတစ်ဦးက စိတ်ဝင်စားလာရခြင်းမှာ အရှင်ကုမာရကဿပ၏ ထူးခြားသော အရည်အချင်းတစ်မျိုးကြောင့် ဖြစ်၏။ ထိုအရည်အချင်းမှာ အကြောင်းအရာတစ်ခုကို စိတ်ဝင်စားလာအောင် ဆန်းဆန်းကြယ်ကြယ် ပရိယာယ်များဖြင့် သွယ်သွယ်ဝိုက်ဝိုက် ပိုက်ကွန်နှင့် ပစ်ဖမ်းသည့်ပမာ စိတ်ဓာတ် တိမ်းညွတ်လာအောင် အပြောကောင်း၊ အဟောကောင်းခြင်း၊ စကားအရာ အင်္ဂါလေးတန် တတ်ပွန် လိမ္မာခြင်းပင် ဖြစ်၏။

ဤသို့ ဆန်းဆန်းကြယ်ကြယ်၊ သွယ်သွယ်ဝိုက်ဝိုက် အပြောအဟောကောင်း ခြင်းမှာလည်း သမိုင်းကြောင်း ထင်ထင်ရှားရှားရှိလေရာ ထိုသမိုင်းကြောင်း ဝတ္ထုအချုပ်မှာ-

အရှင်ကုမာရကဿပ[၁]သည် ပဒုမုတ္တရ မြတ်စွာဘုရားလက်ထက်၌ သူဌေးသားဖြစ်ခဲ့၏။ တစ်နေ့သ၌ ဆန်းကြယ်စွာ စကားဆိုတတ်သော ရဟန်းတစ်ပါးအား "ဧတဒဂ်ဘွဲ့"ပေးနေသည်ကို မြင်၍ အားကျလာပြီး အလှူကြီး ပေးလှူပြီးလျှင် "နောင်ပွင့်လတ္တံ့သော ဂေါတမဘုရားသခင်လက်ထက်၌ ဤရဟန်းကဲ့သို့ ဆန်းကြယ်စွာ ဆိုပြောတတ်သောအရာတွင် ဧတဒဂ်ဘွဲ့ ရပါစေသား"ဟု ဆုတောင်းခဲ့ဖူးသဖြင့် ထိုဆုတောင်းနှင့်အညီ "စိတြကတိ" ဆန်းဆန်းပြားပြား စကားပြောကောင်းသည့် ဧတဒဂ်ဘွဲ့ထူးဖြင့် ချီးကျူးခြင်းခံရသော ရဟန္တာဖြစ်လာသည်။

အရှင်ကုမာရကဿပသည် စကားပြောကောင်းသော အရာ၌သာ ဆန်းသည် မဟုတ်။ လူဖြစ်လာစ သူ့ဘဝကလည်း အဆန်းပင် ဖြစ်သည်။ ထူးထူးဆန်းဆန်း ဘိက္ခုနီ (ရဟန်းမ) တစ်ဦးက မွေးလာသော သားဖြစ်သည်။

သူ့မိခင် အပျိုဘဝက ဘိက္ခုနီမ ဝတ်ချင်၍ မိဘနှစ်ပါးထံ ခွင့်ပန်ခဲ့သော်လည်း မရ။ မိဘများက ခွင့်မပြု။ သမီးကို လင်ပေးစားလိုက်ကြ၏။ သမီးမှာ လင်ရှိမယား ဖြစ်သွား၏။ ထိုအခါ အရှင်ကဿပ၏ မိခင်က "ဘိက္ခုနီမ ဝတ်ပါရစေ"ဟု လင်ယောကျ်ားထံ ခွင့်ပန်သည်။ လင်၏ ခွင့်ပြုချက်အရ ဘိက္ခုနီမ ဖြစ်၍ သာသနာ့ဘောင် ရောက်လာသည်။

ထိုအခါ ဘိက္ခုနီမမှာ ဗိုက်ပြဿနာ ပေါ်လာလေ၏။ ရဟန်းမတန်မဲ့ ဗိုက်ကြီးရသလားဟု မဲ့ကြ၊ ရွဲ့ကြ၊ ကဲ့ရဲ့ကြကုန်၏။ အရှင်ဒေဝဒတ်ကမူ "ဒီဟာမ ရဟန်း မဟုတ်တော့"ဟူ၍ပင် မှတ်ချက်ချလိုက်ရာမှအစ ထိုဗိုက်ပြဿနာမှာ ဘုရားထံတော်သို့ ရောက်လေ၏။

ဤတွင် "ဝိနယ ဧတဒဂ်ဘွဲ့ရ ဥပါလိ စုံစမ်းစစ်ဆေးစေ"ဟု ဘုရားသခင်က လွှဲလိုက်သည့်အခါ အရှင်ဥပါလိမထေရ်သည် ဝိသာခါ အစရှိသော အမျိုးသမီးများကို ခေါ်၍ ကိုယ်ဝန်ဆောင်ရခြင်း၏ ရက်၊ လ၊ သဘော သဘာဝများကို တွက်ဆရန် အမျိုးသမီးချင်း စုံစမ်း စစ်ဆေးစေသည်တွင် လူဝတ်ကြောင်ဘဝက ပါလာသော ကိုယ်ဝန်ဖြစ်ကြောင်း သိရမှ ထိုဗိုက်ပြဿနာ ပြီးဆုံးသွားတော့၏။ ဖွားမြင်လာသောအခါ ကောသလမင်းကြီးက သားတော်အဖြစ် မွေးစားထားသောကြောင့် ရဟန်းဖြစ်လာသောအခါတွင် "ကုမာရကဿပ"ဟု ထင်ရှားလာသတည်း။ (ဤကား ကုမာရကဿပ၏ သမိုင်းကြောင်း ဖြစ်၏။)

အရှင်ကုမာရကဿပသည် ဗုဒ္ဓဝါဒဘက်မှ တိုက်စစ်မှူးကြီး တစ်ဦးဖြစ်၍ ပါယာသိမြို့စားမှူးကား မိစ္ဆာဝါဒထုတ်လုပ်သူ ဧကရာဇ်ဖြစ်လေသည်။

---

၁။ ထေရော ကိရ ပဒုမုတ္တရဿ ဘဂဝတော ကာလေ သေဋ္ဌိ ပုတ္တောအဟောသိ။ (ဒီဃနိကာယ်၊ သုတ်မဟာဝါ အဋ္ဌကထာ၊ ပါယာသိရာဇညသုတ်၊ ၃၉၆)

ပါယာသိမြို့စားသည် မိစ္ဆာဝါဒီ အစစ်ရော အယောင်ဆောင်သူတွေပါ အခြွေအရံများစွာဖြင့် အရှင်ကုမာရကဿပ သီတင်းသုံးတော်မူရာ ယင်းတိုက်တော သို့ ရောက်လာပြီး အရှင်ကုမာရကဿပ၏ ရှေ့တော်ဝင်၍ နှုတ်ခွန်းဆက်သကာ အလ္လာပ သလ္လာပ စကားအနည်းငယ်ပြော၍ သင့်လျော်သော နေရာတွင် ထိုင် လျက်မှ အရှင်ကဿပအား အကဲခတ်သည့်အမူအရာဖြင့် ကြည့်ကာသာနေသည်။ သူ့ပရိသတ်အချို့က အရှင်ကုမာရကဿပအား ရှိခိုးကြသည်ကိုလည်းကောင်း၊ အချို့က မိမိတို့၏အမည်နာမများကို ထုတ်ဖော်၍ အရှင်ကုမာရကဿပအား လျှောက်ထားနေသည်ကိုလည်းကောင်း၊ အချို့က မမိုတ်မသုန် အရှင်ကုမာရကဿပ အား ကြည့်လင့်နေသည်ကိုလည်းကောင်း မြင်ရသောအခါ ပါယာသိမြို့စားမှာ "ငါ့ကောင်တွေ ပါများသွားလေမည်လား" ဟူ၍ စိုးရိမ်သော အမူအရာဖြင့် ထိုင်နေရင်း ငြူစူသလိုလို ဖြစ်နေသည်။

သို့သော် ဤစိတ်ကို သူ၏ ဝါဒက ချွန်းချိတ်၍ ဟန့်တားလိုက်ချက်အရ နောက်တွင်မူ မနာလိုစိတ်ပျောက်ကာ ဝါဒစိတ်များကသာ သူ့အား လွှမ်းမိုးလာ သည်။ သူ့ဝါဒ နိုင်မာစေလိုစိတ်ကလည်း ရှိသည်။ "သည်ကိုယ်တော် နာမည် ကြီးလှသည်။ ကျော်တိုင်း တော် မတော် သိရအောင် ငါ့ဝါဒကို တင်ပြဆွေးနွေး ကြည့်ရလျှင် ကောင်းလေစွ"ဟု ရုတ်ခြင်းပင် အတွေးပေါက်လာသည့်အလျောက် ကောက်ကာငင်ကာဆိုသလို သူကပင် စတင်လိုက်၏။

"အို–အရှင်၊ အရှင်နှင့် စကားဆိုမှု ရယူလိုပါ၏။ ခွင့်ပြုတော်မူနိုင်ပါစ"

"ဒကာတော် မြို့စား၊ ဆိုနိုင်ခွင့် ရှိပါ၏။ ဆိုလိုရာကို ငါ့အား ဆိုလော့"

"အို–အရှင်၊ အကျွန်ုပ်မှာ ဝါဒတစ်ခုရှိ၏။ ထိုဝါဒကို တင်ပြပြီး ဝါဒရေးရာ နှင့် ပတ်သက်၍ အရှင်နှင့် ဆွေးနွေးလိုပါသည်။ ကျွန်ုပ်၏ ဝါဒမှာ ဤသို့ပါ အရှင်–

> "ထိုထို အကြောင်းကြောင်းတို့ကို ထောက်၍ တမလွန်လောကဟူ သည် မရှိ။ သတ္တဝါသည် သေသည်မှ နောက်၌ ပြန်၍မဖြစ်။ ကုသိုလ် ကံ၊ အကုသိုလ်ကံတို့၏ အကျိုးဖလ ဆိုသည်မှာလည်း အပြောသာ ရှိသည်။ လက်တွေ့အကောင်အထည်အားဖြင့်ကား ဘာမျှ မထင်၊ မရှိ။

"ဤကား အကျွန်ုပ်၏ ဝါဒဖြစ်ပါ၏။ အရှင် မည်သို့ သဘောရပါသနည်း။ အရှင်ကဲ့သို့သော ပုဂ္ဂိုလ်မြတ်ထံ တင်ပြဆွေးနွေးခွင့် ရပေသည့်အတွက် ကျွန်ုပ် ဂုဏ်ယူပါ၏။ အသို့ပါနည်း အရှင်" ဟု တည်ငြိမ်သော ဣန္ဒြေဖြင့်ပင် သာယာ ချောင်စွာဆို၏။ ထိုအခါ အရှင်ကုမာရကဿပလည်း စက္ခုဣန္ဒြေချလျက်မှ ပြန်လည် မြွက်ကြားလိုက်၏။

စပယ်ဦးစာပေ

"ဒကာတော်မြို့စား၊ ဤသို့ ဆိုပြောလေ့ရှိသသူကို ငါမြင်လည်း မမြင်စဖူး၊ ကြားလည်း မကြားစဖူး။ သင်ဆိုပေသဖြင့်သာ ယခု ငါကြားဖူးရပြီ။ သင့်အယူဝါဒကား အံ့ဖွယ်ရှိစွ"ဆိုလျှင် မြို့စားသည် အရှင်အား ဆတ်ခနဲ စိုက်ကြည့်ကာ ကြောင်စီစီဖြစ်နေ၏။

## နေ လ ဥပမာ

"အို–ဒကာတော် မြို့စား၊ ယင်းသို့ ဖြစ်တပြီကား ဤအရာ၌ သင့်ကိုပင် ပြန်၍ ငါမေးအံ့။ သင် ချမ်းသာ နှစ်ခြိုက်သလိုသာ ပွင့်ပွင့်လင်းလင်း ဖြေပါလေ"

"မေးပါ၊ မေးပါ အရှင်"

"အို–ဒကာတော် မြို့စား၊ အကြင်စကားကို ငါ ဆိုလတ္တံ့။ ထိုစကားကို သင် မည်သို့ ထင်သနည်း။ လ,သည် ရှိ၏။ နေ,သည် ရှိ၏။ ဤလ၊ နေတို့သည် ဤလောက၌ ဖြစ်ကုန်သလော၊ တစ်ပါးသော ပရလောက၌ ဖြစ်ကုန်သလော။ လ၊ နေတို့သည် နတ်တို့လော၊ လူတို့လော"

ထိုသို့ မေးလိုက်သည့်အခိုက်တွင် ပါယာသိမြို့စားမှာ ခေါင်းငိုက်စိုက်နှင့် ငေးငိုင်ငိုင် ဖြစ်သွားလေ၏။ ဖြေဆိုရန်အတွက် ပါးကြော၊ နားကြောကြီးများ တင်းကာ အလေးအနက် တွေးနေသကဲ့သို့ ရှိနေ၏။[၁] ဤရဟန်းကား ရှေးဦးစွာ ငါ့အား လ၊ နေကို ဥပမာ ဆောင်ပြ၏။ သဘောမှာ သူသည် ပညာအားဖြင့် လ၊ နေနှင့်တူသည်ကို ငါ့ကိုဆိုလိုက်ခြင်းပင် ဖြစ်ပေမည်။ အကယ်၍ လ၊ နေတို့သည် ဤလောက၌ ဖြစ်ကုန်၏ဟု ဖြေလိုက်သော် သူက ငါ့ကို ဆင့်၍ မမေးဘူးဟူ၍ မဆိုသာ။ ထိုလ၊ နေတို့သည် အဘယ်ကို မှီကုန်သနည်း။ အချင်းပမာဏ အဘယ်မျှ ရှိကုန်သနည်း။ အစောက်အားဖြင့် အဘယ်မျှ မြင့်ကုန်သနည်း စသည်ဖြင့် မေးချေအံ့။ ပြဿနာမှာ ပို၍ ရှုပ်ထွေးလာချေတော့မည်။ သူ့အမေးကို ပြေလည်အောင် ဖြေခြင်းငှာ ငါတတ်နိုင်မည် မဟုတ်။ သည်တော့ကား ပြီးလွယ်စီးလွယ် ဖြေမှ သင့်မည်'ဟု တွေးကြံကာ ဤသို့ ဖြေလေ၏။

"အို–အရှင်၊ ဤလ၊ နေတို့သည် တစ်ပါးသော ပရလောက၌ ဖြစ်ကုန်၏။ ဤလောက၌ မဖြစ်ပါကုန်။ ထိုလ၊ နေတို့သည် နတ်တို့သာတည်း။ လူတို့ မဟုတ်ပါကုန် အရှင်"

ပါယာသိမြို့စားသည် "နေ၊ လတို့သည် ဤလောက၌ ဖြစ်ကုန်၏" ဟု ဖြေလို၏။ သို့သော် ရှေ့ဆက်၍ "ဘယ်မှာ မှီတွယ်ကြကုန်သနည်း" စသည်ဖြင့်

---

၁။ အယံ သမဏော ပဌမံ စန္ဒိမ သူရိယေ ဥပမံ အာဟရိ။ (ဒီဃနိကာယ် မဟာဝါ အဋ္ဌကထာ ပါယာသိရာဇညသုတ်၊ ၃၉၇၊ ဆဋ္ဌမူ)

အမေးအမြန်းပြုလာချေက မဖြေနိုင်မည်စိုးသဖြင့် "ပရလောကဩ ဖြစ်ကုန်၏"ဟု ဖြေသည်။ တစ်ဖန် သူ့အဖြေမှာပင် လ၊ နေတို့သည် နတ်၊ လူ မဟုတ်ဟုလည်း ဆိုသည်။ ဤသို့ဆိုခြင်းကပင် သူ၏ရှေ့စကား အယူဝါဒနှင့် နောက်စကား အဆိုပြုချက်မှာ တိုက်ရိုက်ဆန့်ကျင်နေ၏။ "ပရလောက ရှိသည်။ သတ္တဝါသည် သေသည်၏ အခြားမဲ့ဩ ဖြစ်သည်"ဟု ဝန်ခံရာရောက်သွား၏။ ထိုအကြောင်းကို ရိပ်စားမိ၍ပင် အရှင်ကုမာရကဿပက ဤသို့ မိန့်တော်မူလေသတည်း။

"အို–ဒကာတော်မြို့စား၊ သက်သာစွာ ငါ့စကားကို နာလင့်၍ ဤသို့ ဖြစ်စေရန် သင့် မသင့်ကိုလည်း သင့်ဉာဏ်ဖြင့် ချင့်ချိန်စေလိုပါ၏။

"ဤအကြောင်းပြ ဥပမာကို ထောက်သောအားဖြင့်လည်း တမလွန် လောကသည် ရှိ၏။ သတ္တဝါသည် သေသည်မှ နောက်ဩဖြစ်၏။ ပြုပြုသမျှသော ကုသိုလ်၊ အကုသိုလ်တို့၏ အကျိုးဝိပါက်သည် ရှိ၏။

"ဤသို့ ဖြစ်စေပါတော့လား ဒကာတော်"

ထိုသို့ မိန့်လတ်သော် ပါယာသိမြို့စားသည် ရုတ်ခြည်းပြန်၍ မဆိုနိုင် သေးဘဲ ခေတ္တမျှ တွေတွေကြီးဖြစ်နေ၏။ မျက်နှာကို တစ်ဖက်သို့လှည့်ကာ တွေ တွေကြီး စဉ်းစားနေပြီးမှ ခေါင်းကို မသိမသာခါလျက် သူ့နှုတ်ဖျားမှ ဤစကား ထွက်လာ၏။

"အို–အရှင်၊ အရှင့်အား လေးစားပါ၏။ အရှင့်စကားကိုလည်း စိတ်ဝင် စားစွာ ကျွန်ုပ် မှတ်သားရပါ၏။ အရှင်၏ ဖြစ်စေချင်လှသည့် ဆန္ဒမွန်ကိုလည်း အကျွန်ုပ် ရိပ်စားမိပါ၏။ သို့ရာတွင် အရှင့်စကားကို အကျွန်ုပ် လက်မခံနိုင် သည်မှာ ဝမ်းနည်းပါသည်။

"ဤအကြောင်းကို ထောက်သောအားဖြင့်လည်း တမလွန်လောကသည် မရှိ။ သေသည်၏နောက်ဩ သတ္တဝါသည် ဘဝသစ်မဖြစ်။ ပြုပြုသမျှသော ကုသိုလ်၊ အကုသိုလ်တို့၏ အကျိုးဝိပါက်သည် မရှိ။

"အကျွန်ုပ် စိတ်သည် ဤဝါဒ၊ ဤအယူကိုသာ စွဲမြဲစွာ ခံယူထားပါ၏။ ဝါဒတစ်ပါး ကူးပြောင်းရန် စိတ်ဖြင့်ပင် အကျွန်ုပ် မကြံမိ"

အရှင်ကုမာရကဿပနှင့် ပါယာသိမြို့စားသည် "အယူဝါဒလမ်းကြောင်း" ပေါ်ဝယ် ထိပ်တိုက် ဆုံမိကြသော်လည်း တစ်ဦးက မြောက်သို့ မျက်နှာမူ၍ တစ်ဦးက တောင်အရပ်သို့ မျက်နှာမူလျက် တိုက်ရိုက်ဆန့်ကျင်နေသည်နှင့် အလားတူပေ၏။

စကားတတ်ဩ ပရိယာယ်ကြွယ်လှသော အရှင်ကုမာရကဿပသည် မြို့စား အား ကရုဏာ၏သားကောင်ဟု အမှတ်ထားကာ ဤစကားကို ဆက်၍ ဆိုတော်မူ၏။

"အို–ဒကာတော် မြို့စား၊ တမလွန်လောက မရှိဟု သင်အယူရှိ၏။ ထိုအယူနှင့် ပတ်သက်၍ အခိုင်အမာ အားကိုးအားထားပြုလောက်စရာ အထောက်အထားများ ရှိပါလေစ"ဟု မေးလျှင် ပါယာသိမြို့စားသည် သွက်လက်စွာ ဤသို့ဖြေ၏။

"ရှိပါသော်ကော အရှင်၊ ရှိပါ၊ ရှိပါ"

"ရှိခဲ့သော် ဆိုလော့ ဒကာတော်။ ခိုင်မာမှု ရှိ မရှိကို ငါသိလို၏"

ထိုအခါ ပါယာသိမြို့စားသည် ယင်းကိစ္စနှင့် ပတ်သက်၍ သုတေသနပြုခဲ့ပုံများကို ထောက်ပြသည်။ ငရဲလားမည့် ဒုစရိုက်မိုက်တုံးတာများအား ငရဲရောက်က သူ့ထံပြန်၍ အကြောင်းကြားလာရန် မှာလိုက်ပုံကိုလည်းကောင်း၊ ငရဲပြည်မှ သတင်းကို ကြားရနိုးနိုးနှင့် မျှော်ကိုးခဲ့သော်လည်း မလာပုံကိုလည်းကောင်း၊ အကိုးအထောက် လျှောက်တင်ပြီးလျှင်–

"အို–အရှင်၊ ဤသို့ ငရဲသားတို့ထံမှ တစ်စုံတစ်ရာအကြောင်း ပြန်ကြားခြင်း မရှိသည်ကို ထောက်သောအားဖြင့်လည်း ပရလောက မရှိကြောင်း၊ သေလျှင် ပြန်၍ဖြစ်ခြင်း မရှိကြောင်း ထင်ရှားလှပါ၏။ ထို့ကြောင့် ကျွန်ုပ်၏ အယူမှာ အထောက်အထား ခိုင်မာပြီးဖြစ်သဖြင့် ထိုအယူကို အဘယ့်ကြောင့် ကျွန်ုပ် စွန့်နိုင်မည်နည်း။ စွန့်ရန်အကြောင်း မရှိပါ"

ထိုသို့လျှောက်လိုက်သောအခါ ပါယာသိမြို့စား၏ အလိုတော်ရိများက ပါယာသိမြို့စားအား ထောက်ခံသည့်သဘောဖြင့် ခေါင်းတညိတ်ညိတ်နှင့် ရှိနေကြသည်။ အယူနှံ့ရှာသူအချို့က ရဟန္တာအရှင်ကို ကြည့်လိုက်၊ မိမိတို့သခင်မြို့စားကို ကြည့်လိုက် ဖြစ်နေသည်။ ကြားသမားအချို့က ငြိမ်သက်စွာ ရှိနေသည်။

## ခိုးသူ ဥပမာ

"အို–ဒကာတော်"ဟု ပရိသတ်အပေါ် လွှမ်း၍ အသံထွက်လာသောအခါ သူတို့၏ မျက်လုံးအစုံတို့သည် အရှင်ကုမာရကဿပဆီသို့ ရောက်လာကုန်ပြီ။

"အို–ဒကာတော် မြို့စား၊ သင့်ကို ပြန်၍ ငါမေးဦးအံ့။ ခိုးသူတစ်ယောက်ကိုဖမ်း၍ သင့်အား ဆက်သလာကုန်ရာ၏။ ထိုခိုးသူအား 'မည်သို့စီရင်မည်နည်း' ဟု သင့်ထံ အမိန့်တောင်းခံကြလေကုန်သောအခါ သင်က 'ထိုသူအား ခေါင်းတုံးရိတ်၊ လက်ပြန်ကြိုး တုပ်ကြပြီး 'ဤသူ သူခိုး'ဟု လမ်းကြီးလမ်းငယ် အသွယ်သွယ်တို့၌ လှည့်လည်ကာ မောင်းကြေညာကြကုန်လော့။ ထို့နောက် သုသာန်ထုတ်၊ ခေါင်းဖြတ်၍ သုတ်သင်လိုက်ကြလေကုန်လော့"ဟု အမိန့်ပေးလေရာ၏။

"အာဏာသားတို့လည်း အမိန့်တော်အတိုင်း ဆောင်ရွက်၍ သုသာန်သို့ ထိုသူအား ထုတ်သွားပြီး သင်္ချိုင်းသို့ရောက်လတ်သော် ထိုခိုးသားက ဤသို့ တောင်းပန်လေရာ၏။ 'အို-နောင်ကြီးတို့ခင်ဗျား၊ ကျွန်တော် သေရမည့်လူပါ၊ မသေခင် ကျွန်တော့်မျက်နှာကို မိဘ၊ သားမယားထံ သွားပြပါရစေ။ ပြီးတော့ ကျွန်တော် မြှုပ်နှံထားတဲ့ပစ္စည်းများကို နေရာပြထားခဲ့ပါရစေ။ ကျွန်တော် မှာစရာရှိသည်ကို မှာထားပြီးပြီးချင်း ဆက်ဆက်ပြန်ခဲ့ပါမည်။ သက်ညှာဆု အဖြစ်ဖြင့် ကျွန်တော့်အား သွားခွင့်ပြုပါရန် အသနားခံပါသည်ခင်ဗျား"ဟု ဤသို့ တောင်းပန်သော် ထိုသူခိုးအား သွားခွင့်ပြုရာပါမည်လော။ သို့မဟုတ် တကြော်ကြော် အော်ဟစ်မြည်တမ်းနေစဉ်မှာပင် ထိုသူခိုးအား သတ်လိုက်ကြကုန်ရာ သလော။ အသို့ပါနည်း ဒကာတော်"

"အို-အရှင်၊ ပြစ်မှုကျူးလွန်ထားသော ထိုသူခိုးအား အဘယ်ကြောင့် သွားခွင့်ပေးရာချိမ့်မည်နည်း။ သတ်လိုက်ကြကုန်ရာပါသည် အရှင်"

"အို-ဒကာတော် မြို့စား၊ သင် စဉ်းစားပါဘိ။ ခိုးသူလည်း လူသားပင် တည်း။ အာဏာသားတို့လည်း လူသားတို့ပင်တည်း။ လူသားအချင်းချင်းပင် အပြစ်အလျောက် ကျခံနေရသော ထိုရာဇဝတ်ကောင်သူခိုးအား သွားခွင့်မပြုနိုင် ပါဘဲလျက် သင်၏ ဒုစရိုက် မိုက်တုံးတာများကား သင့်ထံပြန်၍ အကြောင်း ကြားခွင့်ကို အဘယ်မှာလျှင် ပေးကြကုန်မည်နည်း။

"အို-ဒကာတော် မြို့စား၊ ဤငရဲသား ဥပမာကို ထောက်သောအားဖြင့် လည်း တမလွန်လောက မရှိဟူသော သင်၏ အယူဝါဒကို စွန့်သင့်ပြီ။ စွန့်ပါဘိ ဒကာတော်"

ပရိသတ်သည် အရှင်သူမြတ်နှင့် ပါယာသိမြို့စားကို စိတ်ဝင်စားလျက် ရှိနေ၏။ အချို့က မြို့စားထံမှ အဖြေကို ငံ့လင့်နေကြ၏။ အချို့မှာမူ အငေး သားဖြင့် ကြည့်နေကြ၏။ မြို့စား၏ စကားသံ လွှင့်ပျံ၍ ထွက်လာလေပြီ။

ထိုစဉ်-

"အို-အရှင်၊ ငရဲသားနှင့် တင်စား၍ ပြဆိုလိုက်သော အရှင်၏ ဥပမာ သင့်ပါ၏။ သို့ရာတွင် ကျွန်ုပ် အယူဝါဒသာ မှန်သည်၊ အကိုးအထောက် လုံလောက်ခိုင်မာသည်"

"အသို့နည်း ဒကာတော်။ ဆိုလော့"

"အို-အရှင်၊ သေလျှင် နတ်ရွာလားကြမည့် ကုသိုလ်ရှင်များအားလည်း မသေခင်က အမှတ်တရပင် ကျွန်ုပ် မှာလိုက်၏။ မည်သူတစ်ဦးတစ်ယောက်ထံ ကမှ အကြောင်းပြန်မလာ။ အကယ်၍သာ နတ်အဖြစ်၊ နတ်ဘဝ ရှိခဲ့အံ့။

သူတို့သည် မုချ ကျွန်ုပ်ထံ လာရောက်၍ အကြောင်းပြန်ကြားမည်သာတည်း။ ယခုသော် နတ်ပြည်က ဘာသတင်းမျှ မရ။ ဤသို့မရခြင်းမှာ ကျွန်ုပ်အယူဝါဒ မှန်ကန်ကြောင်း သက်သေသာဓက ဖြစ်ပါ၏။ ဤသာဓကကို ထောက်သော အားဖြင့်လည်း တမလွန် လောကဟူသည် မရှိပါ အရှင်"

ထိုအခါတွင် ပါယာသိမြို့စား၏ အလိုတော်ရိများက တလှုပ်ရှားရှား ဖြစ်လာသည်။ မြို့စား၏ စကားကို ချေပနိုင်အံ့ မထင်၍ ရှင်တပျပျနှင့် ရှိနေကြကုန်သည်။

## မစင်တွင်းထဲ ကျသူ ဥပမာ

"အို–ဒကာတော်၊ သို့ဖြစ်လျှင် ဥပမာဖြင့် ငါဆိုအံ့။ ဥပမာ[၁]ဖြင့် ပြသော် ဉာဏ်၊ ဦးနှောက်ရှိသူတို့သည် ဆိုလိုချက်အနက်ကို သိထင်လွယ်ကုန်၏။ အို–ဒကာတော်၊ ဥပမာ လူတစ်ယောက်သည် မစင်တွင်းကြီးထဲ၌ ခေါင်းနှင့်တကွ ကျနစ်၍ နေလေရာ၏။

ထိုသူအား သင်က မစင်တွင်းထဲမှ ထုတ်ဆွဲ/ကယ်တင်စေပြီးသော် လူးလဲ ပေကျံနေသော မစင်များ စင်ကြယ်သွားအောင် ရေချိုးပေးခြင်း၊ အမွှေးနံ့သာများ လိမ်းပေးခြင်း၊ အဖိုးတန် အဆင်တန်ဆာ ဝတ်ဆင်ပေးခြင်းများ ပြုပြီးလျှင် ထိုသူကို ပြာသာဒ်ပေါ်တင်၍ လောကီအာရုံ ကာမဂုဏ်စည်းစိမ်ကို အလိုရှိသလို ခံစားစေရာ၏။ ထိုသူ၏ သန္တာန်၌ မစင်တွင်းထဲ ပြန်၍ နစ်မြုပ်လိုစိတ် ရှိရာပါ သလော"

"အို–အရှင်၊ ဤသို့ မဖြစ်ရာပါ။ အဘယ့်ကြောင့်ဆိုသော် မစင်တွင်းကား ညစ်ညမ်းလှ၏။ ညစ်ညမ်းသောသဘော ရှိ၏။ နံစော်၏။ နံစော်သောသဘော ရှိ၏။ စက်ဆုပ်ဖွယ် ကောင်း၏။ စက်ဆုပ်ဖွယ်သဘော ရှိ၏။ ရွံရှာဖွယ်ကောင်း၏။ ရွံရှာဖွယ် သဘောရှိ၏။ သို့စင်မျှ ရှုမြင်မကောင်း၊ ယင်တလောင်းလောင်း၊ အပုပ်နံ့ တထောင်းထောင်းရှိနေသော မစင်တွင်းသို့ ထိုယောကျ်ားသည် အဘယ် မှာလျှင် ပြန်၍ ဆင်းလိုပါတော့မည်နည်း"

"အို–ဒကာတော် မြို့စား၊ ဤနည်းအတူပင်လျှင် နတ်တို့၏ အနေအားဖြင့် လူ့အဖြစ်၊ လူ့ဘဝသည် မစင်တွင်းကြီးတမျှ ဖြစ်ချေ၏။ ညစ်ညမ်း၏။ နံစော်၏။ ညစ်ညမ်းနံစော်သော သဘောရှိ၏။ စက်ဆုပ်ရွံရှာဖွယ်ကောင်း၏။ စက်ဆုပ်ရွံရှာဖွယ်ကောင်းသော သဘောရှိ၏။

---

၁။ ဥပမာယ မိဓေကစ္စေ ဝိညူ ပုရိသာ ဘာသိတဿ အတ္ထံ အာဇာနန္တိ။
(ဒီဃနိကာယ်။ သုတ်မဟာဝါ ပါဠိတော်၊ ပါယာသိ ရာဇညသုတ်၊ ၂၅၉၊ ဆဠမှ)။

"အို–ဒကာတော် မြို့စား၊ ယူဇနာ တစ်ရာဝေးကွာသော အရပ်ကပင်လျှင် လူတို့၏ အနံ့သည် နတ်တို့အား မခံရပ်နိုင်အောင် နှိပ်စက်နိုင်၏။ သို့ဖြစ်လေသောကြောင့် သူတို့၏ ကုသိုလ်ကံအလျောက် နတ်ပြည်သို့ ရောက်ရှိနေကြသော သင်၏ရောင်းရင်း အပေါင်းအသင်း နတ်သမီး၊ နတ်သားတို့က လူနံ့တထောင်းထောင်း နံစော်လှသော သင်၏ထံသို့ ပြန်၍ အဘယ်မှာလျှင် အကြောင်းကြားလာပါကုန်မည်နည်း"

"အို–ဒကာတော် မြို့စား၊ ဤဉပမာကို ထောက်သောအားဖြင့်လည်း သင်၏ အယူဝါကို စွန့်၍ 'တမလွန်လောကသည် ရှိ၏'ဟု ဤသို့ဖြစ်ပါစေတော့လား ဒကာတော်"

မိစ္ဆာအယူဝါဒမှ ကြွေကျွတ်အောင် ဤသို့ ခြွေဆွတ်တော်မူငြားသော်လည်း မရ။ ပါယာသိမြို့စားကား ခေါင်းမာလှ၏။ သူ့ဝါဒကို မလွှတ်လေဘဲ ဖွတ်တရှုတ်ပင် ဆုပ်ကိုင်ထားလေရာ စကားပြောသောအရာတွင် တေဂဒ်ဘွဲ့တံဆိပ်ခတ်နှိပ်ချီးမြှင့်ခြင်း ခံရသော အရှင်ကုမာရကဿပသည် 'တစ်ဆေး မကောင်း၊ တစ်ဆေး ပြောင်း' ဆိုသော သမားကောင်းတို့သဖွယ် ဉပမာ စကားလုံးများကို ရေလဲနှင့် သုံးကာ တစ်ထုံးတစ်နည်းသော ဉပမာတစ်ပါးဖြင့် ပါယာသိမြို့စားအား ဆိုမိန့်ပြန်၏။

## တာဝတိံသာနတ် ဉပမာ

"အို–ဒကာတော် မြို့စား၊ ဤနေရာ၌ သင့်ကို ပြန်၍ ငါမေးအံ့။ သင်နှစ်ခြိုက်သည့်အတိုင်း ဖြေလော့။ ဒကာတော် မြို့စား၊ လူ့ပြည်၌ အနှစ်တစ်ရာသည် တာဝတိံသာနတ်တို့၏ တစ်နေ့တစ်ညဥ့် ဖြစ်၏။ ထိုနေ့ညဥ့် သုံးဆယ်သည် တစ်လ။ ထိုတစ်ဆယ့်နှစ်လသည် တစ်နှစ်။ ထိုသို့သောနှစ်ဖြင့် နတ်ပြည်၌ ဖြစ်သော အနှစ်တစ်ထောင်သည် တာဝတိံသာနတ်တို့၏ သက်တမ်းဖြစ်၏။

"အို–ဒကာတော် မြို့စား၊ 'နတ်ပြည်ရောက်က ငါ့ထံပြန်ပြောလှည့်ပါ'ဟု သင်က မှာလိုက်သည့် သင်၏အပေါင်းအသင်းနှင့် သင့်ဆွေမျိုးသားချင်းတို့သည် တာဝတိံသာသို့ ရောက်သွားကြသော် ထိုအသစ်စက်စက် နတ်သမီး၊ နတ်သားတို့သည် သင်မှာလိုက်သော စကားကို သတိရနေကြသည်ပင် ဖြစ်စေဦးတော့ သူတို့သည် တစ်ကြိမ်တစ်ခါမျှ မခံစားရဖူးသေးသော နတ်စည်းစိမ်အတွေ့၌ မွေ့လျော်လိုကြပေလိမ့်အံ့။

ထိုအခါ 'ငါတို့သည် နတ်စည်းစိမ်ကို တစ်ရက်တန်သည်၊ နှစ်ရက်တန်သည် ခံစား စံစားပြီးမှ ပါယာသိမြို့စားထံ သွားရောက်အကြောင်းပြန်ကြကုန်အံ့'

ဟု ဤသို့ကြံ၍ နှစ်ရက်၊ သုံးရက်မျှ နတ်စည်းစိမ်ကို ခံစားနေကြသော် နတ်သက် သုံးရက်သည် လူ့ပြည်၌ နှစ်ပေါင်းသုံးရာဖြစ်လေရာ လေးရက်မြောက်သောနေ့ ကျမှ သင့်ထံသို့ သူတို့ရောက်လာ အကြောင်းကြားလာစေကာမူ ထိုအချိန်တွင် သင် ကွယ်လွန်ပြီးဖြစ်၍ အရိုးများပင် ဆွေးမြည့်နေပေတော့မည်ကို စဉ်းစားလော့ ဒကာတော်။

ထိုအခါ ပါယာသိမြို့စားသည် မျက်နှာချ၍ ငေးစိုက်နားထောင်နေရာမှ အရှင်ကုမာရကဿပ၏ စကားအဆုံးတွင် 'ပုံပြင်ပြောနေတာပဲ'ဟူ၍ မသိမသာ မဲ့ပြုံး ပြုံးလိုက်သည်။ မြို့စား၏ မဲ့ပြုံးကို သူ့ပရိသတ်က ရိပ်ခနဲမြင်လိုက်ရသော အခါ သူတို့ အရှင်သခင်ဘက်မှ အားတက်သော အမူအရာများ ပြလာကြသည်။ ထိုအတွင်းမှာပင် ပါယာသိမြို့စားကား အရှင်သူမြတ်ထံ ပြန်၍ မေးခွန်းထုတ် လိုက်ပါချေ၏။

"အို–အရှင်၊ ဤအကြိမ်တွင်မူ အရှင့်အားပြန်၍ မေးပါရစေ"ဟု ဆိုလျှင် သူ့ပရိသတ်မှာ လှုပ်လှုပ်ရှားရှား ဖြစ်လာသည်။ "ဒီတစ်ပွဲတွင် ဤအရှင်အား တို့မြို့စားကြီး အနိုင်ကြိုပေတော့မည်"ဟု အားပါးတရ ဖြစ်လာကြသည်။

"မေးနိုင်၏ ဒကာတော၊ မေးလိုရာကို မေးလော့"

"အို–အရှင်၊ နတ်ရှိသည်။ နတ်တို့၏ သက်တမ်းမှာ အနှစ်တစ်ထောင် ဖြစ်သည်ဟူ၍ ဆိုခဲ့သည်မှာ အရှင်၏ နှုတ်ဖြစ်စကားပါလား။ သို့မဟုတ် ထို စကားကို မည်သူက မြွက်ဆိုပါသနည်း။ နားထောင်၍ကား ကောင်းပါ၏။ သို့သော် ပုံပြင်ဆန်လှသောကြောင့် အနှစ်သာရအဖြစ် ကျွန်ုပ် မမှတ်နိုင်။ မျက်မြင် ထင်ရှား လက်တွေ့မဟုတ်သောအရာကို ကျွန်ုပ် ယုံကြည်လက်ခံလေ့မရှိ။ ဤသို့ ဆိုရသည်ကို ဝမ်းနည်းပါသည်။ ခွင့်လွှတ်ပါ အရှင်"

အရှင်ကုမာရကဿပသည် ပါယာသိမြို့စား၏ ဆန္ဒကို ရိပ်စားမိပြီးသား ဖြစ်၏။ လက်တွေ့မဟုတ်သမျှ သူ မယုံဟုဆိုသော သူ့စကားနှင့် လိုက်ဖက် အောင် ဤသို့ မြွက်ကြားရလေသတည်း။

"အို–ဒကာတော်မြို့စား၊ ဥပမာအားဖြင့် ထင်ရှားအောင် သင့်အား ငါဆိုအံ့။ ဤလောက၌ စက္ခုနှစ်ကွင်း အလင်းမရဘဲ စုံလုံးကန်းနေသော သူကန်းတစ်ယောက် ရှိလေ၏။ ထိုသူကန်းက ဤသို့ဆိုပေရာ၏။

"ဖြူနီညိုပြာ စသော အရောင်အဆင်းတို့သည် မရှိကုန်။ ဆူကြဲ့နိမ့်မြင့် ချိုင့်ဝှမ်းမို့မောက် စသော ရုပ်ဝတ္ထုတို့လည်း မရှိကုန်။ မြစ်၊ ချောင်း၊ အင်းအိုင်၊ ရေမြေ သမုဒ္ဒရာတို့လည်း မရှိကုန်။ နေ၊ လ၊ နက္ခတ်၊ တာရာတို့လည်း မရှိကုန်။ ထိုထိုအလုံးစုံကို မြင်သူတို့ မရှိကုန်။ ငါသည် ထိုထို ဖြူနီညိုပြာ စသည်တို့ကို လည်းကောင်း၊ ယင်းတို့ကို မြင်သူတို့ကိုလည်းကောင်း ငါ မသိ၊ မမြင်။

ထို့ကြောင့် ဖြူနီညိုပြာ စသော အသွေးအရောင်များနှင့်တကွ ဤလောကကြီးတွင် ဘာဆိုဘာမျှ မရှိဟူ၍ ဆိုခဲ့သော် ထိုသူကန်းသည် မှန်စွာကို ဆိုသည် ဖြစ်ရာပါ သလော”ဟူ၍ မေးလိုက်သောအခါ၌ကား ပါယာသိမြို့စားနှင့်တကွ သူ့၏ပရိသတ် သည် ခေါင်းငိုက်စိုက်ကျသွားလေ၏။ “မည်သို့ ဆိုမည်နည်း”ဟု မြို့စား၏ အရိပ်အချည်ကိုသာ အကဲခတ်နေကြကုန်၏။

“အို-အရှင်၊ ထိုသူကန်းသည် သူ မမြင်ရလေတိုင်း ဘာမျှမရှိဟု ဆိုခြင်းမှာ မှန်စွာဆိုခြင်း မမည်ပါ။ အဘယ့်ကြောင့်ဆိုသော် အရာခပ်သိမ်းသည် မျက်ဝါး ထင်ထင် ရှိနေသောကြောင့် ဖြစ်ပါသည်”ဟု ဆိုရလေ၏။

“အို-ဒကာတော်၊ ကောင်းလေစွ။ သင်၏စကားဖြင့်ပင် သင်ကိုယ်တိုင် သူကန်းဖြစ်နေပါပကောလား ဒကာတော်။ နတ်ရှိသည်။ နတ်တို့၏သက်တမ်းမှာ တစ်ထောင်ဖြစ်သည် ဆိုချက်ကို လက်တွေ့မဟုတ်သဖြင့် မယုံနိုင်ဟု သင်ဆိုခဲ့၏။ ဒကာတော်၊ သင် ထင်သကဲ့သို့ တမလွန်ဟု ဆိုအပ်သော နတ်လောက၊ ဗြဟ္မာ လောက၊ ငရဲလောက စသည်တို့ကို ပကတိမျက်လုံးဖြင့် မြင်အပ်သည်၊ မမြင် နိုင်သည် ဟူ၍ မမှတ်အပ်။

“နာလော့ ဒကာတော်။ အကျင့်သီလနှင့် ပြည့်စုံသော သမဏ၊ ဗြာဟ္မဏ တို့သည် လူနှင့်ဝေးကွာရာ တောအရပ်သို့ ချဉ်းကပ်ကြကုန်လျက် နတ်မျက်စိ သဖွယ် ဖြစ်သော “ဒိဗ္ဗစက္ခု အဘိညာဉ်”ကို ရရှိအောင် အားထုတ်တော်မူကြ ကုန်၏။ မဖြစ်မနေ ကြိုးစားကြကုန်၏။

“ထိုသို့ ကြိုးစားအားထုတ်ခြင်းအားဖြင့် ဒိဗ္ဗစက္ခု အဘိညာဉ်ကို ရရှိလာ သောအခါ ထိုသမဏ၊ ဗြာဟ္မဏတို့သည် ဤလောကကိုလည်းကောင်း၊ နတ် လောက၊ ဗြဟ္မာလောက၊ ငရဲလောက စသည်တို့ကိုလည်းကောင်း၊ သေသည်မှ နောက်၌ဖြစ်သော သတ္တဝါများကိုလည်းကောင်း အရှိကို အရှိတိုင်း၊ အဖြစ်ကို အဖြစ်အတိုင်း မြင်ကုန်၏။ တမလွန်လောကဟူသည်ကို ဤသို့သာ မှတ်အပ် သည် ဒကာတော်။ သင် ထင်သကဲ့သို့ တမလွန်လောကကို ပကတိမျက်စိဖြင့် မြင်အပ်သည်ဟူ၍ မမှတ်အပ်။

“အို-ဒကာတော်မြို့စား၊ ဤ ငါဆိုအပ်သော ဥပမာ စကားရပ်များကို ထောက်သောအားဖြင့်လည်း သင့်အယူဝါဒဟောင်းကို စွန့်ပယ်ကာ တမလွန် လောကသည် ရှိ၏ဟူသော အယူသစ်၌ ဖြစ်ပါတော့လား ဒကာတော်”ဟု ဆို၏။

ထိုအခါ၌လည်း ပါယာသိမြို့စားကား ခေါင်းခါမြဲသာ ခါနေ၏။ သူ လေ့လာဆည်းပူးသော သုတေသနများကို အကိုးအကားပြုကာ အလျှော့မပေးဘဲ ဤသို့ဆိုပြန်သည်။

"အို–အရှင်၊ အရှင်ကား အကျွန်ုပ်ကြားဖူးသည့် အတိုင်းပင် စကားအရာ တွင် ချေင်သာယာစွာ ဆိုတတ်လှစွာ၏။ အကြောင်းအချက်အလက်များနှင့် အကွက်ဆိုက်အောင် ဥပမာ ဥပမေယျကိုလည်း ထုတ်ဆောင်၍ ပြသခြင်း၌ သူ မတူအောင်ပင် လိမ္မာကျွမ်းကျင်လှကြောင်း ကျွန်ုပ် လက်တွေ့ဖြစ်ရပါပြီ။ သို့ရာတွင် ကျွန်ုပ်၏ အယူဝါဒကိုကား လဲပြိုကျဆုံးသွားအောင် အရှင်သည် မတတ်နိုင်ခဲ့။ ကျွန်ုပ်၏ ဝါဒအတွက် အခိုင်အမာ အထောက်အထားပြုစရာ များစွာ ရှိပေ သေး၏"ဟူ၍ ပါယာသိမင်းသားသည် အရှင်သူမြတ်အား အကိုးအကောက် ခြိမ်း ခြောက် ဝင့်ဝါ၍ ဆိုပြန်သောအခါ အရှင်သူမြတ်မှာ အပ်သွားရာကို အပ်ချည် ပါရပြန်လေ၏။

"အသို့နည်း ဒကာတော်။ သင့် အထောက်အထားကို ငါ့အား ဆိုပါလော့"

"သည်လိုပါ အရှင်၊ သီလ သမာဓိ အကျင့်သိက္ခာဂုဏ်နှင့် ပြည့်စုံသော သူတော်စင် ရဟန်းပုဂ္ဂိုလ်များကိုလည်းကောင်း၊ လူပုဂ္ဂိုလ်များကိုလည်းကောင်း ကျွန်ုပ် တွေ့ဖူး မြင်ဖူးပါသည်။ ထိုပုဂ္ဂိုလ် အားလုံးတို့သည် ဆင်းရဲဒုက္ခရောက် မည်ကိုလည်း ကြောက်ကြ၏။ နာမကျန်းရှိမည်ကိုလည်း စိုးရိမ်ကြ၏။ အိုရမည် ကိုလည်း ကြောက်ကြ၏။ သေရမည်ကိုလည်း လန့်ကြ၏။ ကျန်းမာချမ်းသာစွာ ဖြင့် အသက်ရှည်ရှည် နေလိုကြသည်ဖြစ်ကြောင်း သိရပါသည်။

"အို–အရှင်၊ ထိုသူ ထိုသူတို့ကို ကြည့်ကာ ကျွန်ုပ်မှာ ဤသို့အကြံဖြစ် လာပါ၏။ ထိုသူတို့သည် အကယ်၍ ငါတို့သည် ဤဘဝမှ စုတေခဲ့သော် ဤဘဝထက်မြတ်သည် ဖြစ်လတ္တံ့။ နတ်ရွာသုဂတိဘုံတို့၌ နတ်တို့၏ စည်းစိမ်ကို ခံစား စံစားကြရကုန်လတ္တံ့ဟု သိကုန်ငြားအံ့၊ တမလွန်လောက၏ စည်းစိမ် သုခကို စံစားရန်အတွက် လက်ရှိ လူ့အသက်ကို အဆိပ်ခတ်၍သော်လည်း ကောင်း၊ ကြိုးဆွဲချ၍သော်လည်းကောင်း၊ ရေထဲဆင်း၍သော်လည်းကောင်း၊ ချောက် ကမ်းပါး၌ ခုန်ချ၍သော်လည်းကောင်း သေနည်းအမျိုးမျိုးဖြင့် သက်ဆုံးစီရင်ကြ ကုန်ရာ၏။ ဤသို့ကား မပြုလုပ်ကြဘဲ လက်ရှိ သူ့ဘဝ၌သာ တွယ်ကပ်၍ နေကြသည်ကိုသာ ကျွန်ုပ် တွေ့ရ၏။

"အို–အရှင်၊ ဤသို့ လက်ရှိဘဝ၌ တွယ်ကယ်နေကြသည်ကို ထောက်ခြင်း အားဖြင့်လည်း တမလွန်လောက မရှိ။ သေသည်၏ အခြားမဲ့၌ သတ္တဝါသည် ပြန်၍မဖြစ်။ ကုသိုလ်ကံ၊ အကုသိုလ်ကံ၏ အကျိုးဝိပါက်ဆိုသည်မှာလည်း လုံးဝ အစီပွာယ်မရှိကြောင်း ထင်ရှားပါသည်။ ထို့ကြောင့် ကျွန်ုပ်အယူဝါဒသာ အမှန်ဖြစ်၏"ဟု လျှောက်လေ၏။

ဝါဒလွန်ပွဲမှာ အကြိတ်အနယ် ဖြစ်နေ၏။ ပါယာသိမင်းသားကလည်း အလျှော့မပေး။ အရှင်ကုမာရကဿပကလည်း ဆုတ်နစ်ခြင်း မရှိ။ အပြန်ပြန်

အလှန်လှန် အခြေအတင် စစ်ရေးငင်လျက် ရှိနေကြလေရာ ပတ်ဝန်းကျင်ပရိသတ်လည်း ခပ်မဆိတ်ငေးငိုင်၍သာ ကြည့်နေကြကုန်၏။

"အို-ဒကာတော်၊ သင့်အား ဥပမာတစ်ခု ငါပြဆိုဦးအံ့။ ဥပမာသည်ကား အကျိုးများလှ၏။ ဥပမာဖြင့် ဆောင်ပြသော် အသိဓာတ်ခံရှိသူ တို့သည် ဆိုလိုချက် အဓိပ္ပာယ်ကို သိလွယ် မြင်လွယ်၏။

## ကိုယ်ဝန်ဆောင် ပုဏ္ဏား ဥပမာ

"အို-ဒကာတော် မြို့စား၊ ရှေးအခါက ပုဏ္ဏားတစ်ယောက်တွင် မယားနှစ်ယောက် ရှိလေသတတ်။ တစ်ဦးသော မယား၌ ၁၂ နှစ်အရွယ် သားတစ်ယောက်ရှိ၏။ တစ်ဦးသော မယားကား ကိုယ်လေးလက်ဝန်နှင့် မီးဖွားခါနီး ဖြစ်၏။

တစ်နေ့တွင် ထိုမယားနှစ်ယောက်၏ လင်ဖြစ်သူ ပုဏ္ဏား သေဆုံးသွားလေရာ ကျန်ရစ်သော သားက ဖခင်၏ မယား၊ မိမိ၏မိထွေး (ဗိုက်ကြီးမ)အား အမွေတောင်းလေ၏။ "အို-အမိ၊ ရှိပစ္စည်း အားလုံးသည် ငါ့ပစ္စည်းချည်းသာတည်း။ သင်နှင့် ဘာမျှ မဆိုင်။ ရှိပစ္စည်း အရပ်ရပ်ကို ငါ့အား အပ်လော့"ဟု ဆို၏။

ထိုအခါ မိထွေးဖြစ်သူက "အမောင်၊ ငါ မွေးဖွားပြီးအောင် ဆိုင်းငံ့ဦးလော့။ အကယ်၍ သားယောကျာ်း ဖွားအံ့၊ ရှိပစ္စည်း၏ ထက်ဝက်သည် ငါ့သားအတွက် ဖြစ်လတ္တံ့။ သမီးဖွားခဲ့လျှင်မူ ငါ့သမီးသည် သင်၏ အလုပ်အကျွေးဖြစ်လတ္တံ့."ဟု ဆို၏။ သုံးကြိမ်တိုင်တိုင် တောင်းလျှင် သုံးကြိမ်တိုင်တိုင် ဤအတိုင်း ဆို၏။

သို့သော်လည်း မရ။ ထိုသားက ထပ်တလဲလဲ အမွေတောင်းနေရကား ထိုမိန်းမမှာ ကြံရာမရ ဖြစ်နေလေ၏။ ပစ္စည်းကိုလည်း မပေးရက်၊ လက်လွှတ် မခံနိုင်။ ကလေးကလည်း မမွေးသေးသဖြင့် အခက်ကြုံနေ၏။

"ငါ့လင်ပစ္စည်းကို ဘယ်နည်းနှင့်မှ သင်းလက် မအပ်နိုင်"ဟူ၍ ထိုမိန်းမသည် ကလေးမွေးရန်အတွက် ဓားတစ်လက်ကိုယူ၍ အခန်းထဲဝင်သွားပြီးနောက် "သားဖွားဖွား၊ သမီးမွေးမွေး ငါ့အတွက် အမြတ်ပဲ" ဟူ၍ သူ့ဝမ်းဗိုက်ကြီးကို ခားစိုက်၍ ခွဲလေ၏။ ထိုအခါ ပစ္စည်းအတွက် လောဘရမ္မက် အားကြီးလှသော ထိုမိန်းမပိုက်ကား မိမိ၏ လက်ချက်ဖြင့် မိမိ၏ အသက်လည်း ဆုံး၊ သားသန္ဓေလည်း ဆုံး၊ ပစ္စည်းလည်း မရလေဘဲ ပျက်စီးခြင်းသို့ ရောက်ရလေသတည်း။

"အို-ဒကာတော် မြို့စား၊ ထိုအတူပင်လျှင် ဆင်ခြင်တုံတရား ကင်းမဲ့စွာဖြင့် ပရလောကကို ရှာဖွေနေသော သင်သည်လည်း ရှာရင်းပင် ထိုမိန်းမကဲ့သို့ ပျက်စီးခြင်းသို့ ရောက်လတ္တံ့။

"အို-ဒကာတော် မြို့စား၊ အကျင့်သီလနှင့် ပြည့်စုံကုန်သော သမဏ၊ ဗြာဟ္မဏတို့သည် အခွန့်ရှည်စွာ တည်နေသည့်အလျောက် များစွာသော ကုသိုလ် ကောင်းမှုတို့ကို တိုးပွားစေကုန်၏။ သူ ခပ်သိမ်းတို့၏ အကျိုးစီးပွားအလို့ငှာ ကျင့်ကုန်၏။ သတ္တလောကကို သနားသောကြောင့် နတ်၊ လူတို့အတွက် အကျိုး များစေခြင်းငှာ ကျင့်ကြံကုန်၏။

"အို-ဒကာတော် မြို့စား၊ ဤ ငါဆိုအပ်သော ဥပမာစကားရပ်များကို ထောက်ခြင်းအားဖြင့်လည်း တိမ်းပါးရှဲ့စောင်း သင်၏ အယူဝါဒဟောင်းကို စွန့်ပယ်ပြီးလျှင် 'တမလွန်လောကသည်' ရှိ၏။ သတ္တဝါသည် သေသည်၏ အံခြားမဲ့၌ ဘဝသစ်၌ တစ်ဖန်ဖြစ်၏။ ကုသိုလ်၊ အကုသိုလ်တို့၏ အကျိုးဝိပါက် သည်လည်း စင်စစ်ရှိသည်ပင် ဖြစ်၏'ဟူ၍ ဤသို့သော ဝါဒသစ် ဖြစ်ပါစေတော့ လား ဒကာတော်"

အရှင် ကုမာရကဿပသည် စိတ်ရှည်ရှည်ထား၍ ပါယာသိမြို့စားအား အမြင်မှန် ဝါဒသစ် ရစေခြင်းငှာ ဆွဲသော်လည်း မြို့စားကား အကျောက်အကန်ပင် ငြင်းဆန်ရုန်းကန်နေလျက်ပင်။

"အို-အရှင်၊ သင့်စကားသည် နားထောင်ကောင်းပေ၏။ သို့သော် ကျွန်ုပ် အား သာယာခြင်း မဖြစ်စေနိုင်ပါ။ ကျွန်ုပ်၏ ဝါဒကို ဤသို့သော အဆိုမျိုး၊ အပြောမျိုးဖြင့် သင့်အောက်သို့ ကျွန်ုပ် တိုးလျှိုးလာလိမ့်မည်ဟု မမျှော်လင့်ပါနှင့်။ ကျွန်ုပ်၏ ဝါဒကား သံနှင့် စွဲသည်ထက်ပင် မြဲစွာ၏။ မြဲနိုင်စေသည့် လက်တွေ့ သာဓကတွေကလည်း ကျွန်ုပ်မှာ များလှစွာ၏။ သင့်မှာ ဥပမာတွေ ပေါများလှသည့် နည်းတူ အကျွန်ုပ်မှာ ယုံကြည်နိုင်လောက်သော အကိုးအထောက် အတွေ့အကြုံ များလှ၏။ အရှင်၌ ဝန်မလေးအံ့၊ ကျွန်ုပ် တင်ပြလိုပါသေး၏။ အသို့နည်း အရှင်"

"အို-ဒကာတော် မြို့စား၊ ငါ၌ တစ်စုံတစ်ရာ ဝန်လေးခြင်း မရှိ။ သင် တတ်နိုင်သလောက် ငါ့အား တင်ပြပါလေဘိ"ဟု ခွင့်ပြုလျှင် ပါယာသိမြို့စား သည် စိတ်ဝင်စားဖွယ်ကောင်းလှသော သူ၏လက်တွေ့ သာဓကတစ်ခုကို ဤသို့ တင်ပြလေ၏။

"အို-အရှင်၊ တစ်နေ့သ၌ ကျွန်ုပ်၏ မင်းမှုထမ်းများက ခိုးသူတစ်ဦး ဖမ်းဆီး၍ ကျွန်ုပ်ထံ ဆက်သကြ၏။ ဤသူအား မည်သို့ စီရင်ရမည်နည်းဟူ၍ ကျွန်ုပ်ထံ အမိန့်တောင်းခံကြကုန်၏။

"ထိုအခါ ငါ့ဝါဒ ခိုင်မာမှုအတွက် ထိုသူဖြင့် အမြတ်ထုတ်မည်ဟု ရင်္ဂါခြည်း စိတ်ကူးပေါက်လာသည့်အလျောက် မင်းချင်းတို့အား ဤသို့ ကျွန်ုပ်

အမိန့်ပေးခဲ့ပါသည်။ ထိုသူအား အရှင်လတ်လတ် အိုးစရည်းကြီး၌ ထည့်စေ၍ အိုးဝကို အလုံပိတ်ခိုင်းသည်။ ထိုနောက် အိုးတစ်လုံးကို မြေသရွတ်တို့ဖြင့် အထပ်ထပ်ထူထဲစွာ လိမ်းကျံစေပြီးနောက် ထိုအိုးကို မီးပြင်းထိုး၍ အဖုတ်ခိုင်းခဲ့သည်။

"မင်းချင်း ယောကျ်ားတို့လည်း ကျွန်ုပ်၏ အမိန့်အတိုင်း ထိုအိုးကို မီးဖုတ်ကြကုန်သည်။ အိုးတွင်းက သူခိုး သေလောက်ပြီ ထင်ရသောအခါ ကျွန်ုပ်နှင့်တကွ အားလုံးက ထိုအိုးကို ဝိုင်းထားကြပြီး ရွှံ့သရွတ်များကို ခွာ၍ အိုးကို ဖွင့်ပြီးလျှင် ထိုသူ၏အသက် အဘယ်က ထွက်လေမည်နည်းဟူ၍ မျက်လုံးပေါင်း ရာထောင်ဖြင့် ကြည့်ကြကုန်သော်လည်း ထိုသူ၏အသက်ကို မြင်သူတစ်ယောက်မျှ မရှိ။ ကျွန်ုပ်ကိုယ်တိုင်လည်း မမြင်။ အခြားသူတို့လည်း မမြင်ကုန်။

"အို–အရှင်၊ ကျွန်ုပ် တင်ပြသော ဤလက်တွေ့ သာဓကအားဖြင့်လည်း တမလွန်လောကဟူသည် တကယ်မရှိကြောင်း ကောင်းစွာ ထင်ရှားနေပေသည့်အတွက် ကျွန်ုပ်၏ အယူဝါဒကို လက်မလွှတ်နိုင်ပါ"ဟု ဆို၏။

## အိပ်မက် ဥပမာ

ထိုအခါ အရှင်ကုမာရကဿပမှာ မြို့စား၏ ထိုသာဓကကို ချေပရန်အတွက် လက်နက်တစ်မျိုး ရှာရပြန်၏။ လက်နက်ဆိုသည်မှာလည်း ဝန်နှင့်အား မြားနှင့်လေး ဆိုသကဲ့သို့ သင့်တင့်ညီမျှသော လက်နက်ဖြစ်မှသာ ဆီလျော်မည်ဖြစ်သည့် အလျောက် မြို့စား၏ သာဓကနှင့် လိုက်ဖက်သော ဥပမာတစ်မျိုးဖြင့် မြို့စား၏ မာန်စွယ်ကိုချိုးတော်မူရလေ၏။

"အို–ဒကာတော် မြို့စား၊ သင် နေ့အခါများတွင် အိပ်ဖူးပါသလော။ အိပ်သောအခါ အိပ်မက်များကော မက်ဖူးပါသလော"ဟု မေး၏။

"အို–အရှင်၊ အိပ်လည်း အိပ်ဖူးပေ၏။ အိပ်မက်များလည်း ခဏခဏပင် မက်ဖူးပါ၏"ဟု ဖြေ၏။

"အို–ဒကာတော်၊ သင် အိပ်စက်၍ အိပ်မက် မက်သောအခါ သင့်အပါးဝယ် မောင်းမမိဿံ အခြွေအရံ အစောင့်အရှောက်များ ရှိနေပါသလော"ဟု မေး၏။

"အို–အရှင်၊ ရှိပေ၏"

"အို–ဒကာတော်၊ ထိုမောင်းမတို့သည် သင်၏ ထွက်သက်ကိုလည်းကောင်း၊ ဝင်သက်ကိုလည်းကောင်း မြင်ကြပါကုန်သလော"

"မမြင်ပါကုန် အရှင်"

"ဒကာတော် မြို့စား၊ အသက်ထင်ရှား ရှိနေပါသော သင်၏ ထွက်သက်ကိုလည်းကောင်း၊ ဝင်သက်ကိုလည်းကောင်း မမြင်ကြကုန်ပါဘဲလျက် သေသူ၏ ဝင်သက်၊ ထွက်သက်ကို အဘယ်မှာလျှင် မြင်ပါအံ့နည်း ဒကာတော်။ ဤသာဓကကို ထောက်ထားခြင်းအားဖြင့်လည်း တမလွန်လောကဟူသည် တကယ်ပင်ရှိကြောင်း ကောင်းစွာ ထင်ရှားသဖြင့် သင်၏ အယူဝါဒဟောင်းကို ပြောင်းပြန်လှန်၍ အမြင်မှန် ဝါဒသစ်ဘက်သို့ မျက်နှာမူပါတော့လား ဒကာတော်"

အရှင်သူမြတ် ချေပချက် အချက်ပိုင်လှသောကြောင့် မြို့စား၏ ဘက်တော်သားများသည်ပင် အဟုတ်သားပါကလား ဟူ၍ ပျော့ယိုင်လာကုန်တော့၏။ တချို့က လက်တွေ့စမ်းသပ်သည့် သဘောဖြင့် 'ရှုးရှဲ' ဘယ်မြင်ရလို့လဲ။ တို့မြို့စားကြီးခမျာ လမ်းလွဲ အယူလွဲနေရှာပါပကောဟူ၍ အမြင်မှန်ရလာကုန်သော်ငြားလည်း ပါယာသိမြို့စားကား ယိုင်ဖို့ဝေးစွ နဲ့ရုံမျှပင် နဲ့လာသည့် အမူအရာကို မတွေ့ရရုံမက နောက်ထပ် သာဓကတစ်ထပ်ဖြင့် တိုက်စစ်ဆင်ပြန်လေ၏။

"အို–အရှင်၊ အရှင်၏ တည်ကြည်သော သိက္ခာ သမာဓိကို လေးစားပါ၏။ ရိုသေပါ၏။ သို့ရာတွင် အရှင်အား ကျွန်ုပ်က နောက်ဆုတ်၍ ပိုးမွေးသလို မွေးမြူလာခဲ့ရသော ဝါဒကို မချေဖျက်နိုင်ပါ။ ယုတ္တိမတန်၊ သာမန်ကာ လျှံကာ အပေါ်စား ဝါဒမျိုးဆိုချေက နွားကုပ်လက်ကိုင် သဘောမျိုးဖြင့် ကျွန်ုပ် ဆုပ်ကိုင်ထားမိမည် မဟုတ်ပါ။ ယခု ကျွန်ုပ်၏ ဝါဒမှာ လက်တွေ့ကျကျ သုံးသပ်ပြီးမှ စွဲယူ လက်ခံလာသည့် သဘာဝ ဝါဒ ဖြစ်သောကြောင့် ထိုဝါဒကို အသက်နှင့်စက်၍ ကျွန်ုပ် တွယ်ဖက်မည်ပင် ဖြစ်ပါသည်။

"အို–အရှင်၊ နိုက်နဲ့သော သာဓကတစ်ရပ်ဖြင့် အရှင့်ရှေ့တွင် မှတ်ကျောက်တင်ပြလိုပါသေး၏။ ဝန်မလေးက ခွင့်ပြုနိုင်ပါမည်လား" ဟု ဆို၏။

"အို–ဒကာတော် မြို့စား၊ သင်နှင့် စကားဆိုရခြင်းအတွက် ငါ့မှာ တစ်စုံတစ်ရာ အနှောင့်အယှက်မရှိ။ ချမ်းသာပါ၏။ သင် ပြလိုသော သာဓကကို ငါ့အား ပြလော့"ဟု ခွင့်ပြုလေ၏။ ထိုအခါ ပါယာသိမြို့စားက ခိုးသားတစ်ဦး၏ သာဓကကို ထုတ်ပြပြန်၏။

"အို–အရှင်၊ နားဆင်တော်မူပါလော့။ တစ်ခါသ၌လည်း မင်းချင်းတို့သည် ခိုးသူတစ်ဦးဖမ်း၍ ကျွန်ုပ်အား ဆက်လာကုန်ပြီး ကျွန်ုပ်သည် ကျွန်ုပ်ဝါဒ ခိုင်မာမှုအတွက် အထောက်အကူဖြစ်စေလိုသဖြင့် ထိုခိုးသူအား ကျွန်ုပ် ဤသို့ စီရင်လိုက်၏။

"အို–အရှင်၊ ကျွန်ုပ် မည်သို့ ထိုခိုးသူအား စီရင်သည် ထင်သနည်း။ အရှင် လတ်လတ် ချိန်ခွင်ထဲထည့်၍ ချိန်ပြီး အလေးချိန်ကို မှတ်သားထားသည်။

ထိုနောက် ထွက်သက်မရှိရအောင် လည်မျိုကို လွန်ကြိုးတို့ဖြင့် တအားကုန် ဖျစ်ညှစ်၍ အစ်သတ်လိုက်သည်။ ထိုသူ သေသွားသည်။ သူ့အလောင်းကို တစ်ဖန် ချိန်ခွင်ထဲထည့်၍ ပြန်ချိန်ကြည့်သည်။ ထိုအခါ အသက်ရှင်စဉ်ကထက် အလေး ချိန်များ ပို၍လေးလာသည်ကို တွေ့ရ၏။ လေးခြင်းကား ထိုလူ၏ အသက် အပြင်လောကတစ်ခုသို့ ထွက်မသွားလေဘဲ သူ၏ ကိုယ်ထဲ၌ ရှိနေကြောင်း ထင်ရှား၏။

"အို–အရှင်၊ ဤသူသေကောင် သာဓကကို ထောက်ခြင်းအားဖြင့်လည်း တမလွန်လောကဟူသည် မရှိ။ သေသည်မှ နောက်၌ မည်သည့်သတ္တဝါမှ မဖြစ် ကြောင်း ကောင်းကောင်းကြီး ထင်ရှားနေသည့်အတွက် ကျွန်ုပ်၏ဝါဒကို အဘယ် မှာလျှင် လက်လွှတ်နိုင်ပါအံ့နည်း"ဟု ဆို၏။

## ရဲရဲညီးနေသော သံတွေခဲ ဥပမာ

ထိုအခါ အရှင်ကုမာရကဿပသည် မြို့စား၏ သာဓကကို ကျေပျောက် အောင် ဖျောက်နိုင်မည့် ဥပမာကို ရှာရပြန်၏။ သင့်လျော်သည့် ဥပမာသည် ဉာဏ်၌ အသင့်ထင်လာ၏။

အို–ဒကာတော် မြို့စား၊ သင် တင်ပြသွားသော သူသေကောင် သာဓကနှင့် ပတ်သက်၍ သင် စဉ်းစားနိုင်ရန် သင့်အား ငါ ဥပမာဖြင့် ပြအံ့။ ဥပမာသည် ဆိုလိုချက်အနက်ကို လွယ်ကူထိရောက်စွာ သိထင်စေခြင်းအကျိုးကို ဖြစ်စေနိုင်၏။

"အို–ဒကာတော် မြို့စား၊ လူသားတစ်ယောက်သည် သံတုံးကြီးတစ်ခုကို မီးဖုတ်သည် ဆိုကြပါစို့။ အပူရှိန်၏ ပြင်းထန်သောဒဏ်ကြောင့် ထိုသံတုံးကြီး သည် ရဲလာ၏။ ထိုအခါတွင် ထိုလူသည် သံတုံးကြီးကို မီးတွင်းမှ ဆယ်ယူ၍ ချိန်ခွင်တွင် ထည့်ကာ ချိန်ကြည့်ပြီးနောက် ထိုသံတုံးကြီး အအေးခံထား၏။ အေးသောအခါ တစ်ဖန် ချိန်၍ ကြည့်ပြန်၏။

"အို–ဒကာတော် မြို့စား၊ ထိုသံတုံးကြီးသည် တစ်ခုသာတည်း။ နှစ်ခု မဟုတ်။ ချိန်ခွင်တွင် စက်၍ ချိန်ကြည့်သောအခါတွင် ထိုသံတုံးကြီးသည် ပူသော အခါနှင့် အေးသောအခါ မည်သည့်အခါ၌ ပို၍ပေါ့ပါးသနည်း။ ပို၍ ပျော့ပျောင်း ပါသနည်း။ ပို၍ လိုရာကို ပြုပြင်၍ ရပါသနည်း။ ပူသောအခါ ပို၍ လေးသလော။ အေးသောအခါမှာ ပို၍ လေးသလော။ သင့်စိတ်၌ နှစ်ခြိုက်သလို ဖြေဆိုနိုင်ပါ သည်"ဟု မေး၏။

"ပူသောအခါတွင် ပို၍ ပေါ့ပါသည် အရှင်"

"ကောင်းလေစွ၊ အဘယ်ကြောင့်ပါနည်း"

"အို–အရှင်၊ ထိုသံတုံးသည် အပူတေဇောဓာတ်နှင့် တွန်းကန်မှု ဝါယော လေဓာတ်တို့နှင့် ထိတွေ့မိသောအခါ အခိုးအလျှံများ ထွက်လာရပါသည်။ ထို ဓာတ်နှစ်ပါးတို့၏ တွန်းကန်မှုအရှိန်ကြောင့် ရဲရဲပူလောင်နေသည့်အခိုက်တွင် ထိုသံတုံးကြီးသည် ပို၍လည်း ပေါ့၊ ပို၍လည်း ပျော့ပျောင်း၊ လိုသလိုရရှိအောင် ပြုလုပ်ရာတွင် ပို၍လည်း အပြုအပြင်ခံ၍ လွယ်ကူပါသည်။ အေးသွားသောအခါ၌ကား အပူဓာတ်နှင့် လေဓာတ်တို့ ကင်းကွာ၍ သွားပြီဖြစ်သောကြောင့် ပို၍လည်း လေး၊ ပို၍လည်း မာ၊ ပို၍လည်း ပြုပြင်ရာ မခံ၊ လုပ်ချင်သလို လုပ်၍မရ ဖြစ်သွားပါသည်"ဟု ဖြေ၏။

"အို–ဒကာတော် မြို့စား၊ သင့်အဖြေကား သင့်ပေစွ။ ဤကိုယ်ကာယသည် သံတုံးကြီးအလားပင် ဖြစ်ချေ၏။ အသက်ကိုယ်ငွေ့ ဝိညာဉ်တို့နှင့် ထိတွေ့မိ သောအခါ ပို၍ ပေါ့လည်း ပေါ့၏။ ပို၍ ပျော့လည်း ပျော့ပျောင်း၏။ ပို၍ အပြုအပြင်လည်း ခံ၏။ ထိုသို့မဟုတ်လေဘဲ ဤကိုယ်ကာယသည် အသက် ဝိညာဉ်တို့နှင့် ထိတွေ့ရခြင်း အလျဉ်းမရှိလေဘဲ ကင်းကွာနေသောအခါ၌ကား ပို၍ လေးလည်း လေး၊ မာလည်း မာ၊ ပို၍ အပြုအပြင်လည်း မခံ ဖြစ်လေ၏။

"အို–ဒကာတော် မြို့စား၊ ဤသံတုံးကြီး ဥပမာကို ထောက်သောအားဖြင့် လည်း သင့်အယူဝါဒကို စွန့်ကာ မှန်သော အယူဝါဒကို တည်ပါတော့လား ဒကာတော်" ဟု ကျိုးကြောင်းဆက်စပ်၍ ပြောဆိုခြားသော်လည်း ပါယာသိ မြို့စားကား အစွဲမကျွတ်၊ သူ့ဝါဒကို လက်မလွှတ်နိုင်ဘဲ ဆုပ်ကိုင်မြဲသာလျှင် ဆုပ်ကိုင်ထားရုံမက သာကေဆင့်၍ပင် သူ့ဝါဒမှန်ကန်ကြောင်းကို ရင်ဖွင့်ပြန်လေ၏။

"အို–အရှင်၊ အရှင်၏ စကားသည် အသံသြဇာအားဖြင့် ပျားသဖွယ် ချိုလှ ပါသော်လည်း အနှစ်သာရအားဖြင့်မူကား ကျွန်ုပ်အဖို့ ခါးသက်နေ၏။ ကျွန်ုပ် လက်မခံနိုင်သည့် အကိုးသာဓကတစ်ခုကို ကျွန်ုပ် ဆိုပါဦးအံ့။

"အို–အရှင်၊ ကျွန်ုပ်ထံသို့ ဖမ်းဆီးခေါ်ဆောင်လာသော ခိုးသူတစ်ယောက် အား ကျွန်ုပ် မည်သို့စီရင်၍ ကျွန်ုပ်ဝါဒအတွက် အထောက်အကူ ယူခဲ့သည် ထင် သနည်း။ ထိုခိုးသူအား ဒဏ်ရာမပေါ်အောင် အသတ်ခိုင်းပြီး အသက် ဘယ်က ထွက်သနည်းဟု ကျွန်ုပ်တို့က ဝိုင်းကြည့်ကြသည်။ ထိုသူအသက်ထွက်ခါနီးသော အခါ ပက်လက်အလှန်ခိုင်းပြီး အသက်ထွက်ရာကို စောင့်ကြည့်ကြကုန်သော် လည်း တစ်ယောက်မျှ မြင်သူမရှိ။ တစ်ဖန် ထိုသူအား အမှောက်ခိုင်းပြီး ရိုက် သည်။ ဘေးစောင်းထားပြီး ထုသည်။ ဓောက်ထိုးဆွဲပြီး နှက်သည်။ ဒဏ်ရာမပေါ် အောင် အမျိုးမျိုးနှိပ်စက်၍ အသက်ထွက်သည်ကို ဂရုတစိုက် စောင့်ကြည့်ကြ သည်။ ကျွန်ုပ်နှင့်တကွ အသက်ထွက်သွားသည်ကို မည်သူမျှ မမြင်ကြ။

ထိုသူကား ရိုက်နှက်ခြင်း ဒဏ်ချက်အောက်တွင် တုတ်တုတ်မျှ လှုပ်ဖော်မရတော့။ မျက်စိရှိလျက်နှင့် သူ မမြင်။ နားရှိလျက်နှင့် သူ မကြား။ နှာခေါင်းရှိလျက်နှင့် သူ မနံ။ ကိုယ်ကာယရှိလျက် သူ ထိတွေ့ခြင်း မပြုတော့သည်ကိုသာ တွေ့ရပါ၏။

"အို-အရှင်၊ ဤလက်တွေ့သာဓကကို ထောက်သောအားဖြင့်လည်း ကျွန်ုပ် ၏ဝါဒမှာ ခိုင်မြဲနေသည် ဖြစ်ပါလျက် ဘယ့်အတွက် ထိုဝါဒကို ကျွန်ုပ် လက် လွှတ်နိုင်ပါမည်နည်း"

တမလွန် လောကဟူသည် မရှိဟု အခိုင်အမာပြု၍ ဆိုလေ၏။

## ခရုသင်းမှုတ်သော ယောက်ျား ဥပမာ

အရှင် ကုမာရကဿပသည် ထိုသာဓကကို ခရုသင်းမှုတ်သော ယောက်ျား ဥပမာဖြင့် ရှင်းလိုက်လေသည်။

"အို-ဒကာတော် မြို့စား၊ ရှေးက ခရုသင်း အမှုတ်ကောင်းသော ယောက်ျား တစ်ယောက်သည် တောရွာတစ်ရွာသို့ ရောက်သွား၏။ ထိုယောက်ျားသည် ရွာ လယ်ကောင်မှနေ၍ ခရုသင်းမှုတ်လိုက်သည်။ သာယာသောအသံသည် ရွာကို လွှမ်း၍ ထွက်လာ၏။ ထိုအခါ တစ်ရွာလုံး အုတ်အုတ်ကျွက်ကျွက် ဖြစ်သွားလေ၏။ ဘာသံပါလိမ့်။ တယ် သာယာလှပါကလားဟူ၍ ထိုယောက်ျားထံသို့ ချဉ်းကပ် လာကုန်ပြီး မေးမြန်းလာကြကုန်လေ၏။ ထိုအခါ ထိုယောက်ျားက ရိုးသားစွာပင် မှန်သောအတိုင်း ဤသို့ဖြေ၏။

'အချင်းတို့၊ ဤအရာကား ခရုသင်းပါတည်း။ သင်တို့ စွဲမက်မပြေအောင် ကြားလိုက်ကြရသည့် အသံကား ဤခရုသင်း၏အသံ ဖြစ်ပါသည်'ဟု ဖြေ၏။

ထိုအခါ ရွာသားတို့သည် ထိုယောက်ျားလက်မှ ခရုသင်းကိုယူ၍ မြေပြင်၌ ချကာ 'ဟယ်-ခရုသင်း၊ မြည်လော့၊ မြည်လော့'ဟူ၍ ခရုသင်းကို ပုတ်၍ ခိုင်းကြကုန်၏။ ခရုသင်းကား မမြည်ပေ။ တစ်ဖန် ထိုခရုသင်းကို ဘေးစောင်း ထား၍လည်းကောင်း၊ မှောက်လျက်ထား၍လည်းကောင်း၊ ထောင်လျက်ထား၍ လည်းကောင်း၊ ခေါက်ထိုးထား၍လည်းကောင်း အမျိုးမျိုးထား၍ 'ခရုသင်း မြည်လော့၊ မြည်လော့'ဟု သူတစ်မျိုး ငါတစ်ဖုံ ဝိုင်းအုံ၍ အမြည်ခိုင်းသော်လည်း ထိုခရုသင်းကား မြည်ခြင်း မရှိ။

"ဒါယကာ မြို့စား၊ ထိုအခါ ထိုယောက်ျားအား ဤသို့ အကြံဖြစ်လာ၏။ ဤကျေးတောသားတို့ကား မိုက်မဲဘိစွဟု ခရုသင်းကို ယူကာ ရွာမှ ထွက်သွား လေတော့ရာ ရွာသားတို့လည်း ထိုယောက်ျားအား မျက်စိတစ်ဆုံးကြည့်ကြပြီး နောက် ယင်းကိစ္စနှင့်ပတ်သက်၍ ဤသို့ အကြံဖြစ်ကြလေကုန်၏။

'ဩ–ခရုသင်းဆိုသည်မှာ မှုတ်သောသူ၊ မှုတ်ခြင်း လုံ့လ ပယောဂ လေနှင့် ထိတွေ့ စပ်နှောမိမှ အသံ ဖြစ်လာတာပါကလား။ မှုတ်သူ မရှိ၊ မှုတ်ခြင်း ကိရိယာ လုံ့လပယောဂ မပါလျှင် အသံမမြည်ပါကလား'ဟူ၍ ဤတွင်မှ အမှန်တရားကို သဘောပေါက်ကြလေကုန်သည်။

"အို–ဒကာတော် မြို့စား၊ ဤအတူပင် ကိုယ်ကာယကား အသက်ကိုယ်ငွေ့ ဝိညာဉ်တို့နှင့် ထိတွေ့ပေါင်းဆုံမိလေသောအခါ လှုပ်ရှားလာပြီး ရှေ့သို့လည်း သွား၏။ နောက်သို့လည်း ဆုတ်၏။ ရပ်လည်း ရပ်၏။ ထိုင်လည်း ထိုင်၏။ အိပ်လည်း အိပ်၏။ မျက်စိဖြင့်လည်း ရူပါရုံကို မြင်၏။ နားဖြင့်လည်း သဒ္ဒါရုံကို ကြား၏။ နှာခေါင်းဖြင့်လည်း ဂန္ဓာရုံကို နမ်း၏။ လျှာဖြင့်လည်း ရသာရုံကို လျက်၏။ ကိုယ်ဖြင့်လည်း ဖောဋ္ဌဗ္ဗာရုံကို ထိတွေ့၏။ စိတ်ဖြင့်လည်း ဓမ္မာရုံကို သိ၏။ ဤကိုယ်သည် အသက် ကိုယ်ငွေ့ ဝိညာဉ်တို့နှင့် ကင်းကွာသောအခါ ရှေ့သို့လည်း မတက်၊ နောက်သို့လည်း မဆုတ်၊ ရပ်လည်း မရပ်၊ ထိုင်လည်း မထိုင်၊ အိပ်လည်း မအိပ်လေ။ မြင်လည်း မမြင်။ ကြားလည်း မကြား။ နမ်းလည်း မနမ်း။ ထိတွေ့ခြင်းလည်း မပြု။ သိလည်း မသိလေ။

"အို–ဒကာတော် မြို့စား၊ ဤဥပမာကို ထောက်သောအားဖြင့်လည်း သင့်ဝါဒ ခံယူချက်ကို လက်လွှတ်ကာ တမလွန်လောကသည် ရှိ၏ဟူသော အမှန် ဝါဒသစ်၌ ဖြစ်ပါတော့လား ဒကာတော်"ဟု ရှေးနည်းတိုင်းပင် ဟောပြောရှယ်ချူ မိစ္ဆာအယူကို ကျွတ်အောင် ချွတ်တော်မူသော်လည်း ပါယာသိမြို့စားကား အရှင်၏ စကားကို အမှုအရာအားဖြင့် အလေးအနက်ပြုသည့်တိုင်အောင် သူ၏ အယူဝါဒ ကိုကား မလွှတ်လေဘဲ ဖွတ်ပေတေနေသည်သာမက သူ၏သုတေသနပြုချက် များကိုသာ ထပ်တလဲလဲ တင်ပြနေလေသတည်း။

"အို–အရှင်၊ ဥပမာ ဥပမေယျတို့ဖြင့် အကွက်ဝင် ဆီလျော်အောင် စပ်ဟပ်၍ အရှင်၏ ဆိုပြောချက်များမှာ လေးနက်သောအသွင်ကို တကယ်ပင် ဆောင်ပါပေသည်။ သို့သော် စစ်မှန်သော ဝါဒတစ်ခုကို လွယ်လွယ်နှင့် လက် လွှတ်လိုက်ပြီး ဝါဒသစ်တစ်ခု၏ လောင်းရိပ်အောက်သို့ ကျရောက်ခိုဝင်ရမည် ဆိုသော အချက်ကား ကျွန်ုပ်အနေဖြင့် မည်သည့်နည်းနှင့်မျှ လက်မခံနိုင်အောင် ဖြစ်ရသည်ကို ဝမ်းနည်းပါသည်။ အကယ်ပင် မှားနေ၍ ပြုပြင်ရန် လိုအပ်လျှင် မူကား ဝန်လေးဖွယ်မရှိ။ ယခုမူ စိန်မှန်ကင်းအဖြစ်က ထင်းဖြစ်သည့်ကိန်းမျိုး အဆိုက်မခံနိုင်ပါ။ သာဓကတစ်ခုကို အရှင် ဝန်မလေးက ရှုတော်မူပါဦး။ ကျွန်ုပ် ကိုယ်တိုင်ကိုယ်တွေ့ ကျကျနန လေ့လာထားသောအရာ ဖြစ်ပါသည်။ ဆိုခွင့် ပြုနိုင်ပါသေး၏လား အရှင်"ဟု ဆိုလျှင် အရှင်ကုမာရကဿပက မြို့စား၏

ဆန္ဒအတိုင်း လျှောက်ခွင့်ပြုလိုက်သောအခါ အောက်ပါ သာဓကတစ်ခုကို ထုတ်ပြပြန်၏။

"အို–အရှင်၊ တစ်ခါတွင်လည်း မင်းချင်းယောကျာ်းတို့သည် ခိုးသူတစ်ဦးကို ဖမ်းဆီး၍ ကျွန်ုပ်ထံ အပ်နှံလာကြသည့်အခါ ကျွန်ုပ်၏ ဝါဒခိုင်မာမှုအတွက် ထိုသူအား ကျွန်ုပ် မည်သို့ အသုံးချလိုက်သည် ထင်သနည်း။

"အို–အရှင်၊ ကျွန်ုပ် သိချင်၍ လေ့လာနေသည်ကား အသက်ထွက်မှုဖြစ်လေရာ အသက်ထွက်မှု စူးစမ်းရန်အတွက် ထိုသူအား ကျွန်ုပ် ဤသို့ အသုံးချလိုက်ပါသည်။ အသက်သည် ဤကိုယ်ထဲတွင် တစ်နေရာ၌ တွယ်ကာနေမည်သာ ဖြစ်သောကြောင့် ထိုသူ့ကိုယ်မှ အပေါ်ယံအရေပါးများကို တစ်လွှာချင်း တစ်လွှာချင်း ခွာ၍ အသက်ကို ရှာသည်။ မတွေ့ပါ၊ မမြင်ပါ အရှင်။

"အို–အရှင်၊ ဤသို့ အရေပါးကို ခွာ၍ အသက်ကို ရှာမတွေ့သောအခါ အရေထူကို ခွာ၍ ရှာကြည့်ပြန်သည်။ မတွေ့ပါ၊ မမြင်ပါ။ ထိုနောက် အသားများကို လှီး၍လည်းကောင်း၊ အကြောများကို တစ်ချောင်းချင်း တစ်ချောင်းချင်း ဖြတ်တောက်၍လည်းကောင်း၊ အရိုးများကို ခွာ၍လည်းကောင်း၊ ရိုးတွင်းချဉ်ဆီများကို ဖောက်၍လည်းကောင်း တွေ့လိုတွေ့ငြား နေရာအနှံ့အပြားတို့၌ ပိုက်စိပ်တိုက်၍ ရှာပါသော်ငြားလည်း အသက်ကို မတွေ့ပါ၊ မမြင်ပါ။ ဤအသက်သည် ဘဝတစ်ပါးသို့ ထွက်သွားရိုးမှန်ခဲ့သော် ဧကန်ပင် မြင်တန်ရာပါသည်။

"အို–အရှင်၊ ဤသာဓကကို ထောက်သောအားဖြင့်လည်း တမလွန်လောကမရှိဟူသော ကျွန်ုပ်၏ ခံယူချက်ဝါဒမှာ မှန်ကန်ကြောင်း ထင်ရှားနေသည်ဖြစ်ရာ ထိုဝါဒကို အဘယ်မှာလျှင် အကျွန်ုပ် စွန့်နိုင်ပါအံ့နည်း။ အရှင့်ကိုကား ကျွန်ုပ် လေးစားပါ၏"ဟု ဆို၏။

ထိုအခါ၌လည်း ယင်းလျှောက်တင်ချက် သာဓကကို ချေပရန် အရှင်ကုမာရကဿပအဖို့ ဥပမာ မရှားချေ။ အကွက်ဆိုက်လျှင် မြိုက်ခနဲ ကျရောက်လာလေ၏။

## မီးကို လုပ်ကျွေးသော ရသေ့ ဥပမာ

"အို–ဒကာတော်မြို့စား၊ သင် မည်သို့ပင် ငါ့စကားများကို ပယ်ရှား၍ ငြင်းဆန်နေစေကာမူ ငါ၏မျှော်လင့်ချက်မကုန်သေး။ သင်၏ ဆိုပြောချက်များက အသိဉာဏ် ဦးနှောက်ကောင်းသူ တစ်ဦးဖြစ်ကြောင်း ပေါ်လွင်နေ၏။ ထို့ကြောင့် သင်ကဲ့သို့သော အဖိုးတန် လူတစ်ယောက်အား ပြောဟောရန် ငါ၌ ဝန်မလေး၊ ငါ့မှာ ဆင်းရဲခြင်းမဖြစ်။ သင့်အား ဥပမာတစ်ချက်ဖြင့် ငါလက်ကမ်း၍ ခေါ်ဦးအံ့။

"အို–ဒကာတော် မြို့စား၊ ရှေးက မီးကို အလုပ်အကျွေးပြုနေသော ရသေ့ တစ်ပါးသည် တောရ ကျောင်းသင်္ခမ်းတစ်ခု၌ နေလေသတတ်။ တစ်နေ့သ၌ လှည်းအုပ်တစ်အုပ်သည် ထိုရသေ့၏ ကျောင်းသင်္ခမ်းအနီးတွင် စခန်းချကာ တစ်ညဥ့်တာမျှ အိပ်၍ ထွက်သွားကြလေရာ ထိုအခါ တောနေရသေ့၌ ဤသို့ အကြံဖြစ်လာလေသည်။ 'ဤလှည်းစခန်းချရာသို့ သွားရသော် ကောင်းလေစွ။ ၎င်းနေရာမှ ငါ့အတွက် တစ်စုံတစ်ခု ရတန်နိုင်ရာ၏'ဟု ကြံပြီးလျှင် ထိုနေရာသို့ သွားလေ၏။ ရောက်လျှင် ထူးဆန်းစွာ ကလေးသူငယ်တစ်ယောက်ကို အံ့သြစွာ တွေ့ရလေသည်။

ရသေ့သည် ထိုသူငယ်ကို သနားသဖြင့် ကျောင်းသို့ ခေါ်ဆောင်ခဲ့ပြီးလျှင် ကောင်းမွန်စွာ မွေးမြူထား၏။ ထိုသူငယ်သည် တစ်ဆယ့်နှစ်နှစ်အရွယ်သို့ ရောက်လာသောအခါ ရသေ့တွင် ကိစ္စတစ်ခုပေါ်လာ၏။ ဇနပုဒ်တစ်ခုသို့ မသွားလျှင် မဖြစ်သောကိစ္စ ဖြစ်၏။

ရသေ့ ခရီးထွက်ခါနီးတွင် ထိုသူငယ်အား ဤသို့ မှာထားခဲ့၏။ "ချစ်သား၊ ငါ ခရီးထွက်ရအံ့။ မီးကို လုပ်ကျွေးရစ်လော့။ မီးကို မငြိမ်းအောင် ကြပ်ကြပ် သတိပြုလော့။ အကယ်၍ မီးငြိမ်းသွားခဲ့သော် သည်မှာ ထင်း၊ သည်မှာ ပဲခွပ်၊ သည်မှာ မီးပွတ်၊ မီးကို ပြန်မွေးကာ လုပ်ကျွေးရစ်လော့"ဟု မှာထားခဲ့ပြီး ခရီး ထွက်သွားလေ၏။

ရသေ့ ထွက်သွားလေသောအခါ မီးမသေအောင် ထင်းများကို ထည့်ဆိုက်ပြီး ကလေးဘာဝ ကစားနေစဉ် မီးသည် ငြိမ်းသွားလေ၏။ ထိုအခါ သူငယ်သည် ရသေ့က မှာထားခဲ့သည့်အတိုင်း မီးရရှိစေခြင်းငှာ မီးပွတ်ကို ပွတ်ရမည့်အစား မပွတ်လေဘဲ မီးပွတ်ကို ခွဲလျှင် မီးထွက်မည်အထင်နှင့် ပဲခွပ်ဖြင့် ခွဲ၏။ မီးကား မထွက်လာ။

"အို–ဒကာတော်၊ ထိုသူငယ်သည် မီးပွတ်ကို ထက်ခြမ်းခွဲ၍ မီးမထွက်သော် လေးစိတ်၊ ငါးစိတ်၊ ခြောက်စိတ် စသည်ဖြင့် အစိတ်စိတ်အမြွာမြွာ ခွဲသော်လည်း မီးမထွက်။ နောက်ဆုံးတွင် ခွဲစိတ်ထားသော မီးပွတ် အစအန များကို မီးထွက်စေရန် ဆုံထဲထည့်၍ ထောင်းပြန်၏။ မီးကား မထွက်လာသော ကြောင့် မီးမမွေးနိုင်ဘဲ ဖြစ်နေ၏။

ရသေ့ပြန်ရောက်လာသောအခါ မီးကို လုပ်ကျွေးရဲ့လားဟု အရေးတကြီး မေးလေသောအခါ ထိုသူငယ်လည်း ဖြစ်ကြောင်းကုန်စင်ကို လျှောက်တင်လေ၏။ ရသေ့လည်း မသိဆိုးရွား မိုက်ချက်သား ကောင်းလှချည့်လား၊ ဆင်ခြင်တုံတရား ကင်းမဲ့စွာ ဘောက်မဲ့ကြောင့် မီးကို ရှာရသလဲဟု စိတ်ဖြင့် မြည်တွန်တောက်တီး ကာ ထိုသူငယ်၏ ရှေ့မှာပင် မီးပွတ်အစုံကို ယူ၍ ပွတ်လျှင် မီးရရှိလာလေ၏။

ထိုအခါ ရသေ့က သူငယ်အား ဤသို့ ဆုံးမလေ၏။ "ချစ်သား၊ မီးကို ဤသို့သာ ဖြစ်စေအပ်၏။ သင်ကား မိုက်ဘိစွ။ ဆင်ခြင်ကင်းမဲ့စွာ ပြုဘိစွ။ ဆင်ခြင်ဉာဏ်ရှိသူကား သင်ကဲ့သို့ မည်သူမျှ မပြုလုပ်ကြ"ဟု ဆို၏။

"အို-ဒကာတော် မြို့စား၊ သင်ကား ထိုသူငယ်နှင့် အလားတူချောဘိသည်တကား။ အဆင်ခြင်ကင်းမဲ့စွာ တမလွန်လောကကို ရှာတုံဘိ၏။ ဒကာတော်၊ ယုတ်မာသော ဤမိစ္ဆာအယူဝါဒကို သင် စွန့်လော့။ ကြာမြင့်စွာသော ကာလ ပတ်လုံး အကျိုးမဲ့အောင် သင် မပြုပါလင့်။ အဖိုးတန်သောဘဝကို နစ်မွန်းအောင် သင် မနှစ်ချင်ပါလင့်"

ထိုအခါ၌ကား ပါယာသိမြို့စားသည် အရှင်ကုမာရကဿပ၏ ဆုံးမချက်စကားကို လက်ခံသည့် အစိတ်အပိုင်း ဆိုက်လာချေပြီ။ သို့သော် မြို့စားသည် စွန့်ပါတော့အံ့ဟူ၍ ပြောင်ပြောင်တင်းတင်း လက်မခံဝံ့ဘဲ ပတ်ဝန်းကျင်ကို သူ ရွံ့နေ၏။ ပသေနဒီကောသလမင်းကြီးနှင့် တကွ ပတ်ဝန်းကျင်က သူ့အား ကဲ့ရဲ့ရှုတ်ချကြမည်ကို စိုးရိမ်သည်။ လက်ရှိအယူဝါဒကို စွန့်၍ ဗုဒ္ဓ၏ဩဝါဒကို လည်း ခံယူလိုသည်။ လူသူလေးပါးတို့က ကဲ့ရဲ့ကြမည်ကိုလည်း သူ ရွံ့နေသည်။

ထို့ကြောင့်လည်း သူ့နှုတ်ဖျားမှ ဤစကားထွက်လာခြင်း ဖြစ်၏။

"အို-အရှင်၊ အရှင်၏ ဩဝါဒကို ခံယူလျက် ကျွန်ုပ်၏ လက်ရှိ မိစ္ဆာဝါဒကို စွန့်လိုက်ချင်၏။ သို့သော် စွန့်၍ မဖြစ်နိုင်ပါ အရှင်။ အဘယ်ကြောင့်ဆိုသော် ဤအယူဝါဒကို စွဲစွဲမြဲမြဲ ကျွန်ုပ်ခံယူထားကြောင်းကို ပြည်ပိုင်ရှင်ဘုရင်ကောသလမင်းကြီးနှင့် နိုင်ငံရပ်ခြား တိုင်းတစ်ပါးမင်းများကအစ သိရှိနေကြပါကုန်၏။

"အို-အရှင်သူမြတ်ဘုရား၊ အကျွန်ုပ်သည် ယုတ်မာလှစွာသော ဤအယူဝါဒကို စွန့်လိုက်သော် 'ဩော်-ပါယာသိမြို့စားဟာ တယ်မိုက်တွင်းနက်လှပါကလား။ ဤမျှ ယုတ်မာလှသော အယူဝါဒကို သူမို့ပင် ယူခဲ့ပလေသည်'ဟူ၍ အကျွန်ုပ်အား ဆိုပြောသူတို့ ပေါ်လာမည် အမှန်ဖြစ်ပါသည်။ ထိုအခါ ထိုသူတို့အား အတိုက်အခံပြုသောအားဖြင့် မချစ်သော်လည်း အောင့်ကာနမ်းနေရသည့်ပမာ ထိုအယူကို ယူမြဲ ယူနေရပါဦးမည်။ အရှင်ဘုရား၏ စကားကို ချေပသောအားဖြင့်လည်း အရှင်ဘုရားကို မတုပြိုင်လိုပါပဲလျက် တုပြိုင်သောအားဖြင့် ထိုအယူကို ယူမြဲ ယူနေရပါဦးမည် ဘုရား"

ပါယာသိမြို့စားသည် ဤသို့ စကားအသုံးအနှုန်းကာစ ပြောင်းလဲလာကုန်၏။ သို့သော် သူသည် ပတ်ဝန်းကျင်ကို လန့်၍ ဝါဒကို စွန့်ချင်လျက်နှင့် မစွန့်ဝံ့ဘဲ တစ်ဆို့ဆို့ကြီး ဖြစ်နေသည်။

စပယ်ဦးစာပေ

ထိုသို့ တစ်နေသည့်အချက်ကို ဖောက်ဖျက်ကျော်လွှားနိုင်ရေးအတွက် ခေါင်းအေးအေးထား၍ စဉ်းစားနိုင်စေခြင်းငှာ အရှင်ကုမာရကဿပသည် ဥပမာ တစ်ထုံးကို သုံးတော်မူပြန်လေသတည်း။

## လှည်းမှူးကြီးနှစ်ယောက် ဥပမာ

"အို–ဒကာတော် မြို့စား၊ သနားဖွယ်ကောင်းလေစွ။ သင်သည် ယောကျ်ား မဟုတ်လော။ အမှန်တရားကို လက်ခံသိမ်းပိုက်ခြင်း၌ အဘယ့်ကြောင့် သင် ရွံ့နေဘိသနည်း။

"အို–ဒကာတော် မြို့စား၊ ငါ ဥပမာပြအံ့။ သင့်စိတ်ကို ကြည်လင်စွာ ထား၍ ခံယူလော့။ ရှေးက လှည်းမှူးနှစ်ယောက် အုပ်ချုပ်သော လှည်းပေါင်း တစ်ထောင်ရှိသည့် နွားအုပ်ကြီးတစ်ခုသည် တစ်နိုင်ငံမှ တစ်နိုင်ငံသို့ ခရီးထွက် သွား၏။ နွားကောင်ရေပေါင်း နှစ်ထောင်နှင့် လူဦးရေကလည်း များလှသော ကြောင့် ရောက်ရာအရပ်တို့၌ မြက်၊ ထင်း၊ ရေက အစ မလုံလောက်ဖြစ်ကာ အခက်ကြုံရလေ၏။

ထိုအခါ လှည်းမှူးနှစ်ယောက်သည် ထိုအခက်အခဲကို ဖြေရှင်းနိုင်ရန်အလို့ငှာ လှည်းငါးရာစီ ခွဲ၍ သွားကြရန် သဘောတူဆုံးဖြတ်ကြပြီးနောက် လှည်းမှူးတစ်ဦး သည် မိမိအုပ်စီးရသည့် လှည်းငါးရာတို့ကို မြက်၊ ထင်း၊ ရေ အလုံအလောက် တင်စေလျက် ခရီးဆက်၍ ထွက်သွား၏။

"အို–ဒကာတော် မြို့စား၊ ထိုလှည်းပေါင်း ငါးရာတို့သည် နှစ်ရက်ခန့် သွားမိလေသောအခါ တစ်နေရာတွင် လှည်းတစ်စီးကို တွေ့ရလေ၏။ ထိုလှည်း ပေါ်က လူကို လှည်းမှူးက ကြည့်လိုက်သည်။ ထိုသူကား မျက်လုံးနီသည်။ လေး မြားတောင့်များကို လွယ်ထား၏။ ကြာပန်းကို ပန်ထား၏။ အဝတ်အစားများ ရေစိုနေ၏။ ဆံပင်များကို ရေရွှံ့ရွှံ့နှင့် ဖားလျားချထား၏။ အသားက နက်မှောင် မည်းချိပ်နေ၏။ လှည်းဘီးများကို ကြည့်ပြန်သော် ရွှံ့များ ပေကျံနေသည်ကို တွေ့ရ၏။

ရွှံ့များ ပေကျံနေသော လှည်းနှင့် အဝတ် ဆံပင်များ စိုရွှဲနေသော လှည်း သမားကို တွေ့လတ်သော် လှည်းမှူးဖြစ်သူက စိတ်ဝင်စားမိလာသည်။ ထို့ကြောင့် ထိုသူအား နှုတ်ခွန်းဆက်လေ၏။ လမ်းခရီး၌ ရေအခက်အခဲ ရှိ မရှိကို မေးမြန်း သေသောအခါ ထိုသူက လှိုက်လှဲစွာပင် ပြောပြလေသည်။

"အရှင်၊ ရေအတွက် မစိုးရိမ်ပါလင့်။ ရှေ့ခရီး၌ မိုးကြီးသည်းထန်စွာ ရွာသွန်းထားသောကြောင့် လမ်းခရီးတစ်လျှောက် ရေနှင့်ဖွေးဖွေး ရှိနေပါသည်။ မြက်၊ ထင်းဆိုရာမှာလည်း ပေါလှ၏။ လှည်းအလေးခံပြီး မြက်၊ ထင်း၊ ရေများကို ဘောက်မဲ့ကြောင့် ယူဆောင်သွားတော့မည်နည်း။ အားလုံးကို စွန့်သွန်ကာ ဝန်ပေါ့ဖြင့်သာ စိတ်ချလက်ချသွားပါလေ။ နွားများကိုလည်း သက်သက်ညှာညှာ ပေါ့ပေါ့ပါးပါး သွားကြပါစေ"ဟု ပြောလျှင် လှည်းမှူးသည် များစွာသဘောကျသွားသည့်အလျောက် သူ့လှည်းသမားများအား ယူဆောင်လာခဲ့သည့် ထင်း၊ ရေ၊ မြက်တို့ကို စွန့်ထားခဲ့ကြရန် အမိန့်ပေးလေ၏။ လှည်းသမားတို့လည်း လှည်းမှူးဆိုတိုင်း လိုက်နာကြကာ စွန့်ကြလေကုန်သည်။

"အို–ဒကာတော်၊ ထိုလှည်းသားငါးရာတို့သည် ပထမစခန်း ရောက်ကြ၏။ ရေမတွေ့ကုန်။ ဆက်လက်၍ သွားကြရာ သတ္တမစခန်းရောက်သော်လည်း ရေမတွေ့လေရကား လှည်းသားငါးရာတို့ ရေအတွက် အခက်အခဲဖြစ်နေကြကုန်စဉ် လူယောင်ဆောင်ထားသော ဘီလူးသည် အပေါင်းအသင်းများနှင့် ရောက်လာပြီး လှည်းသားငါးရာတို့အား စားလေသဖြင့် အရိုးစုမျှသာ ကြွင်းလေ၏။

"အို–ဒကာတော်မြို့စား၊ ဒုတိယလှည်းမှူးလည်း လှည်းပေါင်းငါးရာနှင့် ထွက်လာ၏။ ရိက္ခာအဖြစ် ထင်း၊ မြက်၊ ရေ အပြည့်အစုံ တင်ဆောင်လာ၏။ လမ်းခရီးအကြားတွင် ဘီလူးက လူယောင်ဆောင်ထားသော လှည်းတစ်စီးကို ယခင်နည်းအတိုင်း တွေ့လေ၏။ ထိုလှည်းသမား အရေခြုံထားသော ဘီလူးကလည်း ရှေးနည်းအတိုင်း ရှေ့ခရီး၌ မြက်၊ ထင်း၊ ရေပေါသဖြင့် စွန့်၍ ပေါ့ပေါ့ပါးပါးသွားရန် အကြံပေးပြန်၏။

"အို–ဒကာတော် မြို့စား၊ ထိုလှည်းမှူးက ဆင်ခြင်တုံတရား ရှိ၏။ ထိုယောက်ျား၏ ပြောစကား ယုံကြည်ခြင်း မရှိသည့်အလျောက် သူ့တပည့်များအား ဤသို့ တင်းကြပ်စွာဆိုသတည်း။

"အို–အချင်းတို့၊ ငါတို့ ယူဆောင်လာခဲ့သည့် ရိက္ခာများကို စွန့်ရန် ထိုလှည်းသမားက ငါတို့အား အကြံပေးသည်ကို သင်တို့လည်း ကြားသိပေကုန်၏။ စင်စစ်သော် ထိုလှည်းသမားကား ငါတို့နှင့် မွေးချင်းပေါက်ဖော် တော်စပ်သူလည်း မဟုတ်။ အပေါင်းအသင်း ရောင်းရင်းလည်း မဟုတ်။ သူ့စကားကို အဘယ့်ကြောင့် ငါတို့ ယုံကြည်နိုင်ကုန်မည်နည်း။ မြက်၊ ထင်း၊ ရေတို့ကို စွန့်ထားခဲ့ခြင်း မပြုဘဲ ယူမြဲယူဆောင်ခဲ့ကြကုန်လော့" ဟု အမိန့်ပေးပြီးလျှင် ခရီးဆက်၍ ထွက်ကြလေ၏။

စခန်းစဉ်တစ်လျှောက်တွင် မြက်၊ ရေ၊ ထင်းတို့ကို မတွေ့လေဘဲ သတ္တမ စခန်းသို့ ရောက်သွားလေသောအခါ၌ကား ဘီလူးစားထားသဖြင့် ကျန်ရှိသော အရိုးများကို တွေ့ကြရလေကုန်၏။ ထိုအခါ လှည်းမှူးက လှည်းသား ငါးရာအား ဤသို့ဆို၏။

"အချင်းတို့၊ ဆင်ခြင်စဉ်းစားဉာဏ် မရှိသော လှည်းမှူးမိုက်ခေါင်းဆောင်လေသောကြောင့် ဤလှည်းအုပ်သည် မပျက်စီးတန်ဘဲလျက် ပျက်စီးခြင်းသို့ ရောက်ရ၏။ အချင်းတို့၊ သတိရှိကြကုန်။ အဖိုးမတန်သော ပစ္စည်းများကို စွန့်၍ ဤအဖိုးတန်ပစ္စည်းများကို ယူဆောင်ကြကုန်"ဟူ၍ ဆို၏။ လှည်းသားငါးရာတို့လည်း လှည်းမှူး၏ စကားကို နားထောင်ကြသဖြင့် ဘီလူးဘေးမှ ကင်းဝေးလွတ်မြောက်ကြသည့်အပြင် ပစ္စည်းများကိုလည်း ရရှိကြပြီး လိုရာခရီးသို့ ချမ်းသာစွာ ရောက်ရှိကြလေကုန်၏။

"အို–ဒကာတော်မြို့စား၊ သင်သည် မလိမ္မာ မိုက်မဲလှစွာသော လှည်းမှူးမိုက်နှင့် တူနေယောင်ပါတကား။ အဆင်ခြင်ကင်းမဲ့စွာ ပရလောကကို ရှာနေခဲ့သော် ထိုလှည်းမှူးကဲ့သို့ပင် ပျက်စီးခြင်းသို့ ရောက်လတ္တံ့။ သင်သာလျှင် ပျက်စီးသည် မဟုတ်။ သင့်အယူဝါဒကို နာယူအပ်၏။ ယုံကြည်အပ်၏ဟု မှတ်ထင်ကြကုန်သော သင်၏နောက်လိုက်တို့သည်လည်း အရင်းလဲလျှင် အဖျားထင်းဖြစ်ဟူသကဲ့ လှည်းသားငါးရာတို့၏ ပျက်စီးခြင်း လမ်းကြောင်းနောက်သို့ ကောက်ကောက်ပါအောင် လိုက်ကြရရှာကုန်လတ္တံ့။

"သို့ကြောင့်ရကား အို–ဒကာတော် မြို့စား၊ ယုတ်မာသော ဤအယူဝါဒကို စွန့်လိုက်ပါလော့။ ရာသက်ပန် အကျိုးဆုတ်ယုတ်မည့် လမ်းစဉ်မှားအောက်သို့ သင် မလိုက်ပါလင့်။ မိမိ၏ အဖိုးတန်သော ဘဝကိုလည်းကောင်း၊ မိမိကို အမှီပြု၍နေသော ပတ်ဝန်းကျင် အသိုင်းအဝိုင်းကိုလည်းကောင်း နစ်မွန်းအောင် မပြုပါလင့်။ ယခုအချိန်တွင် သင်၏ ချမ်းသာမှုနှင့် ပတ်ဝန်းကျင် အသိုင်းအဝိုင်းတို့၏ ချမ်းသာမှုသည် သင်သာလျှင် အဓိကဖြစ်ချေ၏။ သင် တစ်ယောက်အတွက်နှင့် အများပျက်စီးအောင် မဖြစ်ပါစေသင့်ပါ။ လေးနက်စွာ သတိထားကာ စဉ်းစားဆုံးဖြတ်ပါလော့ ဒကာတော်"

ဤသို့ တိုက်တွန်းလိုက်သည့် စကားမှာ ပါယာသိမြို့စားအား စိတ်နှလုံး ထိခိုက်အောင် ရိုက်နှက်လိုက်သည်နှင့် တူ၏။ အဘယ့်ကြောင့်ဆိုသော် ယခုအချိန်တွင် ပါယာသိမြို့စားကား ဝမ်းတွင်း စိတ်ဓာတ်အားဖြင့် မိစ္ဆာဝါဒကို စွန့်လွှတ်လိုက်ချေက သူ့အပေါ်သို့ ဆိုက်လာမည့် ကဲ့ရဲ့ရှုတ်ချမှု အန္တရာယ်များကို မြင်ယောင်လာသောအခါ ထိုပြဿနာကို ရင်ဆိုင်ရန် လန့်လာသည်။ မိစ္ဆာ

ဝါဒနောက်သို့ ယခုအတိုင်းမှေး၍ လိုက်နေမည်ဆိုက ငါ့အား ဧည့်သူကမှ အပြစ်ဆိုကြမည်မဟုတ်။ ဤဝါဒကို ပုတ်ထုတ်ပြီး ငါ လက်လွှတ်လိုက်သော တစ်ချိန်က ထိုမိစ္ဆာဝါဒကို အလုပ်အကျွေးပြုခဲ့မိသောကြောင့် ငါ့အဖို့လည်း မကောင်း၊ ငါ့အသိုင်းအဝိုင်းကလည်း ငါ့ကြောင့်သာ သူတို့ မိစ္ဆာဝါဒီများဖြစ်ကြရသည်ဟူ၍ ငါ့ကိုပင် အပြစ်တင်ကြမည်မှာ သေချာသည်။ ရှေ့သို့ ငါ ကူးပြောင်းမည့် သမ္မာဒိဋ္ဌိအတွက် ချီးမွမ်းကြမည်။ ကဲ့ရဲ့ကြမည်ကို အတည်မပြောနိုင်သော်လည်း လက်တွေ့အားဖြင့် ဤမိစ္ဆာဝါဒကို စွန့်လိုက်လျှင်မူကား ငါ့ပတ်ဝန်းကျင်က ငါ့အား ခွင့်လွှတ်ကြမည် မဟုတ်။ သွားပုပ်လေလွင့် ပြောကြကုန်လိမ့်မည်။ ဆိုကြကုန်လိမ့်မည်။ အို-မည်သို့ပင် ဖြစ်စေ၊ စိတ်သာ ပဓာနဖြစ်သည်။ ငါ့စိတ်က မိစ္ဆာဝါဒကို စွန့်လွှတ်ထားသည်ပင်၊ ပြီးသည်ပင်။ လူသိရှင်ကြား ဖွင့်၍ စွန့်လွှတ်ရန် မလို။ ဤသို့တွေးကာ သူ့ဝါဒကို မစွန့်နိုင်ပါဟု ခပ်တင်းတင်းပင် လျှောက်လေ၏။

## မစင်ထုပ် ဆောင်ယူသူ ဥပမာ

ထိုသို့လျှောက်လိုက်ခြင်းသည် အရှင်ကုမာရကဿပအတွက် ဥပမာတံခါးကြီးကို ဖွင့်ပေးလိုက်သည်နှင့် တူ၏။ အရှင်၏ စိတ်၌ကား "ဤမြို့စားကို ကျွတ်အောင် ချွတ်မည်။ မကျွတ်သမျှ ငါမလျှော့"ဟု သန္နိဋ္ဌာန်ချထားတော်မူဟန် တူ၏။

သို့ကြောင့်လည်း အရှင်သူမြတ်သည် ပါယာသိမြို့စားအား ဥပမာဆန်းတစ်ခုဖြင့် လက်ကမ်းလိုက်ပြန်လေပြီ။

"အို-ဒကာတော် မြို့စား၊ ယခုအချိန်သည် သင့်အတွက် နောက်မကျသေး။ သို့ကြောင့် သင့်အား ငါသည် ဖေးဖေးမမ ခေါ်ဆောင်နေခြင်း ဖြစ်၏။ ငါ ဆွဲခေါ်ရာသို့ လိုက်ပါခဲ့လော့။ ငါ ဆိုလတ္တံ့သော ဤဥပမာသည် သင့်အတွက် ဖြောင့်ဖြူးသော လမ်းကောင်းဖြစ်ပါစေလော့။ မိမိကိုယ်ကိုလည်းကောင်း၊ မိမိစိတ်ကိုလည်းကောင်း မလှည့်စားအပ်။ လှည့်စားခြင်းဖြင့် သင့်အား အကျိုးမရှိသည့်အပြင် အကျိုးဆုတ်ယုတ်ဖွယ်သာ ဖြစ်သည်ကို သတိပြုပါလော့။

"အို-ဒကာတော် မြို့စား၊ သင် စိတ်ထားကြည်ရွှင်စွာ နာလော့။ ဥပမာတစ်ခုကို ငါ ဆိုပေဦးအံ့။ ဒကာတော် မြို့စား၊ ရှေးက ဝက်မွေးသူတစ်ယောက် ရှိလေသတတ်။ ဝက်မွေးမြူခြင်းဖြင့် အသက်မွေးခြင်း ပြုလေသတတ်။

ထို့ကြောင့် နေ့စဉ် ဝက်များ ကျွေးမွေးရန် ဝက်စာရှာရခြင်းမှာ သူ၏ အဓိကတာဝန်ဖြစ်လေသည်။ ဝက်များကို အစာကောင်းကောင်းကျွေးနိုင်မှ ဝက်များ

ဖွံ့ဖြိုးမည်၊ ဝက်များ ဖွံ့ဖြိုးမှ သူ့အဖို့ ကြီးပွားနိုင်မည်ဖြစ်သောကြောင့် ရောက်လေရာရာမှာ ဝက်စာကိုသာ ရှာဖွေနေရ၏။

တစ်နေ့သ၌ ထိုယောကျ်ားသည် ရွာတစ်ရွာသို့ ရောက်သွား၏။ ရွာပြင်ဘက်တွင် တစ်ရွာလုံးက စွန့်ထားသော မစင်ခြောက်များကို တွေ့လေ၏။ ထိုအခါ စိတ်ကူးပေါက်လာ၏။ မစင်ခြောက်တွေ ကောက်၍ ဝက်စာအဖြစ် အသုံးပြုရသော် ကောင်းလေစွ။ ဤသို့ စိတ်ကူးပေါက်ပြီး ထိုယောကျ်ားသည် မစင်ခြောက်များကို ကောက်၍ အဝတ်ဖြင့် ထုပ်၏။ ရွာက ကြီးဟန်တူ၏။ မစင်ခြောက်တွေ များစွာရလေ၏။

ထိုယောကျ်ားအဖို့ အိမ်ပြန် လှချေ၏။ မစင်ထုပ်ကြီးကို မနိုင်မနင်းခေါင်းပေါ်ရွက်လျက် ရွာသို့ပြန်လာစဉ် လမ်းတွင် မိုးမိလေ၏။ မိုးမှာ သည်းထန်လှသောကြောင့် ခေါင်းပေါ်က မစင်ထုပ်ကြီးမှာ ရွဲရွဲစိုကုန်တော့ရုံမက မစင်ခြောက်များသည် ရေဓာတ်နှင့် ထိတွေ့သောအခါ နူးပျော့လာကုန်သည်။ မစင်ရေတို့သည် ထိုယောကျ်ား၏ တစ်ကိုယ်လုံးကို လွှမ်းဖုံးကာ တစစ်စစ်နှင့် ယိုစီးလာကုန်သည်။

သို့သော် ထိုယောကျ်ားသည် မည်သို့တတ်နိုင်ပါမည်နည်း။ မစင်ထုပ်ကြီးကို မစွန့်ရက်သဖြင့် ခေါင်းပေါ်တွင် ရွက်ကာ ရွာသို့ ပြန်လာခဲ့သည်။ ရွာတံခါးသို့ ဝင်မိသည်ဆိုလျှင်ပင် ထိုယောကျ်ားအား ရွာသားများက ဆီး၍ ဟားကြလေ၏။ ပျက်ရယ်ပြုကြလေ၏။

"ဖျို့–ကိုဟာဝါ၊ ဘာဖြစ်လာတာလဲ။ ရူးများနေသလား။ စိတ်မှ နှံ့ရဲ့လား။ ဟား–ဟား–ဟား–တစ်ကိုယ်လုံးမှာလဲ မစင်ရေတွေ ရွဲလို့ပါလား၊ ဘောက်မဲ့ကြောင့် ဒီမစင်ထုပ်ကြီး ရွက်လာသလဲ။ စွန့်လိုက်ပါတော့လား"

ဤသို့ ရွာသားများက မစင်ထုပ်ကြီးကို စွန့်ရန် ပြောကြသော်လည်း ထိုယောကျ်ား နားမဝင်ရှာ။

"ဝက်ကျွေးဖို့ဗျ။ ကျုပ် မရူးဘူး။ ခင်ဗျားတို့သာ အရူး။ စိတ်မနှံ့တာက ကျုပ် မဟုတ်ဘူးဗျ။ ခင်ဗျားတို့ ခင်ဗျားတို့။ ခင်ဗျားတို့သာ အရူး၊ ခင်ဗျားတို့သာ အနှမ်း" ဤသို့ တုံ့ပြန်ရန်မူကာ မစင်ထုပ်ကြီးကို မစွန့်ဘဲ ရွက်မြဲရွက်ကာ အိမ်သို့ ယူဆောင်လေသတည်း။

"အို–ဒကာတော် မြို့စား၊ သင်သည် မစင်ထုပ်ကြီးကို ရွက်လာသော ဝက်မွေးယောကျ်ားနှင့် တူနေယောင်တကား။ ဝက်မွေးသော ယောကျ်ားကား ခဏတာမျှ မစင်နံ့တလောင်းလောင်းနှင့် နံစော်မည်ဖြစ်သော်လည်း သင် ရွက်ဆောင်ထားသော မိစ္ဆာဝါဒ မစင်ထုပ်ကြီးကား ဤဘဝ၌သာမက သံသရာ

တစ်လျှောက်လုံး မစင်နံ့ဖုံးလေမည်ဖြစ်သောကြောင့် ထိုမိစ္ဆာဝါဒကို အချိန်မီ စွန့်လိုက်ပါတော့လား ဒကာတော်။ နံစော်လှသော မစင်ထုပ်ကြီးကို ဖြူသန့်သော ဘဝ ဦးခေါင်းထက်၌ အဘယ့်ကြောင့် ရွက်ထားချင်ဘိသနည်း။ စွန့်လိုက်ပါဘိ ဒကာတော်။ သင့်အား မင်္ဂလာအတိ ဖြစ်လာစေသော်"

မွဲကြီး ပွဲကောင်းသဖွယ် အရှင်ကုမာရကဿပနှင့် ပါယာသိမြို့စားတို့ တမလွန် လောကရှိ၊ မရှိနှင့် ပတ်သက်၍ အပြန်ပြန်အလှန်လှန် မေးကြမြန်းကြ၊ တင်ပြကြ၊ ဆွေးနွေးကြ၊ ဝေဖန်သုံးသပ်ကြသည်မှာ အတော်ကလေး အချိန် ကြာသွားပြီ ဖြစ်၏။

ပါယာသိမြို့စားသည် တင်းကျပ်စွာ တုပ်နှောင်ထားသော ကြိုးများကို ဖြေလိုက်သည့်ပမာ စကားဆိုစဉ်က တင်းမာဟန်ရှိခဲ့သော မာန်ကြောများကို ဖြေလျှော့ချလိုက်ပြီ။ သက်သာကြည်လင်သောအသွင်ဖြင့် အရှင်ကုမာရကဿပအား ဦးသုံးကြိမ်ချလိုက်ပြီးနောက် ဤသို့လျှောက်လေ၏။

"အရှင်သူမြတ်ဘုရား၊ ဘုရားတပည့်တော် ကျေနပ်ပါပြီ။ အရှင်၏ ဩဝါဒကို ရှေးဦးစွာ မြွက်ကြားတော်မူလိုက်သည့် နေ၊ လ ဥပမာစကားကို ကြားရစကပင် တပည့်တော်၏ ဝါဒစွဲ ကျွတ်ခဲ့ပြီးဖြစ်ပါသည်။ သို့ပါလျက် နောက်ဆက်တွဲအားဖြင့် ရှည်လျားစွာ တပည့်တော် လျှောက်[illegible]င်နေခြင်းမှာ အလွန်ကြားနာခဲလှသော အရှင့်တရားတော်နှင့် ဩဝါဒများကို နာယူလိုသည် တစ်ကြောင်း၊ ၎င်းပြင် ဤသို့ သာဓကအဖုံဖုံကို တင်ပြလျှောက်ထားချက်အရ အရှင်ဘုရားက တုံ့ပြန်မြွက်ကြားသည်ကို ကြားနာရခြင်းအားဖြင့် တပည့်တော်မှ တစ်ပါး မိစ္ဆာဝါဒကို အယူအစွဲရှိနေသူများ သဘောပေါက်ကာ မိစ္ဆာဝါဒကို တပည့်တော်ကဲ့သို့ စွန့်နိုင်ပြီး ဝါဒမှန်သို့ ရောက်စေလိုသောကြောင့် တစ်ကြောင်း၊ ဤအကြောင်းများကြောင့် စကား မရှည်တန်ဘဲလျက် ရှည်လျားစွာ တပည့်တော် အခြေအတင် မေးလျှောက်ခဲ့မိသည်များကို ခွင့်လွှတ်တော်မူပါရန် အနူးအညွတ် တောင်းပန်လိုပါသည် ဘုရား။ အရှင်ဘုရား၏ အဆုံးအမကို ခံယူရသည့်အချိန်မှ စ၍ ရင်ဝယ်ပိုက်ထွေးထားခဲ့သော မိစ္ဆာဝါဒကို တပည့်တော် စွန့်လိုက်ပါပြီ။

"အရှင်သူမြတ်ဘုရား၊ တပည့်တော်၏ စိတ်သန္တာန်၌ ဖြစ်ပေါ်လာချက်ကို ရှင်သောပီတိဖြင့် လျှောက်ထားပါရစေ ဘုရား။ အရှင်ဘုရား၏ တရားကို ကြားနာလိုက်ရသောအခါ ဥပမာအားဖြင့် မှောက်၍ထားသော အိုးကို လှန်လိုက်ဘိသကဲ့သို့လည်းကောင်း၊ ကွေး၍ထားသော လက်ကို ဆန့်လိုက်ဘိသကဲ့သို့လည်းကောင်း၊ မျက်စိလည် လမ်းမှားနေသူအား လမ်းမှန်ကို ပြလိုက်ဘိသကဲ့သို့လည်းကောင်း၊ အမှောင်တွင်းရောက်နေသူတို့အား ဆီမီးတန်ဆောင် ထွန်းညှိ

ပေးလိုက်ဘိသကဲ့သို့လည်းကောင်း၊ ဥပမာပေါင်းများစွာ ထုတ်ဆောင်ခင်းကျင်းလျက် အလင်းရောင်ရရှိအောင် တပည့်တော်အား ညွှန်ပြခဲ့ပါသည်။

"အရှင်သူမြတ်ဘုရား၊ ဘုရား၊ တရား၊ သံဃာ ဤရတနာသုံးပါးကို ကိုးကွယ်ရာဟူ၍ တပည့်တော် ဆည်းကပ်ပါ၏။ ယနေ့မှစ၍ တပည့်တော်အား ရတနာသုံးပါးကို ဆည်းကပ်ကိုးကွယ်သော ဥပါသကာအဖြစ် အသိအမှတ်ပြုတော်မူပါ ဘုရား"

တမလွန်လောကဟူသည် မရှိ။ သတ္တဝါသည် သေသည်မှ နောက်၌ မဖြစ်။ ကုသိုလ်ကံ၊ အကုသိုလ်ကံတို့၏ အကျိုးဝိပါက်ဟူသည် မရှိဟူ၍ မိစ္ဆာဝါဒီတို့၏ အကြီးအမှူး ဦးစီးခေါင်းဆောင်ဖြစ်ခဲ့သော ပါယာသိမြို့စားကား အရှင်ကုမာရကဿပတည်း ဟူသော အလင်းရောင်နှင့် အတွေ့တွင် မိစ္ဆာဝါဒ အမှောင်ကို ခွင်းလျက် အလင်းရောင်ဘက်သို့ ကူးပြောင်းလာလေသတည်း။

(ဒီဃနိကာယ်၊ သုတ်မဟာဝါပါဠိတော်၊ ပါယာသိရာဇညသုတ်၊ ၂၅၅-ဆဋ္ဌမှ)

( ၃ )

# အမြတ်ဆုံးမြင်ခြင်း

မွေ့လျော်ခြင်းတို့တွင် တရားစကားနှင့် မွေ့လျော်ခြင်းသည် အကောင်းဆုံးဟု ဗုဒ္ဓမြတ်ဘုရား ဟောကြားတော်မူ၏။

သာသနာ့ဝန်ထမ်း ရဟန်းတော် အရှင်မြတ်များသည် အချင်းချင်း စကားပြောကြရာတွင် စကားထဲက ဓာတ်ပြမှန်း မသိ ပြပြလာတတ်၏။ မည်သည့်အကြောင်းအရာကိုပင် ဆိုပြောစေကာမူ နောက်ဆုံးတွင် တဖြည်းဖြည်း တရားဘက်သို့ မျက်နှာမူလာတတ်ကြ၏။

ထိုစကားကို ဆိုသင့်ပါသည်။ အဘယ့်ကြောင့်ဆိုသော် အခါတစ်ပါးတွင် အရှင်အာနန္ဒာသည် ကောသမ္ဗီပြည်သို့ ရောက်သွားလေသောအခါ ဃောသိတာရုံကျောင်းတော်ကြီးတွင် တည်းခို၍ နေတော်မူ၏။

ထိုအခါ ထိုကျောင်းတိုက်နေ "ဘဒ္ဒဇိ"မည်သော ရဟန်းတစ်ပါးသည် အရှင်အာနန္ဒာထံ အဖူးအမြော် ရောက်လာ၏။ အချင်းချင်း ကျန်းမာရေး၊ ချမ်းသာရေး၊ စကားစမြည် မေးမြန်း ဆိုပြောကြရင်းက တရားဓမ္မဘက်ဆီသို့ စကား ကူးစက်သွားလေ၏။

ဉာဏ်ပညာ အတွေးအခေါ် အမြော်အမြင်နှင့် ပတ်သက်၍ ဘဒ္ဒဇိရဟန်းသန္တာန်၌ အဘယ်မျှ ရင့်သန်မည်၊ မသန်မည်ကို စူးစမ်းသည့်သဘောဖြင့် အရှင်အာနန္ဒာကပင် စတင်၍ မေးပေ၏။

"ငါ့ရှင် ဘဒ္ဒဇိ၊ လောက၌ အမြတ်ဆုံး အမြတ်ဆုံး ဟူသော စကားလုံးကို သုံးနှုန်းပြောဆိုလျက် ရှိနေသည်ကို ငါ့ရှင်လည်း သိပြီးပင် ဖြစ်ပေမည်။ ငါ့ရှင်အား မေးစမ်းပါရစေ။ ငါ့ရှင် ထင်မှတ် စွဲယူထားသလိုသာ ဖြေပါဘီ။

"ငါ့ရှင် ဘဒ္ဒိ၊

(၁) မြင်ခြင်းတို့တွင် အဘယ်မြင်ခြင်းသည် အမြတ်ဆုံးနည်း။

(၂) ကြားခြင်းတို့တွင် အဘယ်ကြားခြင်းသည် အမြတ်ဆုံးနည်း။

(၃) ချမ်းသာတို့တွင် အဘယ်ချမ်းသာခြင်းသည် အမြတ်ဆုံးနည်း။

(၄) သညာတို့တွင် အဘယ်သညာသည် အမြတ်ဆုံးနည်း။

(၅) ဘုံဘဝတို့တွင် အဘယ်ဘုံသည် အမြတ်ဆုံးနည်း။

ဤသို့ မေးလတ်သော် အရှင်ဘဒ္ဒိသည် လက်အုပ်ချီကာ ဤသို့ လျှောက်၏။

(၁) "ငါ့ရှင် အာနန္ဒာ၊ ဗြဟ္မာကြီးတစ်ပါး ရှိပါသည်။ သူ့ကို မည်သူကမျှ မလွှမ်းမိုးနိုင်ပါ။ အားလုံးအပေါ် သူကသာ လွှမ်းမိုးသည့် မဟာဗြဟ္မာကြီး ဖြစ်ပါသည်။ အကြင်သူသည် ထိုမဟာဗြဟ္မာမင်းကို မြင်၏။ ထိုသူ၏ မြင်ခြင်းသည် မြင်သူတကာတို့တွင် အမြတ်ဆုံးသော မြင်ခြင်းပါ ဘုရား။

(၂) ငါ့ရှင် အာနန္ဒာ၊ ချမ်းသာပီတိ ရွှန်းရွှန်းအိနေသည့် အာဘဿရာ မည်သော ဗြဟ္မာကြီးများ ရှိကြပါသည်။ ထိုဗြဟ္မာကြီးများသည် တစ်ခါတစ်ရံ 'သြော်-ချမ်းသာလိုက်ပါဘိ၊ ချမ်းသာလိုက်ပါဘိ' ဟု ဥဒါန်းကျူးတတ်ကြပါသည်။ ထိုအာဘဿရာ ဗြဟ္မာကြီးများ၏ ဥဒါန်းကျူးသံကို ကြားခြင်းသည် ကြားခြင်းအပေါင်းတို့တွင် အကောင်းဆုံး၊ အမြတ်ဆုံးသော ကြားခြင်းပါ ဘုရား။

(၃) ငါ့ရှင် အာနန္ဒာ၊ သုဘကိဏှာမည်သော ဗြဟ္မာများ ရှိပါကုန်၏။ ထိုဗြဟ္မာတို့ကား ထင်ထင်ရှားရှား လက်တွေ့ချမ်းသာကိုသာ ခံစားလေ့ရှိပါကုန်၏။ ထိုဗြဟ္မာတို့ ခံစားခြင်းသည် ခံစားခြင်းတကာတို့တွင် အမြတ်ဆုံး ခံစားခြင်းပါ ဘုရား။

(၄) ငါ့ရှင် အာနန္ဒာ၊ အချို့ဗြဟ္မာတို့သည် အာကိဉ္စညာယတနဘုံသို့ ကပ်ရောက်ကြပါကုန်၏။ ထိုဗြဟ္မာတို့၏ သညာသည် သညာတကာတို့တွင် အမြတ်ဆုံးသညာပါ ဘုရား။

(၅) ငါ့ရှင် အာနန္ဒာ၊ နေဝသညာ နာသညာဘုံသို့ ကပ်ရောက်ကုန်သော ဗြဟ္မာများ ရှိပါကုန်၏။ ထိုဗြဟ္မာတို့၏ ဘဝသည် ဘဝတကာတို့တွင် အမြတ်ဆုံး ဘဝပါ ဘုရား"

ထိုသို့ဖြေလိုက်သောအခါ အရှင်အာနန္ဒာသည် ဦးခေါင်းကို အနည်းငယ် ညိတ်လျက် အရှင်ဘဒ္ဒိအား ဤသို့ ချီးကျူးလေ၏။

"ငါ့ရှင် ဘဒ္ဒဇိ၊ သင်၏အပြောကား ကောင်းဘိစွ။ များစွာသော လူတို့၏ ဆန္ဒနှင့် တစ်ပြေးညီစွာ သင့်လျော်ပါ၏"ဟု ဆိုလျှင် အရှင်အာနန္ဒာကဲ့သို့သော ရောမ အဓိပတိပုဂ္ဂိုလ်ကြီးထံမှ ချီးကျူးသံကို ကြားရသောအခါ အဘယ်မှာလျှင် ဝမ်းမသာဘဲ ရှိပါမည်နည်း။

သို့ရာတွင် အရှင်ဘဒ္ဒဇိကား အရှင်အာနန္ဒာထံမှ အမြတ်ဆုံးတရားကို ကြားနာလိုသေးဟန်ဖြင့် မျက်နှာတော်ကို မော်၍ ဖူးလိုက်ပြီးနောက် ဤသို့ လျှောက်လေ၏။

"ငါ့ရှင် အာနန္ဒာ၊ အရှင်ကား အခြားသူတို့ထက် ဗဟုသုတအရာတွင် ထင်ရှားသော ပုဂ္ဂိုလ်ဖြစ်ပါ၏။ အမြတ်ဆုံးတရားကို အရှင့်ထံမှ ကြားနာ မှတ်သားလိုပါသေး၏။ ဟောတော်မူပါ အရှင်"ဟု လျှောက်ထားနေလေရကား အရှင်အာနန္ဒာသည် အရှင်ဘဒ္ဒဇိအား အမြတ်ဆုံးတရားကို ဤသို့ ဟောကြားရလေ၏။

"ငါ့ရှင် ဘဒ္ဒဇိ၊ ကောင်းစွာ သတိချပ်၍ မှတ်သားလော့။ သင့်အား အမြတ်ဆုံးတရား ငါဟောအံ့။

(၁) ငါ့ရှင် ဘဒ္ဒဇိ၊ မြင်သူအား မြင်ခြင်း၏ အခြားမဲ့၌ ကိလေသာအစေး (အာသဝေါတရားများ) ခြောက်သွေ့ကုန်ခန်းသွား၏။ ဤမြင်ခြင်းကား မြင်ခြင်းတကာတို့တွင် အမြတ်ဆုံးသော မြင်ခြင်းဖြစ်၏။

(၂) ငါ့ရှင် ဘဒ္ဒဇိ၊ သင် မှတ်သားလေဦး။ ကြားသူအား ကြားလိုက်ရလေသည်၏ အခြားမဲ့တွင် ကိလေသာအစေး (အာသဝေါတရားများ) သွေ့ခြောက်ကုန်ခန်းသွားလေ၏။ ဤကြားခြင်းက ကြားရခြင်းတို့တွင် အမြတ်ဆုံးသော ကြားခြင်းဖြစ်ပေ၏။

(၃) ငါ့ရှင် ဘဒ္ဒဇိ၊ ဤသို့လည်း သင် မှတ်လေဦး။ ချမ်းသာခြင်းရှိသူအား ချမ်းသာသည်၏ အခြားမဲ့၌ ကိလေသာအစေး (အာသဝေါတရားများ) သွေ့ခြောက်ကုန်ခန်းသွားလေ၏။ ထိုချမ်းသာခြင်းကား ချမ်းသာတကာတို့အနက် အမြတ်ဆုံး ချမ်းသာဖြစ်ပေ၏။

(၄) ငါ့ရှင် ဘဒ္ဒဇိ၊ သင် မှတ်ဘိဦးလော့။ သညာရှိသူအား သညာ၏ အခြားမဲ့၌ ကိလေသာအစေး (အာသဝေါတရားများ) ကုန်ခန်းခြောက်သွေ့သွားလေ၏။ ဤသညာကား သညာတကာတို့တွင် အမြတ်ဆုံးသော သညာဖြစ်ပေ၏။

(၅) ငါ့ရှင် ဘဒ္ဒိယ၊ နှလုံးပိုက်၍ နားစိုက်ဦးလော့။ ဘဝရှိသူအား ဘဝ၏အခြားမဲ့၌ ကိလေသာအစေး (အာသဝေါတရားများ) ကုန်ခန်းခြောက်သွေ့ သွားလေ၏။ ဤဘဝကား ဘဝတကာတို့တွင် အမြတ်ဆုံးဘဝ ဖြစ်ပေ၏”ဟု ဟောပြလေရာ အရှင်ဘဒ္ဒိယအဖို့ နှစ်လိုမဆုံး တပြုံးပြုံးနှင့် ရှိနေလေသတည်း။

(အင်္ဂုတ္တရနိကာယ်၊ ပဉ္စကနိပါတ်၊ အာဃာတဝဂ်၊ ဘဒ္ဒိယသုတ်၊ ၁၇၇၊ ဆဠမှ)

# (၄)

# ဝါဒီ

နေဝင်ဆည်းဆာချိန်ဖြစ်သောကြောင့် နေမင်း၏ရောင်ခြည်သည် ဖျော့တော့တော့နှင့် တဖြည်းဖြည်း အပူရှိန်လျော့နည်းလာပြီ ဖြစ်သည်။

ထိုအချိန်တွင် မဟာဝုန်တောအတွင်းရှိ ဥသျှစ်ပင် တစ်ပင်၏ အထက်မှ ရွှေဝါရောင် ရွက်ချပ်ကလေးများသည် လေလှုပ်သဖြင့် တဖျပ်ဖျပ်နှင့် ရှိနေခိုက် မြတ်စွာဘုရားသည် မဟူရာသွေး တဖိတ်ဖိတ် မည်းညိုရောင်ပြေးနေသော သပိတ်တော်ကို ကောက်ယူကာ ထိုဥသျှစ်ပင်အောက်၌ နေသန့်စင်နေတော်မူရာမှ ထတော်မူလျက် နိဂြောဓာရုံကျောင်းတော်ကြီးသို့ ပြန်ခဲ့၍ ရောက်လျှင် ခရီးရောက် မဆိုက်ပင် သံဃာ့အစည်းအဝေးခေါ်စေပြီး ထိုနေ့ အတွေ့အကြုံကို ရဟန်းတို့အား ဤသို့ မြွက်ကြားတော်မူသတည်း။

"အို–ရဟန်းတို့၊ ယနေ့နံနက် ကပိလဝတ်မြို့တွင်း ဝင်၍ ငါဆွမ်းခံခဲ့၏။ ထိုမှအပြန် မဟာဝုန်တောသို့ဝင်၍ ဥသျှစ်ပင်ပျိုအောက်၌ နေ့သန့်စင်နေတော်မူစဉ် ဒဏ္ဍပါဏိမည်သော သာကီဝင်မင်းသည် တောင်ဝှေးကို တဒေါက်ဒေါက် ထောက်လျက် ငါ့ထံရောက်လာပြီး မတ်တပ်ရပ်၊ တောင်ဝှေးကို ထောက်မှီလျက်မှ သူက ငါ့ကို မေးပါလေပြီ။ 'အို–အရှင် ရဟန်းသည် အဘယ်အယူရှိသနည်း (ကိံဝါဒီ)။ အဘယ်သို့ ဆိုပြောဟောကြားလေ့ ရှိသနည်း (ကိံအက္ခာယီ)'။ ဤသို့ ငါ့ကို သူ မေးချေ၏။

ထိုအခါ ငါက သူ့အား ဤသို့ခွန်းတုံ့ပြန်လိုက်၏။ "ငါ့ရှင်ဒဏ္ဍပါဏိ၊ နတ်လောက၌လည်းကောင်း၊ လူ့လောက၌လည်းကောင်း၊ ကောင်းသော အဆုံးအမကို ခံယူ၍ သူမြတ်အကျင့်ကို ကျင့်နေသော အကြင်ပုဂ္ဂိုလ်သည် လောက၌

တစ်စုံတစ်ယောက်သောသူနှင့်မျှ ငြင်းခုံ၍ မရပ်တည်။ တစ်ကြောင်းအားဖြင့်လည်း ကာမဂုဏ်တို့နှင့် မစပ်ယှဉ်ဘဲ ကင်းကင်းရှင်းရှင်းနေသူ၊ သို့လော သို့လော တွေးတော ယုံမှားခြင်းကင်းသူ၊ စက်ဆုပ်ဖွယ် ကိုယ်အမူအရာ၊ နှုတ်အမူအရာကို ပယ်ယူပြီးသူ၊ ဘဝကြီးငယ်၌ တပ်မက်ခြင်း တဏှာမှ ကင်းသူ၊ ထိုသည့်ပုဂ္ဂိုလ်သို့ ကိလေသာနှင့် စပ်သော အမှတ်သညာတို့ မကပ်နိုင်၊ မလိုက်နိုင်ကြကုန်။

"ငါ့ရှင် ဒဏ္ဍပါဏိ၊ ငါသည် ဤအယူ ရှိ၏။ ဤသို့ ဟောကြားလေ့ရှိ၏" ငါက ပြန်ပြောလိုက်သောအခါ သူသည် ခေါင်းညိတ်၊ လျှာထုတ်ကာ တောင်ဝှေး တဒေါက်ဒေါက်နှင့် ငါ့ထံတော်ပါးမှ ဖဲသွားလေတော့သည်ဟု မိန့်တော်မူ၏။

ဤသို့ မိန့်တော်မူလတ်သော် အညတရ ရဟန်းတစ်ပါးက ထ၍ လက်အုပ်ချီပြီးလျှင် ဤသို့ လျှောက်လေ၏။ "လျှောက်ထားပါရစေ ဘုရား။ ရှင်တော်မြတ်ဘုရားသည် အဘယ်အယူ ရှိသည် ဖြစ်ကြောင်း၊ နတ်လောက၌လည်းကောင်း၊ လူ့လောက၌လည်းကောင်း၊ တစ်စုံတစ်ယောက်သော သူနှင့် ငြင်းခုံ၍ မရပ်တည်ပါသနည်း ဘုရား ဟူ၍လည်းကောင်း၊ ကာမဂုဏ်တို့နှင့် ကင်းကင်းရှင်းရှင်း နေတော်မူသော၊ သို့လော သို့လော တွေးတော ယုံမှားခြင်း ကင်းတော်မူသော၊ စက်ဆုပ်ဖွယ် ကိုယ်အမူ နှုတ်အရာကို ပယ်ပြီးသော၊ ဘဝကြီးငယ်၌ တပ်မက်ခြင်း တဏှာမှ ကင်းတော်မူသော ထိုပုဂ္ဂိုလ်သို့ ကိလေသာတို့သည် အဘယ့်ကြောင့် မကပ်နိုင်၊ မလိုက်နိုင်ပါကုန်သနည်း ဘုရား"ဟူ၍လည်းကောင်း လျှောက်လေ၏။

"ချစ်သား ရဟန်း၊ လူပုဂ္ဂိုလ်၊ နတ်ပုဂ္ဂိုလ် စသော ထိုပုဂ္ဂိုလ်သတ္တဝါ၌ သံသရာနယ်ချဲ့ ပပဉ္စတရားအစုတို့သည် နှစ်သက်ဖွယ်ကောင်းခြင်း စသော အကြင်အကြောင်းများကြောင့် အကန့်ကန့် သန့်ခြား၍ ဖြစ်ကုန်၏။ အကြောင်းကြောင်းတို့၌ အကယ်၍ နှစ်သက်ဖွယ် မရှိခဲ့သော်၊ အလွန်အကျူး အထူးပြု၍ ဆိုပြောဖွယ်မရှိခဲ့သော်၊ သည်းခြေခိုက်နှစ်ခြိုက်ဖွယ် မရှိခဲ့သော် ဤမရှိခြင်းသည် ပင်လျှင် ရာဂါနုသယ=တပ်မက်ခြင်းတဏှာ ခိုအောင်းရာ လမ်းဆုံးပေတည်း။ ဤမရှိခြင်းသည်ပင်လျှင် ပဋိဃာနုသယ=အမျက်ဒေါသခိုအောင်းရာ၊ ဒိဋ္ဌာနုသယ= အယူဝါဒ အစွဲအလမ်းခိုအောင်းရာ၊ ဝိစိကိစ္ဆာနုသယ= ယုံမှားခြင်း ခိုအောင်းရာ၊ မာနာနုသယ= မာန်မာနတရားခိုအောင်းရာ၊ ဘဝရာဂါနုသယ=ဘဝ၌ တပ်မက်ခြင်း ခိုအောင်းရာ၊ အဝိဇ္ဇာနုသယ=မသိမှု၏ ခိုအောင်းရာ၊ တုတ်ဓားဆွဲကိုင်ခြင်း၊ ရန်ဖြစ်ခြင်း၊ ငြင်းခုံခြင်း၊ ထိုးသတ်ရိုက်ပုတ်ထိပါးခြင်း၊ နင်ပဲ ငဆ တိုင်းထွာ ဆဲရေးခြင်း၊ ကုန်းချောခြင်း၊ မုသားဆိုခြင်းတို့၏ လမ်းဆုံးပေတည်း။ ဤအကြောင်းကြောင့်တို့၌ အကုသိုလ်အယုတ်တရားတို့သည် အကြွင်းမဲ့ချုပ်ငြိမ်း

ကုန်၏”ဟု မိန့်တော်မူပြီးလျှင် မြတ်စွာဘုရားသည် နေရာမှ ထကာ ဂန္ဓကုဋီ တိုက်တော်တွင်းသို့ ဝင်သွားလေသောကြောင့် ရဟန်းတို့ကား အံ့အားသင့်စွာဖြင့် ကျန်ခဲ့ကြကုန်လေ၏။

“ဘုရားသခင်သည် ဤတရားကို အကျဉ်းအားဖြင့် ဟောထားခဲ့ပြီး အတွင်းဆောင်သို့ ဝင်သွားတော်မူလေပြီ။ ဤတရားကို အကျယ်အားဖြင့် ဝေဖန်၍ ငါတို့အား အဘယ်ပုဂ္ဂိုလ် ဟောကြားလေမည်နည်း”ဟု အကြံဖြစ်ကြရာမှ ‘အရှင်မဟာကစ္စာန’ကို သတိရလာကြကုန်၏။

“ငါ့ရှင်တို့၊ အရှင်ကစ္စာနကား နှယ်နှယ်ရရ သာမည ပုဂ္ဂိုလ်မဟုတ်။ အကြောင်းအရာတစ်ခုကို အကိုးအထောက်ခိုင်မာစွာဖြင့် ဝေဖန်သောအရာတွင် ဘုရားသခင်ကိုယ်တော်တိုင်ကလည်း ချီးမွမ်းတော်မူ၏။ သီတင်းသုံးဖော် အရှင်ကောင်း အရှင်မြတ်ကြီးတို့ကလည်း အံ့ချီးမဆုံးပင် ရှိချေသည်။ ထိုအရှင်မဟာကစ္စာနသည် အကျဉ်းအားဖြင့် ဟောထားခဲ့သော တရားတော်ကို အကျယ်အားဖြင့် ဝေဖန်ပြခြင်း၌ စွမ်းနိုင်ပေသည်။ အရှင်မဟာကစ္စာနထံသို့ ငါတို့ချဉ်းကပ်၍ တောင်းပန်ရသော် ကောင်းလေစွဟု ကြံကုန်ပြီးသည့် နောက်ပိုင်းတွင် ရဟန်းတို့သည် အရှင်မဟာကစ္စာနထံသို့ ချဉ်းကပ်၍ အကျိုးအကြောင်းကို ရေလည်အောင် လျှောက်ထားကြပြီးလျှင် အကျဉ်းတရားကို အကျယ်အားဖြင့် ဝေဖန်ဟောကြားပါရန် တောင်းပန်ကြလေသဖြင့် သိလွယ်၊ ထင်လွယ်၊ မြင်လွယ်အောင် ဥပမာဆောင်၍ ရဟန်းတို့အား အရှင်မဟာကစ္စာနက ဤသို့ မြွက်ကြားလေသတည်း။

“ငါ့ရှင်တို့၊ ဥပမာဆောင်၍ အကျွန်ုပ် ဆိုပါအံ့။ ယောကျ်ားတစ်ယောက်သည် အနှစ်သာရကို အလိုရှိသဖြင့် တောတောင်အနှံ့လိုက်၍ ရှာနေ၏။ တစ်နေရာတွင် အနှစ်ပြည့်သော သစ်ပင်ကြီးတစ်ပင်ကို တွေ့လေရာ ထိုယောကျ်ားသည် အနှစ်သာရကို အမြစ်နှင့် ပင်စည်တို့၌ မရှာလေဘဲ အမြစ်ကိုလွန်၊ ပင်စည်ကို ကျော်၍ အကိုင်း အခက် အရွက်တို့၌သာ အနှစ်ကို ရှာအပ်သည်ဟု အောက်မေ့လေ၏။

“အရှင်ဘုရားတို့သည်လည်း ဤယောကျ်ားနှင့်နှင့် ဖြစ်နေပါကုန်ပြီ။ မျက်မှောက်၌ ဘုရားသခင် ထင်ရှားရှိတော်မူပါလျက်နှင့် ဘုရားသခင်ကို ကျော်လွန်၍ တပည့်တော်အား မေးရကောင်းစေဟု အောက်မေ့နေကြကုန်၏။

“ငါ့ရှင်တို့၊ ဘုရားသခင်ကား ဇာနံ ဇာတိ=သိထိုက်သည်ကို သိတော်မူ၏။ ပဿံ ပဿတိ=မြင်ထိုက်သည်ကို မြင်တော်မူ၏။ စက္ခု ဘူတော=ပညာမျက်စိသဖွယ် ဖြစ်တော်မူ၏။ ဉာဏဘူတော=ဉာဏ်တုံးဉာဏ်ခဲကြီးသဖွယ် ဖြစ်တော်မူ၏။ ဓမ္မဘူတော=တရားမဏ္ဍိုင်ကြီးသဖွယ် ဖြစ်တော်မူ၏။ ဗြဟ္မ

ဘူတော=မဂ်သဖွယ် ဖြစ်တော်မူ၏။ ဝတ္တာ=သစ္စာလေးပါးတရားကို ဟောတော်မူတတ်၏။ ပဝတ္တာ=ဖြစ်စေသောအားဖြင့် ဟောကြားတော်မူတတ်၏။ အတ္ထဿ= သစ္စာ လေးချက်၏ အနက်ကို၊ နိန္နေတာ=ပေါ်လွင်အောင် ထုတ်ဆောင်တော်မူတတ်၏။ အမတဿ=အမြိုက်နိဗ္ဗာန်ကို၊ ဒါတာ=ပေးတော်မူတတ်၏။ ဓမ္မဿာမိ= တရားသခင်ဖြစ်တော်မူ၏။ တထာဂတော=ရှေးဘုရားတို့နှင့် အလားတူ ဟောကြားတော်မူတတ်၏။ ထိုဘုရား၏ အကျယ်ဝေဖန်ချက်ကို ဘုရားသခင်ထံတော်၌သာ တောင်းခံထိုက်ပါသည်။ ဘုရားသခင်က မြွက်ကြားဖြေဆိုတော်မူသည့်အတိုင်းသာ အရှင်ဘုရားတို့ ဆောင်ယူမှတ်သားတော်မူကြပါကုန်"ဟု ဘုရားသခင်ထံတော်သို့ သွား၍ မေးလျှောက်ကြပါရန် အရှင်မဟာကစ္စာနက ပန်ကြားလိုက်လေ၏။

ထိုအခါ ရဟန်းတို့သည် ကျောက်ရုပ်ကဲ့သို့ မတုန်မလှုပ်ဖြစ်ကုန်ကာ အရှင်မဟာကစ္စာနအား မမိုတ်မသုန် ကြည့်နေကြကုန်၏။ အတန်ကြာအောင် တိတ်ဆိတ်နေပြီးမှ "အရှင်ဘုရားကဲ့သို့သော ပုဂ္ဂိုလ်အနေဖြင့် အကျယ်ဝေဖန် ဟောကြားရန် ဝန်လေးဖွယ်မရှိပါ။ ဟောကြားတော်မူပါ"ဟု ထပ်မံတောင်းပန်ချက်အရ "ကောင်းပြီ ငါ့ရှင်တို့၊ အကျွန်ုပ် ဟောပါအံ့။ ဘုရားသခင် ဟောကြားသွားတော်မူသည့် အကျဉ်းသခေ်ပတရား၏ အကျယ် လိုအပ်ချက်အနက်ကို ကျွန်ုပ်သိပါ၏။ အာရုံစူးစိုက်စွာ နာတော်မူပါကုန်လော့။ အကျွန်ုပ် ဟောကြားတော့အံ့။

"ငါ့ရှင်တို့၊ မျက်စိကိုလည်းကောင်း၊ ရုပ်အဆင်းကိုလည်းကောင်း စွဲ၍ မျက်စိ၌မှီသော သိမှု စက္ခုဝိညာဉ်ဖြစ်၏။ မျက်စိ၊ ရုပ်အဆင်း၊ စက္ခုဝိညာဉ်၊ ဤသုံးပါးတို့ ပေါင်းဆုံမိခြင်းကြောင့် တွေ့ထိမှု=ဖဿဖြစ်ရ၏။ ဖဿအကြောင်းခံကြောင့် ခံစားမှု=ဝေဒနာဖြစ်ရ၏။

"အကြင်အာရုံကို ခံစားရ၏။ ထိုအာရုံကို ကောင်းစွာမှတ်ထား၏။ အကြင်အာရုံကို ကောင်းစွာမှတ်ထား၏။ ထိုအာရုံကို ကြံစည်၏။ အကြင်အာရုံကို ကြံစည်၏။ ထိုအာရုံကို ချဲ့ထွင်၏။ အကြင်အာရုံကို ချဲ့ထွင်၏။ ထိုဆိုခဲ့ပြီးသော ကွင်းဆက်အကြောင်းကြောင်းတို့ကြောင့် ပုဂ္ဂိုလ်သတ္တဝါကို ပပဉ္စတရားတို့သည် အတိတ်၊ အနာဂတ်၊ ပစ္စုပ္ပန်၊ စက္ခုဝိညာဉ်ဖြင့် မြင်သိအပ်သမျှသော ရူပါရုံတို့၌ အကန့် အကန့် သန့်ခြား၍ ဖြစ်လာကုန်၏။

"ငါ့ရှင်တို့၊ နားကိုလည်းကောင်း၊ အသံတို့ကိုလည်းကောင်း စွဲ၍ နား၌မှီသော သိမှု သောတဝိညာဉ်ဖြစ်၏။ နား၊ အသံ၊ သောတဝိညာဉ်၊ ဤသုံးပါးတို့ ပေါင်းဆုံမိခြင်းကြောင့် တွေ့ထိမှု ဖဿဖြစ်ရ၏။ ဖဿအကြောင်းခံကြောင့်

ခံစားမှုဝေဒနာဖြစ်ရ၏။ (မှတ်ချက်။ အကြင်အာရုံကို ခံစားတတ်၏ စသည်ကို စက္ခုဝိညာဉ်၌ ဆိုခဲ့ပြီးကို မှီး၍ သိလေ။)

"ငါ့ရှင်တို့၊ နှာခေါင်းကိုလည်းကောင်း၊ အနံ့တို့ကိုလည်းကောင်း စွဲ၍ နှာခေါင်း၌ မှီသော သိမှု ဃာနဝိညာဉ်ဖြစ်ရ၏။ နှာခေါင်း၊ အနံ့၊ ဃာနဝိညာဉ်၊ ဤသုံးပါးတို့ ပေါင်းဆုံမိခြင်းကြောင့် တွေ့ထိမှု ဖဿဖြစ်ရ၏။ ဖဿအကြောင်းခံကြောင့် ခံစားမှုဝေဒနာ ဖြစ်ရ၏။ (မှတ်ချက်။ အကြွင်းကို စက္ခုဝိညာဉ်ကို မှီး၍ သိလေ။)

"ငါ့ရှင်တို့၊ လျှာကိုလည်းကောင်း၊ အရသာတို့ကိုလည်းကောင်း စွဲ၍ လျှာ၌ မှီသော သိမှု ဇိဝှာဝိညာဉ်ဖြစ်ရ၏။ လျှာ၊ အရသာ၊ ဇိဝှာဝိညာဉ်၊ ဤသုံးပါးတို့ ပေါင်းဆုံမိခြင်းကြောင့် တွေ့ထိမှု ဖဿဖြစ်ရ၏။ ဖဿအကြောင်းခံကြောင့် ခံစားမှုဝေဒနာဖြစ်ရ၏။ (အကြွင်းကို စက္ခုဝိညာဉ်ကို မှီး၍ သိလေ။)

"ငါ့ရှင်တို့၊ ကိုယ်ကိုလည်းကောင်း၊ အတွေ့အထိကိုလည်းကောင်း စွဲ၍ ကိုယ်၌မှီသော သိမှု ကာယဝိညာဉ်ဖြစ်ရ၏။ ကိုယ်၊ တွေ့ထိမှု၊ ကာယဝိညာဉ်၊ ဤသုံးပါးတို့ ပေါင်းဆုံမိခြင်းကြောင့် တွေ့ထိမှု ဖဿဖြစ်ရ၏။ ဖဿအကြောင်းခံကြောင့် ခံစားမှုဝေဒနာဖြစ်ရ၏။ (အကြွင်းကို စက္ခုဝိညာဉ်ကို မှီး၍ သိလေ။)

"ငါ့ရှင်တို့၊ စိတ်ကိုလည်းကောင်း၊ သဘောတရား (ဓမ္မာရုံ)တို့ကိုလည်းကောင်း စွဲ၍ စိတ်ဟူသော မနောဝိညာဉ်ဖြစ်ရ၏။ စိတ်၊ ဓမ္မာရုံ၊ မနောဝိညာဉ်၊ ဤသုံးပါးတို့ ပေါင်းဆုံမိခြင်းကြောင့် တွေ့ထိမှုဖဿဖြစ်ရ၏။ ဖဿအကြောင်းခံကြောင့် ခံစားမှုဝေဒနာဖြစ်ရ၏။

အကြင်အာရုံကို စိတ်ဖြင့် ခံစား၏။ ထိုအာရုံကို ကောင်းစွာမှတ်ထား၏။ အကြင်အာရုံကို ကောင်းစွာ မှတ်ထား၏။ ထိုအာရုံကို ကြံစည်၏။ အကြင်အာရုံကို ကြံစည်၏။ ထိုအာရုံကို ချဲ့ထွင်၏။ အကြင်အာရုံကို ချဲ့ထွင်၏။ ထိုဆိုခဲ့ပြီးသော ကွင်းဆက်အကြောင်းတို့ကြောင့် ပုဂ္ဂိုလ်သတ္တဝါကို ပပဉ္စတရားတို့သည် အတိတ်၊ အနာဂတ်၊ ပစ္စုပ္ပန်၊ မနောဝိညာဉ်ဖြင့် သိအပ်သမျှ ဓမ္မာရုံတို့၌ အကန့်အကန့် သန့်ခြား၍ ဖြစ်လာကုန်၏။

"ငါ့ရှင်တို့၊ မျက်စိရှိခဲ့သော်၊ ရူပါရုံရုပ်အဆင်းရှိခဲ့သော်၊ မျက်စိ၌ မှီသော သိမှု စက္ခုဝိညာဉ်ရှိသော် ဖဿဟူ၍ ပညတ်လတ္တံ့။ ဖဿဟူသော ပညတ်ခြင်းရှိခဲ့သော် ဝေဒနာဟူ၍ ပညတ်လတ္တံ့။ ဝေဒနာဟူသော ပညတ်ခြင်းရှိခဲ့သော် သညာဟူ၍ ပညတ်လတ္တံ့။ သညာဟူ၍ ပညတ်ခြင်းရှိခဲ့သော် ဝိတက္ကဟူ၍ ပညတ်လတ္တံ့။ ဝိတက္ကဟူသော ပညတ်ခြင်းရှိခဲ့သော် ပပဉ္စ သညာသင်္ခါ

သမုဒါ စရဏ (ပပဉ္စတရားနှင့် ယှဉ်သော သညာအစုတို့၏ ဖြစ်ခြင်း)ဟူ၍ ပညတ်လတ္တံ့။ (မှတ်ချက်။ နား၊ နှာ၊ လျှာ၊ ကိုယ်၊ စိတ်တို့ကို ဤနည်းကို မှီ၍ သိလေ။)

"ငါ့ရှင်တို့၊ မျက်စိမရှိခဲ့သော်၊ ရူပါရုံ ရုပ်အဆင်းမရှိခဲ့သော်၊ မျက်စိဒွါ မှီသော သိမှု စက္ခုဝိညာဉ်မရှိခဲ့သော် ဖဿဟူ၍ ပညတ်ရန် အကြောင်းမရှိ။ ဖဿဟူသော ပညတ်ခြင်း မရှိခဲ့သော် ဝေဒနာဟူ၍ ပညတ်ရန် အကြောင်းမရှိ။ ဝေဒနာဟူသော ပညတ်ခြင်းမရှိခဲ့သော် သညာဟူ၍ ပညတ်ရန် အကြောင်းမရှိ။ သညာဟူသော ပညတ်ခြင်းမရှိခဲ့သော် ဝိတက်ဟူ၍ ပညတ်ရန်အကြောင်းမရှိ။ ဝိတက်ဟူသော ပညတ်ခြင်းမရှိခဲ့သော် ပပဉ္စသညာ သင်္ခါသမုဒါစရဏ ပညတ်ရန် အကြောင်းမရှိ။ (နား၊ နှာ၊ လျှာ၊ ကိုယ်၊ စိတ်တို့ကို မှီး၍ သိလေ။)

"ငါ့ရှင်တို့၊ မြတ်စွာဘုရားသည် အကျဉ်းအားဖြင့် ပါဠိသက်သက်ကို မြွက်ကြားတော်မူ၍ အကျယ်အားဖြင့် အနက်ကိုဝေဖန်၍ ပြတော်မမူလေဘဲ နေရာမှထ၍ ဂန္ဓကုဋီတိုက်တော်တွင်းသို့ ဝင်သွားတော်မူခဲ့၏။

"ငါ့ရှင်တို့၊ ရှင်တော်မြတ်ဘုရား အကျဉ်းအားဖြင့် ဟောကြားသွားတော်မူသော ဤပါဠိ၏ ဆိုလိုချက် အနက်အဖွင့်ကို အကျွန်ုပ်ကောင်းစွာ သိပါ၏။ အရှင်ဘုရားတို့သည် မေးလျှောက်လိုကြကုန်မူကား ဘုရားထံပါးသို့သာ ချဉ်းကပ်ကြကုန်။ ဤ အကျွန်ုပ် အကျယ်တဝင့် ဖွင့်ပြချက်များကို ဘုရားသခင်အား တစ်ဖန် မေးလျှောက်ကြည့်ကြပါကုန်။ ဘုရားသခင် မြွက်ကြားတော်မူသည့်အတိုင်း မှတ်သားနာယူကြပါကုန်"ဟု အရှင်မဟာကစ္စာနသည် ရဟန်းတို့အား ပန်ကြားလေ၏။

ထိုအခါ ရဟန်းတို့သည် အလွန်ဝမ်းမြောက်လှသည် ဖြစ်ရကား ဘုရားသခင်ထံ ချဉ်းကပ်ကြပြီးလျှင် အရှင်မဟာကစ္စာန၏ ကျေးဇူးသတင်းကို လျှောက်ထားကြလေကုန်၏။

အရှင်အာနန္ဒာသည် ရဟန်းတို့လျှောက်တင်နေသော စကားကို အာရုံစူးစိုက်စွာ နားထောင်နေ၏။ ရဟန်းတို့ တင်လျှောက်ပြီးသောအခါ မြတ်စွာဘုရားအား ဤသို့ လျှောက်၏။

"ဘုန်းတော်သခင် အရှင်မြတ်ဘုရား၊ ဆာလောင်မွတ်သိပ်လှသဖြင့် အင်အားချည့်နဲ့နေသော ယောကျ်ားသည် ချိုတမြမြ အရသာရှိလှစွာသော ပျားမုန့်ဆုပ်ကို ရလေရာ၏။ ထိုယောကျ်ားသည် ထိုပျားမုန့်ကို လှည့်ကာလှည့်ကာ လျှာဖြင့် လျက်ရာ၏။ ထိုအခါ အချိုထပ်၍ စွက်ရန်မလို။ ချိုမြိန်ကောင်းမြတ်သော အရသာကို ရရှိခံစားရသည်နှင့် တူလှပါတော့သည် ဘုရား။

"ဘုန်းတော်ကြီးလှသော မြတ်စွာဘုရား၊ နိုက်နဲ့စွာ တွေးခေါ်ကြံစည်သူ ပညာတတ် ရဟန်းသည် သိပ်သည်း ကျစ်လျစ်စွာ အကျဉ်းအားဖြင့် ဟောအပ်သော ပါဠိသက်သက် တရားတော်ကို ဘုရားအလိုတော်ကျ အနက်ပေါ်လွင်အောင် တွေးခေါ် ဖော်ယူနိုင်ပါသည်။ ရဟန်းတော် အရှင်သူမြတ်အားလုံးတို့၏ စိတ်နှလုံး ရွှင်ပြုံးကြည်နူးမှုကို ရရှိစေပါသည်။ အရှင်မြတ်ဘုရား၊ ဤတရား ဒေသနာတော် သည် အဘယ်အမည်ရှိပါသနည်း ဘုရား"ဟု လျှောက်၏။

ထိုအခါ "ချစ်သား အာနန္ဒာ၊ ဤဒေသနာတော်ကား ပျားမုန့်ဆုပ် (မုန့်ချို) နှင့် တူလေသောကြောင့် မဓုပိဏ္ဍိက ဒေသနာတော်ဟူ၍ မှတ်လေလော့"ဟု မိန့်တော်မူလျှင် အရှင်အာနန္ဒာနှင့် တကွ ရဟန်းအားလုံးတို့သည် မြတ်စွာဘုရား စကားတော်ကို လွန်စွာ နှစ်သက်ကြလေကုန်၏။

(မဇ္ဈိမနိကာယ်၊ မူလပဏ္ဏာသ ပါဠိတော်၊ သီဟနာဒဝဂ်၊ မဓုပိဏ္ဍိကသုတ်။ ၁၅၄၊ ဆဋ္ဌမူ)

( ၅ )

# ဓာတ်လေးပါး၏ အကျိုးနှင့်အပြစ်

မြေ၊ ရေ၊ လေ မီး (မြေဓာတ်၊ ရေဓာတ်၊ လေဓာတ်၊ မီးဓာတ်) အားဖြင့် ဓာတ်ကြီးလေးပါးရှိ၏။ ယင်းကို ဓာတ်ကြီးလေးပါးဟူ၍လည်းကောင်း၊ မဟာဘုတ်လေးပါး ဟူ၍လည်းကောင်း ခေါ်၏။

ဤဓာတ်ကြီးလေးပါးမှ လွတ်သောသတ္တဝါ မရှိဟူ၍ ကျမ်းဂန်တို့၌ ဆို၏။

ဘုရားသခင်သည် ထိုဓာတ်ကြီးလေးပါးတို့၏ အကြောင်းကို ဘုရားမဖြစ်ခင် နှစ်ဥဘာဝတုန်းကတည်းကပင် ထိုဓာတ်တို့ကို တစ်လွှာချင်း တစ်လွှာချင်းခွာ၍ သေသေချာချာ တိတိကျကျ တွေးခေါ်လေ့လာခဲ့ဖူးကြောင်းကို အခါတစ်ပါးတွင် ရဟန်းတို့အား မြွက်ကြားတော်မူ၏။

မှန်၏။ ဟောတော်မူသည့်နေရာကား ဇေတဝန်ကျောင်းတွင်ဖြစ်၏။ ဇေတဝန်ကျောင်းတော်၌ နေတော်မူခိုက် ဟောခွင့်ဆိုက်၍ ဓာတ်တရား မြွက်ကြားတော်မူ၏။

"ချစ်သားတို့၊ ဓာတ်လေးပါး၏ အကြောင်းနှင့် ပတ်သက်၍ ဘုရားမဖြစ်မီ နှစ်ဥဘာဝကပင် ငါတွေးခေါ် ကြံစည်ခဲ့ဖူး၏။

"မြေဓာတ်၏ သာယာဖွယ်သည် အဘယ်နည်း။ အဘယ်ဟာပါလိမ့်။

"မြေဓာတ်၏အပြစ်သည် အဘယ်နည်း။ အဘယ်ဟာပါလိမ့်။

"မြေဓာတ်၏ ထွက်မြောက်ကြောင်းသည် အဘယ်နည်း။ ဘယ်ဟာပါလိမ့်။ ဤသို့အားဖြင့် မြေ၊ ရေ၊ လေ၊ မီး ဟု ဆိုအပ်သော ဓာတ်ကြီးလေးပါးတို့၏ သာယာဖွယ်အကျိုး၊ စက်ဆုပ်ဖွယ်အပြစ်နှင့် လွတ်မြောက်ကြောင်းမှာ ဘယ်သင်း၊ ဘယ်ဟာပါလိမ့်ဟူ၍ ငါမှာ အကြံဖြစ်ခဲ့ဖူး၏။

"ချစ်သားတို့၊ ဤအကြံမှ ဆင့်ပွားကာ ငါ့အား နောက်ထပ်အကြံတစ်ခု ဖြစ်လာပြန်၏။ ငါ၏ တွေးခေါ်ကြံစည်ချက်မှ ထွက်လာသော အနက်အဓိပ္ပာယ်ဟု လည်း ဆိုနိုင်၏။ ငါ့ဉာဏ်တွင် ထင်လာသည်ကား ဤသို့တည်း။

သတ္တဝါတို့၌ ဖြစ်ပေါ်လာတတ်သော ချမ်းသာမှုနှင့် ရွှင်ပျဝမ်းသာမှုသည် မြေဓာတ်ကို အစွဲပြု၍ဖြစ်၏။ ဤသို့ဖြစ်ခြင်းကား မြေဓာတ်၏ သာယာဖွယ်ပေ တကား။

ဤမြေဓာတ်သည် အနိစ္စ=အမြဲမရှိ။ ဒုက္ခ=ဆင်းရဲ၏။ ဝိပရိဏာမ=ဖောက် ပြန်တတ်သော သဘောရှိ၏။ ဤသို့ မမြဲခြင်း၊ ဆင်းရဲခြင်း၊ ဖောက်ပြန်တတ်သော သဘောရှိခြင်းကား မြေဓာတ်၏ ချို့ယွင်း အားနည်းချက် အပြစ်ပေတကား။

မြေဓာတ်၌ တပ်မက်မှု ဆန္ဒရာဂကို ပယ်ခြင်းသည် မြေဓာတ်၏ လွတ်မြောက် ကြောင်းပေတကား။ (ရေ၊ လေ၊ မီး၌ နည်းတူမှတ်။)

"ချစ်သားတို့၊ ဤဓာတ်ကြီးလေးပါးတို့၌ ဤသို့သော သာယာဖွယ်ကို သာယာဖွယ်အားဖြင့်လည်းကောင်း၊ ဤသို့သောအပြစ်ကို အပြစ်အားဖြင့် လည်း ကောင်း၊ ဤသို့သော ထွက်မြောက်ကြောင်းကို ထွက်မြောက်ကြောင်းအားဖြင့် လည်းကောင်း၊ အကြင်မျှလောက်သော ကာလပတ်လုံး ငါမသိသေး၊ ထိုမသိသေး သမျှသော ကာလပတ်လုံး နတ်လောက၊ ဗြဟ္မာလောက၊ လူ့လောက၌ မြတ်သော သမ္မာသမ္ဗောဓိဉာဏ်တော်ကို ရပြီဟူ၍ ငါဝန်မခံသေး။

"ချစ်သားတို့၊ မြေ၊ ရေ၊ လေ၊ မီးဟု ဆိုအပ်သော ဤဓာတ်ကြီးလေးပါးတို့၏ ဤသို့ ဤနှယ်သော သာယာဖွယ်ကို သာယာဖွယ်အားဖြင့်လည်းကောင်း၊ ဤသို့ ဤနှယ်သောအပြစ်ကို အပြစ်အားဖြင့်လည်းကောင်း၊ ဤသို့ဤနှယ်သော ထွက် မြောက်ကြောင်းကို ထွက်မြောက်ကြောင်းအားဖြင့် လည်းကောင်း အကြင်အခါ၌ ဟုတ်မှန်သောအတိုင်း ငါသိလာ၏။ ထိုအခါကျမှသာ နတ်လောက၊ ဗြဟ္မာလောက၊ လူ့လောက၌ ပြိုင်ဘက်ကင်းလွတ် အထွတ်ဆုံး အမြတ်ဆုံးဖြစ်သော သမ္မာ သမ္ဗောဓိဉာဏ်တော်ကို ရပြီဟူ၍ ငါဝန်ခံ၏။ ငါ့အား ဉာဏ်အမြင်သည် ထင်ရှား ဖြစ်လာပြီ။ ကိလေသာတို့မှ ကျွတ်ကျွတ်လွတ်လွတ် လွတ်မြောက်ပြီးသော ငါ့စိတ်သည် မပျက်စီးတော့ပြီ။ ငါ၏ ဤဘဝ ဤအဖြစ်ကား နောက်ဆုံးဘဝ နောက်ဆုံးအဖြစ်တည်း။ ဘဝသစ်၌ တစ်ဖန် ပဋိသန္ဓေနေဖွယ်သည် ယခုအခါ ငါ့မှာ မရှိတော့ပြီဟူ၍ ဤသို့ ငါ့စိတ်၊ ငါ့အသိဉာဏ်တွင် ထင်လာသတည်း။"ဟု မိန့်တော်မူ၏။

(သံယုတ္တနိကာယ်။ နိဒါနဝဂ္ဂ သံယုတ်ပါဠိတော်၊ ဓာတုသံယုတ်၊ ပုဗ္ဗေသမ္ဗောဓသုတ်၊ ၃၇၉၊ ဆဋ္ဌမူ)

စပယ်ဦးစာပေ

# ( ၆ )

# ခြေတော်ရာ လေးဆူ

နေ့ခင်းကြောင်တောင် နေ့လယ်ကောင် နေပူကျဲကျဲကြီးထဲတွင် လမ်းမှာ ဖုန်တထောင်းထောင်းထနေသည်။ ဖုန်ထခြင်းမှာ ရထားကြောင့်ဖြစ်၏။ မြင်းရထား တစ်စီးသည် သာဝတ္ထိမြို့ကို ကျောခိုင်းလျက် မြို့ပြင်သို့ မောင်းထွက်လာနေသည်။ ထိုရထားကို ဖုန်လုံးများကြားတွင် အဖွေးသားမြင်နေရသည်။

တဖြည်းဖြည်း နီးကပ်လာသောအခါ ရထားကိုလည်းကောင်း၊ မြင်း လေးကောင်ကိုလည်းကောင်း၊ ရထားစီးလာသူကိုလည်းကောင်း၊ ကောင်းစွာ ခွဲခွဲ ခြားခြား မြင်ရလေပြီ။ ဆွတ်ဆွတ်ဖြူသော မြင်းဖြူကြီးလေးကောင် က,သည့်ရထားကို စီးနိုင်သည်ကိုထောက်ခြင်းအားဖြင့် ရထားစီးလာသူ၏ အတန်းအစားကို ရိပ်စားမိ နိုင်ပါသည်။

ထိုသူကား ဗြာဟ္မဏနွယ်ဖွား ပုဏ္ဏားလူမျိုး ဓာဏုသောဏိဖြစ်လေသည်။ ထိုလမ်းပေါ်ဝယ် ရထားနှင့် ရင်ဆိုင် ပရိဗိုဇ်တစ်ဦး လာနေ၏။ အမည်မှာ ပိလောတိကဟု တွင်၏။ ဝစ္ဆာယန အနွယ်မှ ဖွားသည်ကိုစွဲ၍ သူ့ကို ဝစ္ဆာယန ဟူ၍လည်း ခေါ်၏။

ခြစ်ခြစ်တောက်ပူပြင်းသော နေရောင်အောက်တွင် ဝစ္ဆာယနသည် သက်န်း တစ်ထည်ကို ခေါင်းပေါ်တင်ကာ တမတ် ဖောက်ဖောက်နှင့် လျှောက်လာ၏။ တစ်နေရာတွင် ဓာဏုသောဏိပုဏ္ဏားနှင့်ဆုံမိလေ၏။ ဝစ္ဆာယနသည် ရထား လွတ်အောင် လမ်းဘေးသို့ရှောင်တိမ်းလိုက်စဉ် “ဟင်–အရှင်ဝစ္ဆာယန”ဟူသော အသံကြားလေမှ ဝစ္ဆာယနသည် ရထားပေါ် ကြည့်လိုက်ပြီး “သြော်–ဒကာကြီးကိုး”

ဤနှုတ်ခွန်းဆက် စကားများကို ထောက်ချင့်ခြင်းအားဖြင့် သူတို့အချင်းချင်း ရှေးက သိဟောင်းကျွမ်းဟောင်းဖြစ်ကြောင်း ကောင်းစွာ သိသာပေါ်လွင်နေပါသည်။

ဗုဒ္ဓမြတ်ဘုရားသည် သာဝတ္ထိပြည်တွင် နှစ်ပေါင်းများစွာ သီတင်းသုံး၍ နေတော်မူသော်လည်း အကြောင်းအမျိုးမျိုးတို့ကြောင့် ဗုဒ္ဓကို မကိုးကွယ်သူ၊ ဗုဒ္ဓအကြောင်းကို နားမလည်သူများလည်း ရှိသေးကြောင်းကို သူတို့ချင်း ပြောစကားများတွင် ဓာတိရုပ်ပေါ်နေ၏။

"အို အရှင်ဝစ္ဆာယန၊ ချွေးတွေလဲ ရွှဲလို့ပါလား ကိုယ်တော်။ နေ့ခင်းကြောင်တောင် နေပူကျဲကျဲကြီးထဲမှာ ဘယ်ကများ ကြွလာတော်မူသတုန်း"ဟု မြင်းလှည်းပေါ်မှ ဇာဏုသောဏိ ပုဏ္ဏားက လှမ်းမေးလျှင် အရှင်ဝစ္ဆာယနက မျက်နှာမှ ချွေးစေးကြီးများကို သင်္ကန်းစဖြင့်သုတ်လျက်မှ—

"အရှင်ဂေါတမဆီက လာခဲ့သည် ဒကာကြီး"

ထိုစကားကိုကြားသော် ပုဏ္ဏားသည် အနည်းငယ် စဉ်းစားဟန်ပြုပြီးမှ သူ့ဆန္ဒကို ဖော်ပြလိုက်လေသည်။

"ဩ–အရှင်ဂေါတမဆီက–"

"ဟုတ်ပါ့"

"မေးစမ်းပါရစေ အရှင်ဝစ္ဆာယန၊ ကိုယ်တော် မည်သို့ ထင်သလဲ၊ အရှင်ဂေါတမဟာ ပညာရှိပုံပေါက်ရဲ့လား"

ဤမေးခွန်းကိုထောက်သော် ဇာဏုသောဏိပုဏ္ဏားသည် ဗုဒ္ဓအထံတော်သို့ ရောက်လည်းမရောက်ဖူး၊ ဗုဒ္ဓအကြောင်းလည်း ဘာမျှမသိ၊ နားမလည်ကြောင်း ထင်ရှား၏။ ထိုမေးခွန်းအတွက် အရှင်ဈွောယနက ပေးလိုက်သောအဖြေမှာ ပညာသားပါလှ၏။

"အို–ဒကာကြီးနယ်ကော၊ ကျုပ်က ဘာမို့ အရှင်ဂေါတမ၏ ပညာစွမ်းကို သိနိုင်မှာလဲ၊ မြွေမြွေချင်းမှ ခြေမြင်တော့မှာပါ့၊ ပညာရှိကို ပညာရှိချင်းမှ သိနိုင်မြင်နိုင်မှာပါ"ဟု ပြောသော် ဇာဏုသောဏိပုဏ္ဏားက ပြုံးလိုက်သည်။

"အသို့ပါနည်း အရှင်ဝစ္ဆာယန၊ ကိုယ်တော်ဟာ အရှင်ဂေါတမကို သိပ်အမွှမ်းတင်နေပါလား"

"အသို့ဆိုပေသနည်း ဒကာကြီး၊ ကျုပ်က ဘာမို့ ချီးမွမ်းနိုင်ရမှာလဲ၊ အရှင်ဂေါတမကဲ့သို့သော သဗ္ဗညုဘုရားသခင်ကိုယ်တော်ကြီးကို ကျုပ်လို အညတရ ရဟန်းတစ်ပါးအနေနဲ့ အဘယ်မှာလျှင် ချီးမွမ်းခြင်းငှာ စွမ်းနိုင်ပါမည်လဲ၊ အရှင်ဂေါတမကို အထင်မသေးလေနဲ့ ဒကာကြီး၊ ချီးမွမ်းသင့် ချီးမွမ်းထိုက်တဲ့ ပုဂ္ဂိုလ်တွေထဲမှာ အရှင်ဂေါတမဟာ အချီးမွမ်းထိုက်ဆုံး၊ လူလောက၊ နတ်လောကနှင့်တကွ သုံးလောကနယ်ခရိုင်အတွင်းမှာ ပြိုင်သူကင်းလွတ် အထွတ်ဆုံး အမြတ်ဆုံး ပုဂ္ဂိုလ်ထူးကြီး ဖြစ်ပေ၏"

စပယ်ဦးစာပေ

"ခြော်"

ဤသို့ အရှင်ဝစ္ဆာယနက လှိုက်လှိုက်လှဲလှဲ ချီးကျူးလေလေ ဓာဏုသောဏီ ပုဏ္ဏားမှာ ယုံရခက် မယုံရခက်၊ အံ့ဩရခက် မအံ့ဩရခက် ဖြစ်သွားလေ၏။ ဝစ္ဆာန၏စကားသည် ပုဏ္ဏားအား ဖမ်းစားလိုက်သကဲ့သို့ ဖြစ်သွားလေသည်။ သူ့အာရုံထဲတွင် အရှင်ဂေါတမ ပျောက်အောင် မဖျောက်နိုင်တော့ဘဲ ဖြစ်နေသည့်အလျောက် ဆက်၍မမေးဘဲ မနေနိုင်တော့ချေ။

"အို-အရှင်ဝစ္ဆာယန၊ ကိုယ်တော် ဘာကိုများ မြင်မြော်ပြီး အရှင်ဂေါတမ အပေါ်တွင် သလောက်တောင် အလှိုက်သည်းလှိုက် ရိုးတွင်းချဉ်ဆီခိုက်အောင် အသည်းစွဲ ကြည်ညိုနေရတာလဲ"

ထိုအခါတွင်ကား အကွက်ဝင်လာပြီဖြစ်ကြောင်း ရိပ်စားမိလာပြီ ဖြစ်သည့်အတိုင်း အရှင်ဝစ္ဆာယနသည် ဓာဏုသောဏီပုဏ္ဏား ယုံကြည်လက်ခံနိုင်လောက်အောင် ဥပမာပုံဆောင်ကာ ဤသို့ မြွက်ကြားလေသတည်း။

"သည်လို ဒကာကြီး၊ ဥပမာ- ဆင်အကြောင်းကို ကောင်းကောင်းနားလည်သည့် ဆင်မုဆိုးကြီးတစ်ယောက် ဆင်တွေပေါများလှသည့် တောကြီးထဲရောက်သွားသည် ဆိုကြပါစို့။ ထိုတောကြီး၏ တစ်နေရာမှာ အလျားရှည်ရှည်၊ အနံပြန့်ပြန့် အင်မတန်ခြေရာကြီးတစ်ခုကို ထိုမုဆိုးကြီး တွေ့ပါလေ၏။

"အို-ဒကာကြီး၊ ထိုအခါ မုဆိုးသည် ခြေရာကိုကြည့်ပြီး-

"အိုးဟို- ရောမဆင်ကြီးပါကလား"ဟူ၍ ခြေရာကိုမြင်ကာမျှဖြင့် ဆင်ကို အကဲဖြတ်နိုင်လေသည်။ ထို့အတူပင် ငါသည်လည်း အရှင်ဂေါတမ၏ ဒေသနာဉာဏ်တော်ဖြင့် ချနင်းထားသည့် ခြေရာတော်ကြီးလေးဆူကို ငါတွေ့ရ၏။

"ထိုအခါ အရှင်ဂေါတမသည် ကိုယ်တိုင် တရားမှန်ကိုသိသော ဘုန်းသမ္မာရှင်တည်း။ တရားမှန်ကို ကောင်းစွာညွှန်ပြတတ်သူတည်း။ ၎င်းတပည့် ရဟန်းအပေါင်းသည်လည်း ဆရာ့ဩဝါဒကို တစ်သွေမတိမ်းလိုက်နာ၍ ကျင့်ကြသူများတည်းဟူ၍ ဤသို့ ငါ့ဉာဏ်တွင် သိထင်လာသည်"

ဓာဏုသောဏီပုဏ္ဏားသည် စူးငိုက်စွာ စကားထဲတွင် နစ်မြုပ်နေရာမှ ရုတ်တရက် ကောက်မေးလိုက်၏။

"အို-ဝစ္ဆာယန၊ သင့်စကားတွင် ခြေတော်ရာကြီး လေးဆူဟု ကြားလိုက်သလိုလို ရှိ၏။ ယင်း ခြေတော်ရာများကား အဘယ်မှာပါနည်း။ ကျွန်ုပ်ကော မြင်တွေ့ခွင့် မရနိုင်ပေဘူးလား"

"ရနိုင်ပါ၏ဒကာကြီး၊ ငါ့စကားကိုဆက်၍ နားထောင်ပါဘိ။ ယင်းခြေတော်ရာတို့ကို တဖြည်းဖြည်း မြင်လာလတ္တံ့။ ဤစကားစုကို အလျင် သိနှင့်ပါလေဦး။

"အို ဒကာကြီး၊ မဟာမျိုး မဟာနွယ် ထိတ်ထိတ်ကြဲ ရောမသုခမိန် ခတ္တိယပဏ္ဍိတ်ကြီးတွေကို ငါတွေ့ဖူး၏။ သူတို့သည် ဝါဒရေးရာ၌ လွန်စွာသိမ်မွေ့လှကုန်၏။ ဝါဒတစ်ပါးကို ချောက်ချားသွားအောင် တတ်ကုန်၏။ ဆံခြည်မျှင်ကိုပင် ဖောက်ထွင်းပစ်ခတ်နိုင်သော လေးသည်တော်များနှင့် အလားတူကုန်၏။

မည်သည့်မြို့ရွာ၊ မည်သည့်ဒေသသို့ ပညာရှင်တစ်ဦးဦး ရောက်လာသည် ကြားသော် သူတို့သည် ဝါဒတိုက်ပွဲဆင်ရန် တပ်ပြင်ကြကုန်တော့၏။ သူ့ကို ဘယ်လိုမေးလိုက်မည်၊ မြန်းလိုက်မည်။ သူက ဘယ်လိုဖြေလျှင် ဘယ်လိုအုပ်ထည့်လိုက်မည် တကဲကဲ။ ပညာရှင်ကို ဝါဒနှင့်ရိုက်ခွဲရန် လှည့်လည်နေကြယောင်တကား။

ထိုခတ္တိယပဏ္ဍိတ်ကြီးတို့သည် "အရှင်ဂေါတမ ဘယ်မြို့၊ ဘယ်ရွာကို ရောက်လာပြီတဲ့"ဟူသော သတင်းကို ကြားကြလတ်သော် "ကျိုးပြိုသည့်နွယ်" ဟုန်းခနဲ ရှင်ဂေါတမရှိရာသို့ သွားကြလေကုန်၏၊ ဝါဒတွေတစ်ပွေ့တစ်ပိုက်နှင့် စစ်တိုက်ရန် ထွက်ခြင်းဟုဆိုင်၏။ အရှင်ဂေါတမသည် သူ့ထံသို့ ရောက်လာကုန်သော ထို ခတ္တိယပဏ္ဍိတ် "ဝါဒစစ်မှူးကြီးများ"အား သာယာချောင်စွာ ဓမ္မစကားပြောသော အခါ အသိဉာဏ်ပွင့်အောင် ဖွင့်ပေးလေသောအခါ အရှင်ဂေါတမ၏ မေတ္တာဗြဟ္မစိုရ် အရိပ်ဆာယာအောက် ရောက်ရှိကြလေရကား မည်သို့ မေးလိုက်မည်၊ မည်သို့ အုပ်လိုက်မည်ဟူ၍ မာန်တဖီဖီ လာခဲ့ကြကုန်သည့် ခတ္တိယပဏ္ဍိတ်ကြီးတို့၏ အရှင်ဂေါတမအား ဝါဒဖြင့် နှိပ်ဖို့ဝေးစွ၊ ပုစ္ဆာကလေးတစ်ခုကိုမျှ မေးမြန်းခြင်း မပြုကြတော့ကုန်။ စင်စစ်ဆိုသော် ထိုပဏ္ဍိတ်ကြီးတို့ကား အရှင်ဂေါတမ၏ တပည့်ဖြစ်ကုန်လေ၏။

"အို-ဒကာကြီး၊ အကြင်အခါ၌ အရှင်ဂေါတမ၏ဉာဏ်တော်ခြေရာတစ်ဆူကို တွေ့ရပြီ။ ထိုအခါ အသိဉာဏ်တော် သခင်ဘုရား၊ ဘုန်းတော်ကြီးလှသော ဘုရားဟူ၍လည်းကောင်း၊ ဘုရားစကားတော်သည် စစ်မှန်သောတရားဟူ၍ လည်းကောင်း၊ ဘုရားတပည့်သား ရဟန်းများသည် သိက္ခာရှိ သူတော်စင်များဟူ၍ လည်းကောင်း၊ ငါဆုံးဖြတ်နိုင်ခဲ့ပြီ။

"အို-ဒကာကြီး၊ ထိုမှတစ်ပါး ပုဏ္ဏားပညာရှိ၊ သူကြွယ်ပညာရှိ၊ ရဟန်းပညာရှိ သုခမိန်ကြီးများကိုလည်း ငါတွေ့ဖူး၏။ သူတို့ သူတို့သည်လည်း ခတ္တိယပဏ္ဍိတ်ကြီးတို့ကဲ့သို့ပင် အရှင်ဂေါတမ ရောက်နေသံကြားလျှင် ဝါဒတိုက်ပွဲဆင်ရန် လာလတ်ကြကုန်သည်ပင်။ အရှင်ဂေါတမနှင့် တွေ့ကြလတ်သော် တစ်စုံတစ်ရာပြဿနာ မေးမြန်းမှုကို မပြုကြတော့ရုံမက သူတို့အား ရဟန်းပြုပေးရန် ပန်ကြားလေကုန်

သတည်း။ အရှင်ဂေါတမထံတွင် တပည့်ခံရဟန်းပြုကြ၍ တရားထူးရကြကုန်သော အခါ ဤသို့ ဥဒါန်းကျူးနိုင်ကြလေကုန်ပြီ။

"အို–အရှင်ကောင်းတို့၊ ငါတို့ကား ပျက်စီးလုနီး ဖြစ်ခဲ့ကုန်ပြီ။ အပျက်ကြီးဖြင့် ပျက်စီးလုနီး ဖြစ်ခဲ့ကုန်ပြီ။ ရှေးက ငါတို့သည် ရဟန်းမဟုတ်ကုန်ပါဘဲလျက် ရဟန်းဟု ဝန်ခံနေခဲ့ကြကုန်ပြီ။ မြင့်မြတ်သူမဟုတ်ဘဲ မြင့်မြတ်သူဟု ဝန်ခံခဲ့ကုန်ပြီ။ ရဟန္တာမဟုတ်ပါဘဲလျက် ရဟန္တာဟု ဝန်ခံခဲ့ကြကုန်ပြီ။ မှားဘိစွ။ ယခုမှသာ ရဟန်းစစ်ဖြစ်ကုန်၏၊ သူမြတ်အစစ်ဖြစ်ကုန်၏။ ရဟန္တာအစစ် ဖြစ်ကုန်၏"ဟု ဥဒါန်းကျူးကြကုန်၏။

"အို –ကာကြီး၊ ငါသည် (၁) ခတ္တိယပဏ္ဍိတ်ကြီးတို့အား ကိုယ်တော်၏ အောက်သို့ ညွှတ်ရောက်လာကြရာတွင် ထင်သော ဉာဏ်တော်ခြေရာ၊ (၂) ဗြာဟ္မဏ ပဏ္ဍိတ်ကြီးတို့အား၊ (၃) ပဟာပတိ ပဏ္ဍိတ်ကြီးတို့အား၊ (၄) သမဏပဏ္ဍိတ်ကြီး တို့အား ကိုယ်တော်အောက်သို့ ညွှတ်ရောက်လာကြရာတွင် ထင်သော ဉာဏ်တော်ခြေရာ၊ ဤခြေရာတော်လေးဆူတို့ကို တွေ့မြင်ရ၍သာ 'သစ္စာလေးပါး တရားတို့ကို ကိုယ်တိုင်သိသော ဘုရားတည်း။ ဘုန်းတော်ခြောက်ပါးနှင့် ပြည့်စုံ သော ဘုရားတည်း။ တရားတော်ကို ကောင်းစွာ ဟောညွှန်ပေသည်။ ဟောညွှန်ချက် အတိုင်း ၎င်းတပည့်ရဟန်းများက ကောင်းစွာကျင့်ကြံကြသည်'ဟု ဤသို့ ငါဆုံးဖြတ် နိုင်ခဲ့ပြီ။ သို့ကြောင့်ရကား ငါသည် အရှင်ဂေါတမအား ချီးမွမ်း၍လည်းမပြီး၊ ကြည်ညို၍လည်းမပြီး ဖြစ်ရသည် ဒကာကြီး"

နေ့လယ်အချိန် ဖြစ်သောကြောင့် ကောင်းကင်နေမင်းသည် ခြစ်ခြစ်တောက် ပူပြင်းလှသော်လည်း ဇာဏုသောဏိ ပုဏ္ဏားၡ၏ ရင်တွင်း၌ကား အေးတမြမြရှိနေ၏။ ဗုဒ္ဓ၏ ဓမ္မမိုးနဲ့ကြောင့် ဖြစ်၏။

ထို့ကြောင့် ဇာဏုသောဏိပုဏ္ဏားသည် မြင်းဖြူကြီးလေးစီးက,သော ရထား ထက်မှဆင်းကာ ဘုရားရှိရာဘက်သို့ မျက်နှာမူ ရှိခိုးလျက် "လူနတ်ဗြဟ္မာတို့ ဦးခိုက်၍ ပူဇော်ထိုက်လှသော အရှင်ဂေါတမအား ရည်မှန်း၍ အကျွန်ုပ်ရှိခိုးပါ၏။ ပူဇော်ပါ၏။ သင့်တင့်လျောက်ပတ်သော တစ်နေ့တွင် အရှင့်အား ဖူးမြော်ခွင့် ရတန်ကောင်းပါ၏။ စကားပြောဆိုမှုလည်း ရတန်ကောင်းပါ၏"ဟု နှုတ်ဖြင့် တတွတ်တွတ်ရွတ်ဆိုခြင်း ပြုပြီးသည်၏အခြားမဲ့တွင်ကား ဇာဏုသောဏိ ပုဏ္ဏားသည် အရှင်ဝစ္ဆာယနနှင့် လမ်းခွဲကာ မြင်းဖြူလေးစီးက,သော ရထားကြီး ပေါ်တွင် ဗုဒ္ဓဂုဏ်တော်များကို အာရုံပြုရင်း လိုက်သွားပါလေသတည်း။

စပယ်ဦးစာပေ

## ဓာဏုသောဏီနှင့် ဗုဒ္ဓ

ကြာသည် ကန်၌ပေါက်၏။ ရေနှင့်အမြဲ ထိတွေ့နေ၏။ ရေမြင့်လျှင် ကြာတင့်သည် အဆိုရှိ၏။ သို့သော် ရေရှိလေတိုင်း ကြာ မပွင့်လေ။

ကြာအမျိုးမျိုးရှိသည့်အနက် အချို့သည် နေခြည်သင့်မှ ပွင့်၏။ အချို့က လရောင်သင့်မှ ပွင့်၏။

ဓာဏုသောဏီပုဏ္ဏားသည် သာဝတ္ထိပြည်တည်းဟူသော ကန်တော်ကြီး အတွင်းမှ ကြာပင်တစ်ပင်ဖြစ်၏။ သို့ရာတွင် သူ့အဖို့ နေလည်းမထွက်၊ လရောင်လည်း မထွန်းသဖြင့် ပွင့်ခွင့်မရခဲ့ဘဲ ကြာမြင့်စွာသော ကာလပတ်လုံး သာဝတ္ထိကန်တော်ကြီးထဲတွင် ရေစိမ်ကာသာ နေလာခဲ့ရသည်။

ယခုအချိန်တွင်မူကား သူ့အဖို့ နေဝန်းကြီး မလိုက်လာသေးစေကာမူ ရှေ့တော်ပြေးအဖြစ် အရုဏ်တက်ရောင်နီနှင့် တွေ့ရလေသောအခါ ညှာတံတဝင့်ဝင့် နှင့် ပွင့်တော့အံ့ဆဲဆဲ ဖြစ်လာလေပြီ။

တစ်ခါသ၌ ဓာဏုသောဏီပုဏ္ဏားသည် ဘုရားသခင်အား မဖူးရလျှင် မနေနိုင်လောက်အောင် သူ့စိတ်က ဆန္ဒပြုလေချက်အရ ဘုရားကျောင်းတော်သို့ ထွက်လာခဲ့ပြီး ဘုရားသခင်အား ဝင်ရောက်ဖူးမြော်လေ၏။ သူ့အား အရှင်ဝစ္ဆာယနက ဆင်ခြေရာ ဥပမာဖြင့် ပြောပြပုံများကိုပါ လျှောက်ထားလေ၏။

ထိုအခါ ဤဥပမာမှာ မပြည့်စုံလှသေး။ ပြည့်ပြည့်စုံစုံ ဥပမာကိုနာယူလိုက သင့်အား ငါပြောအံ့၊ ကောင်းစွာနာလော့၊ မှတ်လော့ဟု ပုဏ္ဏားအား မိန့်လိုက်ပြီး နောက် တောက်လျှောက်ဆိုသလိုပင် ပုဏ္ဏားအား ဤစကားကို ဆိုတော်မူ၏။

"အချင်းပုဏ္ဏား၊ ဆင်ဖမ်းခြင်းအတတ်၌ ကျွမ်းကျင်လှသော မုဆိုး တစ်ယောက်သည်ရှိ၏။ ထိုမုဆိုးသည် တောအုပ်ကြီးတစ်ခုသို့ ရောက်သွားသော အခါ ရောမဆင်ခြေရာကြီးတစ်ခုကို တွေ့သော်လည်း 'သည်ဆင်ဟာ သိပ်ကြီးတဲ့ ဆင်ကြီးပါလား'ဟု သူ မဆုံးဖြတ်သေး၊ အဘယ်ကြောင့်ဆိုသော် ဝါမနိကမည်သော ဆင်မတစ်မျိုးသည် အရပ်ပုကွသော်လည်း ခြေရာကြီးတတ်သည်။ ဤခြေရာသည် ဝါမနိက ဆင်ပုမများ၏ ခြေရာဖြစ်ကောင်း ဖြစ်နိုင်သည်ဟု ဆင်ခြေရာကြီးလေတိုင်း ဆင်ကြီးဖြစ်ရမည်ဟူ၍ မဆုံးဖြတ်လေသေးဘဲ ရှေ့ဆက်လက်ပြီး ဆင်ခြေရာခံ၍ လိုက်လေသည်။

"အချင်းပုဏ္ဏား ထိုဆင်မုဆိုးသည် တောတွင်းတစ်နေရာတွင် ခြေရာကြီး တစ်ခုကို လည်းကောင်း၊ မြင့်သော ကျောက်နံရံကြီးများမှ ဆင်ကိုယ်လုံးများဖြင့် ပွတ်တိုက်ရာများကိုလည်းကောင်း တွေ့ရလေ၏။ သို့သော် ခြေရာကြီးခြင်း၊ အရပ် အမောင်းမြင့်ခြင်းတို့ကိုထောက်၍ 'သည်ဆင်ဟာ သိပ်ကြီးတဲ့ဆင်ပြောင်ကြီးပါ

ကလား'ဟူ၍ သူ မဆုံးဖြတ်တတ်သေး။ အဘယ်ကြောင့်ဆိုသော် ကာဠာရိကာ မည်သော ဆင်မများသည် အခြားဆင်များထက်ပို၍ ခြေတံရှည်ကြသည်။ 'ဤ ခြေရာသည် အနီခြေတံရှည် ဆင်မများ၏ ခြေရာဖြစ်ကောင်း ဖြစ်ပေမည်'ဟူ၍ သူ မဆုံးဖြတ်သေးလေဘဲ ရှေ့လျှောက်ပြီး ဆင်ခြေရာခံ၍ လိုက်ပြန်လေသည်။

"အချင်း ပုဏ္ဏား၊ ထိုဆင်မှဆိုးသည် အတော်အတန် သွားမိသောအခါ ဆင်ခြေရာကြီးတစ်ခုကိုလည်းကောင်း၊ မြင့်သော ကျောက်နံရံ၌ ကိုယ်လုံးဖြင့် ပွတ်တိုက်ထားသော အရာများကိုလည်းကောင်း၊ မြင့်သောနေရာတို့၌ ဆင်စွယ်ဖြင့် ထိုးရာများကိုလည်းကောင်း တွေ့ရလေ၏။ သို့သော်လည်း 'ဧရာမဆင်ပြောင်ကြီး'ဟု သူ မဆုံးဖြတ်လေသေး။ အဘယ်ကြောင့်ဆိုသော် ကရေဏုကာမည်သော ဆင်မ တို့သည် ဤတော၌ရှိတတ်ကုန်၏၊ 'ဤခြေရာသည် ထိုဆင်မများ၏ ခြေရာ ဖြစ်ကောင်းဖြစ်နိုင်သည်'ဟူ၍ သူ မဆုံးဖြတ်သေးလေဘဲ ဆက်၍ ခြေရာခံကာ တောအုပ်ထဲ လိုက်သွားပြန်လေသည်။

"အို-ပုဏ္ဏား၊ ထိုမုဆိုးသည် တောတွင်းတစ်နေရာသို့ အရောက်တွင် ရှေးနည်းတူ ဆင်ခြေရာကြီး၊ ပွတ်တိုက်ရာ၊ ဆင်စွယ်ဖြင့် ထိုးထားရာများနှင့် မြင့်မားသော သစ်ပင်ကြီးများမှ ကျိုးနေသောသစ်ကိုင်း သစ်ခက်များကိုတွေ့ရလေ၏။ ထိုမှုမက တိတိကျကျ သူတွေ့မြင်ရလေသည်ကား ထိုဆင်ကြီးသည် သစ်ပင် အောက်၌ ရောက်ရှိနေပုံကိုလည်းကောင်း၊ ၎င်းမှ မြေပြန့်လျှောက်၍ ခြေဆန့်နေပုံကို လည်းကောင်း၊ တစ်နေရာတွင် အိပ်လိုက်ပုံကိုလည်းကောင်း မျက်ဝါးထင်ထင် ကိုယ်တိုင် မြင်တွေ့နေရသောအခါတွင်မှ 'ဤဆင်ကြီးကား ငါတွေ့ခဲ့ရသော ခြေရာပိုင်ရှင် ဆင်ပြောင်ကြီးပေတကား'ဟူ၍ တိတိကျကျ ဆုံးဖြတ်လိုက်လေ သတည်း။

"အို- ပုဏ္ဏား၊ ဤပုံနှင့်အလားတူစွာသာလျှင် လောက၌ ဘုရားဟူ၍ ထင်ရှားပွင့်တော်မူလာ၏။ ထိုဘုရားသည် လူ၊ နတ်၊ ဗြဟ္မာဟု ဆိုအပ်သော လောကသားတို့အား မိမိနှင့်အလားတူ အသိဉာဏ်အလင်းပွင့်လာအောင် ဖွင့်ပေး တော်မူ၏။ ထိုဘုရားသည် အစ၊ အလယ်၊ အဆုံး၊ သုံးပါးလုံး ကောင်းမွန်ပြီး အနက်၏ကောင်းခြင်း၊ သဒ္ဒါ၏ကောင်းခြင်း၊ ဂုဏ်တို့နှင့် ထက်ဝန်းကျင်မှ လိုလေသေးမရှိအောင် ပြည့်စုံသော တရားတော်ကို ထင်ရှားစွာ ဟောပြတော်မူ၏။ ထိုတရားတော်ကို သူကြွယ်သည်လည်းကောင်း၊ သူကြွယ့်သားသည်လည်းကောင်း၊ အခြားတစ်ပါးသော သူများသည်လည်းကောင်း၊ ကောင်းစွာနာယူကြကုန်၏။ ထိုသူ ထိုသူတို့သည် ငါဘုရားစကားကို ကြားနာကြရကုန်သည့်ရှိသော် ငါဘုရားအပေါ်၌ ကြည်ညိုသဒ္ဓါ ဖြစ်ပွားလာကြကုန်၏။ ထိုအခါ ဃရာဝါသ၊ ကိစ္စများမြောင်

ဤလူ့ဘောင်ကား ကျဉ်းမြောင်းလှပေ၏။ စင်စစ်သော် ကိလေသာ မြူမှုန့်များ ဖြတ်သန်းရာ ကိလေသာ လမ်းကြောင်းသာတည်း။ ရဟန်းအဖြစ်၊ ရဟန်းဘောင်ကား လွင်တီးခေါင်ကြီးနှင့်တူ၏။ ကျယ်ပြန့်၏။ ဝတ်ကြောင်နှင့် လူ့ဘောင်၌ နေသူသည် မြတ်သောအကျင့်ကို ကျင့်နိုင်ရန်မလွယ်ကူ။ ရဟန်းဝတ်ရလျှင် ကောင်းလေစွ'ဟု အကြံဖြစ်လာကုန်၏၊ ဤသို့ အကြံဖြစ်လာသောအတိုင်း ရဟန်းပြုကြကုန်၏။

"အို ပုဏ္ဏား၊ ဝတ်ကြောင်ကိုပယ်၍ ရဟန်းဘောင် ရောက်လာသော ထိုသူသည် ငါ၏ဩဝါဒကိုခံယူ၍ ငါပညတ်အပ်သည့် သိက္ခာပုဒ်များကို မကျိုးမပေါက်အောင် ထိန်းစောင့်ကာသာနေ၏။ သူ့အသက်ကိုလည်း သတ်ခြင်းမပြု၊ သူ့ဥစ္စာကိုလည်း ခိုးခြင်းမပြု။ မေထုန်အမှုကိုလည်းမပြု။ သေရည်အရက်ကိုလည်း သောက်စားခြင်းမပြု။ သူနှစ်ဦးတို့စပ်ကြား၌ သည်စကားကို ဟိုပို့၊ ဟိုစကား သည်ပို့ လုပ်ခြင်းအားဖြင့် အချင်းချင်း စိတ်ဝမ်းကွဲပြားအောင် ကုန်းတိုက်လည်းမပြု။ ကြမ်းသောစကားကိုလည်း ပြောဆိုခြင်းမပြု။ အကျိုးမရှိသော ပြိန်ဖျင်းသောစကားကိုလည်း ပြောဆိုခြင်းမပြု။

"အို- ပုဏ္ဏား၊ လူ့ဘောင် စွန့်ခွာ၍ ရဟန်းဖြစ်လာသော ထိုသူသည် လူတို့ကဲ့သို့ သစ်ခုတ်လှဲခြင်း အမှုမျိုးကိုလည်း သူမပြုတော့။ နေ့လွဲညစာစားခြင်းမှ ရှောင်ကြဉ်၍ နံနက်စာတစ်ထပ်တည်းသာစား၏။ ပွဲလမ်းသဘင် ကြည့်ရှုခြင်းမရှိ။ အမွှေးအထုံ ပန်းနံ့သာ လိမ်းကျံခြင်းလည်းမရှိ။ ရွှေငွေကိုင်တွယ်ခြင်းလည်းမရှိ။ စပါးစိမ်းနှင့် သားစိမ်း ငါးစိမ်းများကိုလည်း ခံယူလေ့မရှိ။ အမျိုးသမီး ပျိုအို များနှင့်တကွ ကျေးကျွန်များကိုလည်း ခံယူလေ့မရှိ။ ကြက်၊ ဝက်၊ ကျွဲ၊ နွားစသော တိရစ္ဆာန်များကိုလည်း ခံယူလေ့မရှိ။ ကူးသန်းရောင်းဝယ်ခြင်းကိုလည်း သူ မပြု။ သတ်ခြင်းဖြတ်ခြင်း၊ နှောင်ဖွဲ့ခြင်း၊ နိုင်ထက်ကလူ ပြုမူခြင်းအမှုမျိုးကိုလည်း သူ မပြုတော့။

"အို- ပုဏ္ဏား၊ သာသနာ့ဝန်ထမ်း ထိုရဟန်းသည် ကိုယ်လုံရုံမျှသော သင်္ကန်းဖြင့် ရောင့်ရဲ၏။ ဝမ်းလုံရုံမျှသော ဆွမ်းဖြင့် ရောင့်ရဲ၏။ သွားလိုရာရာသို့ ပရိက္ခရာဆောင်၍သွား၏။ ငှက်သည် လိုရာအရပ်သို့ ပေါ့ပါးစွာ ပျံလေသည်နှင့် အလားတူ၏။ ဤဆိုအပ်ပြီးသော အကျင့်မြတ်နှင့် ပြည့်စုံစွာနေသော ရဟန်းသည် မိမိ၏ စိတ်သန္တာန်၌ အပြစ်ကင်းစင်သော ချမ်းသာသုခကို လက်တွေ့ခံစား ရလေ၏။

"အို- ပုဏ္ဏား၊ ရဟန်း၏ တည်ငြိမ်မှုကို သင်ရှုဦးလော့ လူ့အဖြစ်မှ ဘဝသစ် တစ်ဖြစ်လဲကာ ရဟန်းဘောင်သို့ ရောက်လာသော ထိုသူသည် ရူပါရုံ တစ်ခုခုကို မြင်စေကာမူ 'သည်ဟာ ယောကျ်ား၊ သည်ဟာ မိန်းမ' ဟူ၍ အမှတ်ပြုလေ့

မရှိ။ သူ့အမူအရာဟာ ပြုံးပြုံးကလေး၊ သို့မဟုတ် ငိုတမဲ့မဲ့ဟူ၍လည်း အသေးစိတ်အမှတ်ပြုလေ့မရှိ။ အကြောင်းတစ်စုံတစ်ခုကြောင့် စက္ခုန္ဒြေကို မစောင့်စည်းနိုင်ခဲ့သော ထိုဣန္ဒြေမဲ့သော ရဟန်းနောက်သို့ နှလုံးမသာယာခြင်းစသော အကုသိုလ်တို့သည် တရုန်းရုန်းနှင့် အစဉ်တစိုက် လိုက်လာကုန်လေရာ၏။

"အို–ပုဏ္ဏား၊ ထိုသို့ အကုသိုလ်တရားတို့ အစုလိုက်အပြုံလိုက်၊ နွားအုပ်ကြီး လိုက်သကဲ့သို့ လိုက်မလာနိုင်ရလေအောင် ထိုရဟန်းသည် စက္ခုန္ဒြေတို့ စောင့်စည်းခြင်း၌ ကျင့်သားရအောင် အထပ်ထပ်ကျင့်၏။ စက္ခုန္ဒြေကိုစောင့်၏။ စက္ခုန္ဒြေ စောင့်စည်းခြင်းသို့ရောက်၏။ ထို့အတူ နား၊ နှာ၊ လျှာ၊ ကိုယ်တို့၌လည်း ကျင့်သားရအောင် အဖန်ဖန်အထပ်ထပ်ကျင့်၏။ ဤသို့ကျင့်ခြင်းအားဖြင့် ထိုရဟန်းသည် ကိလေသာ အစေးကပ်ငြိခြင်းကင်းသော ချမ်းသာကို လက်တွေ့ခံစားရလေ၏။

"အို– ပုဏ္ဏား၊ မှတ်သားဦးလော့။ ထိုရဟန်းသည် ရှေ့သို့ကြည့်သော် အသိဉာဏ်ဖြင့်ပြုလေ့ရှိ၏။ နောက်သို့ကြည့်သော် အသိဉာဏ်ဖြင့် ပြုလေ့ရှိ၏။ တည့်တည့်ကြည့်သော်လည်းကောင်း၊ စောင်းငဲ့ကြည့်သော်လည်းကောင်း၊ ကွေးသော်လည်းကောင်း၊ ဆန့်သော်လည်းကောင်း၊ အမှတ်တမဲ့ပြုလေ့မရှိ။ အသိဉာဏ်ဖြင့်သာ ပြုလေ့ရှိ၏။ သပိတ်သင်္ကန်းကို ယူသော်လည်းကောင်း၊ စားသော်လည်းကောင်း၊ သောက်သော်လည်းကောင်း၊ ခဲသော်လည်းကောင်း အသိဉာဏ်ဖြင့်သာ ပြုလေ့ရှိ၏။ ကျင်ကြီးကျင်ငယ် စွန့်သော်လည်းကောင်း၊ သွားသော်လည်းကောင်း၊ ထိုင်သော်လည်းကောင်း၊ အိပ်သော်လည်းကောင်း၊ နိုးသော်လည်းကောင်း၊ စကားပြောသော်လည်းကောင်း၊ စကားမပြော တုဏှိဘောနေသော်လည်းကောင်း အသိဉာဏ်ဖြင့် ပြုလေ့ရှိ၏။

"အို–ပုဏ္ဏား၊ ဤသို့ ဤသို့သော အကျင့်သီလတို့ဖြင့် စုပြုံတွေ့ခဲ၍နေသော ရဟန်းသည် လူသူကင်းဆိတ်ရာ အရိပ်အာဝါသသို့သာ ခိုကပ်လေ၏။ ထိုရဟန်း၌ လူနှင့်ပြွမ်း၍ နေလိုစိတ်မရှိတော့။ လူတို့နှင့်ဝေးရာ တောသို့ခို၏။ သစ်တစ်ပင်ရင်း ဝါးတစ်ပင်အောက်မှာနေ၏။ တောင်ပေါ်နှင့် ချောက်ကြို မြောင်ကြား၌ အနေများ၏။ ဂူအောင်း၏။ လွင်တီးခေါင်၌လည်းကောင်း၊ ကောက်ရိုးပုံ၌လည်းကောင်း နေတတ်၏။ ဆွမ်းခံ၍စား၏။ ဆွမ်းစားပြီးသော် ကမ္မဋ္ဌာန်းတရား အားထုတ်၏။ အဘိဇ္ဈာကင်းကင်း ရှင်းရှင်းနှင့် စိတ်ကို ကြည်လင်စေ၏။ သူ့ခပ်သိမ်းတို့အပေါ်တွင် ကောင်းကျိုးလိုလားသော စိတ်ဖြင့်နေ၏"

ဤသို့ စသည်ဖြင့် ရဟန်းဖြစ်ခြင်း အကျိုးတရားကို ဟောကြားပြီးသည့် အဆုံးတွင် ဤသို့ နိဂုံးချုပ်တော်မူသတည်း။

စပယ်ဦးစာပေ

"အို-ပုဏ္ဏား၊ ဆင်ခြေရာဥပမာအား ဤမျှအကျယ်ပွား၍ ဟောကြားခြင်းဖြင့် ပြည့်စုံပြီ"ဟူ၍ မိန့်တော်မူလေသော် ဇာဏုသောဏိ မည်သော ပုဏ္ဏားသည် "အရှင်ဂေါတမ၊ အရှင့်တရားတော်သည် အလွန်နှစ်သက်ဖွယ်ကောင်းပါပေစွ"ဟူ၍ ချီးကျူးပြီးလျှင် "အဇ္ဇတဂ္ဂေပါဏုပေတံ ဗုဒ္ဓံသရဏံ ဂစ္ဆာမိ၊ ဓမ္မံသရဏံ ဂစ္ဆာမိ၊ သံဃံသရဏံ ဂစ္ဆာမိ"ဟူ၍ လျှောက်လေသတည်း။

(မဇ္ဈိမနိကာယ်၊ မူလပဏ္ဏာသပါဠိတော်၊ ဩပမ္မဝဂ်၊
စူဠဟတ္ထိပဒေါပမသုတ် ၂၇၂၊ ဆဋ္ဌမူ)

( ၇ )

# သံယောဇဉ်နှင့် သံယောဇနိယ

သံယောဇဉ် သံယောဇဉ်ဟူ၍ ဆိုကြ၏။ သံယောဇဉ်တွယ်သည်၊ သံယောဇဉ် မကင်းနိုင်ဟူလည်းကောင်း၊ သံယောဇဉ်ရှိသည်၊ သံယောဇဉ်ငြိသည်၊ သံယောဇဉ် ကြီးသည် ဟူ၍လည်းကောင်း၊ ဤသို့ စသောအားဖြင့် သံယောဇဉ်စကားသည် လူတို့နှုတ်ဖျားတွင် ရေပန်းစားလျက် ရှိလာခဲ့သည်မှာ ကြာပြီဖြစ်၏။

ထိုသံယောဇဉ်သည် မွေးကတည်းက လူနှင့်ရစ်ထွေးလျက် ပါလာသော ဝမ်းတွင်းပါ နှောင်ကြိုးတစ်မျှင်ဖြစ်၏။ သို့သော် ထိုနှောင်ကြိုးမျှင်ကို အချို့သာ မြင်သည်။ အချို့ကား မမြင်။

သို့ကြောင့်ပင် ခေတ်အဆက်ဆက်၌ သံယောဇဉ်နှင့် ပတ်သက်သည့်ပြဿနာ များ ပေါ်ခဲ့ရ၏။ ရှင်းသူက သံယောဇဉ်အကြောင်း ရှင်းပြသည်။ ခဏတစ်ဖြုတ် လင်းသလိုလိုရှိလိုက်သော်လည်း မကြာခင် ရှုပ်မြဲပြန်ရှုပ်သွားပြန်သဖြင့် ပြဿနာမှာ ပြန်၍သစ်လာပြန်သည်။

ထိုအခါ သံယောဇဉ် အမျှင်တန်းတန်းနှင့် လူအချင်းချင်း "သံယောဇဉ်ဆိုတာ ဘာ"ဟူ၍ ငြင်းကြခုံကြသည့်အတွက် သံယောဇဉ်ပြဿနာကား ကြီးထွားမြဲ ကြီးထွားလျက်ပင်ရှိနေ၏။ ငုပ်လိုက် ပေါ်လိုက်နှင့် သံယောဇဉ်ပြဿနာသည် လူတို့အား မြွေပတ်သည့်ပမာ ပတ်လာသတည်း။

လူ့လောက၌ လူ့အလျောက်၊ ရဟန်းလောက၌လည်း ရဟန်းလောက အလျောက် သံယောဇဉ်ပြဿနာကား ဦးနှောက်ချောက်ချားစေသတည်း။ သံယောဇဉ်ကို ချ၍ သူတစ်မျိုး ငါတစ်ဖုံ ငြင်းခုံခြင်းဖြစ်ကုန်အောင် ဖန်တီးလေသတည်း။

စပယ်ဦးစာပေ

ထိုသံယောဇဉ်ရှင်းပွဲ၊ ငြင်းပွဲကား မဂဓတိုင်း၊ မစ္ဆိကာသဏ္ဍာပြည်၌ ဖြစ်ခဲ့ဖူး၏။ ဖြစ်ပုံကား ယင်းမစ္ဆိကာသဏ္ဍာပြည် သမ္ဗာဋက မည်သော ကျောင်းတိုက်၌ ရဟန်းများစွာ တရားအားထုတ်ကာ နေကြကုန်သတတ်။

တစ်ခါသော် သံယောဇဉ်ပြဿနာပေါ်လာ၏။ ဆွမ်းစားပြီးချိန် သံဃာ့ပရိသတ်ဘောင်၌ သံယောဇဉ်ပြဿနာ လေမုန်တိုင်းကြီးကျရောက်လာသောကြောင့် ရဟန်းတို့သည် နားရွက် တစ်ခေါက်ခေါက်နှင့် ဖြစ်လာကုန်သည်။

"ငါ့ရှင်တို့၊ သံယောဇနနှင့် သံယောဇနိယ (ဝါ) မလွှပ်နိုင်အောင် ချုပ်နှောင်ကြောင်းဖြစ်သော ပဉ္စည်းကိလေသာနှင့် အချုပ်နှောင်ခံ ခြပ်ဝတ္ထု၊ ဤတရားနှစ်ပါးသည် အနက်တူ သဒ္ဒါတူ ဖြစ်သလော၊ သို့မဟုတ် အနက်တူ သဒ္ဒါကွဲ ဖြစ်လေသလော"

ဘယ်ချောင် ဘယ်ထောင့်ဆီက ဆောင့်ကန်၍ ပေါ်ထွက်လာသည်မသိ။ ပြဿနာပြုသူ မပေါ်ဘဲလျက် သို့မဟုတ် ပြဿနာရှင် မထင်မရှားနှင့် ထိုပြဿနာသည် သံဃာ့ရှေ့မှောက်သို့ ရောက်ရှိလာသည်။

ထိုအခါ အချို့ထေရ်ကြီး၊ ဝါကြီး၊ ပုဂ္ဂိုလ်ကြီးတို့က ဤသို့ဖြေကုန်ပြီ။

"ငါ့ရှင်တို့ သံယောဇနနှင့် သံယောဇနိယ ဤတရားနှစ်ပါးကား အနက်ချင်းလည်းမတူ၊ သဒ္ဒါချင်းလည်းမတူ၊ တခြားစီသာတည်း"ဟုဆိုကုန်၏။ အချို့တို့ကမူ အနက်တူပြီး သဒ္ဒါကွဲပြားသည်ဟူ၍ ဆိုကုန်ပြီ။

ထိုပြဿနာရပ် လက်စမပြတ်သေးခင် ဆွေးနွေးနေဆဲအချိန်၌ သံဃာ့မျက်စိအားလုံးတို့သည် တစ်နေရာသို့ စူးစူးစိုက်စိုက် စုရုံးရောက်ရှိသွားလေ၏။ သံဃာ့မျက်လုံးအစုံအောက် ရောက်ရှိလာသောအရာကား သူတို့ဒါယိကာကြီး စိတ္တသူကြွယ်ဖြစ်နေပါသတည်း။

"ဟာ ဒကာကြီး ရောက်လာသည်မှာ ကောင်းဘိစွ။ သည်မှာ လာလော့၊ သည်မှာ ထိုင်လော့"ဟု ရဟန်းတို့ကပင် စိတ္တသူကြွယ်အား ခေါ်ငင်နှုတ်ဆက်ခြင်းပြုကြကုန်၏၊ စိတ္တသူကြွယ်လည်း ရဟန်းတို့အား ရှိခိုးဦးတင်ပြီးလျှင်—

"မည်သည့်တရားကို အရှင်ဘုရားများ ဆွေးနွေးနေတော်မူကြပါသနည်းဘုရား"ဟူ၍ မေးလျှောက်လျှင် ရဟန်းတို့က သံယောဇဉ်ပြဿနာကို ထုတ်ပြကြကုန်ပြီးလျှင်—

"ဒကာကြီး၏ လာခြင်းကား ကောင်းသောလာခြင်းပါဒကာကြီး။ သံယောဇဉ်ပြဿနာကို ငါတို့တစ်တွေ ဆွေးနွေးကြဆဲတွင် ဒကာကြီးရောက်လာသည်မှာ မင်္ဂလာရှိလှ၏။ သံယောဇဉ်အရေးတွင် ငါတို့၌ တစ်ပြေးညီစွာ တူမျှခြင်းမဖြစ်သေး။ ထင်မြင်ချက်ကို ဆက်လက်ဆွေးနွေးကြဆဲဖြစ်ရာ ထိုပြဿနာနှင့် ပတ်သက်၍

ဒကာကြီး၏ အယူအဆကို ငါတို့မျှော်လင့်ကြကုန်၏”ဟူ၍ စိတ္တသူကြွယ်ထံ ဆန္ဒကို တောင်းခံကြကုန်၏။

ရဟန်းတို့ကပင် ဆန္ဒတောင်းခံခြင်း ပြုကြရလောက်အောင် ထိုစိတ္တသူကြွယ် ကား မည်သို့သော ပုဂ္ဂိုလ်စားမျိုးဖြစ်၍ပေနည်း။

ထိုစိတ္တသူကြွယ်ကား ပစ္စည်းသာ ကြွယ်လေသူမဟုတ်၊ စကားပရိယာယ် လည်း အလွန်ကြွယ်ဝလှသောသူဟူ၏။ စကားကြွယ်ကြွယ်ဖြင့် တရားစကားဆိုတတ်၊ ပြောတတ်ရှိသောသူအရာတွင် “ဧတဒဂ်”ဘွဲ့ရ သူကြွယ်ပေတကား။ သို့ကြောင့် သာပင် သံယောဇဉ် ပြဿနာနှင့် ပတ်သက်၍ စိတ္တသူကြွယ်၏စကားကို ရဟန်း သံဃာတော်များက ကြားသိလိုသောကြောင့် ဤစကားကို ရဟန်းတို့ တောင်းဆိုခြင်းဖြစ်၏။ သူကြွယ်သည် ရဟန်းတို့အား ရိုသေစွာ ရှိခိုးပြီးနောက် ဤသို့ လျှောက်ထားပါလေ၏။

“အို–အရှင်သူမြတ်တို့ဘုရား၊ သံယောဇနနှင့် သံယောဇနိယသည် အနက်ချင်း မတူ။ သံယောဇနက အနက်တစ်မျိုး၊ သံယောဇနိယက အနက်တစ်မျိုး ဖြစ်ပါ သည် အရှင်ဘုရားတို့။ ဥပမာတစ်ခုဖြင့် တပည့်တော် လျှောက်ထားပါမည်ဘုရား။ ဥပမာဖြင့်ပြသော် ပညာဓာတ်ခံ ရှင့်သန်သူတို့သည် ဆိုလိုချက် အနက်သဘောကို ရှောရှောရှူရှူသိလွယ်ပါကုန်၏ ဘုရား။

“အရှင်သူမြတ်တို့ဘုရား၊ ဥပမာအားဖြင့် နွားနက်တစ်ကောင်နှင့် နွားဖြူ တစ်ကောင်ကို ကြိုးဖြင့်လည်းကောင်း၊ လွန်ဖြင့်လည်းကောင်း ထမ်းပိုး၌ တွဲ၍ ချည်နှောင်ထားသည်ဆိုကြပါစို့။ ထိုနွားနှစ်ကောင်ကိုကြည့်ကာ လူတစ်ယောက်က နွားနက်က နွားဖြူအား မလှုပ်နိုင်အောင် တုပ်နှောင်ထားသည်ဟူ၍လည်းကောင်း၊ နွားဖြူက နွားနက်အား မလှုပ်နိုင်အောင် တုပ်နှောင်ထားသည်ဟူ၍လည်းကောင်း ဆိုခဲ့သော် ထိုသူသည် ကောင်းစွာဆိုသည် မည်ရာပါသလော”ဟု လျှောက်လေ၏။

“ဒကာကြီး၊ ဤစကားသည်မသင့်စနိုး။ နွားဖြူအား နွားနက် တုပ်နှောင် ထားသည်မဟုတ်။ နွားနက်က နွားဖြူအား နှောင်ဖွဲ့ထားသည်လည်း မဟုတ်။ စင်စစ်သော်ကား ထိုနွားနှစ်ကောင်ကို ကြိုးဖြင့်လည်းကောင်း၊ လွန်ဖြင့်လည်းကောင်း ထမ်းပိုး၌ နှောင်ဖွဲ့ထားခြင်းသာဖြစ်ချေ၏။ ကြိုး၊ ထမ်းပိုးသည်သာ နွားနှစ်ကောင် မကွာရအောင် ပြုထားခြင်းဖြစ်၏”ဟု ရဟန်းတို့ ဆိုကုန်၏။

“အို–အရှင်ဘုရားတို့၊ ဤနည်းအတူသာလျှင် ကြိုး၊ ထမ်းပိုးကား သံယော ဇဉ်တရားနှင့် အလားတူပါသည်။ နွားတစ်ကောင်ကား သံယောဇနိယတရားနှင့် အလားတူပါသည်။ သံယောဇန တရားဟူသည်ကား တပ်ခြင်းရမ္မက်ပါဘုရား။ သံယောဇနိယ တရားဟူသည်ကား ရူပါရုံနှင့် မျက်စိပါဘုရား။ အကြင်အခါ၌

အဆင်းရူပါရုံကို တပ်မက်၏။ ထိုအခါ အဆင်းရူပါရုံကို မျက်စိဖြင့်ကြည့်၏။ ထို့အတူ သဒ္ဒါရုံအသံကို တပ်မက်သောအခါ နားဖြင့်နာ၏။ ဂန္ဓာရုံအနံ့ကို တပ်မက်သောအခါ နှာခေါင်းဖြင့်နမ်း၏။ အာရုံခြောက်ပါးစလုံး ဤနည်းအတိုင်းပါ ဘုရား။

"အို– အရှင်ဘုရားတို့၊ အချုပ်ကိုဆိုရပါသော် မျက်လုံးသက်သက်က ရူပါရုံတို့အား နှောင်ဖွဲ့သည်မဟုတ်။ (ဝါ) မျက်လုံးသက်သက်သည် သံယောဇဉ်မဟုတ်ပါ။ ရူပါရုံသက်သက်တို့ကလည်း မျက်လုံးအားနှောင်ဖွဲ့ကြသည်မဟုတ်။ (ဝါ) ရူပါရုံသက်သက်တို့လည်း သံယောဇဉ်မဟုတ်ပါကုန်။ ထိုမျက်စိနှင့် ရူပါရုံ နှစ်မျိုးကို စွဲမှီလျက် အကြင်တပ်မက်ခြင်းသည် ဖြစ်ပေါ်လာ၏။ ထိုတပ်မက်ခြင်းသည်သာ သံယောဇနမည်ပါသည် ဘုရား"ဟူ၍ လျှောက်၏။

စိတ္တသူကြွယ်၏အဖြေကို ကြားကုန်လတ်သော် ရဟန်းတို့သည် ကောင်းချီးပေးကုန်၏။

"ဒကာကြီး၊ သင်၏ပညာမျက်စိကား အလွန်သိမ်မွေ့၍ နက်နဲလှစွာသော ဗုဒ္ဓစကားတော်တို့ကို ဘုရားသခင်၏ အလိုတော်ကျအောင် မြင်နိုင်စွမ်းရှိဘိစွ။ ဘုရားသခင်၏အလိုတော်ကို သိသဖြင့် ဤသို့သောကိုယ်အဖြစ်ကို သင်ရကောင်းလေစွ။ ဤသို့သော အသက်ရှည်ခြင်းကို သင်အရတော်လေစွ"ဟု ချီးကျူးကုန်သတည်း။

(သံယုတ္တနိကာယ်၊ သဠာယတနသံယုတ်ပါဠိတော်၊
စိတ္တသံယုတ်၊ သံယောဇနသုတ်၊ ၄၇၄၊ ဆဋ္ဌမူ)

( ၈ )

# သမ္မာဒိဋ္ဌိ

အရှင်ကစ္စာနသည် သုတေသီတစ်ဦးပမာ သဘောတရားရေးရာ၌ ပိုင်နိုင်အောင် လေ့လာစူးစမ်းလျက်ရှိနေ၏။ ကောင်းသောအမြင် (အမြင်မှန်) သမ္မာဒိဋ္ဌိနှင့် ပတ်သက်၍ ထိတွေ့ရာတွင် ထစ်နေ၏။ ပိုင်နိုင်မှုမရှိလှသေး၊ ဗလုံးဗထွေးရှိနေဆဲ။ ကိုယ်ပိုင်ဉာဏ်ဖြင့် ဝှံ့ဝှံ့ရဲရဲ မဆုံးဖြတ်နိုင်သေးသည့် အဆင့်၌သာ တည်နေသေးဟန်တူ၏။

သို့ကြောင့်ပင် အရှင်ကစ္စာနသည် "ဗုဒ္ဓမြတ်ဘုရားထံ ငါလျှောက်ကြည့်ဦးအံ့" ဟု တေးထားပြီး ပန်လျှောက်ခွင့်ရရန်ကိုသာ ငံ့လင့်နေခဲ့သည်။

တစ်နေ့သောအခါတွင်မူ အရှင်ကစ္စာနအဖို့ အခွင့်သာလာ၏။ ရှင်တော်မြတ်ဘုရားသည် ဇေတဝန်ကျောင်းတော်ကြီးတွင် စံနေတော်မူလျက်ရှိသဖြင့် အရှင်ကစ္စာနသည် မြတ်ဘုရား၏ထံတော်ပါးသို့ ရှိသေစွာ ချဉ်းကပ်ပြီးလျှင် ဤသို့ လျှောက်တင်တော့၏။

"ဘုန်းတော်သခင် အရှင်မြတ်ဘုရား၊ သမ္မာဒိဋ္ဌိ သမ္မာဒိဋ္ဌိ (အမြင်မှန်၊ အမြင်မှန်)ဟူ၍ သူပြော ငါပြော ဆိုပြောလျက်ရှိနေကြပါသည်။ ထိုသမ္မာဒိဋ္ဌိဟူသည် အဘယ်မျှသော အတိုင်းအတာဖြင့် ဖြစ်ပါသနည်းဘုရား" ဟု မေးလျှောက်သည်ကို ဗုဒ္ဓမြတ်ဘုရားက ဤသို့ မြွက်ကြားတော်မူ၏။

"ချစ်တပည့် ကစ္စာန၊ သတ္တလောကဟု ဆိုအပ်သော ဤသတ္တဝါအပေါင်းသည် များသောအားဖြင့် 'အရှိ' နှင့် 'မရှိ' ဤနှစ်ပါးကိုမှီတွယ်နေကြ၏။

"ချစ်တပည့် ကစ္စာန၊ အရာခပ်သိမ်းတို့၌ ပြုပြင်စီရင်မှု သင်္ခါရသဘောများ ရှိနေသည်။ ပြုပြင်စီရင်မှု သင်္ခါရနှင့် မကင်းကြသည်၏အဖြစ်ကို ဟုတ်မှန်သော

အတိုင်း ယထာဘူတကျကျ ထက်လှစွာသော ပညာမျက်စိဖြင့် မြင်ထားသူအား လောက၌ 'မရှိ'ဟူသောအယူ (နတ္ထိကဝါဒ) သည် မဖြစ်။

"ချစ်တပည့် ကစ္စာန၊ အရာခပ်သိမ်းတို့၏ ချုပ်ပျောက်ကွယ်ပ ဘာမှမရှိ ဟူသောအဖြစ်ကို ဟုတ်မှန်သောအတိုင်း ယထာဘူတကျကျ ထက်လှစွာသော ပညာမျက်စိဖြင့် မြင်ထားသူအား လောက၌ 'အရှိ'ဟူသော အယူ(အတ္ထိကဝါဒ) သည် မဖြစ်။

"ချစ်တပည့် ကစ္စာန၊ များသောအားဖြင့် ဤသတ္တဝါအပေါင်းကို ဆိုက်ကပ်မှု=ဥပါယ၊ ဖွဲ့လမ်းမှု=ဥပါဒါန၊ အာရုံ၌စူးဝင်နစ်မြုပ်မှု=အဘိနိဝေသတို့က နှောင်ဖွဲ့ထားကြ၏။

"ချစ်တပည့် ကစ္စာန၊ နာဦးလော့။ စင်စစ် ယထာဘူတကျကျ အမြင်မှန်ရပြီးသော ဤသူကား စိတ်၏တည်ရာ၊ အာရုံ၌ စူးဝင်နစ်မြုပ်ရာ၊ ခိုအောင်းရာဖြစ်သော ထိုဆိုက်ကပ်မှု စွဲလမ်းမှုသို့ 'ဤကား ငါ့ကိုယ်၊ ဤကား ငါ့ဟာ၊ ဤကား ငါ့ဥစ္စာ'ဟူ၍ ဆိုက်ကပ်ခြင်းလည်းမရှိ၊ စွဲလမ်းခြင်းလည်းမရှိ၊ ဆောက်တည်ခြင်းလည်းမရှိတော့ချေ။

မည်သည့်အရာပင်ဖြစ်စေ ဖြစ်ခဲ့သော် ဒုက္ခသာဖြစ်သည်။ မည်သည့်အရာပင်ဖြစ်စေ ချုပ်ပျောက်ခဲ့သော် ဒုက္ခသာချုပ်ပျောက်သည်ဟူ၍ ပြတ်သားစွာ ယုံမှားခြင်းကင်း၏။ သို့လော သို့လော တွေးတောယုံမှားမှု မဖြစ်လေ။

ဤသမ္မာဒိဋ္ဌိအရာ၌ ထိုသူ၏အမြင်သည် သူပြောလူပြောကို သက်ဝင်ယုံကြည်၍ မြင်သောအမြင်မျိုးမဟုတ်။ ယထာဘူတကျကျ အမှန်ကိုအမှန်အတိုင်း ကိုယ်တိုင်မြင်သော အမြင်ဖြစ်၏။

"ချစ်တပည့် ကစ္စာန၊ ဤသည်ကား သမ္မာဒိဋ္ဌိ၏ အတိုင်းအတာဖြစ်၏။ သမ္မာဒိဋ္ဌိသည် ဤအတိုင်းအတာဖြင့် ဖြစ်သတည်း။

"ချစ်တပည့် ကစ္စာန၊ နာဦးလော့။ သခ်ါရမှု 'ပြုဖြစ်'ကို အကြောင်းခံ၍ 'အရာခပ်သိမ်းသည် ထင်ရှားရှိ၏'ဟူ၍ ယူခဲ့သော် ထိုအယူဝါဒသည် တစ်ဖက်စွန်းရောက်သွား၏။ တစ်ဖန် နိရောဓမှု "ချုပ်ပျောက်"ကို ထောက်ရှု၍ 'အရာခပ်သိမ်းသည် မရှိ'ဟု ယူခဲ့ပြန်သော် ထိုအယူဝါဒသည် ဒုတိယတစ်ဖက်စွန်း ရောက်သွား၏။

"ချစ်တပည့် ကစ္စာန၊ ဤအစွန်းနှစ်ဖက်သို့ မကပ်ရောက်လေဘဲ အလယ်အလတ် (မဇ္ဈိမပဋိပဒါ)လမ်းစဉ်ဖြင့် ငါဘုရားသည် တရားဟောတော်မူ၏။

မသိမှု=အဝိဇ္ဇာ အကြောင်းခံကြောင့် ပြုပြင်စီရင်မှု=သခ်ါရတို့ဖြစ်ကုန်၏။ ပြုစီရင်မှု=သခ်ါရအကြောင်းခံကြောင့် သိမှု=ဝိညာဉ်ဖြစ်ရ၏။ သိမှု=ဝိညာဉ်

အကြောင်းခံကြောင့် နာမရူပ=နာမ်ရုပ်ဖြစ်ရ၏။ နာမ်ရုပ်အကြောင်းခံကြောင့် တည်ရာ=အာယတနခြောက်ပါးဖြစ်ရ၏။ အာယတနခြောက်ပါး အရင်းခံကြောင့် ထိတွေ့မှု=ဖဿဖြစ်ရ၏။ ဖဿအကြောင်းခံကြောင့် ခံစားမှု=ဝေဒနာဖြစ်ရ၏။ ဝေဒနာအကြောင်းခံကြောင့် တပ်မက်မှု=တဏှာဖြစ်ရ၏။ တဏှာ အကြောင်းခံကြောင့် စွဲလမ်းမှု=ဥပါဒါန်ဖြစ်ရ၏။ ဥပါဒါန်အကြောင်းခံကြောင့် ဘဝဖြစ်ရ၏။ ဘဝအကြောင်းခံကြောင့် ပဋိသန္ဓေနေမှု=ဇာတိဖြစ်ရ၏။ ဇာတိအကြောင်းခံကြောင့် အိုမှု=ဇရာ၊ သေမှု=မရဏ၊ စိုးရိမ်မှု=သောက၊ ငိုကြွေးမှု=ပရိဒေဝ၊ ဆင်းရဲမှု=ဒုက္ခ၊ နှလုံးမသာယာမှု=ဒေါမနဿ၊ ပြင်းစွာပူပန်မှု=ဥပယာသတို့ ဖြစ်ကြရကုန်၏။ ဤသို့လျှင် အလုံးစုံသော ဆင်းရဲအစုဖြစ်ပေါ်၏။

"ချစ်တပည့် ကစ္စာန၊ မသိ ၂=အဝိဇ္ဇာအကြွင်းမဲ့ချုပ်ငြိမ်းခဲ့သော် ပြုစီရင်မှု သင်္ခါရတို့ ချုပ်ငြိမ်းကုန်၏။ သင်္ခါရချုပ်ပျောက်လျှင် ဝိညာဉ်ချုပ်ပျောက်လေ၏။ (လ) ဇာတိချုပ်လျှင် ဇရာ၊ မရဏ၊ သောက၊ ပရိဒေဝ၊ ဒုက္ခ၊ ဒေါမနဿ၊ ဥပါယာသ တို့သည် ချုပ်ကြရကုန်၏။ ဤသို့လျှင် ဆင်းရဲခပ်သိမ်းတို့ ချုပ်ငြိမ်းခြင်း ဖြစ်ကုန်၏။" ဟု ဟောတော်မူ၏။

(နိဒါနဝဂ္ဂသံယုတ် ပါဠိတော်၊ အာဟာရဝဂ်၊ ကစ္စာနဂေါတ္တသုတ်၊ ၂၅၇၊ ဆဋ္ဌမူ)

( ၉ )

# ဓာတ်ချင်း တူရာ တူရာ

မုဆိုးနားနီးလျှင် မုဆိုးဖြစ်၏။ တံငါနားနီးလျှင် တံငါဖြစ်၏။ ဓာတ်ချင်းတူရာ တူရာသို့ ကူးစက်သွားခြင်းကြောင့် ဖြစ်၏။

မြန်မာမှု၌ အသွင်မတူ အိမ်သူမဖြစ်။ ဓာတ်တူနံတူ ဆေးဖက်ယူ။ သမဏောန သမဏော၊ ဂေါဏေန ဂေါဏောဟူသော စကားပုံများသည် တူသောဓာတ်သဘာဝ ချင်း ကူးစက်ပေါင်းဖွဲ့ ယှဉ်တွဲ၍ နေတတ်ပုံကိုဆိုသော စကားပုံများဖြစ်၏။

ယင်းစကားပုံများကို သက်ဆိုင်ရာတို့၌ ကြားညှပ်သုံးလေ့ရှိကြ၏။ ဤသို့ သုံးခြင်းအားဖြင့် 'ဤဟာနှင့် ထိုဟာ၊ ဤသူနှင့်ထိုသူ၊ ဤအပြုအမူနှင့် ထိုအပြုအမူ၊ ဤအကျင့်နှင့် ထိုအကျင့်' စသည်တို့သည် အချင်းချင်း ဓာတ်သဘာဝချင်း တူညီကြ၍သာ ပေါင်းဆုံမိကြသည်ဟူသော အဓိပ္ပာယ်ကို သိလွယ် ထင်လွယ် မြင်လွယ် ရခြင်းအကျိုးရှိ၏။

ဗုဒ္ဓမြတ်ဘုရားသည် ယင်းအကြောင်းနှင့်ပတ်သက်၍ ရဟန်းတို့အား အကျယ် တဝင့် ဓာတ်တရားကို ဖွင့်ဆိုမြွက်ကြားသွားတော်မူခဲ့ဖူး၏။

မှန်၏။ နေရာကား ရာဇဂြိုဟ်ပြည်၌ဖြစ်၏။ ယင်းရာဇဂြိုဟ်တွင် အဝေးက ကြည့်လျှင် လင်းတကြီးတစ်ကောင် နားနေရှာသလား ထင်ရသော တောင်ကြီး တစ်လုံးရှိ၏။ ထိုတောင်ကို လင်းတနှင့်တူသောကြောင့် ဂိဇ္ဈကုဋ်တောင်ဟု ခေါ် ကြသည်။

ထိုအချိန်တွင် ဂိဇ္ဈကုဋ်တောင်၏ ပတ်ဝန်းကျင်တစ်လျှောက်၌ ရဟန်းတို့၏ သင်္ကန်းရောင်ဖြင့် တစ်တောင်လုံး ဝါထိန်နေ၏။ ဘုရားသခင်သည် ရဟန်းတို့နှင့် အတူတကွ ထိုတောင်၌ ခေတ္တသီတင်းသုံးနေတော်မူသောကြောင့် ဖြစ်သတည်း။

အရှင်သာရိပုတ္တရာသည် သူ့ပရိသတ်နှင့်သူ ဘုရားသခင်၏ မနီးမဝေး အရပ်တွင် စင်္ကြံ သွားနေ၏။ ထို့အတူ အရှင်မောဂ္ဂလာန်၊ အရှင်မဟာကဿပ၊

အရှင်အနုရုဒ္ဓါ၊ အရှင်ပုဏ္ဏ၊ အရှင်ဥပါလိ၊ အရှင်အာနန္ဒာ၊ အရှင်ဒေဝဒတ်တို့သည်လည်း အသီးသီး သူ့ပရိသတ်၊ သူ့အခြွေအရံနှင့်သူ မနီးမဝေးအရပ်တွင် အသီးသီး လူးလာတုံ့ခေါက် စင်္ကြံ လျှောက်နေကြကုန်၏။

ဘုရားသခင်သည် တပည့်ကြီး အသီးသီးတို့ စင်္ကြံသွားနေကြပုံကို ရှုတော်မူပြီးနောက် "ချစ်သားတို့"ဟူ၍ ခေါ်တော်မူလိုက်၏။ ထိုအခါ ရဟန်းတို့က "ဘုရား"ဟူ၍ ထူးကြပြီး အသီးသီး ဘုရားသခင်ရှေ့တော်မှောက်သို့ ရှိခိုးလျက် ရောက်လာကြကုန်၏။

ထိုအခါ ဘုရားသခင်က အရှင်သာရိပုတ္တရာရှိရာသို့ လက်ညှိုးညွှန်တော်မူလျက်—

"ချစ်သားတို့၊ ရှုစမ်းကြကုန်။ ဟိုမှာ ရဟန်းများစွာ ခြံရံလျက်စင်္ကြံ သွားနေသည့် သာရိပုတ္တရာကို သင်တို့ မြင်ကြကုန်၏လော"

"တင်ပါ့ ဘုရား"

"ချစ်သားတို့၊ သာရိပုတ္တရာသည် ပညာကြီး၏။ ၎င်းနှင့်အတူနေ ရဟန်းအားလုံးတို့သည်လည်း ကြီးသော ပညာရှိကြသူချည်းသာ ဖြစ်ကုန်၏။

"ချစ်သားတို့၊ မောဂ္ဂလာန်သည် တန်ခိုးကြီး၏။ ၎င်းနှင့်အတူနေရဟန်းတို့သည်လည်း ကြီးသောတန်ခိုးရှိကြသူချည်းသာ ဖြစ်ကုန်၏။

"ချစ်သားတို့၊ ဟိုမှာ ရှုကြကုန်ဦး။ ကဿပစင်္ကြံသွားနေသည်ကို မြင်ကြ၏လော။ ကဿပသည် ဓုတင်ဆောင်၏။ ၎င်းနှင့်နေသူ ရဟန်းအားလုံးတို့လည်း ဓုတင်ဆောင် ရဟန်းချည်းသာ ဖြစ်ကုန်၏။

"ချစ်သားတို့၊ သည်မှာရှုကြလော့။ စင်္ကြံသွားနေသော အနုရုဒ္ဓါကို မြင်ကြ၏လော။ အနုရုဒ္ဓါသည် ဒိဗ္ဗစက္ခုဉာဏ်ရ၏။ ၎င်းနှင့်နေသူ ရဟန်းတို့လည်း ဒိဗ္ဗစက္ခုကိုရသော ရဟန်းချည်း ဖြစ်ကုန်၏။

"ချစ်သားတို့၊ ထို့အတူပင် ပုဏ္ဏသည် တရားဟောကောင်းသော ဓမ္မကထိက ဖြစ်၏။ သူနှင့်အတူနေကြသော ရဟန်းတို့လည်း ဓမ္မကထိက ရဟန်းများသာ ဖြစ်ကုန်၏။ ဥပါလိသည် ဝိနည်းခိုရ်ဖြစ်၏။ သူနှင့်အတူနေကြသော ရဟန်းတို့လည်း ဝိနည်းခိုရ် ရဟန်းများသာ ဖြစ်ကုန်၏။ အာနန္ဒာသည် အကြားအမြင် 'ဗဟုသုတ' များ၏။ ၎င်းနှင့်အတူနေကြသော ရဟန်းတို့လည်း ဗဟုသုတ ရှိသူချည်းဖြစ်ကုန်၏။

"ချစ်သားတို့၊ ဟိုမှာ ရှုဦးလော့။ စင်္ကြံ သွားနေသော ဒေဝဒတ်ကိုသင်တို့ မြင်ကြကုန်၏လော။ ဒေဝဒတ်သည် လာဘသက္ကာရ အားကြီး၏။ ၎င်းနှင့် အတူနေကြသော ရဟန်းတို့လည်း လာဘသက္ကာရ အားကြီးသော ရဟန်းများသာ ဖြစ်ကုန်၏။

"ချစ်သားတို့ သတ္တဝါတို့ကား ဓာတ်အားဖြင့် တစ်ပေါင်းတည်း တစ်သားတည်းဖြစ်ကုန်၏။ သူယုတ်သည် သူယုတ်နှင့်လည်းကောင်း၊ သူတော်ကောင်းသည် သူတော်ကောင်းနှင့်လည်းကောင်း၊ တစ်ပေါင်းတည်း တစ်သားတည်း ပူးကပ်စပ်နှော၍ တည်ကုန်၏။

"ချစ်သားတို့၊ အတိတ်က ဖြစ်ခဲ့ပြီး သတ္တဝါတို့သည်လည်း ဓာတ်အားဖြင့် သူယုတ် သူယုတ်ချင်း၊ သူတော်ကောင်း သူတော်ကောင်းချင်း တစ်ပေါင်းတည်း တစ်သားတည်း ဖြစ်ခဲ့ကုန်ပြီ။

"ချစ်သားတို့၊ အနာဂတ်ဖြစ်လတ္တံ့ သတ္တဝါတို့သည်လည်း ဓာတ်အားဖြင့် လူမိုက် လူမိုက်ချင်း၊ လူလိမ္မာ လူလိမ္မာချင်း တစ်ပေါင်းတည်း တစ်သားတည်း ဖြစ်ကုန်လတ္တံ့။

"ချစ်သားတို့၊ ပစ္စုပ္ပန်မျက်မှောက်၌ ဖြစ်နေဆဲ သတ္တဝါတို့သည်လည်း ဓာတ်အားဖြင့် လူညံ့လူညံ့ချင်း၊ လူတော်လူတော်ချင်း တစ်ပေါင်းတည်း တစ်သားတည်း ဖြစ်ကုန်၏"ဟု မိန့်တော်မူလျှင် ရဟန်းတို့သည် စင်္ကြံကြွနေကြသော အရှင်သာရိပုတ္တရာအစ ဒေဝဒတ်အဆုံးရှိသော ကိုယ်တော်ကြီးများဆီသို့ကြည့်ကာ ကြည့်ကာနှင့် ရှိနေကြလေသတည်း။

(သံယုတ္တနိကာယ်၊ နိဒါနဝဂ္ဂသံယုတ်ပါဠိတော်၊ ဓာတုသံယုတ်၊ စင်္ကမသုတ်၊ ၃၆ရ၊ ဆဋ္ဌမူ)

( ၁၀ )

# အရှင်အာနန္ဒာ၏ အ,လေးလုံး

အရေး၊ အဖတ်၊ အတွက် (စာကိုရေးတတ်အောင်၊ ဖတ်တတ်အောင်
တွက်အချက်နားလည်အောင်) ဤရှယ်စူးချက် သုံးမျိုးဖြင့် "စာမတတ်သူများ
ပျောက်ရေး" တိုက်စစ်ဆင်ခဲ့သည်။ နေရာအနှံ့အပြားတို့၌ ပြင်းပြင်းထန်ထန်
ကပ်ပွဲများ ဖြစ်ပွားခဲ့သည်။ ထိုတိုက်ပွဲကို "အသုံးလုံးတိုက်ပွဲ"ဟု အမည်တွင်စေ
သည်။

နိုင်ငံနှင့်အဝန်း ပညာမတတ်သူ မရှိရလေအောင် တတ်သုတ်ရိုက်၍ သင်တန်း
းပေးကာ စာမတတ်သူများအား စာတတ်လာစေသည်။ ဆင်းရဲပင်ပန်းကြီးစွာခံ၍
သာမျက်စိကို မပွင့်မချင်းဖွင့်ပေးသည်။ အ,သုံးလုံး၏ ထိရောက်အောင်မြင်ချက်
က်သေအဖြစ် ယနေ့ခေတ်တွင် စာအုပ်စာတမ်းများ ရိုက်နှိပ်၍ မလောက်နိုင်အောင်
လာသော အခြေအနေက ပီပီပြင်ပြင် သာဓကဆောင်လျက်ရှိနေပါသည်။ ဤကား
နေ့ခေတ်၏ လက်တွေ့သာဓက အ,သုံးလုံး၏ အနှစ်သာရ ဖြစ်ပါ၏။

ဗုဒ္ဓမြတ်ဘုရား ထင်ရှားရှိတော်မူစဉ် လွန်ခဲ့သော နှစ်ပေါင်း ၂၅၀၀ ကျော်
တ်ကလည်း ဤ 'အ,သုံးလုံး' ဆန်ဆန် 'အ,လေးလုံးသင်တန်း' ဟူ၍ ခေါ်တွင်
၉ အလားအလာရှိခဲ့ဖူးသည်။ ထိုသင်တန်းကို ဦးစွာပထမမျိုးစေ့ချလိုက်သော
ဒီကမ္ဗိက' ပုဂ္ဂိုလ်မှာ သာမန်အညတရ ပုဂ္ဂိုလ်စားထဲကမဟုတ်ဘဲ တကယ့်
ဘ်ထိတ်ကြဲ ရဲရဲတောက်ဖြစ်သော အရှင်အာနန္ဒာနှင့် အရှင်သာရိပုတ္တရာ
သ်တော်ကြီးတို့ဖြစ်ကြောင်းကို အင်္ဂုတ္တရနိကာယ်တွင် အထောက်အထား ခိုင်မာ
တွေ့ရ၏။ တွေ့ရပုံကား ဤသို့ဖြစ်ပါသည်။

အရှင်အာနန္ဒာနှင့် အရှင်သာရိပုတ္တရာသည် တစ်ကျောင်းစီနေကြသည်။
းလပ်ခွင့်ရသောအချိန်များတွင် တရားသဘောဆွေးနွေးရန် တစ်ပါးထံသို့
စ်ပါးက သွားလေ့ရှိသည်။

တစ်ခါသော် အရှင်အာနန္ဒာသည် အရှင်သာရိပုတ္တရာထံသို့ ရောက်သွားလေ၏။ ရောက်လျှင် အာလာပသလ္လာပစကားစမည် ပြောနေကြရင်းက ပညာသင်ကြားရေးဘက်သို့ စကား 'ဆက်'သွား၏။ ပညာကို အမြန်ဆုံးတတ်မြောက်စေသောနည်းကို အရှင်အာနန္ဒာက စတင်၍ အရှင်သာရိပုတ္တရာအား ဆွေးနွေးကြည့်လေသည်။

"ငါ့ရှင် သာရိပုတ္တရာ၊ ကုသလဓမ္မကို သင်ယူရာ၌ အဘယ်သို့သင်ယူလျှင်—

(၁) အမြန်တတ်လွယ်၊ သီလွယ်ပါမည်နည်း။

(၂) အမြန် သင်တန်းပြီးဆုံးပါမည်နည်း။

(၃) များစွာ အမြန်သင်နိုင်ပါမည်နည်း။

(၄) သင်ထားပြီးများ အမြန်မေ့မသွားနိုင်ပါမည်နည်းဟူ၍ အရှင်အာနန္ဒာက "အမြန်တတ်နည်းနိဿရည်း"ကို တီးခေါက်မေးမြန်းကြည့်သည်။

ထိုမေးခွန်းကိုအဖြေပေးရန် အရှင်သာရိပုတ္တရာက အရှင်အာနန္ဒာသို့ပင် ပြန်၍အပ်လိုက်၏။

"ငါ့ရှင်အာနန္ဒာ၊ ငါ့ရှင်၏မေးခွန်းကား ကောင်းဘိစွ။ အများသူငါသိအပ်၊ သိသင့်၊ သိထိုက်သောအရာ မှန်ပေ၏။ ငါ့ရှင်ကား အကြားအမြင် ဗဟုသုတများသူဖြစ်ပေသောကြောင့် ယင်းမေးခွန်း၏အဖြေကို ငါ့ရှင်သာလျှင် ဖြေကြားပါလော့"ဟု တောင်းပန်၏။

အရှင်အာနန္ဒာသည် တောင်းပန်ချက်ကို လက်ခံလိုက်ပြီး သူမေးထားသောမေးခွန်း 'ပညာအမြန်တတ်နည်း နိဿရည်း'၏ အဖြေကို ဤသို့ ဖွင့်လိုက်၏။

"ငါ့ရှင် သာရိပုတ္တရာ၊ သင်ယူရာ၌ အမြန်တတ်မြောက်လိုသော်—

(၁) အနက်၌လည်း ကျွမ်းကျင်လိမ္မာရမည်။[၁]

(၂) ပါဠိ၌လည်း ကျွမ်းကျင်လိမ္မာရမည်။

(၃) အက္ခရာဗေဒ၌လည်း ကျွမ်းကျင်လိမ္မာရမည်။

(၄) သဒ္ဒါ၌လည်း ကျွမ်းကျင်လိမ္မာရမည်။

(၅) စကားအဆက်အစပ်၊ ရှေ့နောက် အစီအစဉ်၌လည်း ကျွမ်းကျင်လိမ္မာရမည်။

"ငါ့ရှင်သာရိပုတ္တရာ၊ ဤအရည်အချင်းပြ အင်္ဂါငါးရပ်နှင့်/ပြည့်စုံသောသူကား ပညာသင်ကြားရာ၌ သူတစ်ပါးထက် အမြန်တတ်လွယ် သီလွယ်၏။ သင်တန်းနိဂုံးအဆုံးသို့ အမြန်ရောက်လွယ်၏။ အနက်၊ အက္ခရာ၊ ပုဒ်ပါဠိကို

---

၁။ "အတ္ထကုသလောစ ဟောတိ ဓမ္မကုသလောစ၊ ဗျဉ္ဇန ကုသလောစ၊ နိရုတ္တိ ကုသလောစ၊ ပုဗ္ဗာပရကုသလောစ" အင်္ဂုတ္တရနိကာယ်၊ ပဥ္စကနိပါတ်၊ အာဃာတဝဂ်၊ ခိပ္ပနိသန္တိသုတ်၊ ၁၇၆၊ ဆဋ္ဌမူ)

ပိုင်နိုင်ထားပြီးဖြစ်၍ အချိန်တိုတိုနှင့် များများစားစားကို သင်နိုင်၏။ ရှေ့စကားနှင့် နောက်စကား ဆက်စပ်မိခြင်းရှိ၍ မည်သည့်အခါမှ မေ့ပျောက်သွားတော့မည်လည်း မဟုတ်”ဟု ဖြေလိုက်၏။

ထိုအခါ အရှင်သာရိပုတ္တရာသည် အရှင်အာနန္ဒာအား လှိုက်လှိုက်လှဲလှဲ ချီးကျူးခြင်းပြုလေ၏။

“အို-အရှင်ကောင်းတို့၊ အံ့ဖွယ်ကောင်းဘိစွ။ အိုအရှင်ကောင်းတို့၊ မဖြစ်စဖူး၊ မကြားစဖူး ထူးကဲစွာဖြစ်ဘိစွ။ အရှင်အာနန္ဒာကား စံပြု နည်းယူထိုက်သော အဖိုးတန်စကားကို မြွက်ကြားနိုင်ဘိသည်တကား။ ယနေ့မှစ၍ အရှင်အာနန္ဒာအား သူမြွက်ကြားဖြေဆိုလိုက်သည့် ‘အမြန်တတ် အင်္ဂါငါးရပ်’ နှင့် ပြည့်စုံသောသူဟူ၍ ငါတို့ မှတ်ယူကြကုန်တော့အံ့”ဟု ချီးကျူးလေသတည်း။

(အင်္ဂုတ္တရနိကာယ်၊ ပဉ္စကနိပါတ်၊ အာဃာတဝဂ်၊ ခိပ္ပနိသန္တိသုတ်၊ ၁၇၆။ ဆဋ္ဌမှ)

( ၁၁ )

# အရှင်သာရိပုတ္တရာ ဦးခေါင်းရိုက်ခွဲခံရခြင်း

စုံတောမြိုင်ချောင် သည်လျှိုမြောင်စခန်းကား သူတို့သွားလမ်းလာလမ်း ဖြစ်နေ၏။ တစ်အုပ်ပြီးတစ်အုပ်၊ တစ်သုတ်ပြီးတစ်သုတ် ခိုအုပ်ကြီးများသည် သည်လျှိုမြောင်တစ်ဝိုက်တွင် ပျံသန်းရွှင်မြူးကာ ပျော်ပိုက်လျက် ရှိနေကြသည်။ ခိုဖြူ၊ ခိုဝါတွေ လွန်စွာပေါသည့် တောပေတကား။

ခိုငှက်များပေါသည်ကို အကြောင်းပြု၍ ကပေါတကန္ဒရမည်သော ချောက်၊ သို့မဟုတ် လျှိုမြောင်အချပ်ချပ် ထူထပ်ပေါများလှသော'ချောင်'မည်သောအရပ်တွင် အခါတစ်ပါး၌ အရှင်သာရိပုတ္တရာနှင့် အရှင်မောဂ္ဂလာန် ရဟန္တာအရှင့်မြတ်ကြီးနှစ်ပါး တောရဆောက်တည်၍ နေကြ၏။

လဆန်းရက်ချိန် ပြက္ခဒိန်တစ်နေ့၏ ညအခါတွင် အရှင်သာရိပုတ္တရာသည် လွင်တီးခေါင်အရပ်၌ ဈာန်သမာပတ် ဝင်စားနေ၏။ ကမ္မဋ္ဌာန်းကိစ္စ ဗာဟီရ များပြားမှုကြောင့် ဆံတော်ပယ်ရမည်ကိုပင် သတိရတော် မမူလေသဖြင့် အရှင်သာရိပုတ္တရာ၏ ဆံကေသာတို့မှာ အတော်ကလေးပင် ရှည်နေပြီဖြစ်၏။

ထိုသို့ ခိုချောင်တွင် တောရဆောက်တည်နေခိုက် ထိုနေရာသို့ ခရီးသွား ညှော့သည် ဘီလူးနှစ်ကောင် ရောက်လာသည်။ သူတို့သည် ဤဒေသသို့ ရွယ်စူး၍လာခြင်းကားမဟုတ်။ မြောက်အရပ်မှ တောင်အရပ်သို့ ခရီးထွက်လာကြစဉ် ဤနေရာသို့ ရောက်လာကြခြင်းဖြစ်၏။

လဆန်းပက္ခ၏လသည် သာသည်ဆိုရသော်လည်း လွန်စွာ အားနည်းလှသေး၏။ မှုန်ဝါးဝါးနှင့်သာ ရှိနေသည်။ အရှင်သာရိပုတ္တရာသည် မှုန်ဝါးဝါး လရောင်ရိပ်တွင် တိတ်ဆိတ်စွာ ဈာန်ဝင်စားနေတော်မူသည်ကို ထိုဘီလူးနှစ်ကောင်က ဘွားခနဲ တွေ့လေ၏။

"အဆွေ၊ ဤရဟန်း၏ ဦးခေါင်းကို ငါရိုက်ခွဲလိုက်အံ့"

ဘီလူးတစ်ကောင်က သူ့အဖော်ကို လက်ဟန်၊ ခြေဟန်၊ ရိုက်မည်ဟန်ဖြင့် ပြောလျှင် ကျန်ဘီလူးက ထိုဘီလူး၏လက်ကို ရုတ်တရက် ဆွဲလိုက်ပြီး–

"မလုပ်ပါနဲ့ကိုယ့်လူ၊ မတော်ပါဘူး၊ မလုပ်ကောင်းဘူး၊ သူ့ဘာသာသူ နေသည်ကို ဘောက်မဲ့ကြောင့် နှိပ်စက်ချင်သတုန်း၊ ထိုရဟန်းကား အလွန် တန်ခိုးကြီးလှသည် တကား"

ဤသို့ လက်ကိုဆွဲထား၍ တားသော်ငြားလည်း ထိုဘီလူးကားလက်ယား နေဟန်တူ၏။ အရှင်သာရိပုတ္တရာ၏ ဦးခေါင်းကို နှစ်ကြိမ်အထိရိုက်ခွဲရန် ချိန်သည်၊ ရွယ်သည်၊ အားထုတ်သည်၊ ကြိုးစားသည်။

သို့သော် အဖော်ဘီလူး၏ တားမြစ်ချက်ကြောင့် သုံးကြိမ်တိုင်တိုင် အထ မြောက်ခြင်းမရှိ။ လေးကြိမ်မြောက်သော အခါ၌ကား ထိုဘီလူးမိုက်အား တား၍ မရတော့ချေ။ အရှင်သာရိပုတ္တရာ၏ ဦးခေါင်းကို ဒေါင်ခနဲရိုက်ခွဲလိုက်လေသတည်း။ ရိုက်ချက်ဒဏ်ကား လွန်စွာပြင်းထန်လှ၏။ လူသား၏ဦးခေါင်းမျှလောက်ကို မဆို ထားဘိ၊ တောင်ကြီးများသော်မှပင် ဘီလူး၏လက်ချက်ဖြင့် ထက်ခြမ်းကွဲသွားမတတ်။ ဤရွေ့ဤမျှအထိ ပြင်းထန်လှဘိ၏။

သို့သော် အရှင်သာရိပုတ္တရာအား ထိပါးမိခြင်း မရှိလေဘဲ ဘီလူးတစ်ကိုယ်လုံး မီးပုံကြီးထဲသို့ ကျွမ်းစိုက်၍ ကျသွားလေသလား မပြောတတ်။

"အမယ်လေးဗျ၊ ပူတယ်၊ ပူတယ် ပူလှချည်ရဲ့" အသံကုန်ဟစ်ကြွေး နေဆဲမှာပင် ထိုဘီလူးကား အရှင်လတ်လတ် ငရဲသို့ ကျသွားလေ၏။

ထိုအချိန်၌ အရှင်မောဂ္ဂလာန်သည် အခြားတစ်နေရာတွင် အရှင်သာရိ ပုတ္တရာကဲ့သို့ပင် တရားအားထုတ်နေလေရာ၊ ထိုအခြင်းအရာကို ဒိဗ္ဗစက္ခုဖြင့် မြင်လေသည့်အတွက် ချက်ချင်းပင် ကမ္ဘဋ္ဌာန်းထိုင်ရာကထကာ အရှင်သာရိပုတ္တရာ ထံသို့ ပြေးလာလေသည်။

အရှင်သာရိပုတ္တရာကား မတုန်မလှုပ် ကျောက်ထုရုပ်ပမာ မြေကမ္ဗလာပေါ်၌ ငြိမ်သက်စွာပင်ရှိနေ၏။ ပျာယီးပျားယာနှင့် အရှင်မောဂ္ဂလာန် ရောက်ရှိလာပြီး–

"ငါ့ရှင် သာရိပုတ္တရာ ကျန်းခံ့သာတော်မူပါစ။ ဣရိယာပုတ်များ မျှတပါစ"ဟု မေးတော်မူလေမှ အရှင်သာရိပုတ္တရာသည် အရှင်မောဂ္ဂလာန်အား ရွှန်းရွှန်းစားစား ကြည့်လျက်–

"ငါ့ရှင် မောဂ္ဂလာန်၊ ကျန်းခံ့သာပါ၏။ မျှမျှတတရှိပါ၏။ သို့သော် ခေါင်းထဲက အတန်ငယ် မူးသလိုလိုဖြစ်နေသည်။ မဖြစ်စလောက် ဤသည့် ဝေဒနာကလေးတော့ဖြင့် ရှိပေ၏ ငါ့ရှင်"

အရှင်မောဂ္ဂလာန်သည် ဘီလူးက အရှင်သာရိပုတ္တရာ၏ ဦးခေါင်းကို တင်းပုတ်ကြီးဖြင့် တအားရိုက်လိုက်သည်ကို မြင်လိုက်သဖြင့် သူ့စိတ်တွင် စိစိညက်ညက် ကြေသွားလိမ့်မည် ထင်သောကြောင့် စိုးရိမ်တကြီးဖြင့် မေးသည့်တွင် "ဘာမှမဖြစ်ပါဘူး" ဟူသော စကားကို ကြားရသောအခါ များစွာ အံ့အားသင့်သွားလေသည်။

"ငါ့ရှင် သာရိပုတ္တရာ၊ အံ့ဖွယ်ရှိစွ။ မဖြစ်စဖူး ထူးဘိစွ။ ငါ့ရှင်ကား တန်ခိုးဣဒ္ဓိပါဒ်ကြီးသောအရာတွင် အံ့ဖွယ်ရှိပေစွ"

ဤသို့ ချီးကျူးရင်း ဘီလူး၏အပြုအမူမကောင်းဆိုးရွားသတင်းကို အရှင်သာရိပုတ္တရာအား ပြောပြလျှင် ဤတွင်မှ အရှင်သာရိပုတ္တရာလည်း အံ့အားသင့်သွား၏။

"ငါ့ရှင် မောဂ္ဂလာန်၊ ငါ့ရှင်၏တန်ခိုးသည်လည်း အံ့ဖွယ်ရှိစွ။ ဘီလူးကို စင်လျက်မြင်နိုင်စွမ်းရှိပေ၏။ ငါတို့ကား မြေဘုတ်ဘီလူးကြီးကိုသော်မှပင် မြင်နိုင်စွမ်း မရှိကြပါကုန်" ဟုဆို၏။

ထိုအချိန်တွင် မြတ်စွာဘုရားသခင်သည် ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်းတော်၌ သီတင်းသုံးတော်မူလျက်မှ ထိုအရှင်နှစ်ပါးတို့၏ အချင်းချင်း ပြောဆိုသောစကားကို အထူးကြည်လင်သော ဒိဗ္ဗသောတနားဖြင့် ကြားတော်မူလတ်သော် ဤသို့ ဥဒါန်းကျူးတော်မူသတည်း။

> အကြင်သမဏအား (ဝါ) အကြင်သမဏဖြစ်သူ၏ စိတ်သည် ကျောက်တောင်ကြီးကဲ့သို့ ကြံ့ခိုင်စွာတည်၏။ ထိုသမဏသည် စိုးစဉ်းမျှ တုန်လှုပ် ခြင်းမရှိ။ တပ်နှစ်သက်ဖွယ်၊ မက်မောဖွယ်၊ စုံမက်ဖွယ်အာရုံတို့၌ တပ်ခြင်းကင်း၏။ ခုံမင်နှစ်သက်မက်မောခြင်း စိုးစဉ်မျှမဖြစ်။ ဒေါသ အမျက်ဖြင့် မိမိအားတိုက်ဖျက်လာသူတို့ကို တုံ့ပြန်၍ အမျက်ထွက်ခြင်းမရှိ။ အကြင်သမဏသည် စိတ်ကို ဤသို့ ကြံ့ခိုင်စွာ ပွားများထား၏။ ထိုသမဏထံသို့ ဆင်းရဲဒုက္ခသည် အဘယ်ကြောင့် ရောက်နိုင်ချဉ်းကပ်နိုင်တော့မည်နည်း။

(ခုဒ္ဒကနိကာယ်၊ ဥဒါန်းပါဠိတော်၊ ယက္ခပဟာရသုတ်၊ ၁၂၅၊ ဆဋ္ဌမှ)

( ၁၂ )

# အရာခပ်သိမ်းကို လွှမ်းမိုးသောအရာ

အကြောင်းအရာတစ်ခုကို တွေးကြ၊ စဉ်းစား စူးစမ်းလိုသော ဆန္ဒသည် လူ့ဆန္ဒဖြစ်၏။ အဖြေတွေ့အောင်ရှာကြ၊ ဖွေကြ၊ လိုက်စားကြသည်။ အလေ့အထ ပြု၍ သုတေသနလုပ်ကြသည်။

ဤသို့ သုတေသနပြုခြင်းသည် ကောင်း၏။ သုတမယဉာဏ်ကို ပွားစေခြင်းပင်တည်း။ အမှန်တရားထွက်ပေါ်လာရေး စိန္တာမယဉာဏ်အတွက် ရောင်ခြည်ဦး မြူးသမ်းခြင်းဟူ၍ပင် ဆိုထိုက်သည်။ ဆိုနိုင်ပါသည်။

သုတေသန သန်းခေါင်စာရင်းတွင် လူတွေလည်းပါ၏။ နတ်တွေလည်း ပါကြ၏။ ဗြဟ္မာတွေလည်းပါကြ၏။ ထိုလူ၊ နတ်၊ ဗြဟ္မာဟု ဆိုအပ်သော သတ္တဝါတို့ကား အသိဉာဏ်၊ ဦးနှောက်ပါရှိသူများဖြစ်ကြသည့် အလျောက် မိမိတို့၏ ဉာဏ်ဦးနှောက်ကို အလကားထားလေ့မရှိကြ။ သိချင်သောအရာကို သိရမှ ကျေနပ်လေ့ရှိသည့်အတိုင်း တွေးကြ၊ ခေါ်ကြ၊ ကြံစည်ကြကုန်သည်။

"လူနှင့် တဖြည်းဖြည်း နီးနီးလာသောအရာကား အဘယ်နည်း။ လူနှင့် တဖြည်းဖြည်း ဝေးဝေးသွားသောအရာကား ဘယ်ဟာပါလိမ့်ဟူ၍လည်းကောင်း၊ လောကခေတ် ထက်ဝန်းကျင်၌ အကြီးဆုံးသောအရာကား ဘယ်ဟာ၊ အငယ်ဆုံး သောအရာကား ဘယ်သင်းဟူ၍လည်းကောင်း၊ အဘယ်အရာက ကမ္ဘာကို လွှမ်းမိုး နေလေသနည်း။ အဘယ်အရာက ကမ္ဘာသားတို့အား တုတ်တုတ်မျှမလှုပ်နိုင်အောင် ချုပ်ကိုင်ထားလေသနည်း"ဟူ၍လည်းကောင်း၊ တအုံ့နွေးနွေးဖြင့် အတွေးနယ် ကျွံနေကြသည့်အထဲတွင် လူလည်း မရှား၊ နတ်လည်း မရှား၊ ဗြဟ္မာလည်း မရှားလှ။

မှန်ပါသည်။ လွန်ခဲ့သောနှစ်ပေါင်း ၂၅၀၀ ကျော်ခန့်အချိန်က အတွေးနယ်ကျွံနေသူ နတ်များရှိခဲ့ဖူးသည်။ နတ်သားတစ်ဦးကဆိုလျှင် သူ့မှာ ဖြစ်ရှိနေသော ပြဿနာကြီးကို တပိုက်ပိုက်နှင့် အဖြေထွက်လိုထွက်ငြား ဆရာ့အကူကိုမယူလေဘဲ ကိုယ်ပိုင်ဉာဏ်ဖြင့် နှိုက်နှိုက်နဲ့နဲ့တွေးခဲ့၊ ကြံခဲ့ဖူး၏။ သို့သော် ကာလသာ နှောင်းချေသည်။ အဖြေကားထွက်မလာချေ။ ကိုယ်ပိုင်ဉာဏ်ဖြင့် တွေးကြံ၍မရသည့် အဆုံးတွင် ထိုနတ်သားသည် စိတ်နှလုံးကို တုံးတုံးချကာ နေရာမှထ၍ ဦးခေါင်းငိုက်စိုက်နှင့် ထွက်လာခဲ့သည်။

ထိုအချိန်မှာ ညဉ့်သန်းခေါင်ယံ အချိန်ဖြစ်၏။ ဘုရားသခင် သီတင်းသုံးနေတော်မူရာ ဇေတဝန်ကျောင်းတော်ကြီးသည် ညဉ့်လွှာရုံအောက်သို့ ရောက်ရှိနေ၏။ လောကဓာတ် ထက်ဝန်းကျင်မှာလည်း ငြိမ်သက်တိတ်ဆိတ်ကာ အိပ်မောကျသကဲ့သို့ ရှိနေ၏။ မှောင်ထုအောက်တွင် အရာခပ်သိမ်းတို့သည် ပြတ်သားခြင်းမရှိ မှုန်ဝါးဝါးသာ ဖြစ်နေကုန်၏။

ထိုညဉ့်သန်းခေါင်းယံအချိန်တွင် ရုတ်တရက် လင်းထိန်လာသဖြင့် ဇေတဝန်ကျောင်းတော်ကြီးမှာ အဖွေးသားပေါ်လာပြီး ကျောင်းတော်၏ ရှေ့တွင် ထိုနတ်သားကို တွေ့ရ၏။ ကျောင်းတော်လှေကားဦးအရောက်တွင် ဘုရားသခင်ထံတော်သို့ဝင်ရန် အခါအခွင့်ကို လင့်နေဟန်တူ၏။ ယောင်လည်လည်နှင့် ဖြစ်နေသည်။

ထိုနောက် ထိုနတ်သားသည် မိမိရင်တွင်းဝယ် မရှင်း မရှင်း လိပ်ခဲတည်းလည်းဖြစ်နေသည့် ပြဿနာထုပ်ကြီးကိုပိုက်လျက် ကျောင်းတော်ပေါ်သို့ တက်သွားပြီးနောက် လက်အုပ်ချီ၍ ဘုရားသခင့် ရှေ့တော်သို့ဝင်ပြီးလျှင် ပြဿနာထုပ်ကြီးကို ဖွင့်ကာ ဘုရားသခင်အား မေးလျှောက်ခြင်းပြုလေ၏။

**နတ်သားမေး**။ ။ဘုန်းတော်ကြီးသောအရှင်ဘုရား၊ ၁။ ဤကမ္ဘာလောကကြီးတွင် သက်ရှိသက်မဲ့အားလုံးကို အဘယ်အရာက လွှမ်းမိုးပါသနည်း။ ၂။ အဘယ်ထက်လွန်ကဲသောအရာ မရှိပါသနည်း။ ၃။ အဘယ်အရာတစ်ခု၏ အလိုသို့ သက်ရှိ သက်မဲ့ အားလုံးတို့က လိုက်လျောနေကြရပါသနည်း ဘုရား။

သန်းခေါင်းယံအချိန် ရဟန်းသံဃာတော်များ ကျိန်းစက်တော်မူနေကြစဉ် ဘုရားထံဝင်၍ ဤသို့ မေးမြန်းလျှောက်တင်လေ၏။

ဘုရားသခင်တို့မည်သည် အကြောင်းထူးတွေ ရှိခဲ့ချေသော် သိတော်မူလျက်နှင့်လည်း မေးတော်မူလေ့ရှိ၏။ ပြဿနာပြု၍ မေးလျှောက်လာသော်ငြားလည်း ယင်းပြဿနာအတွက် အကျိုးမရှိ၊ အမြတ်အစွန်းမထွက်ခဲ့သော် ထိုပြဿနာကို ဖြေတော်မူလေ့မရှိ။ ဤကား ဗုဒ္ဓဓမ္မတာဖြစ်ပေ၏။

စပယ်ဦးစာပေ

အ,ကာလည၌အခါတွင် မေးလျှောက်လာသော ထိုနတ်သား၏ မေးခွန်းကို ဖြေဆိုတော်မူသည်ကို ထောက်ခြင်းအားဖြင့် ထိုပြဿနာ၏အဖြေမှာ ကမ္ဘာသူ ကမ္ဘာသားအားလုံးတို့အတွက် အကျိုးသက်ရောက်စေသောအဖြေ ဖြစ်သောကြောင့် အောက်ပါအတိုင်း ဖြေကြားတော်မူလေ၏။

**ဗုဒ္ဓ ဖြေ**။ ။ငါ့ထံမှောက်သို့ သိလိုရေးနှင့် မေးလျှောက်လာငြား အိုဒါယကာ နတ်သား၊ ၁။ ဤကမ္ဘာလောကကြီးတွင် ရှိရှိသမျှ သက်ရှိသက်မဲ့အရာ အားလုံးကို လွှမ်းမိုးထားသည်ကား ခေါ်တွင်စရာအမည်သညာဟု ဆိုအပ်သော နာမသာလျှင် ဖြစ်ချေ၏။ ၂။ ထိုထိုခေါ်တွင်စရာ နာမည်ထက် လွန်ကဲသောအရာ မည်သည်လည်းမရှိ။ ၃။ တစ်ခုတည်းသာဖြစ်သော ထိုနာမ်၏ အလိုသို့ ကမ္ဘာနှင့်ချီ၍ သက်ရှိသက်မဲ့အားလုံးတို့က လိုက်လျောကြကုန်၏ဟု မြွက်ကြားတော်မူ၏။

ထိုအခါ နတ်သားသည် "ငါ့လျှောက်ထားချက်ကို ဘုရားသခင်လက်ခံခွင့်ပြုတော်မူပြီ"ဟု ဗုဒ္ဓမြတ်ဘုရားအား ရိုသေစွာ ရှိခိုးပြီးလျှင် ထိုနေရာကွယ်လေ၏။

(အမည်သညာခေါ်သော နာမ်လွတ်သည့် သတ္တဝါ၊ သင်္ခါရမရှိ၊ အမည်မဲ့သော လူ၊ မြို့၊ ရွာ စသည်မရှိ။ လူတိုင်း လူတိုင်း၊ ရွာတိုင်း၊ ရွာတိုင်း၊ မြို့တိုင်း မြို့တိုင်းကို နာမ်ကလွှမ်းမိုး ကြီးစိုးနေ၏။ အရာခပ်သိမ်းတို့အပေါ်တွင် နာမ်လောက် လွှမ်းမိုးသောအရာမရှိ။ အရာခပ်သိမ်းတို့သည် နာမ်အောက်သို့ ကျရောက်ကြရသည် ချည်းဖြစ်၏။ နာမ်ထက်မိုကဲသာလွန်သောအရာ ကမ္ဘာမှာမရှိဟု ဆိုခြင်းပင်တည်း။

(သဂါထာဝဂ္ဂသံယုတ်ပါဠိတော်၊ ဒေဝတာသံယုတ်၊ အဒ္ဓဝဂ်၊ ၃၆၊ ဆဋ္ဌမှ)

( ၁၃ )

# သိပ္ပံ

သိပ္ပံသည် အရေးကြီးသော အတတ်ပညာတစ်ရပ်ဖြစ်၏။ ရှေးနီတိဆရာကြီးတို့သည် သိပ္ပံနှင့်ပတ်သက်၍ နီတိဆောင်ပုဒ်ပေါင်းများစွာတို့ကို ထုတ်၍ ထားခဲ့ကြသည်ကို ထောက်ခြင်းအားဖြင့် လောကီလူသားတို့အဖို့ သိပ္ပံသည် အဘယ်မျှ အရေးကြီးကြောင်း သိသာနိုင်၏။

သိပ္ပံ=လက်မှုပညာ အစရှိသော အတတ်နှင့်၊ သမံ=တူမျှသော၊ ဓနံ=ဥစ္စာမည်သည်၊ နတ္ထိ=မရှိ။ ဥစ္စာတို့တွင် အတတ်ပညာ ဥစ္စာသည် အမြတ်ဆုံးဟု ဆိုခြင်းပင်တည်း။

တစ်ဖန် အသိပ္ပဿ=အသက်မွေးဝမ်းကျောင်းမှု၊ အားကိုးပြုစရာ အတတ်ပညာတစ်ခုမျှ မရှိသူအား၊ ဓနံ=ဥစ္စာသည်၊ ကုတောအတ္ထိ=အဘယ်မှာ ရရှိနိုင်ပါမည်နည်းဟူ၍ ဥစ္စာစီးပွား ရရှိဖြစ်ထွန်းမှုတွင် သိပ္ပံသာ အဓိကဖြစ်ကြောင်းဖြင့် ရည်ညွှန်းချက်များမှာလည်း အထင်အရှားပင် ရှိပြန်ချေ၏။

မင်္ဂလာတရားတော်၌လည်း သိပ္ပဉ္စ=လက်မှုပညာ အစရှိသော ထိုထိုဤဤ အလီလီသော အသက်မွေးဝမ်းကျောင်းပညာရပ်များကို တတ်ရခြင်းသည်၊ မင်္ဂလံ= မင်္ဂလာမည်၏ဟု ဗုဒ္ဓမြတ်ဘုရားကိုယ်တိုင် မြွက်ကြားတော်မူချက်များလည်း အထင်အရှားပင် ဖြစ်သည်။

ထိုသိပ္ပံပညာတစ်ရပ်ရပ်ကို ဟုတ်တိပတ်တိ တတ်မြောက်ထားလျှင် ရာသက်ပန် အားကိုးရ၏။ ပူပန်ကြောင့်ကြဖွယ်မရှိ။ ထို့ကြောင့်ပင် "အတတ်ပညာ တစ်ခုခုကို မလုပ်ချင်လျှင်နေ၊ တတ်ထားလျှင်ကောင်းသည်"ဟု ဆိုစမှတ် ပြုကြကုန်သတည်း။

ပညာသင်ကြားလျှင် တတ်တတ်တူတူ တတ်ပါမှ ထိုအတတ်က လူကို အကျိုးပြုနိုင်မည်ဖြစ်သောကြောင့် မစိုမပို တတ်ယောင်ကားပညာမျိုးမဖြစ်စေဘဲ၊ ပိုင်ပိုင်နိုင်နိုင် ပညာကို အခြေခိုင်အောင် သင်ကြားကြရသည်။

ပညာသင်ကြားရာ၌ ရှေးကသင်နည်းမှာ နှေးခြင်း၊ မြန်ခြင်းသည် အကြောင်းမဟုတ်။ နှေးချင်နှေးစေ၊ အသက်မွေးဝမ်းကျောင်းမှု ပြုနိုင်လောက်အောင် တကယ် တတ်တတ်တူတူ တတ်မြောက်ရေးကိုသာ ရှေးရှုသင်ကြားလေ့ရှိကြ၏။ ရက်တို သင်တန်းမဟုတ်ဘဲ ရေရှည်သင်တန်းတစ်ရပ်အဖြစ်ဖြင့် ခြေခြေမြစ်မြစ်ရှိအောင် သင်ကြားကြရ၏။

ထိုထိုအတတ်သိပ္ပံများသည် လူတို့ အသက်မွေးမှုအတွက် အသုံးချအပ်သော ကြောင့် လူမှုကိစ္စဖြစ်၍ လူနှင့်သာ သက်ဆိုင်သည့် ပညာရပ်များဖြစ်ကုန်၏။ ရဟန်းတို့အတွက် မဟုတ်ကုန်။

သို့သော် ရဟန်းတော်များသည် ပရူပဇီဝီ=လူ တည်းဟူသော သူတစ်ပါးကိုမှီ၍ အသက်မွေးကြရသူများ ဖြစ်သောကြောင့် လူနှင့်ကင်းနိုင်ကြသည်မဟုတ်ကုန်။ လူနှင့်မကင်းသောကြောင့်လည်း လူနှင့်ပတ်သက်ရာ ပတ်သက်ကြောင်းတို့ကို ရံဖန်ရံခါ စကားစပ်မိတတ်ကြကုန်၏။ ရဟန်းတို့နှင့် မဆက်ဆံသော လူ့သိပ္ပံ စကားသည် ရဟန်းတို့၏ အကြားသို့ ရောက်လာတတ်၏။

မှန်ပါသည်။ အချိန်မှာ ဆွမ်းစားပြီးချိန်ဖြစ်၏။ ဇေတဝန်ကျောင်းတိုက် ကြီးအတွင်း၌ အချို့ရဟန်းတော်များသည် ဆွမ်းစားပြီး၍ သပိတ်ဆေးနေကြကုန်ဆဲ၊ အချို့က ဆွမ်းစားကျောင်း၌ တံမြက်လှည်းနေကြဆဲ၊ အချို့တို့ကမူ 'မဏ္ဍလမာဠ' ခေါ်သော သံဃာ့အစည်းအဝေးကျင်းပရာ ခန်းမဆောင်ကြီးသို့ ရောက်ရှိနေကြလေပြီ။

ထိုရဟန်းတို့သည် နံနက်ခင်းအကျိန်က သာဝတ္ထိမြို့တွင်း၌ ဆွမ်းခံခဲ့စဉ် အတတ်သိပ္ပံတစ်ခုခုကို အမှီပြု၍ လူတို့လုပ်ကိုင်နေကြပုံကို အာရုံပြုကာ စိတ်ဝင် စား လာခဲ့ကြဟန်တူ၏။ သို့ကြောင့်ပင် ရပ်စကား ရွာစကားသည် ကျောင်းသို့ တိုင်အောင် ပါလာခြင်း ဖြစ်တန်ရာသည်။

အစည်းအဝေး ခန်းမဆောင်အတွင်းတွင် တဖြည်းဖြည်း သံဃာများ ပြည့် မလောက် ရောက်ရှိလာချိန်တွင် လူ့စကားသည် သံဃာကြားသို့ ထိုးဖောက် ဝင် ရောက်လာ၏။ အဘယ်ပုဂ္ဂိုလ်က မြွက်ဆိုဟစ်ကြွေးလိုက်သည်မသိ၊ အသံတစ်ခုသည် သံဃာတော်များ၏ နားတွင်းသို့ ဆုပ်သွင်းလိုက်သလို—

"အို–အရှင်သူမြတ်တို့၊ ဤသံဃာပရိသတ်ဘောင်တွင် အဘယ်အရှင်သည် သိပ္ပံအကြောင်းကို ကောင်းကောင်းသိပါသနည်း။ အဘယ်ကိုယ်တော်သည် အဘယ် သိပ္ပံပညာကို သင်ခဲ့ဖူးပါသနည်း။ သိပ္ပံပညာရပ်ထဲတွင် အဘယ်ပညာရပ်သည် မြတ်ပါသနည်း"

သံဃာ့ပရိသတ်ကြားမှ ပဲ့တင်ထပ်၍ ထွက်လာသော ထိုပုစ္ဆာစကားကြောင့် ရဟန်းတို့သည် လှုပ်လှုပ်ရှားရှားဖြစ်လာကုန်၏၊ အချို့က လည်တိုင်ကိုဆန့်လျက် ပုစ္ဆာရှင်ကို ရှာသော မျက်လုံးဖြင့် ပရိသတ်ကိုသုံးသပ်ကြည့်ရှုကြကုန်၏။ အချို့က "ဘယ်ထောင့်က အဖြေထွက်လာမည်နည်း"ဟူ၍ မျှော်တလင့်လင့် အာရုံစွင့်လျက် ရှိနေကုန်၏။

ထောင့်တစ်ထောင့်မှ ရဟန်းတစ်စုကထ၍ ရှေးဦးစွာ ဖြေကြားလေပြီ။ "အတတ်ပညာရပ်တို့တွင် ဆင်စီးခြင်းအတတ်သည် အမြတ်ဆုံး"ဟုဆို၏။ အချို့က မြင်းစီးခြင်းအတတ်သာ အမြတ်ဆုံးဟု ဖြေကြသည်။ အချို့က ရထားကို အနေး အမြန်ကို လိုသလိုရရှိအောင် မောင်းခြင်းအတတ်သာ အမြတ်ဆုံးဟု တင်ပြကြသည်။

အချို့ကလည်း လေးမြားအတတ်သာ အမြတ်ဆုံးဟူ၍လည်းကောင်း၊ အချို့က သန်လျက်အတတ်သာ အမြတ်ဆုံးဟူ၍လည်းကောင်း၊ အချို့က ဂဏန်းသင်္ချာအတတ်သာ အမြတ်ဆုံးဟူ၍လည်းကောင်း၊ အချို့က ခရုသင်းမှုတ်ခြင်း အတတ်သာ အမြတ်ဆုံးဟူ၍လည်းကောင်း၊ အချို့က စာရေးခြင်းအတတ်သာ အမြတ်ဆုံးဟူ၍လည်းကောင်း၊ အချို့က ကဗျာအတတ်သာ အမြတ်ဆုံးဟူ၍ လည်းကောင်း၊ အချို့ တံခါးမှူးအတတ် သို့မဟုတ် စကားပြန်အတတ်သာအမြတ်ဆုံး ဟူ၍လည်းကောင်း အသီးသီး မိမိတို့၏ အယူအဆကို တင်ပြဖြေဆိုကြကုန်၏။

ဤသို့ သိပ္ပံပညာရပ်နှင့်ပတ်သက်၍ အမြတ်ဆုံး သိပ္ပံကို သံဃာ့သဘင်၌ တင်ပြဆွေးနွေးကြရာ အချိန်မှာ ညနေစောင်းသွားသည့်တိုင်အောင် တိကျသောအဖြေ အားရကျေနပ်လောက်သော အဖြေကား မထွက်လာသေး။

ထိုခဏဝယ် သံဃာအားလုံးသည် ရုတ်ခနဲ လက်အုပ်ချီလိုက်ကြရာ သံဃာတို့ မျက်နှာမူရာဘက်မှ ဘုရားသခင်ကြွဝင်တော်မူလာပြီး ခင်းထားအပ်သောနေရာတွင် ထိုင်တော်မူရင်းမှ "ချစ်သားရဟန်းတို့"ဟု ခေါ်တော်မူ၏။ ရဟန်းတို့လည်း တညီ တညွတ်တည်းပင် "အရှင်ဘုရား"ဟု ထူးကြကုန်၏။ "ငါကြွမလာခင် စပ်ကြား၌ သင်တို့ အဘယ်စကားဖြင့် ဆွေးနွေးနေကြကုန်သနည်း။ သင်တို့ဆွေးနွေးဆဲ၊ မပြီးမပြတ် ရပ်ထားလိုက်သောစကားမှာ အဘယ်စကားနည်း"ဟူ၍ မေးတော်မူ၏။

ထိုအခါ ရဟန်းတို့က သိပ္ပံအကြောင်းကို ဆွေးနွေးနေကြပါကြောင်း လျှောက်ကုန်လတ်သော် ရဟန်းတို့အား ဤသို့ မြွက်ကြားတော်မူသတည်း။

"အို-ချစ်သားရဟန်းတို့၊ ရဟန်းတို့နှင့် မသက်လားသောလူတို့စကားကို သင်တို့ဆိုပြောနေကြကုန်၏၊ သဒ္ဓါတရားကို အရင်းတည်လျက် ဃရာ ဝါသ ကိစ္စများမြောင် လူတို့ဘောင်ကို စွန့်ခွာခဲ့ပြီး မြတ်သောရဟန်းအဖြစ်သို့ ရောက်ရှိ လာကုန်သော အမျိုးကောင်းသားဖြစ်ကြသည့် သင်တို့အား ဤသို့ ဆိုပြောခြင်းသည် မလျောက်ပတ်။

"အိုရဟန်းတို့၊ သံဃာ့သဘင်၌ စည်းဝေးကြသော သင်တို့အား တရားနှင့်ယှဉ်သောစကားကိုလည်း ပြောဆိုနေ၊ သို့မဟုတ် တုဏှိဘာဝေ ဆိတ်ဆိတ်သော်လည်း နေ၊ ဤနှစ်မျိုးပြုသင့်၏" ဟု ရဟန်းတို့အား ဩဝါဒစကား မြွက်ကြားတော်မူပြီးလျှင် ထိုအချိန်မှာပင် ဤသို့ ဥဒါန်းကျူးတော်မူသတည်း။

"အတတ်ပညာမဲ့ အသက်မွေးခြင်းသည် ဝန်ပေါ့၏။ နိဗ္ဗာန်အကျိုးကို လိုလားသည်ဖြစ်၍ အိမ်ရာတည်ထောင်ခြင်းလည်း မရှိလေဘဲ၊ ငါ့ဟာ ငါ့ဟာဟူ၍ တပ်မက်စွဲလမ်းမှုလည်း မရှိလေဘဲ တောင့်တခြင်းကင်းလျက် တည်ငြိမ်သောဣန္ဒြေရှိသော ရဟန်းသည် ဆင်းရဲအပေါင်းမှ လွတ်မြောက်၏။ ထိုရဟန်းမျိုးကား ထောင်လွှားခြင်းကိုပယ်၍ တစ်ယောက်တီးတည်းသာ နေသတည်း"

ဥဒါန်းစကား ကျူးရင့်သည့်အဆုံးတွင် အားလုံးသော ရဟန်းတို့သည် လွှန်မင်းစွာ နှစ်သက်ကြလေကုန်၏။

(ခုဒ္ဒကနိကာယ်၊ ဥဒါန်းပါဠိတော်၊ နန္ဒဝဂ်၊ သိပ္ပသုတ်၊ ၁၁၃၊ ဆဋ္ဌမူ)

## ( ၁၄ )

# သံယောဇဉ်

မေးစဉ်အခါ၌ မေးခွန်းသည် မေးခွန်း၊ ပြဿနာသည်လည်း ပြဿနာအဖြစ်၌သာ တည်ရှိနေပေသေးသည်။ ဂန္ထဝင်မဖြစ်လာသေး။ အဖြေသည်လည်း ဖြေစဉ်အခါက အဖြေအဖြစ်သာ တည်ရှိနေလေသေးသည်။ ဂန္ထဝင်မဖြစ်လာသေး။ "ဘုရားဟော ဒေသနာတော်"ဟူ၍ မော်ကွန်းမတင်ရသေး။

နောင်သောအခါ ယင်းအမေးအဖြေများကို စုစည်း၍ စာပေကျမ်းဂန်အဖြစ် တစ်စောင်တစ်ဖွဲ့ ပြုစုထားသောအခါရောက်မှ "ဘုရားဟော ဒေသနာ"ဟူ၍ တွင်လာသည်။

အများအားဖြင့် ပိဋကတ်တော်များတွင် ဗုဒ္ဓရှင်တော်မြတ်ဘုရားအား လူတန်းစား၊ နတ်တန်းစား၊ ဗြဟ္မာတန်းစား၊ ရဟန်းတန်းစားနှင့်တကွ ယုတ်စွအဆုံး တိရစ္ဆာန်တန်းစား အမျိုးမျိုးက မေးလျှောက်သော အမေးပုစ္ဆာများ၊ ယင်းတို့၏ အဖြေများနှင့် ပြွမ်းထူလျက်ရှိနေသည်ကို တွေ့ရ၏။ ခေတ်စကားနှင့်ဆိုသော် ပိဋကတ်တော်များသည် အမေးအဖြေပေါင်းချုပ် အသွင်ကို ဆောင်ပေသည်ဟု ဆိုနိုင်ပေရာသည်။

ဗုဒ္ဓမြတ်ဘုရားထံ ချဉ်းကပ်၍ မေးလျှောက်သည့် မေးခွန်းပုစ္ဆာများအနက် နတ်၊ သိကြား၊ ဗြဟ္မာများကမေးသော မေးခွန်းတို့ကို အတော်များများ တွေ့ရ၏။

မေးသောအချိန်ကို ကြည့်ပြန်သော် သန်းခေါင်ယံအချိန် ဖြစ်ကြောင်းကို မင်္ဂလသုတ် ဇဝံမေသုတံကို ထောက်ခြင်းအားဖြင့် ထင်ရှားသည်။ သန်းခေါင်ယံအချိန်သည် နတ်များအတွက် မေးချိန်ကဲ့သို့ ဖြစ်နေပေသည်။

ညတစ်ည၏ သန်းခေါင်ယံအချိန်က ဖြစ်ပါ၏။ ထိုအချိန်တွင် နတ်သား တစ်ပါးသည် ဘွားခနဲ ဇေတဝန်ကျောင်းရှေ့သို့ ရောက်လာပြီး လှေကားဦးတွင် ရပ်လျက် "ဘုရားသခင်များ ကျိန်းစက်တော်မူနေမည်လား၊ အနှောင့်အယှက်ပေးရာ များ ကျလေမည်လား"ဟူ၍ အတန်ကြာအောင် စဉ်းစားနေသေးသည်။

ထို့နောက် "ဗုဒ္ဓမြတ်ဘုရား ကျိန်းစက်တော်မမူသေး"ဟူ၍ သူ့တန်ခိုး ဣဒ္ဓိပါဒ်ဖြင့် သိ၍ပေလား၊ သို့မဟုတ် သူ့အဖို့အရေးကြီးသော ပြဿနာဖြစ်နေ၍ ပေလား မပြောတတ်။ ထိုနတ်သားသည် ရုတ်တရက် ဇေတဝန်ကျောင်းတော်ကြီး ပေါ်သို့ တက်သွားပြီးသည့်နောက် မကြာခင်အတွင်းမှာပင် နတ်သား၏ မေးလျှောက် သံကိုလည်းကောင်း၊ ဗုဒ္ဓမြတ်ဘုရားက မြွက်ကြားလိုက်သော ဖြေဆိုသံကို လည်း ကောင်း ကြားလာရ၏။

**မေး**။ အရှင်ဘုရား၊ လောကကို အဘယ်အရာက နှောင်ဖွဲ့ထားပါသနည်း။ ထိုလောကကို တည်မြဲအောင် ထောက်ခံသော အောက်ခြေကား အဘယ် ပါနည်း။ အဘယ်အရာမှကင်းသော် နိဗ္ဗာန်ဟုခေါ်ပါသနည်း။

**ဖြေ**။ အိုနတ်သား၊ လောကကိုနှောင်ဖွဲ့ထားသည်ကား သံယောဇဉ်ဖြစ်ပေ၏။ ထိုလောကကို တည်တံ့ခိုင်မြဲအောင် ထောက်ခံထားပေသည်ကား တွေးကြံမှု 'ဝိတက်'ဖြစ်၏။ တပ်မက်မှု 'တဏှာ'မှ ကင်းသော် နိဗ္ဗာန်ဟူ၍ ခေါ်အပ်၏။ ဤသို့ မှတ်လေလော့။

ထိုအမေးအဖြေကို သံဂါယနာတင်လိုက်သောအခါ သဂါထာဝဂ္ဂသံယုတ် ပါဠိတော်၊ ဒေဝတာသံယုတ်၊ အဒ္ဓဝဂ် လေးခုမြောက်ဖြစ်သော 'သံယောဇနသုတ်' ဟူ၍ ဖြစ်လာ၏။ ဂါထာအမေးတစ်ပုဒ် အဖြေတစ်ပုဒ်မျှသာပါ၏။

နိဒါနဝဂ္ဂသံယုတ် ပါဠိတော်၊ ဒုက္ခဝဂ်၊ သုံးခုမြောက်၌ကား မြတ်ဘုရားသည် လျှောက်ထားသူမရှိဘဲ အကျိုးတရားများ ပွားစေခြင်းမှာ 'သံယောဇဉ်'တရားကို ရဟန်းတို့အား အကျယ်ပွား၍ ဟောကြားဟော်မူခဲ့လေသည်။

"ချစ်သားတို့၊ နှောင်ဖွဲ့ကြောင့် သံယောဇဉ်၏အကြောင်းဖြစ်သော တရားတို့၌ 'သာယာဖွယ်'ဟု အောက်မေ့နေသူအား တပ်မက်မှု 'တဏှာ'ပွား၏။ တဏှာ အကြောင်းခံကြောင့် ပြင်းစွာ စွဲလမ်းမှု 'ဥပါဒါန်' ဖြစ်၏။ ဥပါဒါန်အကြောင်းခံ ကြောင့် 'ဘဝ'ဖြစ်၏။ ဘဝအကြောင်းခံကြောင့် ပဋိသန္ဓေနေမှု 'ဇာတိ' ဖြစ်၏။ ဇာတိအကြောင်းခံကြောင့် အိုခြင်းဇရာ၊ သေခြင်းမရဏ၊ စိုးရိမ်ခြင်း သောက၊ ငိုကြွေးခြင်း ပရိဒေဝ၊ ဆင်းရဲခြင်းဒုက္ခ၊ နှလုံးမသာယာခြင်း ဒေါမနဿ၊ ပြင်းစွာ ပူပန်ခြင်း ဥပါယာသတို့ ဖြစ်ကုန်၏"

ဤသို့ အခြေခံအားဖြင့် သံယောဇဉ်ဖြစ်ကြောင်း တရားကိုဟောကြားတော်မူရုံတွင်မကဘဲ သံယောဇဉ်၏အသွင်ကို မြင်လာအောင် ဥပမာအမျိုးမျိုးဖြင့် လက်ညှိုးထိုး၍ ဟောတော်မူပြန်လေသည်။

"ချစ်သားတို့၊ ဥပမာအားဖြင့် ဆီရှိ၏။ မီးစာရှိ၏။ ယင်းဆီနှင့်မီးစာကို အကြောင်းခံ၍ မီးစာ၌ မီးစွဲလောင်ခြင်းဖြစ်လာ၏။ ဆီမီးဟူ၍ ဖြစ်လာ၏။ ဆီခန်းသွားလျှင် ဆီထပ်လောင်းပေးခြင်း၊ မီးစာကျွမ်းသွားလျှင် အသစ်လဲပေးခြင်း အားဖြင့် ထိုဆီမီးသည် ချုပ်ငြိမ်းမသွားလေတော့ဘဲ အလျှံတပြောင်ပြောင် တောက်လောင်ကာသာနေ၏။

"ချစ်သားတို့၊ ထို့အတူသာလျှင် တေဘူမက တရားတို့၌ တဏှာကြိုက်၊ တဏှာ၏ဓာတ်စာဖြစ်သော သာယာဖွယ်တို့သည် များလှစွာကုန်၏။ ယင်းတို့ကို သာယာသူအား တဏှာပွား၏။ တဏှာပွားသော် စွဲလမ်း၏။ စွဲလမ်းသော် ဘဝဟူ၍ ဖြစ်လာ၏။ ဘဝဖြစ်လာသော် ဇာတိဖြစ်၏။ ဇာတိဖြစ်လာသော် အိုခြင်း၊ နာခြင်း၊ သေခြင်း၊ စိုးရိမ်ခြင်း၊ ငိုကြွေးခြင်း၊ ဆင်းရဲခြင်း၊ နှလုံးမသာယာခြင်း၊ ပြင်းစွာပူပန်ခြင်းတို့ဖြစ်လာကုန်၏။ ယင်းတို့ကို သာယာခြင်းမရှိသော် တဏှာစသည်တို့ ဖြစ်ခွင့်၊ ပွားခွင့် မရလာတော့ဘဲ အကုန်လုံးချုပ်ကုန်လေ၏။ လောင်နေသော ဆီမီးခွက်၌ နောက်ထပ် ဆီလည်းမလောင်း၊ မီးစာလည်းမလဲသဖြင့် မီးငြိမ်းသွားသည်နှင့် အလားတူ၏"

ဤသို့ သံယောဇဉ်တရားကို အကျယ်အားဖြင့် ဟောကြားတော်မူပြီးနောက် ဖြူရာတွင် ခဝါပေးသော် ပို၍ဖွေးလာသည် ဆိုသကဲ့သို့ ဆက်လက်၍ ဒုတိယ သံယောဇနသုတ်ကို ဥပမာဖြင့် တန်ဆာဆင်လျက် သိထင်၊ မြင်လွယ်အောင် ဟောကြားတော်မူပြန်၏။ ထိုမှတစ်ဖန် မဟာရုက္ခသုတ်ကိုလည်း သံယောဇဉ်ကို သစ်မြစ်များနှင့် ဥပမာပြု၍ အောက်ပါအတိုင်း ဟောတော်မူပြန်သည်။

"ချစ်သားတို့၊ ဥပမာအားဖြင့် သစ်ပင်ကြီးတစ်ပင်ရှိ၏။ ထိုသစ်ပင်ကြီးကို လူတစ်ယောက်က အရင်းကလှဲပစ်၏။ မြေကိုတူးဆွ၍ အမြစ်တွေပါ မကျန်အောင် နုတ်ပစ်၏။ ထိုယောကျ်ားသည် ခုတ်လှဲပြီးသစ်တုံးကြီးကို တစ်ဖန် အပိုင်းပိုင်းဖြတ်၊ အစိတ်စိတ်အမွှာမွှာခွဲ၊ အခြောက်လှန်း၊ ခြောက်သယောင်းသွားသောအခါ မီးရှို့၍ ပြာဖြစ်သောအခါ ရေထဲမျှောလိုက်လေ၏။

"ချစ်သားတို့၊ ဤသို့ပြုသည်ရှိသော် ထိုသစ်ပင်ကြီးကား အဘယ်မှာလျှင် ပြန်၍ရှင်နိုင်ပါတော့မည်နည်း။ ဘဝဓာတ်သိမ်းချုပ်ငြိမ်းသွားမည်သာဖြစ်ပေ၏။ ထို့အတူ လောကီအာရုံ ကာမဂုဏ်တရားတို့၌ ခုံမင်ခြင်း မဖြစ်လေဘဲ လုံးဝ ဖြတ်တောက်လျှင်မူကား သံယောဇဉ် ဓာတ်စာဖြစ်သော တဏှာစသည်တို့ ချုပ်ငြိမ်းကာ ပုထုဇဉ် ဓာတ်သိမ်းမည်သာ ဖြစ်ပေ၏။

တစ်ဖန် ကရုဏာရုက္ခသုတ်ကို ဆက်၍ သံယောဇဉ်ကို သစ်ပင်ပျိုနှင့်နှိုင်း၍ အကျယ်တဝင့် ဖွင့်တော်မူပြန်၏။

"ချစ်သားတို့၊ ဥပမာအားဖြင့် နုပျိုသော သစ်တစ်ပင်ရှိ၏။ ထိုသစ်ပင်ကို နေ့ရှိသမျှ အရိပ်တကြည့်ကြည့်နှင့် အခါအလိုက်၊ ဥတုရာသီအလိုက် ထိုက်ထိုက်တန်တန် ရေလောင်းတန်လျှင် လောင်း၍ ပေါင်းသင်မြက်နုတ်တန်လျှင် နုတ်ပေးပြီး မြေဩဇာကျွေးတန်လျှင် ကျွေးခြင်းပြု၏။ ဤသို့ ဂရုတစိုက် ပြုစုသည်ရှိသော် ထိုသစ်ပင်ကား ကြီးထွားလာသတည်း။

"ချစ်သားတို့၊ ထို့အတူ သံယောဇဉ်၏ အကြောင်းဖြစ်သော လောကီအာရုံ အဖုံဖုံတို့၌ ခံမင်သာယာခြင်း အလျှင်းမရှိရအောင် သတိကြီးစွာထား၍ ရှုလေ့ရှိသူအား တပ်မက်မှုတဏှာ၊ ပြင်း၊ ပစ္စွဲလမ်းမှုဥပါဒါန် စသည်တို့သည် အမြစ်ပါ မကျန်အောင် အကုန်ပြုတ်လေ၏"ဟု ဟောတော်မူ၏။ သံယောဇဉ်ပြတ်အောင် တပ်မက်မှု တဏှာစသည်တို့ကို ကိုယ်သို့ မကပ်လာနိုင်အောင် ဖြတ်ကြလေကုန်လော့ဟု ဆိုခြင်းပင်တည်း။

(သံယုတ္တနိကာယ်၊ နိဒါနဝဂ္ဂသံယုတ် ပါဠိတော်၊
သံယောဇနသုတ်၊ ဒုတိယ သံယောဇနသုတ်၊ မဟာရုက္ခသုတ်နှင့်
ကရုဏာရုက္ခသုတ်၊ ဆင့်မှု)

( ၁၅ )

# သတိနှင့် စား

'တန်လျှင်ဆေး၊ လွန်လျှင်ဘေး' စကားပုံတစ်ခုရှိ၏။ အဓိပ္ပာယ်မှာ ရှင်းနေပါသည်။ အစားအစာကို သင့်တန်ရုံစားပါလျှင် "အစာလည်းဆေး၊ ဆေးလည်းအစာ" ဆိုသကဲ့သို့ စားသုံးသူအား အစာက ကျန်းမာစေ၏။ အင်အားကို ဖြစ်စေ၏။ အတိုင်းထက်အလွန် မတန်တဆစားလျှင်မူကား "အစားမတော်သော် တစ်လုတ်" ဆိုသကဲ့သို့ ထိုအစာက စားသုံးသူအား ဥပဒ်ဖြစ်စေတတ်၏။ ဒုက္ခပေးတတ်၏ဟု ဆိုခြင်း ဖြစ်လေသည်။

ရှင်တော်မြတ်ဘုရားကလည်း သူ့ခပ်သိမ်းတို့အား အစားကြောင့် အန္တရာယ် မဖြစ်စေရန်အတွက် ဘောဇနေမတ္တညုတာဟူ၍ ဟောတော်မူကာ ကျန်းမာရေးလိုက်စားသူတို့အား ကျန်းမာရေး၌ နိဿရည်းပေးတော်မူခဲ့၏။ ဘောဇနေ=အစားအစာ သုံးဆောင်မှိုဝဲရာ၌ (ဝါ) မှီဝဲလေသောအခါ၊ မတ္တညုတာ=အတိုင်းအရှည်ကို သိပါလေ (ဝါ) ဝန်နှင့်အား၊ မြားနှင့်လေးပမာ မိမိဝမ်းနှင့်ချင့်၍ စားပါလေဟု ဆိုခြင်းပင်တည်း။

အစားအစာနှင့် ပတ်သက်လာလျှင် ပသေနဒီကောသလမင်းကြီးလောက် စားနိုင်သူမရှိ။ အလွန်အစားကောင်းသော (ဝါ) အလွန်အစားကြီးသော ဗိုက်ရွှဲဘုရင်ကြီးဖြစ်၏။ ထမင်းတစ်ခါ စားပွဲတော်တည်လျှင် တစ်စိတ်ချက်[၁] ကုန်သည်ဟု ဆိုပေသည်။

ထိုမင်း၏ အမည်ရင်းမှာ ကောသလ သာဖြစ်၏။ ပသေနဒီကား ထိုမင်း၏ ဂုဏ်ထူးဝိသေသဖြစ်လေသည်။ ထိုမင်းသည် ဝဖိုင့်ဖိုင့်၊ ပုအိုင့်အိုင့်၊ ဗိုက်ရွှဲရွှဲဖြစ်သော ကြောင့် ဖိုးဝရုပ်ကြီးနှင့် အနီးကပ်ဆုံး ဥပမာပြုနိုင်၏။ ဗိုက်ကလည်းရွှဲလေသောကြောင့်

---

၁။ ကောသလော ဒေါဏပါကကုရိ ဘုဥ္ဇတိ။ (သဂါထာဝဂ္ဂသံယုတ်၊ ကောသလဝဂ်၊ ဒေါဏပါကသုတ်၊ ၃၂-ဆဋ္ဌမူ)

သူ၏ဗိုက်ခေါက်ကြီးများသည် နံဘေးတစ်ဖက်တစ်ချက်၌ မြစ်ချောင်းကဲ့သို့ အစင်းကြီးများထင်နေသည်။ ချွေးများထွက်သောအခါ၊ သို့မဟုတ် ရေချိုးလေသောအခါများတွင် ချွေးတို့သည်လည်းကောင်း၊ ရေတို့သည်လည်းကောင်း သူ၏ နံဘေးပတ်လည် ဗိုက်ခေါက်များအကြားတွင် မြစ်ရေများသဖွယ် တင်နေသည်။

ဤသည်ကို အကြောင်းပြု၍ "ယဿ=အကြင်ကောသလမင်းအား (ဝါ) ကော သလမင်း၏၊ ပဿေ=နံပါးနှစ်ဘက်၌၊ နဒီ=မြစ်သည်၊ (ဝါ) မြစ်ကဲ့သို့သော ချွေးစီးကြောင်း ရေစီးကြောင်းသည်၊ အတ္ထိ=ရှိလေ၏။ ဉာတိစာသွာ=ထို့ကြောင့်၊ သော=ထိုကောသလမင်းသည်၊ ပဿေနဒီ=ပဿေနဒီမည်၏"ဟူ၍ ထိုမင်း၏ ဂုဏ်ပုဒ်ကို ဤသို့ထုတ်ဖော်၍ ဆိုကြရာမှအစ "ပဿေနဒီကောသလ"ဟု တွင်လာခြင်းဖြစ်၏။

အစားကြီးသောနေရာတွင် ပြိုင်ဘက်မရှိသော ထိုမင်းသည် တစ်ခါသော် ပွဲတော်တည်နေစဉ် ဘုရားကို သတိရ၍ ပွဲတော်တည်ရာမှထကာ ဘုရားကျောင်းတော်သို့သွားလေ၏။ ရောက်လျှင် ဘုရားသခင်အား ဖူးမြော်သောအခါ သူ့ခန္ဓာကိုယ်ကြီးက ကြီးမားတော်မူလှသည့်အပြင် အစာကိုလည်း နင့်လောက်အောင် စားပြီးခါစဖြစ်သောကြောင့် ဝမ်းပြည့်၍ကယ်ပြီး ဗိုက်ကားနေသဖြင့် ဘုရားသခင် ရှေ့တော်တွင် ကောင်းကောင်းပင် မထိုင်နိုင်ရှာဘဲ ဖြစ်နေ၏။

သူ့ခန္ဓာ ကိုယ်ကာယကြီးကို သယ်ပိုးကာ ကျောင်းတော်ရောက်အောင် ခြေလျင်လျှောက်လာရသောကြောင့် လွန်မင်းစွာ ပင်ပန်းတော်မူလှသဖြင့် အသက်ရှူများပင် မမှန်တော့ချေ။ ရှူးရှဲရှူးရှဲ ဟောဟိုက်ဟောဟိုက်နှင့် အမောဆိုက်နေသည်။ ချွေးများသည် တပြိုက်ပြိုက်ရွှဲနေသည်။ ခြေရင်းပင်းများက မင်းကြီးအား ယပ်ခတ်ပေးနေကြသည်။ တုံးလုံးလှဲကာ လျောင်းစက်လိုက်ရလျှင် နေသာထိုင်သာရှိလာမည် ဖြစ်သော်လည်း ဘုရားသခင်၏ရှေ့တော်တွင် အဂါရဝဖြစ်မည်စိုး၍ မိမိ၏ဝေဒနာကို အောင့်၍သာ သည်းခံနေတော်မူရှာသည်။

ဤဖြစ်အင်ကို မြင်တော်မူသာအခါ မင်းကြီးအပေါ် ရှင်တော်မြတ်ဘုရားက သနားခြင်းကရုဏာဖြစ်တော်မူလာသည့်အလျောက် "မိမိဝမ်းနှင့် ချင့်ကာတော်သင့်ရုံ မဟုတ်ဘဲ ဝင်တိုင်းစားစားနေချေက မင်းကြီးမှာ ဒုက္ခများသည်ထက်သာ များပေတော့မည်။ မင်းကြီးအား ကျန်းမာရေးနှင့်ညီညွတ်အောင် သတိပေးသင့်သည်"ဟူ၍ "မနုဿဿသဒါ သတိမတော" စသော ဂါထာဖြင့်မင်းကြီးအား သတိပေးတော်မူလေ၏။

စပယ်ဦးစာပေ

**အဓိပ္ပာယ်သော်ကား**—"အခါခပ်သိမ်း သတိနှင့်နေသူ၊ အစာကို မှီဝဲစားသောက်ရာ၌ အတိုင်းအရှည်ကို သိသူအား ဝေဒနာတို့သည် ခေါင်းပါးကုန်၏။ စားအပ်သော အစာတို့သည် တဖြည်းဖြည်း ကြေညက်၏။ အသက်ကိုစောင့်ပေ၏"

ကောသလမင်းကြီးသည် မြတ်စွာဘုရားအား ဦးသုံးကြိမ်ချပြီးလျှင် ကျောင်းတော်မှ ပြန်လာခဲ့ရာ ကိုယ်ရံတော် (သက်တော်စောင့်) သုဒဿနသည် မင်းကြီး၏နောက်မှ သန်လျက်ထမ်း၍ လိုက်ပါလာ၏။

ကျောင်းပရိဝုဏ်၏ အပြင်ဘက်ရောက်သောအခါ ကောသလမင်းကြီးသည် ဘုရားစကားတော်ကို သတိရတော်မူလာဟန်တူ၏။ ရုတ်တရက် တန့်ရပ်လိုက်ပြီးနောက် နောက်သို့လှည့်ကြည့်တော်မူလျှင် သုဒဿနလည်း မင်းကြီးအား ဒူးထောက်၍ ခ,စားကာ အမိန့်တော်ကို နာခံလျက်ရှိနေ၏။

"အချင်း သုဒဿန၊ မောင်မင်း ကျောင်းတော်သို့ပြန်သွားချေဦး။ ငါ့အား ဘုရားသခင် မြွက်ကြားလိုက်သော ဂါထာကို ဘုရားသခင်ထံပြန်၍ သင်ယူပါချေ"ဟု ဆို၏။

ထိုအခါ ကိုယ်ရံတော် သုဒဿနက လျှောက်၏။

"အရှင်မင်းကြီး၊ အမိန့်တော်အတိုင်း ဘုရားသခင်ထံပြန်၍ ကျွန်တော်မျိုး ဂါထာကိုရအောင် သင်ယူခဲ့ပါအံ့။ ဤသန်လျက်တော်ကို အဘယ်သူအား အပ်နှံခဲ့ရပါမည်နည်းဘုရား"ဟူ၍ လျှောက်လျှင် မင်းကြီးက အနီးရှိ အမတ်တစ်ဦးအား ညွှန်ပြလိုက်၏။

"အချင်း သုဒဿန၊ ဘုရားသခင်ထံတော်မှ ဂါထာကိုရအောင် ကျက်မှတ်ယူခဲ့ပြီး နေ့စဉ် ငါပွဲတော်တည်လေတိုင်း ဤဂါထာကို ငါ့အနားမှာ သင်ရွတ်ဆိုပါလေ။ တစ်နေ့လျှင် အသပြာတစ်ရာကျ နေ့စဉ် သင့်အား ငါဆုချအံ့"

ဤသို့ မိန့်တော်မူ၍ ကိုယ်ရံတော် သုဒဿနအား ကျောင်းတော်သို့စေလွှတ်လိုက်သည်။ သုဒဿနလည်း 'မနုဇဿ သဒါ သတိမတော' စသော ဂါထာကို ဘုရားသခင်၏ ထံတော်မှ နှုတ်ကရိဏ်းကျကျ သင်ယူခဲ့ပြီး မင်းကြီးထံပြန်လာ၏။

"အချင်း သုဒဿန၊ ဗုဒ္ဓမြတ်ဘုရားက မည်သို့ မြွက်ကြားတော်မူလိုက်ပါသနည်း"ဟူ၍ မေး၏။

"အရှင်မင်းကြီး၊ ကျွန်တော်မျိုးအား မြတ်ဘုရားက ဤသို့မှာကြားတော်မူလိုက်ပါသည် ဘုရား။ ချစ်သား၊ ဤဂါထာကို ကချေသည်တို့ကဲ့သို့ ရောက်လေရာရာအရပ်တို့၌ သင်မဆိုလေနှင့်။ သင့်သခင် ကောသလမင်းကြီး စားတော်ခေါ်သောအခါ အနားတွင်ရပ်တည်ကာ ပထမစားခါစအချိန်တွင် အသာစောင့်၍ကြည့်နေ။ ဂါထာကို မရွတ်လေနှင့်ဦး။ ပွဲတော်တည်၍ ပြီးခါနီး နောက်ဆုံး ထမင်းလုတ်ကို

ယူတော့ ည်ပြုတွင်မှ ဤဂါထာကို သင်ရွတ်လိုက်လော့။ ထိုအသံကိုကြားသော် မင်းကြီးသည် သတိရလာပြီး စားအုံ့ဆဲဆဲ ထမင်းလုတ်ကို မစားတော့ဘဲ စွန့်လတ္တံ့."

ကိုယ်ရံတော် သုဒဿနသည် ဘုရားသခင် မှာဆိုလိုက်သည့်အတိုင်း မင်းကြီးအား အလုံးစုံလျှောက်ထားလေ၏။ ကောသလမင်းကြီးလည်း ထိုအခါမှစ၍ အစားကိုလျှော့၍စားလာ၏။ တစ်စိတ်ချက်အစား ထမင်းတစ်နပ်လျှင် တစ်စလယ်ချက်မျှကိုသာ စားတော့၏။ ထိုအခါ အသားအရေများမှ ဖောင်းပွပွမဟုတ်တော့ဘဲ တဖြည်းဖြည်း စစ်စစ်လာရုံမက ကျန်းမာရေးမှာလည်း အထူးကောင်းမွန်လာလေရကား မင်းကြီးသည် အဘယ်မှာလျှင် ဝမ်းမသာဘဲရှိပါမည်နည်း။ ဝမ်းသာကြည်နူးနှလုံးမြူးကာ ဤသို့ ဥဒါန်းကျူးမိပါလေ၏။

"ဘုန်းတော် အလွန်ထာရာကြီးမြတ်တော်မူလှသော ထိုဘုရားမြတ်စွာသည် ငါ့အား မျက်မှောက် အကျိုးတရားအားဖြင့်လည်းကောင်း၊ တမလွန်အကျိုးတရားအားဖြင့်လည်းကောင်း ဤအကျိုးနှစ်မျိုးဖြင့် စောင့်ရှောက်တော်မူပေသည် တကား"

နှိုင်းနှိုင်းချိန်ချိန် သုခမိန်ဟု ဆိုကြသည်။ အစားကို မဆင်ခြင်လေဘဲ ထင်သလို ဝင်တိုင်း မျိုဝါးစားသောက် လာခဲ့ခြင်းအားဖြင့် ကိုယ်လက် မအီမသာ ဝေဒနာ ခံစားလာခဲ့ရသော ကောလ ဗိုက်ရွဲဘုရင်ကြီးကား အစားကို နှိုင်းနှိုင်းချိန်ချိန် စားသည့် အခါမှစ၍ ဝေဒနာမခံစားရတော့သည့်ပြင် သူ၏ ကျန်းမာရေးမှာလည်း အထူးပင် ကောင်းမွန်လာလေသတည်း။

(သံယုတ္တနိကာယ်၊ သဂါထာဝဂ္ဂ၊ ကောသလသံယုတ်၊
ဒေါဏပါကသုတ်၊ ၁၄၀၊ ဆဋ္ဌမူ)

( ၁၆ )

# လောကကို ဘယ်သူနှိပ်စက်နေသနည်း

ဘာသိဘာသာနေတတ်သော နတ်မှာ ပြဿနာမရှိ၊ တောင်တွေး မြောက်တွေးနှင့် အငြိမ်မနေတတ်၊ ဆတ်ဆော့သော နတ်မှာ ပြဿနာကပ်လာ၏။

နတ်သားတစ်ယောက်သည် လောကအကြောင်းကို ပေါက်ပေါက်ရှာရှာ ကြံစည်လေ၏။ အတွေးနယ်ပယ်ကို ကျယ်ကျယ်ချဲ့၊ ဉာဏ်စွမ်းကိုရှိသမျှထုတ်၍ သုံးကြည့်သည်။ အဖြေကိုကား သူ မတွေ့လေ။

ကြာသော် ထိုနတ်သား၏ ကိုယ်တွင် ပြဿနာကပ်နေခြင်းသာ အဖတ်တင်ရုံမက ကိုယ်ပန်းစိတ်ပန်း ဖြစ်လာသည်။ ထိုအခါ ထိုနတ်သားသည် ဗုဒ္ဓမြတ်ဘုရား အား သွား၍ သတိရမိလာသည့်အလျောက် ကသီလင်တနှင့် ဗုဒ္ဓရှေ့တော်ဝင်၍ သူ့ပြဿနာကို ဖြေရှင်းပေးတော်မူပါရန် ပန်ကြားလေသတည်း။

**နတ်သား မေး။** အို–သုံးလောကမှန်ကူ သယမ္ဘူ ရှင်တော်မြတ်ကြီးဘုရား၊ ၁။ လောကကို နှိပ်စက်ကလူ ပြုမူနေသည်ကား အဘယ်အရာပါနည်း။ ၂။ ထိုလောကကို အဘယ်အရာများက ခြံရံနေပါသနည်း။ ၃။ အဘယ်မည်သော မြားလက်နက်က လောက၏နှလုံးသည်းပွတ်ကို ဖောက်ထွင်းစူးဝင်နေပါသနည်း။ ၄။ အဘယ်အရာသည် အခါခပ်သိမ်း လောကကို လောင်မြိုက်နေပါသနည်း ဘုရား။

ဤပုစ္ဆာအတွက် ဗုဒ္ဓမြတ်ဘုရား မြွက်ကြားတော်မူသည့် အဖြေကား–

**ဗုဒ္ဓ အဖြေ။** ညဥ့်နက်သန်းခေါင်၊ ငါ့အဆောင်သို့၊ ကိုယ်ရောင်ဝင်းစွာ၊ ဝင်ရောက်လာပြီး၊ ပြဿနာတင်ပြ၊ အို–ဒေဝ။ ၁။ လောကကို နှိပ်စက်ကလူပြု၍ ထင်သလိုမင်းမူနေသည်ကား သေမင်း

ဖြစ်ချေသည်။ ၂။ လောကကို အိုခြင်းတရားက ခြံရံနေ၏။ ၃။ လောက၏ နှလုံးသားကို တဏှာတည်းဟူသော မြားက ဖောက်ထွင်းစူးဝင်နေ၏။ ၄။ လောကကို အလိုရမ္မက် တည်းဟူသော လောင်မီးက အခါခပ်သိမ်း လောင်မြိုက်နေ၏ဟု မိန့်တော်မူ၏။

ထိုနတ်သားသည် ဘုရားထံမှ အဖြေကိုရလျှင် ရိုသေစွာ ရှိခိုး၍ ဘုရားသခင်၏ ထံတော်ပါးမှ ဖဲခွာသွားလေသတည်း။

(သံယုတ္တနိကာယ်၊ သဂါထာဝဂ္ဂသံယုတ်ပါဠိတော်၊ ဒေဝတာသံယုတ်၊ အဒ္ဓဝဂ်၊ အတ္တဟုတသုတ်၊ ၃၇၊ ဆဋ္ဌမူ)

( ၁၇ )

# ပဋိစ္စသမုပ္ပါဒ် မွမ်းမံသင်တန်း

| | | |
|---|---|---|
| သင်တန်းအမည် | – | ပဋိစ္စသမုပ္ပါဒ် |
| သင်တန်းသားဦးရေ | – | တစ် |
| နည်းပြဆရာ | – | တစ် |
| သင်တန်းနေရာ | – | တောအုပ်ကြီးတစ်ခုအတွင်း |
| သင်တန်းချိန် | – | နေဝင်မိုးချုပ်၊ ညနေစောင်း။ |

လျှို့ဝှက် သင်တန်းလေလော။

တောအုပ်ကြီးအတွင်း၌ ဖြစ်ခြင်း၊ သင်တန်းသားဦးရေမှာလည်း လက်ရွေးစင်တစ်ဦးတည်းသာဖြစ်ခြင်းကြောင့် ဤသင်တန်းကား နှစ်ယောက်တည်း တိုးတိုးတိတ်တိတ် ကျိတ်၍ သင်ပေးနေသော "လျှို့ဝှက်သင်တန်း" လေလားဟု တွေးထင်မည်ဆိုက ထင်စရာပင်။ ထင်ထိုက်နေပါသည်။

သို့သော် လျှို့ဝှက်သင်တန်းမဟုတ်၊ ပွင့်ပွင့်လင်းလင်း နိဿရည်းပေး ပဋိစ္စသမုပ္ပါဒ် အုတ်မြစ်ချသင်တန်းသာ ဖြစ်ပါသည်။ တောအုပ်ကြီးအတွင်းဝယ် တစ်ယောက်သောသူအား တစ်ဦးသောဆရာက ဖန်ဝါနေဒေါင်း ဂေါယာကျွန်းသို့ ပြောင်းတော့အံ့ဆဲဆဲ နေဝင်ဆည်းဆာအောက်တွင် သင်တန်းပေးနေပါသည်။ ဆရာတပည့် နှစ်ယောက်တို့၏ တောတွင်းရှုကွက်မှာ ကာယငြိမ်ငြိမ်သက်စွာဖြင့် ဆရာက တပည့်အား စနစ်တကျသင်ကြား၍ တပည့်ကလည်း ပညာကို လေးလေးစားစား မှတ်သားနာယူလျက် ရှိနေပါသည်။

မည်သူက မည်သူ့အား သင်တန်းပေးနေသနည်း။

စပယ်ဦးစာပေ

သင်တန်းပေးသူကား ဗုဒ္ဓ၊ သင်တန်းသားကား အာနန္ဒာဖြစ်နေသည်။ အရှင်အာနန္ဒာကဲ့သို့သော အရှင်သူမြတ်အား အဘယ့်ကြောင့် သင်တန်းပေးနေရသနည်းဟု မေးသင့် မေးထိုက်၏။

အရှင်အာနန္ဒာကား အလွန်ရခဲလှသော "စောဒက်ဘွဲ့ကြီးများ"ကိုပင် ငါးထပ်ကွမ်းရရှိထားသူ အဓိပတိကိုယ်တော်ကြီး ဖြစ်တုံသော်လည်း ပဋိစ္စသမုပ္ပါဒ်ပေါ်တွင် အတွေးအခေါ် အံချော်နေလေသည့်အတွက် "သည်လိုဆို ခက်ရချည့်"ဟု ဘုရားမြတ်စွာသည် မျက်နှာလွှဲ၍ မနေသာသည့်အလျောက် အရှင်အာနန္ဒာအား တစ်ယောက်ချင်း သင်တန်းပေးတော်မူနေရခြင်းပင် ဖြစ်၏။

ဤဖြစ်ရပ်ကား အထူးအဆန်းကြီးမဟုတ်ဘဲလျက် လူ့စိတ်ကို စိတ်ဝင်စားလာအောင် ချိတ်ဆွဲယူဆောင်စွမ်းရှိ၏။ သမိုင်းမှခ်ဦး၌ ထွန်းညှိထားသော မီးရှူးမီးတိုင်ကြီးနှင့် အလားတူ၏။

ယနေ့ခေတ်တွင် ပဋိစ္စသမုပ္ပါဒ်ကို သူ့ပါဒ်၊ ငါပါဒ်၊ ပါဒ်လျက် ရှိကြလေရာ အချို့က မိမိကိုယ်ကို သောတာပန်ဟုပြောသူကပြော၊ မဂ်ပေါက်ဖိုလ်ဝင် ရဟန္တာဖြစ်ပြီဟု ထင်သူကထင်၊ ဤသို့သော ဖြစ်အင်များပင်ရှိနေ၏။

အရှင်အာနန္ဒာသည် ပဋိစ္စသမုပါဒ်ကို ဆင်ခြင်ရာတွင် သူ့ကိုယ်သူ ဘုရားသခင် ကိုယ်တော်မြတ်ကြီးလောက်အထိ အထင်ရောက်သွားခဲ့ဖူးရာ ထိုအတွေးအခေါ်များယွင်းမှုကို ပြုပြင်သည့်အနေဖြင့် ဗုဒ္ဓက မွမ်းမံသင်တန်း ပေးတော်မူရလေ၏။

ဤဖြစ်ရပ်သမိုင်းကား ကုရုတိုင်းတွင် အခြေခံခဲ့၏။ ကုရုမည်သော မင်းမျိုးတို့မှ ဆင်းသက်ပေါက်ပွားလာကြသော မဟာမျိုးမဟာနွယ်တို့ နေထိုင်ရာအရပ်ကို ကုရုတိုင်းဟု သတ်မှတ်၍ ဝေါဟာရနယ်တွင်လည်း ကုရုတိုင်းဟူ၍ပင် ခေါ်တွင်ထင်ရှားလျက် ရှိခဲ့သည်။

ထိုကုရုတိုင်းအတွင်း၌ လူမျိုး၏ရိုးရာ ယဉ်ကျေးမှု ဓလေ့ကို အသက်ပေး၍ ကာကွယ်စောင့်ရှောက်သော ဇာတ်ကြီးသူတို့ နေထိုင်ကြသည်ကို အကြောင်းပြု၍ "ကမ္မာသဓမ္မ"မည်သော ရွာကြီးတစ်ရွာရှိလေရာ မြတ်စွာဘုရားသည် အခါတစ်ပါးတွင် အရှင်အာနန္ဒာနှင့်အတူ ထိုရွာကြီးသို့ရောက်ရှိသွားတော်မူသော်လည်း ထိုရွာ၌[၁] တည်းခိုနေထိုင်စရာ ကျောင်းဆို၍ တစ်ကျောင်းမျှမရှိလေသည့်အတွက် ရွာပြင်ဘက်ရှိ တောအုပ်ကြီးတစ်ခုအတွင်း၌သာ သီတင်းသုံးကာ နေတော်မူရရှာ၏။

အရှင်အာနန္ဒာသည် ထိုကမ္မာသဓမ္မနိဂုံးရွာကြီးသို့ ရောက်သည့်ဒုမျှန်မှစ၍ ထိုရွာကြီးကို ဂေါစရဂါမ်ပြုကာ ဘုရားသခင်အား ဆွမ်းခံ၍ကျွေး၏။

---

၁။ တသ္မိံ နိဂမေ ဝသနောကာသော ကောစိ ဝိဟာရောနာမ နဟောသိ။ (ဒီဃနိကာယ်၊ မဟာဝဂ္ဂအဋ္ဌကထာ၊ မဟာနိဒါနသုတ် ၇၄ ဆန္ဒမှ)

ဘဝင်မြင့်လေသလောဟု အထင်မှားလောက်စရာ ပြဿနာတစ်ရပ်သည် အရှင်အာနန္ဒာအား လက်ယပ်၍ ကြိုလင့်နေသယောင်ယောင်ထင်ရ၏။

ထိုနေ့၌ ဘုရားသခင်သည် ဆွမ်းစားပြီးသောအခါ နေ့သန့်စင်ရာအရပ်သို့ ကြွသွားတော်မူလေရာ အရှင်အာနန္ဒာလည်း ဘုရားသခင်အား ရိုသေစွာ ရှိခိုးလိုက်ပြီးနောက် စမ္မခဏ်=သားရေနယ်အခင်းကိုယူကာ မိမိနေရာသို့ ပြန်လာခဲ့လေ၏။

ကမ္မဋ္ဌာန်းတရား အားထုတ်မည့်နေရာကို ကိုယ်တိုင် တံမြက်လှည်းပြီး ထိုနေရာ၌ စမ္မခဏ်ကိုခင်းသည်။ ခြေကိုအေးအောင် ဘူးထဲကရေဖြင့် ဆေးလိုက်သေးသည်။ ခြေဆေးပြီးမှ စမ္မခဏ်ပေါ်တွင် တင်ပျဉ်ခွေထိုင်တော်မူလျက် သောတာပတ္တိ ဖလသမာပတ်ကို ဝင်စားတော်မူလေသတည်း။

အချိန်ကို အလိုရှိသလောက် သတ်မှတ်ပိုင်းခြား၍ သမာပတ်ဝင်စားရာမှ ထတော်မူပြီးသော် "ပဋိစ္စသမုပ္ပါဒ် အကြောင်းတရားဖြစ်ပေါ်လာချက်" (ပစ္စယာကာရ)၌ ဉာဏ်ကို စေစားလိုက်၏။ 'မည်သည့်အကြောင်းခံကြောင့် မည်သို့သော အကျိုးတရားများဖြစ်ပေါ်လာရသည်' ဟူသော ကျိုးကြောင်းနှစ်ရပ် ဆက်စပ်ဖြစ်ပေါ်လာပုံ အခြင်းအရာများကို အနုလုံပဋိလုံ ဆင်ခြင်သုံးသပ်တော်မူသည်။

ထိုအခါ အဝိဇ္ဇာပစ္စယာ သင်္ခါရာ=မသိမှု အကြောင်းခံကြောင့် ပြုပြင်မှုတို့ ဖြစ်လာကုန်သည်ဟု ဤသို့ အစမှ အဆုံးသို့လည်းကောင်း၊ အဆုံးမှအစသို့လည်းကောင်း၊ အစအဆုံးမှ အလယ်သို့လည်းကောင်း၊ အလယ်မှ အစအဆုံးသို့လည်းကောင်း သုံးခေါက်တိတိ ခေါက်တုံ့ခေါက်ပြန် အပြန်ပြန်အလှန်လှန် သုံးသပ်တော်မူသည်။

ထိုအခါ သူ၏ဉာဏ်တွင် ပဋိစ္စသမုပ္ပါဒ်ကို တိမ်တိမ်ကလေးပါလား။ တိမ်သယောင်ယောင် ထင်လာ၏။ ထင်လိုက်ပါသည်။ ဤသို့ထင်နိုင်လောက်အောင် အထောက်အကူပြုသော အကြောင်းအချက်ကြီး လေးချက်သည် အရှင်အာနန္ဒာ၌ ရှိချေ၏။ အကြောင်းကြီးလေးပါးကား–

၁။ ရှေးဆုတောင်းနှင့် ကောင်းစွာပြည့်စုံခြင်း။

၂။ ဆရာကောင်း သမားကောင်းတို့ထံ၌ အဖန်ဖန်အထပ်ထပ် သင်ယူခြင်း၊ ကြားနာခြင်း၊ မေးမြန်းခြင်း။

၃။ သောတာပန်ပုဂ္ဂိုလ် ဂေဖော်ပြန်တမ်း ထွက်ပြီးဖြစ်ခြင်း။

၄။ အကြားအမြင် ဗဟုသုတများခြင်း။

ဤသို့သော အကြောင်းလေးချက်တို့ကြောင့် တစ်စုံတစ်ခုကို အာရုံပြု၍ တွေးကြံစဉ်းစားခဲ့သော် မီးခလုတ်ကို ဖွင့်လိုက်ဘိသကဲ့သို့ သူ၏ဉာဏ်တွင် ပြိုးပြိုး ပြက်ပြက် လင်းခနဲ လက်ခနဲ ထင်းခနဲ ထင်လာ၏။

ဤသို့ ထင်ခြင်းကား အရှင်အာနန္ဒာအဖို့ ဘဝင်မြင့်စရာကဲ့သို့ ဖြစ်လာသတည်း။ ဤသည်ကို အကြောင်းပြု၍ သူ့ဒသန္တာန်၌ အကြံဖြစ်လာသည်မှာ—

ဤပဋိစ္စသမုပ္ပါဒ်[၁]တရားကို အလွန့်အလွန် နက်ရှိုင်းသည်။ အလွန့်အလွန် နက်ရှိုင်းသော အသွင်ရှိသည်ဟူ၍ ဘုရားအဆူဆူတို့ ဟောတော်မူသွားလေပြီ။ ဤသို့ ခက်သည်ထက်ခက် နက်သည်ထက် နက်သည်ဟူ၍ ဟောတော်မူကြပါလျက် သာ၀ကကလေး အသေးအမွှားမျှသာဖြစ်သော ငါ၏ မဖြစ်စလောက် ဉာဏ်တွင် ပေါ်ပေါ်လွင်လွင် တိမ်တိမ်ကလေးသာ ထင်လာ၏။ ငါတစ်ဦးတည်းအားသာ ဤသို့ တိမ်သယောင်ယောင်ထင်ခြင်းလော၊ သို့မဟုတ် အခြားသူတို့အားလည်း ငါကဲ့သို့ပင် တိမ်သယောင်ယောင်ထင်လေကုန်သလော။ ဤသို့တွေးခေါ်မိရာမှ ဤအကြောင်းကို ဘုရားသခင်အား လျှောက်ထားရန် အကြံဖြစ်လာသည်။

ဤငါ့ဖြစ်ရပ်ကိုသာ မြတ်ဘုရား ကြားသိတော်မူရလေက လွန်စွာနှစ်သက်အားရတော်မူလိမ့်မည်။ အာလိန်ငါးဆင့်နှင့် တစွင့်စွင့်ရှိနေသော မြင်းမိုရ်တောင်မင်းကြီးကို လက်တော်နှင့် ချိမ,၍ ပြဘိသကဲ့သို့ ငါ့အား မှတ်သားလောက်ဖွယ်တရားတစ်ထုံးကို ဧကန် ဟောကြားတော်မူလတ္တံ့။ ထိုအခါ ဘုရားသခင်၏ ကြီးမားသော ပညာတော်ကိုလည်း ငါသိရလတ္တံ့။ ဤသို့ အကြံပေါက်လာကာ ဘုရားသခင်အား ငါလျှောက်ထားမည်ဟု ဆုံးဖြတ်ပြီးလျှင် ဘုရားသခင်ရှိရာသို့ ချဉ်းကပ်သွားလေ၏။

အရှင်အာနန္ဒာအနေဖြင့်[၂] တစ်နေ့လျှင် အကြိမ်ပေါင်း ရာနှင့်ချီ၍ ထောင်နှင့်ချီ၍ ချဉ်းကပ်စေကာမူ ထိုချဉ်းကပ်ခြင်းတို့ကား အကြောင်းတစ်ခုခုကြောင့် ချဉ်းကပ်ခြင်းဖြစ်သဖြင့် ဆန်းသည်ဟုမဆိုသာ၊ သမားရိုးကျ ချဉ်းကပ်ခြင်းသာ ဖြစ်ပါ၏။

သို့သော် ဤယနေ့၊ ဤတစ်ကြိမ် ချဉ်းကပ်ခြင်းကား ဆန်း၏။ အရှင်အာနန္ဒာ၏ သန္တာန်၌ ပီတိနှလုံး အပြုံးတို့သည် တန်းစီသကဲ့သို့ ရှိနေကုန်သည်ဟု ထင်ရ၏။ ဘုရားအဆူဆူတို့က နက်ရှိုင်းလှပါသည်ဟူ၍ နှုတ်မှ တတွတ်တွတ်ရွတ်ဆိုမြွက်ကြားသွားရသော ပဋိစ္စသမုပ္ပါဒ်ကို တိမ်တိမ်ကလေးနှင့် သိထင်၊ မြင်လွယ်မှုကို အကြောင်းပြု၍ "ငါဆိုမှ ငါ၊ အာဂ ငါ၊ တကယ့် ငါ"ဟူသော

---

၁။ အယံပစ္စယာကာရော သဗ္ဗဗုဒ္ဓေဟိ ဂမ္ဘီရောစေဝ ဂမ္ဘီရာဝဘာသောစာတိ ကထိတော။ (ဒီဃနိကာယ်၊ မဟာဝဂ္ဂအဋ္ဌကထာ၊ မဟာနိဒါနသုတ်၊ ၇၅၊ ဆဋ္ဌမူ)

၂။ သောကိဥ္စာပိ ပကတိယာဝ ဧဒိဝသေ သတံဝါရမ္ပိသဟဿဝါရမ္ပိဘဂဝန္တံ ဥပသင်္ကမန္တော န အဟေတု အာကာရဏေန ဥပသင်္ကမိ။ (ပ–ဒီဃနိကာယ်၊ မဟာဝဂ္ဂ အဋ္ဌကထာ၊ မဟာနိဒါနသုတ်၊ ၇၇၊ ဆဋ္ဌမူ)

အတွေးများကြောင့် သူ့မျက်နှာမှာ ပီတိတွေရွှမ်းလျက် ပျားရည်ဆမ်းမျက်နှာမျိုး ဖြစ်နေသည်။

ငါ၏ ကိုယ်တွင်းရေး အဋ္ဌုပ္ပတ် ဇာတ်ကြောင်းကို မြတ်ဘုရားရှေ့တွင် ဖွင့်လျှောက်လိုက်ရလျှင် ဗုဒ္ဓတည်းဟူသော ပြောင်မာတင် ဆင်ဖြူတော်ကြီး၏ ရှေ့မှောက်ဝယ် ရွှေဉာဏ်တော် ကရုဝိက်၏ တွန့်ကျူးသံကိုလည်း ငါကြားရအံ့၊ ခြင်္သေ့မင်းနှင့်တူသော မြတ်စွာဘုရား၏ မရွံ့မကြောက် ဟောက်ဟိန်းတော်မူလိုက်သည့် ဉာဏ်ဟိန်းသံကြီးကိုလည်း ငါနားခံရအံ့။ အဿထိုရိရ သိန္ဓဝနတ်မြင်းပျံ တည်းဟူသော မြတ်ဘုရား၏ လှုပ်ရှားမြူးကွန့် တလွန့်လွန့်နှင့် နင်းချသွားတော်မူရာ ဉာဏ်ခြေရာတော်များကိုလည်း ငါမှူးမြင်ရလတ္တံ့။

ဤသို့ တွေးကြံမိလာသည့်အလျောက် ထိုင်ရာမှ ငေါက်ခနဲ ထလိုက်၏။ စမ္မခဏ်ကိုယူ၍ ဖုန်ခါလျက်မှ အနောက်ဘက်ဆီက နေဝန်းကြီးကို ကြည့်လိုက်သော အခါ တောင်စွယ်တွင် မကွယ့်တကွယ်ရှိနေပေပြီ။ ထိုကြောင့် အရှင်အာနန္ဒာသည် စမ္မခဏ်ကိုပိုက်၍ ကတိုက်ကရိုက်နှင့် မြတ်ဘုရားထံသို့ ချဉ်းကပ်၍ လျောက်ပတ်သော နေရာတွင် ရိုသေစွာထိုင်ပြီးလျှင် သူ၏ ပြဿနာကို အောက်ပါအတိုင်း လျှောက်ထားပါလေ၏။

ဘုရားသခင်၏ အနေအားဖြင့် အရှင်အာနန္ဒာ ပီတိရွှမ်းရွှမ်းပျားရည်ဆမ်း မျက်နှာကို သတိပြုချင်မှ ပြုမိမည်ဖြစ်သော်လည်း အရှင်အာနန္ဒာကား ပျားရည်ဆမ်း မျက်နှာမျိုးဖြင့် ရှိခိုး၍ လျှောက်နေပါပြီကော။

"ရွှေဘုန်းတော်သခင် အရှင်ဘုရား၊ အံ့စရာကြီးပါလား ဘုရား၊ မကြုံစဖူး တကယ်ထူး အဟုတ်ထူးသည့်ဟာမျိုး ကြုံဖူးပေါင် ဘုရား"

နှုတ်အာသွက်သွက် မျက်နှာထားရွှင်ရွှင်နှင့် တင်လာသောအမှုဆန်းကြောင့် မြတ်ဘုရားက အာနန္ဒာ၏အပေါ်သို့ တစ်ချက်မျှ လှမ်း၍ရှုစားတော်မူလိုက်သည့် ခဏ ရွှေနားတော်တွင်းသို့ ဒင်းခနဲ ရောက်ရှိလာသော အာနန္ဒာ၏ ဝါစာသည်ကား–

"အရှင်ဘုရား၊ တပည့်တော်မှာ သည်ယနေ့၊ မတွေ့စဖူး အထူးအဆန်းတွေ တွေ့ရပါသည်။ ပဋိစ္စသမုပ္ပာဒ်[၁]တရားကို တပည့်တော်ဆင်ခြင်သုံးသပ်သည့် အခါမှာ– ၁။ အတ္ထ=အနက်အဓိပ္ပာယ်အားဖြင့်လည်း လွန်စွာ နှိုက်နဲလှပါကလား ဘုရား။ ၂။ ဓမ္မ=သဘောတရားရေးရာ အားဖြင့်လည်း လွန်စွာ နှိုက်နဲလှပါကလား ဘုရား။ ၃။ ဒေသနာ=ရှေ့နောက်တုံ့လှယ် ဒေသနာတော်၏ ကွန့်မြူးခြင်းသည်လည်း

---

၁။ အတ္ထဂမ္ဘီရတာ၊ ဓမ္မဂမ္ဘီရတာ၊ ဒေသနာဂမ္ဘီရတာ၊ ပဋိဝေဓဂမ္ဘီရတာ၊ ပဋိစ္စသမုပ္ပာဒ်၏ ဂမ္ဘီရလေးမျိုး။ (မဟာဝဂ္ဂအဋ္ဌကထာ၊ မဟာနိဒါနသုတ်၊ ၈၃၊ ၈၄၊ ဆဋ္ဌမူ)

လွန်စွာ နှိုက်နဲလှပါကလားဘုရား။ ၄။ ပဋိဝေဒ=ထူးသောဉာဏ်ဖြင့် ထိုးထွင်း၍ သိရခြင်းမှာလည်း လွန်စွာ နှိုက်နဲလှပါကလား ဘုရား။ နှိုက်နဲသော အသွင်သည် အကယ်ပင် ထင်ဟပ်ပါကလား ဘုရား။

"အရှင်ဘုရား၊ ရှင်ပျဝမ်းသာ ဥပမာဖြင့် လျှောက်ထားပါရစေဘုရား။ တိမ်လျက်နက်ယောင်[၁]၊ နက်တိမ်ယောင်နှင့် တိမ်ယောင်တိမ်လျက်၊ နက်ယောင် နက်သားဟူ၍ ရေ၌ အမည်နာမ လေးမျိုး ရှိပါသည်။

၁။ သစ်ရွက်ဆွေး၊ သစ်ရွက်ပုပ် စသည်တို့ကြောင့် မည်းချိပ်ညိုမှောင်ပြီး အရောင်ညစ်နေသောရေသည် ဒူးဆစ်မျှလောက် တိမ်တိမ်ကလေး ထင်ရသော်လည်း တစ်ရပ်တစ်သူလောက် နက်သယောင် ထင်ရသော ရေက တစ်မျိုး။

၂။ ပတ္တမြားရောင် သမ်းနေသော မြစ်ပြင်ကြီးထဲတွင် ကြည်ကြည်လင်လင် တသွင်သွင်စီးပါနေသော ရေသည် တစ်ရပ်တစ်သူမျှလောက် နက်ပါတုံငြားသော်လည်း ဒူးဆစ်မျှပမာဏ တိမ်သယောင်ယောင် ထင်ရသော ရေက တစ်မျိုး။

၃။ အိုးစရည်း စသည်တို့အတွင်း၌ရှိသော ရေကား တိမ်သယောင်ယောင်နှင့် အကယ်ပင်တိမ်သောရေက တစ်မျိုး။

၄။ မြင့်မိုရ်တောင်၏ အောက်ခြေက ရေများသည် နက်သယောင်ယောင်နှင့် အကယ်ပင်နက်သောရေက တစ်မျိုး။

"အရှင်ဘုရား၊ ရေ၌ဤသို့ အမည်လေးမျိုး ရစကောင်းပါသော်ငြားလည်း ဤပဋိစ္စသမုပ္ပာဒ်၌ကား အမည်နာမ ထွေပြားခြင်းမရှိ။ "ဂမ္ဘီရ" ဤအမည် သညာ တစ်ခုသာရှိပါသည် ဘုရား။

"အရှင်မြတ်ကြီးဘုရား၊ သို့စင်မျှ လွန်စွာ နက်ရှိုင်းလှသည်ဖြစ်တုံပါလျက်လည်း တပည့်တော်၏အဖို့တွင် တိမ်သယောင်ယောင် ထင်ပါသည်။ ထို့ကြောင့် အစ္ဆရိယံ ဘန္တေ=အံ့ဖွယ်ရှိစွဘုရား။ အဗ္ဘုတံ ဘန္တေ=မဖြစ်ဖူး၊ ထူးဆန်းဘိစွဘုရား"

စကားအဆုံးတွင် မြတ်စွာဘုရားသည် အာနန္ဒာအား အဓိပ္ပာယ်ရှိရှိ တစ်ချက်မျှ ကြည့်ရှုတော်မူလိုက်သည်တွင် အရှင်အာနန္ဒာ၏ ရွှင်နေသောမျက်နှာမှာ ရုတ်တရက် ညှိုးမှိန်သွားလေ၏။ ဆိတ်ဆိတ်နေခြင်းဖြင့်သာ မြတ်ဘုရား မြွက်ကြားမည့် အဖြေကို စောင့်ကြိုကာနေလေ၏။

---

၁။ ရေလေးမျိုးအကြောင်း၊ ဒီဃနိကာယ်၊ မဟာဝဂ္ဂ အဋ္ဌကထာ၊ မဟာနိဒါနသုတ်၊ ၇၉၊ ဆဋ္ဌမူ။

ထိုအချိန်တွင် နေဝန်းသည် ဂေါယာကျွန်းသို့ ယွန်းလုပြီဖြစ်သောကြောင့် လောကဓာတ် တစ်ဝန်းလုံး အနီရောင်ဖြင့် လွှမ်းလျက်ရှိနေ၏။ မြတ်ဘုရားကား အာနန္ဒာ၏စကားကို စိတ်ဝင်စားတော်မူလျက် ရှိနေရာမှ အာနန္ဒာကား သနားဖွယ် ကောင်းဘိစွ။ အထက်ဘဝဂ်ကို လှမ်းဆွဲရန် လက်လှမ်းနေသယောင်ပါတကား။ မြင့်မိုရ်တောင်ကြီးကိုဖြို၍ အတွင်းကအဆီကို ထုတ်ယူရန် ကြိုးစားဘိယောင်ပါ တကား။ ပင်လယ်သမုဒ္ဒရာကြီးကိုပင် လှေသင်္ဘောမပါ လက်ပစ်ကူးနေဟန်ပါ တကား။ မဟာပထဝီမြေကြီးကိုလှန်၍ မြေဆီမြေလွှာ မြေဩဇာကိုယူရန် အားထုတ် နေဟန်ပါတကား။ ဘုရားသခင်တို့၏ အရာသာဖြစ်သော ပဋိစ္စသမုပ္ပာဒ်ပြဿနာ ရပ်ကို သူ့အနေဖြင့် "တိမ်တိမ်ကလေးပါ"ဟု ဝံ့ရဲစွာ သူမို့ဆိုဝံ့ဘိ၏။ အဘယ်မျှ နက်ရှိုင်းကြောင်းကို သူ့အား ငါပြောလေမှ ဖြစ်ချိမ့်မည်။ ဤသို့ ကြံတော်မူပြီးလျှင် လေးနက်သော သြဇာသံဖြင့် အာနန္ဒာအား မြွက်ကြားဆုံးမတော်မူလေသတည်း။

"အာနန္ဒာ သင်ပသို့ဆိုဘိသနည်း။ ဤသို့ မဆိုလေနှင့်။ သည့်နှယ်မပြော စကောင်း။ ပဋိစ္စသမုပ္ပာဒ်ကို သင်မည်သို့ ထင်မှတ်သနည်း။ ပဋိစ္စသမုပ္ပာဒ်ကား သင်ထင်သကဲ့သို့ တိမ်တိမ်ကလေးမဟုတ်။ အလွန်နက်ရှိုင်းလှ၏။ အလွန်နက်ရှိုင်း သော အသွင်လည်းရှိ၏။

"အာနန္ဒာ၊ 'ပဋိစ္စသမုပ္ပာဒ်သည် တိမ်တိမ်ကလေးပါ'[၂]ဟု ဤသို့ သင်မဆို လေနှင့်။ ဤသို့မပြောစကောင်း။ အကယ်၍ ပဋိစ္စသမုပ္ပာဒ်သည် သင့်အဖို့ တိမ် သယောင်ယောင်ထင်ခဲ့သော် အဘယ့်ကြောင့် သင့်အလိုအလျောက် သောတာပန် မဖြစ်ဘိသနည်း။ သင့်အား ငါချပေးထားအပ်သည့် တရားလမ်းစဉ်အပေါ်၌ ရပ်တည်လျက် နိဗ္ဗာန်သို့ထုတ်ချင်းပေါက်သွားရာ လမ်းကြောင်းကို သင်မြင်ရသည် မဟုတ်ပါလော။

"အာနန္ဒာ ဤနိဗ္ဗာန်သွားရာလမ်းမဂ္ဂကို သိဖို့အတွက်ဆိုသည်မှာ အလွန့် အလွန် ရှုပ်နှံခက်ခဲလှချေ၏။ ပစ္စယာကာရ=ပဋိစ္စသမုပ္ပာဒ်ကျိုးကြောင်းနှစ်ရပ် ဆက်စပ်၍ ဖြစ်ပေါ်လာပုံ အခြင်းအရာကား သင့်အဖို့ တိမ်သယောင်ယောင်ဖြစ်ခဲ့ ဘိသော် ထိုသို့ဖြစ်ပါလျက် ရုန့်ကြမ်းသော ကာမရာဂ သံယောဇနတရားနှင့် ပဋိဃ သံယောဇနတရား၊ ရုန့်ကြမ်းသော ကာမရာဂါ နုသယတရားနှင့် ပဋိဃာနုသယ တရား၊ ဤလေးမျိုးကုန်သော ကိလေသာ အဆောက်အအုံကြီးတို့ကို အကြွင်းမဲ့

---

၁။ အာနန္ဒာ၊ ဘဝဂ္ဂဂ္ဂတဏာယ ဟတ္ထံ ပသာရေန္တော ဝိယ၊ ပ(မဟာဝဂ္ဂ အဋ္ဌကထာ မဟာနိဒါနသုတ်၊ ၇၆၊ ဆဋ္ဌမူ)

၂။ ဤစကားစုကား မဟာဝဂ္ဂအဋ္ဌကထာ၊ မဟာနိဒါနသုတ်လာစကားတည်း။ ၈၄ ဆဋ္ဌမူ။

ခါတွက်ဖျက်ဆီးလိုက်ကြပြီး သကဒါဂါမိဖိုလ်ပေါက်အောင် အဘယ်ကြောင့် သင်မျက်မှောက်မပြုဘိသနည်း။ အဏုမြူသဖွယ် သိမ်မွေ့လှစွာသော ထိုထိုကိလေသာလေးမျိုးတို့ကို အကြွင်းမဲ့ဖျက်ဆီးကာ အဘယ်ကြောင့် အနာဂါမိဖိုလ်ကို သင်မျက်မှောက်မပြုဘိသနည်း။ ရူပရာဂစသော သံယောဇဉ် ငါးမျိုးနှင့် အနုသယသုံးမျိုး။ ဤရှစ်မျိုးသော ကိလေသာတို့ကို အစပျောက်ဖျက်သိမ်းလျက် ဘယ့်အတွက်သင် အရဟတ္တဖိုလ်ပေါက်အောင် မျက်မှောက် မပြုတုံဘိသနည်း"ဟု အာနန္ဒာအားမြွက်ကြားတော်မူလေ၏။

ထိုအခါ အာနန္ဒာသည် မလှုပ်မယှက် ငြိမ်သက်စွာဖြင့် ကုပ်၍သာ နားထောင်နေ၏။ သူ့အတွေးကို နှောင်တရသည့် လက္ခဏာဖြင့် တစ်ခါတစ်ခါ မသိမသာသက်ပြင်းချကာ ချကာနှင့် ရှိနေ၏။

"အာနန္ဒာ၊ ဤပဋိစ္စသမုပ္ပာဒ်တရားကို အသွင်းသိ၊ အစင်းသိ ထိထိရောက်ရောက်မသိခြင်း၊ ထူးသော အသိဉာဏ်ဓာတ်ခံဖြင့် လက်ဆုပ်လက်ကိုင် ပိုင်နိုင်စွာထွင်းဖောက်၍ မသိခြင်းတို့ကြောင့် ဤသတ္တဝါအပေါင်းကား ကြွက်ကိုက်ထားသည့်ချည်ခင်ထွေးကဲ့သို့ အစရှာမရအောင် ရှုပ်ထွေးနေ၏။ စာပေါင်းသိုက်သဖွယ်၊ စာဘူးတောင်းအလား၊ ရှင်းလေရှုပ်လေ တပေပေနှင့်သာ ရှိနေ၏။ ဖြူဆံမြက်၊ ပြိတ်မြက်ကို ကျစ်ထားသော ကြိုးများဆွေးမြည့်လေသောအခါ ဖွာဆန်ကြဲနေသောကြိုးပြတ်များပမာ ဘယ်ဟာအရင်း၊ ဘယ်သင်းအဖျားဟူ၍ မသိနိုင်အောင် ရှုပ်၍မပြီး ရှုပ်နေချေ၏"

မြတ်ဘုရားသည် အာနန္ဒာအား ဤသို့ သြဇာလေးနက်သောအသံတော်ဖြင့် မိန့်တော်မူ၍ ဆုံးမသြဝါဒပေးပြီးနောက် "ပဋိစ္စသမုပ္ပာဒ်အရာ ငါဆရာ"ဟူ၍ အခေါ်ခံနိုင်လောက်အောင် အရှင်အာနန္ဒာအား အသေးစိတ် အကွက်ချကာ မေးဖြေနည်းဖြင့် သင်တန်းပေးလေ၏။

ပဋိစ္စသမုပ္ပာဒ်နှင့်ပတ်သက်၍ မေးမြန်းခြင်းခံခဲ့ရသော် ဖြေပုံဖြေနည်းများကို တစ်ခုချင်းတစ်ခုချင်း ရှင်းပြ၏။ အပြန်ပြန်အလှန်လှန်မေးပုံ၊ ဖြေပုံတို့ကို စနစ်တကျအောက်ပါအတိုင်း သင်တန်းပေးတော်မူ၏။

**ဗုဒ္ဓ။** ။အာနန္ဒာ၊ တစ်စုံတစ်ယောက်က သင့်အား "ဇရာမရဏ=အိုခြင်း၊ သေခြင်း၏ အကြောင်းဟူသည် ရှိပါသလား"ဟု မေးခဲ့သော် "ရှိသည်ဟု"ဖြေလေ။ မှတ်မိပါစ၊ အာနန္ဒာ။

**အာနန္ဒာ။** ။မှတ်မိပါပြီဘုရား။ အဘယ့်ကြောင့် အိုခြင်း၊ သေခြင်းဖြစ်သနည်းဟုမေးလာဘိသော် မည်သို့ဖြေရပါမည်နည်း ဘုရား။

**ဗုဒ္ဓ။** ။အာနန္ဒာ၊ အိုခြင်း၊ သေခြင်းဖြစ်ရသည်မှာ ဇာတိကြောင့်ဟု ဖြေလေ။ ပဋိသန္ဓေနေခြင်း=ဇာတိဟူသော အကြောင်းတရား မရှိခဲ့သော် အိုသူရှိနိုင်မည်လော၊ သေသူကော ရှိနိုင်မည်လော။

**အာနန္ဒာ။** ။တင်ပါ့ဘုရား။ ထိုပဋိသန္ဓေနေခြင်း=ဇာတိ၌ အကြောင်းရှိပါသလား။ ရှိခဲ့သော် ထိုအကြောင်းကား အဘယ်ဟာပါနည်းဟု မေးခဲ့သော် မည်သို့ ဖြေရပါမည်နည်း ဘုရား။

**ဗုဒ္ဓ။** ။အာနန္ဒာ၊ ဤသို့မေးလာသူအား "ဇာတိ၌အကြောင်းရှိ၏။ ထိုအကြောင်းကား ဖြစ်ကြောင်းကံဟုဆိုအပ်သော ဘဝဖြစ်သည်။ ဘဝကို အကြောင်းခံ၍ ဇာတိဖြစ်ရသည်ဟု ဖြေလေ။ အာနန္ဒာ၊ သင့်အား ငါမေးအံ့၊ ဘဝဟူသည် အဘယ်နည်း။ သင်အသို့ဖြေမည်နည်း အာနန္ဒာ။

**အာနန္ဒာ။** ။မြတ်ဘုရား၏ အရာသာဖြစ်ပါသည်။ မည်သို့ဖြေဟု ညွှန်ကြားတော်မူပါ ဘုရား။

**ဗုဒ္ဓ။** ။အာနန္ဒာ၊ သို့ဖြစ်ဘိသော် သင်မှတ်သားလော့။ ဘဝဟူသည် အလိုအလျောက် ရှက်ကျပင်ပေါက်သဘောမျိုး ဖြစ်လာသည်မဟုတ်။ ဘဝဖြစ်လာရန်အတွက် အကြောင်းရှိပေသည်။ ထိုအကြောင်းကား ဥပါဒါန်စွဲလမ်းခြင်းပင်တည်း။ စွဲလမ်းခြင်းဥပါဒါန်ကြောင့် ဘဝဖြစ်လာသည်ဟု ဖြေလေ။

**အာနန္ဒာ။** ။တင်ပါ့ဘုရား။ စွဲလမ်းခြင်း=ဥပါဒါန်၌ကော အကြောင်းရှိပါသလား။ ရှိလျှင် အဘယ်ပါနည်းဟု မေးခဲ့သော် မည်သို့ဖြေရပါမည်လဲ ဘုရား။

**ဗုဒ္ဓ။** ။အာနန္ဒာ၊ အစဉ်အတိုင်း သင်မှတ်သားလော့။ ရူပါရုံ၊ သဒ္ဒါရုံ စသော ထိုထိုအာရုံတို့၌ တပ်မက်ခြင်းတဏှာကြောင့် ဥပါဒါန်ဖြစ်ရ၏။ ခံစားခြင်းဝေဒနာကြောင့် တပ်မက်ခြင်းတဏှာဖြစ်ရ၏။ ထိတွေ့ခြင်း ဖဿကြောင့် ခံစားခြင်းဝေဒနာဖြစ်ရ၏။ နာမ်၊ ရုပ်ကြောင့် ထိတွေ့ခြင်း ဖဿဖြစ်ရ၏။ သိမှုဝိညာဉ်ကြောင့် နာမ်၊ ရုပ်ဖြစ်ရ၏။ နာမ်၊ ရုပ်ကြောင့် သိမှုဝိညာဉ်ဖြစ်ရ၏။ (ဝိညာဏပစ္စယာ နာမရူပံ။ နာမရူပပစ္စယာ ဝိညာဏံ။ သုတ်မဟာဝါ ပါ[illegible]ဘော် ၄၈) ဤသို့ ဖြေလော့ အာနန္ဒာ။

**အာနန္ဒာ။** ။တင်ပါ့ ဘုရား။

စပယ်ဦးစာပေ

ဤသည်ကား ပဋိစ္စသမုပ္ပါဒ်ကို ချားရဟတ်ပမာ စက်လှည့်၍ ပြသောအပိုင်း ဖြစ်၏။ ပဋိစ္စသမုပ္ပါဒ်နှင့်ပတ်သက်၍ အမေးအဖြေရှိလာခဲ့သော် အဆစ်အပိုင်း ကျကျ ဖြေကြားနိုင်ရန်အတွက် ဗုဒ္ဓသည် ဤသို့ဆက်၍ ပို့ချတော်မူပြန်၏။

**ဗုဒ္ဓ။** ။အာနန္ဒာ၊ အခါခပ်သိမ်း၊ အချိန်အခါမရွေး၊ ဖြစ်ပုံအခြင်းအရာမရွေး ပဋိသန္ဓေနေခြင်း ဇာတိသည် တစ်စုံတစ်ယောက်သောသူအား နေရာ ဘုံဗိမာန်တစ်ခုခု၌ အကယ်၍ မဖြစ်ခဲ့သော် မှတ်လော့ အာနန္ဒာ၊ နတ်ဖြစ်ဖို့ရန် နတ်ဇာတိ၊ လူဖြစ်ဖို့ရန် လူ့ဇာတိ၊ တိရစ္ဆာန်ဖြစ်ဖို့ရန် တိရစ္ဆာန်ဇာတိ ဤသို့စသောအားဖြင့် သတ္တဝါ တို့အား ထိုထိုဘဝဖြစ်ရန်အလို့ငှာ ပဋိသန္ဓေဇာတိမဖြစ်ခဲ့သော် သုံးဆယ့်တစ်ဘုံ အကုန်လုံး၌ ဇာတိမဖြစ်ခဲ့သော် ပဋိသန္ဓေဇာတိ ဟူသည် ချုပ်ပြတ်ရပ်စဲသွားပြီဖြစ်သောကြောင့် ဇရာ၊ မရဏ=အိုခြင်း၊ သေခြင်းမည်သည် လောကဓာတ်တစ်ခွင်၌ ထင်နိုင် ရှိနိုင်ပါဦး မည်လော။

**အာနန္ဒာ။** ။မထင်နိုင်၊ မရှိနိုင်တော့ပါဘုရား။

**ဗုဒ္ဓ။** ။ထိုကြောင့် အာနန္ဒာ၊ ဤလောက၌ ဤဇာတိသည်ပင်လျှင် အိုခြင်း၊ သေခြင်း၏အကြောင်းတည်း။ ဤဇာတိသည်ပင်လျှင် အိုခြင်း၊ သေခြင်း၏အခြေခံတည်း။ ဤဇာတိသည်ပင်လျှင် အိုခြင်း၊ သေခြင်း၏ အထောက်အပံ့ ပစ္စည်းတည်း။ ဤသည်ကို မြဲစွာမှတ်၍ အမေးအဖြေရှိလတ်သော် တိကျစွာ ဖြေတတ်စေလော။

**အာနန္ဒာ။** ။ကောင်းလှပါပြီ ဘုရား။

ဤသို့ စသောအားဖြင့် မြတ်စွာဘုရားသည် အရှင်အာနန္ဒာအား ဘဝဟူ၍ မရှိခဲ့ပါသော် ဘဝချုပ်ပြတ် ရပ်စဲသွားလေပြီဖြစ်သောကြောင့် ဇာတိဟု ဆိုအပ်သော ပဋိသန္ဓေနေခြင်းဟူသည် မထင်နိုင်တော့ပုံကိုလည်းကောင်း၊ ဥပါဒါန်ဟု ဆိုအပ် သော စွဲလမ်းခြင်း မရှိခဲ့ပါသော် ယင်းဥပါဒါန်၏ ချုပ်ပြတ်ရပ်ဆိုင်းသွားမှုကြောင့် ဘဝဟူ၍ မထင်လာနိုင်တော့ပုံကိုလည်းကောင်း၊ တဏှာဟု ဆိုအပ်သော တပ်မက်ခြင်း မဖြစ်ခဲ့သော် ယင်းတဏှာ၏ ချုပ်ပြတ်ရပ်ဆိုင်းသွားပြီး ဖြစ်သောကြောင့် ဥပါဒါန်ဟူ၍ မထင်လာနိုင်တော့ပုံကို လည်းကောင်း၊ ဝေဒနာဟု ဆိုအပ်သော ခံစားခြင်းမဖြစ်ခဲ့ ပါသော် ယင်းဝေဒနာ၏ ချုပ်ပြတ်ရပ်စဲသွားလေပြီ ဖြစ်သောကြောင့် တဏှာဟူ၍ မထင်လာနိုင်တော့ပုံကိုလည်းကောင်း လွန်းထိုးသည့်နှယ် ခေါက်တုံ့ခေါက်ပြန် အဖန်ဖန် ဝေဖန်သုံးသပ်တော်မူကာ စနစ်တကျ လက်ဆုပ်လက်ကိုင် ရရှိအောင် ပြတော်မူ၏။

ထိုနောက် စားဝတ်နေမှု လူ့အဖြစ်ဇာတ် ချားရဟတ်တည်းဟူသော ပဋိစ္စ သမုပ္ပာဒ်တရားကိုလည်း စကားအလျဉ်း သင့်ခိုက်တွင် ပိုက်စိပ်တိုက်၍ ပို့ချတော်မူပြန်လေရာ အရှင်အာနန္ဒာ၏ မေးလျှောက်ချက်သည် သူ့အတွက်သာ မဟုတ်တော့ဘဲ သူ့ခပ်သိမ်းတို့အတွက်ကိုပါ အကျိုးသက်ရောက်သွားစေ၏။

အချိန်သည် တဖြည်းဖြည်း ညဉ့်လွှာရုံအောက်သို့ ရောက်မှန်းမသိ ရောက်လာ၏။ သို့သော် ပဋိစ္စသမုပ္ပာဒ်ကား မရပ်သေး။ သင်တန်းမပြီးသေး။ ဤရှုကွက်ကို အလေးအနက်ပြုလေသည့်ပမာ ဋ္ဌေစန္ဒာလဝန်းသည် ရွှန်းစပြုလာ၏။ လရောင်ရွှန်းစဝယ် တစ်စွန်းတစ်စ ကျန်ရှိနေသေးသော ပဋိစ္စသမုပ္ပာဒ်တရားကား ချားလည်သည့်သဖွယ် လည်လျက်သာပင်။ သို့သော် မူအားဖြင့် ပဋိစ္စသမုပ္ပာဒ်ချင်း တူစေကာမူ အမျိုးအစား ခြားနားလာသည်။ အမျိုးကွဲ၊ အဆင်ကွဲ၊ အသွင်ကွဲ ပဋိစ္စသမုပ္ပာဒ် တစ်မျိုးကို ဗုဒ္ဓက အရှင်အာနန္ဒာအား လက်ညှိုးထိုး ပြသပြန်သည်။

“အာနန္ဒာ၊ ယခု သင့်အား ငါပြအပ်ခဲ့ပြီးသမျှကား ဝဋ္ဋမူလတဏှာအရင်းခံသော ပဋိစ္စသမုပ္ပာဒ်ဖြစ်၏။ ရှာမှီးခြင်း၏ အကြောင်းရင်း အခြေခံဖြစ်သော သမုဒါစာရတဏှာ ဟူသော အမည်ဖြင့် တစ်မျိုးရှိသေးသည်။ ထိုသမုဒါစာရတဏှာ အရင်းခံဖြင့် ရုပ်ကောင်၊ နာမ်ကောင်၊ သတ္တဝါကောင်တို့ ယောင်တိယောင်တနှင့် ကျင်လည်နေကြရရှာပုံကို သင့်အား ငါပြောပြဦးအံ့”

အာနန္ဒာ။ ။ဝမ်းမြောက်လှကြောင်းပါ ဘုရား။

**ဗုဒ္ဓ။** ။အာနန္ဒာ၊ အာရုံကိုခံစားခြင်းသဘော ဝေဒနာဟူ၍ရှိ၏။ ကောင်းသည်ကိုခံစားရလျှင် သုခဝေဒနာ၊ ဆိုးဆိုးရွားရွားခံစားရလျှင် ဒုက္ခဝေဒနာခေါ်၏။ ရုပ်ကောင်၊ နာမ်ကောင်၊ လူကောင်၊ နတ်ကောင်တို့သည် သည်ဝေဒနာနှစ်မျိုးမှ လွတ်သူမရှိကုန်၊ သတ္တဝါတို့သဘောကား ကောင်းသော သုခဝေဒနာကိုသာ ခံစားလိုကြသည့်အားလျော်စွာ သုခဝေဒနာကိုသာ မျှော်လင့်ကြ၊ တောင့်တကြကုန်မြဲဖြစ်၏။

အာနန္ဒာ၊ ယင်းဝေဒနာကား ခံစားရကာမျှဖြင့် ရပ်သွားပြီထင်သလော။ သူ့နောက်တွင် အစွယ်အပွား၊ ဘက်တော်သားရှိပေသေးသည်။ ခံစားခြင်းကို အကြောင်းပြု၍ ကောင်းမှန်၊ ဆိုးမှန်း၊ ပူမှန်း၊ အေးမှန်း၊ ချိုမှန်း၊ ခါးမှန်း သိကြရသည်ဖြစ်ရာ လူ့သဘောသည် မြက်မြက်ကလေးစားရလျှင် ထပ်၍ စားချင်ပြန်သည်။ ကောင်းကောင်း ဝတ်ရလျှင် ထပ်၍ ဝတ်ချင်ပြန်သည်။ ထိုအခါ ယင်းအစား၊ ယင်းအဝတ်တို့အပေါ်၌ တပ်မက်ခြင်းဖြစ်လာ၏။ ထိုတပ်မက်ခြင်းကား တဏှာပင်တည်း။ ဝေဒနာပစ္စယာ တဏှာ=

ခံစားမှုကို အကြောင်းပြု၍ တပ်မက်ခြင်းဖြစ်လာရ၏။ ဝေဒနာ၏ လှုံ့ဆော်ချက်ကြောင့် မြေတွင်းထွက်သည့်နွယ် တဏှာသည် ခေါင်းပြူ၍ ပေါ်ပေါ်ထင်ထင် ထွက်လာ၏။

အာနန္ဒာ၊ တဏှာကို သင်အသို့ထင်သနည်း။ ဝေဒနာကြောင့် ဖြစ်ပေါ်လာသော ထိုတဏှာကား အပူကောင်စစ်စစ်တည်း။ ကလေးများ မုန့်ပူဆာသည့်သဖွယ် တအယ်အယ်နှင့် အပူကပ်တတ်သည်။ အာသာငမ်းငမ်းဖြင့် ပရမ်းပတာ တပ်မက်ခြင်း ပြင်းစွာဖြင့် ရုပ်ကောင်၊ နာမ်ကောင်တို့အပေါ်တွင် အညွန့်တလူလူနှင့် မင်းမူကြီးစိုးတတ်သည်။

အာနန္ဒာ၊ တဏှာ၏ သတ္တိကား ရမ္မက်အာသာဖြင့် ပြင်းစွာ ပူလောင်၍ တဏှာအပူကောင်ဖြစ်လာသောအခါ သူသူငါငါ ဘာလုပ်ကြမည် ထင်သနည်း။ ထိုလူကောင်၊ နတ်ကောင် ဆိုသော သတ္တဝါကောင်တို့တွင် ကိုယ်စီကိုယ်င အသီးသီး ရုပ်လည်းရှိကြသည်။ နာမ်လည်းရှိကြသည်။ ထိုရုပ်ထိုနာမ်သည် တဏှာ၏ ခိုင်းဖတ်၊ စေဖတ်များသာတည်း။

အာနန္ဒာ၊ ရုပ်ကောင်၏ဆန္ဒကို ဖြည့်တင်းရန်အတွက် နာမ်ကောင်က ထထလာ၏။ လှုပ်ရှားလာ၏။ ရုပ်ကောင်ကား အလုပ်သမားစစ်စစ်၊ နာမ်ကောင်ကား အခိုင်းသမားသက်သက်ဖြစ်သောကြောင့် ထလော့၊ ကြွလော့၊ လုပ်ကိုင်လော့ဟူ၍ ရုပ်ကောင်မထလျှင် ထဖြစ်အောင်၊ မသွားလျှင် သွားဖြစ်အောင် မလုပ်လျှင် လုပ်ဖြစ်အောင် နာမ်ကောင်က အတွင်းမှနေ၍ မီးပြင်းထိုးပေးသည်။ မြှောက်ထိုးပင့်ကော်လုပ်သည်။ ထိုအခါ ရုပ်ကောင်မှာ မနေသာလေတော့ဘဲ ခါးတောင်းတကျားကျားနှင့် ယောက်ျားဘသား၊ နင်လားငါလား ကြိုးစားရလေတော့သည်။

အာနန္ဒာ၊ စာရေးသောက်ရေး၊ နေထိုင်ရေးစသော ထိုထို လူမှုကိစ္စအပေါင်း သောင်းခြောက်ထောင်တို့က ရမ္မက်တဏှာ၏ အဆောင်အယောင်၊ သို့မဟုတ် တဏှာ၏အလုပ်အကျွေး ကျေးကျွန်များသာတည်း။ တဏှာ ရမ္မက်က ပွက်လောရိုက်အောင် မှိုင်းတိုက်လေသောအခါ ရုပ်မိုက် နာမ်မိုက်တို့က ဘာလုပ်ကြမည် ထင်သနည်း။ ရုပ်ကောင်၊ နာမ်ကောင် မှန်သမျှတို့သည် တဏှာကပ်လာလျှင် ဆတ်ဆတ်တုန်လာကုန်လေ၏။

စပယ်ဦးစာပေ

အာနန္ဒာ၊ တပ်မက်ခြင်း ရမ္မက်တဏှာ ထန်ပြင်းလာခဲ့သော် ရုပ်ကောင်၊ နာမ်ကောင်မှန်သမျှ ရုပ်တည်ခြင်းငှာ မစွမ်းနိုင်တော့ကုန်။ တဏှာ၏ အမိန့်ကို အားလုံးခေါင်းညိတ်ကြရသည်ချည်းဖြစ်၏။ တဏှာက ငါလိုချင်သည်။ ငါစားချင်သည်။ ငါဝတ်ချင်သည်။ ငါပွဲလမ်းသဘင်ကြည့်ချင်သည်ဟု ဆန္ဒပြလိုက်၏၊ ထိုအခါ ရုပ်ကောင်၊ နာမ်ကောင်တို့က တဏှာ၏ဩဇာကို ဖီဆန်ရဲပါမည်လော။ တဏှာ၏အလိုသို့မလိုက် "သင်းထိုက်နှင့် သင်းကဲ"ဟူ၍ အဘယ်သူများ ငြင်းဆန်ဝံ့မည်နည်း။

အာနန္ဒာ၊ တဏှာက သွေးဆူဆူနှင့် အပူတိုက်လာသောအခါ လူကောင်၊ နတ်ကောင်၊ ဘာကောင်မဆို တဏှာအကြိုက်ကို ဆောင်ရွက်ပေးကြရကုန်၏။ တဏှာက ထမင်းဆိုလျှင် ထမင်းကို ရအောင်ရှာပေးရ၏။ တဏှာက ပုဆိုးတောင်းလျှင် ပုဆိုးကို ရအောင်ရှာပေးရ၏။ ထိုအခါ တဏှံ ပဋိစ္စပရိယေသနာ ဖြစ်လေ၏။ တဏှံ=တဏှာကို၊ ပဋိစ္စ=စွဲ၍၊ ပရိယေသနာ=ရှာမှီးခြင်း ဖြစ်လာရ၏။

အာနန္ဒာ၊ ပရိယေသနဟူသော ရှာမှီးခြင်း၌ ရှာနည်း ဖွေနည်း အမျိုးမျိုးရှိ၏။ တရားသောနည်းဖြင့် ရှာမှီးခြင်းကို ဓမ္မေသနခေါ်၏။ စည်းမဲ့ကမ်းမဲ့ တရားလက်လွတ် ရှာမှီးခြင်းကို အနေသနခေါ်၏။ ရုပ်ကောင်၊ နာမ်ကောင်ရှိသူတို့ကား ဓမ္မေသန= တရားသဖြင့် ရှာမှီးမှုကိုသာ ပြုလေ့ရှိကုန်၏။

သို့သော် တဏှာမိုက်က ရုပ်ကောင်၊ နာမ်ကောင်အား ဖုတ်ပူမီးတိုက် နားပူနားဆာလုပ်လိုက်သောအခါမျိုး၌ကား တရားသည် ဖြစ်စေ၊ မတရားသည်ဖြစ်စေ အရသာလျှင် ဘနဖူးကိုပင် သိုက်တူးကြလေကုန်၏။ တဏှာအရှိန်း၏ မှိုင်းတိုက်ခြင်း ခံရသောအခါ ရုပ်ကောင် နာမ်ကောင်တို့အဖို့ တုံးတိုက်တိုက်၊ ကျားကိုက်ကိုက် တစ်ဖွတ်ထိုး တစ်ဓောက်ကန်းတွေ ဖြစ်ကုန်လေ၏။

အာနန္ဒာ၊ တဏှာကိုအကြောင်းပြု၍ ရုပ်ကောင် နာမ်ကောင်များက တဏှာခိုင်းသော အလုပ်ကို လုပ်ပေးကြရ၏။ တဏှာလိုချင်ရာရာကို ရှာကြရ၏။ ထိုရုပ်ကောင် နာမ်ကောင်၌ တဏှာကြောင့် ပရိယေသန ရှာဖွေမှုကိစ္စနှင့် လွဲရှောင်မရအောင် ရင်ဆိုင်နေရ၏။ ထို့ကြောင့် ရုပ်ကောင် နာမ်ကောင်တို့သည် တဏှာ့အလိုကျ

တဏှာ့ထံ မျက်နှာပန်းပြလှအောင် အားသွန်ခွန်စိုက် တက်သုတ်ရိုက်၍ ရှာဖွေချက်အရ အမြတ်ထွက်လာသည်ကား၊ လာဘော= ရရှိခြင်းပင်တည်း။

အာနန္ဒာ၊ တဏှာက အရှာခိုင်းသောကြောင့် တဏှာလိုချင်သော ပစ္စည်းများရလာ၏။ ထိုအခါ ရုပ်ကောင် နာမ်ကောင်သည် "ငါ့ကိစ္စပြီးပြီကော" ဟူ၍ ဟင်းခနဲ သက်ပြင်းချခွင့်မရသေး။ တဏှာသခင်၏ အငြိုအငြင်ကို မခံဝံ့သောကြောင့် လိုချင်ရာကို ရအောင် ရှာပေးကြရသည်။ ရပြန်တော့လည်း ရုပ်ကောင် နာမ်ကောင်အဖို့ သူ့ခမျာ သည်ဝင်္ကက မလွတ်နိုင်ရှာသေး။ ရလာသော ပစ္စည်း ပစ္စယများအပေါ်တွ သင့်လျော်အောင် စီမံခန့်ခွဲရန်ကိစ္စ ဝိနိစ္ဆယနှင့် ရင်ဆိုင်လာရပြန်လေ၏။ ရလာသောပစ္စည်းများကို ဘယ်နေရာမှာ ဘာလုပ်ရမည်။ အိမ်ဝယ်မည်။ ဇရပ်ဆောက်မည်။ ရေတွင်းတူးမည်။ ဟိုဟာဝယ်မည်။ သည်ဟာလုပ်မည် စသောအားဖြင့် ပစ္စည်းကို အကြောင်းပြု၍ ဆုံးဖြတ်ရမည့် ကိစ္စကို အဘယ်မည်သော ရုပ်ကောင် ရှောင်နိုင်ပါမည်နည်း။

အာနန္ဒာ၊ လာဘံ=ရှာဖွေ၍ ရရှိလာသော ပစ္စည်းများကို၊ ပဋိစ္စ=စွဲ၍၊ ဝိနိစ္ဆယော=ဆုံးဖြတ်ရမှုတစ်ခု ထပ်ပိုး၍လာပြန်၏။ စားဝတ်နေမှုကတစ်ဖြာ၊ ရောင်းရေးဝယ်တာက တစ်ဖုံ၊ ဝေပုံချပြီး ဆုံးဖြတ်ရမှု ကိစ္စတွေဖြစ်လာသည်။ ပစ္စည်းရှာဖွေခြင်းမှာ အလှကြည့်စရာအတွက် ရှာဖွေခြင်းမဟုတ်။ လုပ်ဖို့၊ ကိုင်ဖို့၊ စားဖို့၊ သောက်ဖို့ စသည်ဖြင့် ဖို့ပေါင်းအသင်္ချေတို့အတွက် ရှာဖွေရခြင်း ဖြစ်လေရာ ရရှိလာပြန်သောအခါ ဆုံးဆုံးဖြတ်ဖြတ်နှင့် သုံးစွဲတတ်ဖို့ ဆိုသော တာဝန်ကလည်း ရုပ်ကောင် နာမ်ကောင်ကို ဖိစီးပါချေ၏။ ဤသည်ကိုလည်း ရုပ်ကောင် နာမ်ကောင်ဆိုသော အကောင်က ကြောက်ရမှန်း လန့်ရမှန်းမသိရှာ။

အာနန္ဒာ၊ လာချေသေး၏။ သင် ရှုဦးလော့။ ဝိနိစ္ဆယံ=ဘာလုပ်မည်၊ ညာလုပ်မည် ဟူသော ဆုံးဖြတ်ချက်ကို၊ ပဋိစ္စ စွဲမှီလျက်၊ ဆန္ဒရာဂေါ=နှစ်သက် တပ်စွန်းခြင်းဖြစ်လာ၏။ မိမိပစ္စည်းကို နှားကုပ် လက်ကိုင် ဆုပ်ထားလို၏။ ထိုဆန္ဒရာဂကို အကြောင်းပြုပြန်၍ အဇ္ဈောသန်=တိုက်တွန်းခြင်း ဖြစ်လာ၏။ ငါ၊ ငါ့ဟာ၊

ငါ့ဥစ္စာ၊ ငါ့ပစ္စည်း၊ ဆုပ်မိလျှင် မလွှတ်နှင့်၊ တွယ်ထား၊ ကပ်ထား မြဲမြဲစွာဖက်ထားဟူ၍ မိမိကိုယ်ကိုပြန်၍ တိုက်တွန်းချက် အပြည့်အနက်နှင့် ဖြစ်လာ၏။

အာနန္ဒာ၊ ဤမျှဖြင့် မပြီးလေသေး။ ပဋိစ္စသမုပ္ပာဒ်ကား ပတ်ဆဲလည်ဆဲပင်ဖြစ်၏။ အဇ္ဈောသန်=တိုက်တိုက်တွန်းတွန်းနှင့် မြဲမြဲစွာ တွယ်ဖက်ထားခြင်းကို၊ ပဋိစ္စ=အကြောင်းတစ်ခု အထောက်အတားပြု၍၊ ပရိဂ္ဂဟော=ကိုယ်နှင့်မကွာ ရင်ဖယ်ပိုက်ထွေး ထားခြင်း သိမ်းဆည်းမှုဖြစ်လာ၏။ မိမိပစ္စည်းကို "အထိမခံ၊ ကြွေပန်းကန်"မျိုး ဖြစ်လာ၏။ ထိုသိမ်းပိုက်ခြင်းကို အကြောင်းပြု၍ မစ္ဆရိယ=ဝန်တိုခြင်းဖြစ်လာ၏။ မပေးလို၊ မကမ်းလို၊ သူမသိစေ လိုသော စိတ်တို့သည် တရိပ်ရိပ်နှင့် မိုးတိမ်လိမ်များအလား ကြီးထွားလာကုန်၏။

အာနန္ဒာ၊ ဝန်တိုခြင်းဖြစ်လာသော ရုပ်ကောင် နာမ်ကောင်အား ထိုဝန်တိုခြင်းက အဘယ်မျှ လွှမ်းမိုးကြီးစိုးပြန်မည်ထင်သနည်း။ "ဟော့ကောင်၊ ငါ့ပစ္စည်းတွေ သူခိုးခိုးကုန်ရင် ဘယ့်နှယ်လုပ်မလဲ" ဟူ၍ မစ္ဆရိယက ရုပ်ကောင် နာမ်ကောင်အား လုံခြုံအောင် အစောင့် အနေချထားလိုက်ပြန်သည်။ မစ္ဆရိယံ=ဝန်တိုခြင်းကို၊ ပဋိစ္စ=စွဲ၍၊ အာရက္ခော=စောင့်ရှောက်မှုတာဝန်တွေ ဖြစ်လာရပြန်၏။

အာနန္ဒာ၊ အာရက္ခ=စောင့်ရှောက်ခြင်းကား လက်ချည်း သက်သက်ဖြင့် ထိုရုပ်ကောင် နာမ်ကောင်က လုံအောင်စောင့်ရှောက် နိုင်ပါမည်လော။ ထိုအခါ လုံခြုံမှုအတွက် လက်နက်တွေ လိုလာ သည်။ လက်နက်ရှိမှ ဖြစ်မည်ဟူသော အခြေဆိုက်လာသည့် အလျောက် ထိုရုပ်ကောင် နာမ်ကောင်ကား ဓားကိုလည်းဆောင်ရ လေ၏။ တုတ်ကိုလည်း ကိုင်ရလေ၏။ စကားလည်းများ၊ ရန်လည်း ဖြစ်ရလေ၏။ ရိုက် နှက် ထိုး ခုတ် စသော ဒုစရိုက်မှုတို့သည် အမျိုးမျိုး ရှုပ်ထွေးလာကုန်၏။

အာနန္ဒာ၊ ဤသည်တို့ကား ဝေဒနာခံစားမှုအရင်းခံမှ ပေါက်ပွား လာသော ခြွေရံသင်းပင်း ရောင်းရင်းတို့သာလျှင် ဖြစ်ကုန်၏။ ရုပ်ကောင်၊ နာမ်ကောင်တို့သည် ဤသည့် ပဋိစ္စသမုပ္ပာဒ်များ အပေါ်၌ အခြေဆိုက်ကာ မမိုက်ချင်ပါဘဲလျက်လည်း ရုပ်မိုက်၊ နာမ်မိုက်ကြီး တွေ ဖြစ်ကြရကုန်၏။

အာနန္ဒာ၊ သင်စူးစိုက်စွာနာလော့။ အခါခပ်သိမ်းအချိန်မရွေး တစ်စုံတစ်ယောက်သော ရုပ်ကောင် နာမ်ကောင်အား မည်သည့်နေရာ၌ မည်သို့သော အခြင်းအရာနှင့်မျှ စောင့်ရှောက်ရခြင်း မရှိခဲ့သော် ယင်း စောင့်ရှောက်မှုသည် လုံးဝချုပ်ပြတ် ရုပ်စဲသွားလေပြီ ဖြစ်သောကြောင့် တုတ်၊ ဓား စသော လက်နက်များဆောင်ရခြင်း၊ ခိုက်ရန်ဒေါသဖြစ်ခြင်းစသော မလိုလားအပ်သည့် အကုသိုလ်မှု ဒုစရိုက်တို့သည် ဖြစ်ကုန်ရာ ဦးမည်လော။

**အာနန္ဒာ။** ။မဖြစ်နိုင်တော့ပါ ဘုရား။

**ဗုဒ္ဓ။** ။ထို့ကြောင့် အာနန္ဒာ၊ စောင့်ရှောက်ရခြင်းသည်သာလျှင် လက်နက် တုတ်၊ ဓားစသော လက်နက်များကိုင်ဆောင်ရခြင်း၏ အကြောင်းအရင်းတည်း။ အခြေခံနိဒါန်းတည်း။ ဖြစ်ကြောင်း သမုဒယတည်း။ အထောက်အပံ့ ပစ္စည်းဖြစ်သတည်း။

အာနန္ဒာ၊ အဝိဇ္ဇာပစ္စယာ သင်္ခါရာ=မသိမှုအကြောင်းခံကြောင့် ပြုပြင်မှုတို့ ဖြစ်ရသည်စသော ပဋိစ္စသမုပ္ပါဒ်ကား ဝဋ်ဆင်းရဲလျှင် မူလဘူတ အကြောင်းခံသောကြောင့် "ဝဋ္ဋမူလ ပဋိစ္စသမုပ္ပါဒ်" မည်ပေ၏။ တဏှာ ပစ္စယာ ပရိယေသနာ=တပ်မက်မှုကြောင့် ရှာမှီးခြင်းဖြစ်ရသည် စသော ပဋိစ္စသမုပ္ပါဒ်ကား ရှာမှီးခြင်း၏ အကြောင်းကို အရင်းခံသောကြောင့် "သမုဒါ စာရ ပဋိစ္စသမုပ္ပါဒ်" မည်ပေ၏။

အချုပ်အားဖြင့် ဝဋ္ဋမူလတဏှာ၊ သမုဒါစာရတဏှာဟူ၍ ဤသို့ တဏှာကိုခွဲခြား၍ မှတ်နိုင်၏။ ယင်းတဏှာနှစ်မျိုးစလုံးပင် ဝေဒနာ၌ ပေါင်းဆုံမိကုန်၏၊ ဝေဒနာကိုအကြောင်းပြု၍ ယင်း တဏှာနှစ်မျိုးစလုံး ဖြစ်ရကုန်၏။ ဤသည်တို့ကိုလည်း ခွဲခွဲခြားခြား သင် မှတ်သားလေဦးလော့ အာနန္ဒာ။

**အာနန္ဒာ။** ။တင်ပါ့ ဘုရား။

တောအုပ်ကြီးအတွင်း၌ ပဋိစ္စသမုပ္ပါဒ်သည် အဆက်မပြတ် လည်ပတ်နေခြင်းမှ ရပ်ဆိုင်းမသွားသေး။ စန္ဒာယုန်အိမ်သည် မိုးတိမ်ယံမှ ဘုရားသခင်၏ ပဋိစ္စသမုပ္ပါဒ်ကို နာလျက်ရှိနေ၏။ ဤတောအုပ်မှ မလှမ်းမကမ်းသို့ လှမ်းမျှော်လိုက်သော် မီးရောင် တဝင်းဝင်းနှင့် ကမ္မာသဓမ္မရွာကြီး၏ ညရှုခင်းကို ရေးရေးမြင်နိုင်၏။

အာနန္ဒာဟု ခေါ်လိုက်သော ဗုဒ္ဓ၏အသံတော်သည် ညင်ညင်သာသာ၌ ထွက်လာ၏။ အရှင်အာနန္ဒာကား ဘုရားသခင်၏ ရှေ့တော်တွင် ဒူးတုပ်၍ ရိုသေစွာ ခစားလျက်၊

တရားနာနေလျက်ပင်။ ဗုဒ္ဓသည် အာနန္ဒာအား အကျယ်ပွား၍ ဟောကြားရန် ရှိနေသေးသည့်အတွက် အာနန္ဒာဟု ခေါ်တော်မူလိုက်ခြင်း ဖြစ်၏။

**ဗုဒ္ဓ။** ။အာနန္ဒာ ကောင်းစွာသင်မှတ်ဥလေဦး။ နာမ်၊ ရုပ်အကြောင်းကို ထပ်လောင်း၍ ငါဆက်ဦးအံ့။ ဝိညာဏပစ္စယာ နာမရူပံ=ဝိညာဉ်ကြောင့် နာမ်၊ ရုပ်ဖြစ်ရသည်ဟု ငါဆိုခဲ့ပြီ။ နာမ်၊ ရုပ်ဖြစ်ပုံကို ဤသို့အားဖြင့်လည်း မှတ်နိုင်သေး၏။

အာနန္ဒာ၊ သိမှုသည် ဝိညာဉ်၊ ဝိညာဉ်သည် သိမှုဖြစ်၏။ ထိုသိမှုခေါ်သော ဝိညာဉ်သည် အမိဝမ်း၌ မသက်ရောက်ခဲ့သော် နာမ်၊ ရုပ်သည် ပဋိသန္ဓေ၏အစွမ်းအားဖြင့် ဖြစ်လာနိုင်ပါမည်လော။

**အာနန္ဒာ။** ။မဖြစ်တည်နိုင်ပါ ဘုရား။

**ဗုဒ္ဓ။** ။အာနန္ဒာ၊ ဝိညာဉ်သည် အမိဝမ်း၌ဖြစ်လာလေ၏။ ထိုသို့ဖြစ်လာပြီးမှ ထိုဝိညာဉ် ချုပ်သွားခဲ့သော် နာမ်၊ ရုပ်သည် ဤကိုယ်ကာယ ဖြစ်ခြင်းငှာ ဖြစ်နိုင်ပါမည်လော။

**အာနန္ဒာ။** ။မဖြစ်နိုင်ကြောင်းပါ ဘုရား။

**ဗုဒ္ဓ။** ။အာနန္ဒာ၊ သူငယ်အားလည်းကောင်း၊ သူငယ်မအားလည်းကောင်း ဝိညာဉ်သည် ငယ်စဉ်ကပင် ချုပ်သွားငြားအံ့။ နာမ်၊ ရုပ်သက်သက်က ထ၍ ကြီးပွားခြင်း၊ စည်ပင်ခြင်း၊ ပြန့်ပွားခြင်းသို့ ရောက်နိုင်ပါမည်လော။

**အာနန္ဒာ။** ။မရောက်နိုင်ပါ ဘုရား။

**ဗုဒ္ဓ။** ။ထို့ကြောင့် အာနန္ဒာ၊ ဝိညာဉ်သည်သာလျှင် နာမ်၊ ရုပ်၏အကြောင်းရင်းတည်း။ ဝိညာဉ်သည်သာ နာမ်၊ ရုပ်၏ အခြေခံ နိဒါန်းတည်း။ ဝိညာဉ်သာ နာမ်၊ ရုပ်ဖြစ်ကြောင်း သမုဒယတည်း။ ဝိညာဉ်သာ နာမ်၊ ရုပ်၏အထောက်အပံ့ ပစ္စည်းဟု သင်မှတ်လော့။

**အာနန္ဒာ။** ။တင်ပါ့ဘုရား။

**ဗုဒ္ဓ။** ။အာနန္ဒာ၊ နာမရူပ ပစ္စယာ ဝိညာဏံ=နာမ်၊ ရုပ်ကြောင့် သိမှုဖြစ်ရသည်ဟု ငါဆိုခဲ့၏။ ယင်းဝိညာဉ်ဖြစ်ပုံကို ဤသို့သော အကြောင်းတစ်မျိုးဖြင့်လည်း သင်မှတ်သားနိုင်သေး၏။

အာနန္ဒာ၊ ဝိညာဉ်သည် နာမ်၊ ရုပ်တည်းဟူသော မှီတွယ်ရာ အမာခံရှိမှသာ ဖြစ်နိုင်လေသည်။ နာမ် ရုပ်၌ မှီတွယ်ရာ မရခဲ့သော် နောင်သောအခါ ပဋိသန္ဓေနေခြင်း၊ အိုခြင်း၊ သေခြင်းနှင့်တကွ ဆင်းရဲမျိုးစုံ ထင်ရှားနိုင်ပါမည်လော။

**အာနန္ဒာ။** ။မထင်ရှားနိုင်ပါ ဘုရား။

**ဗုဒ္ဓ။** ။ထို့ကြောင့် အာနန္ဒာ၊ ထိုနာမ်၊ ရုပ်သည်သာ ဝိညာဉ်၏ အကြောင်းရင်း အခြေခံနိဒါန်းဖြစ်ကြောင်း၊ သမုဒယအထောက်ပံ့ဖြစ်ကြောင်းကို သင်ကောင်းစွာ မှတ်လေလော့။

**အာနန္ဒာ။** ။တင်ပါ့ဘုရား။

**ဗုဒ္ဓ။** ။အာနန္ဒာ၊ နာမ်၊ရုပ်ကို ဤဥပမာဖြင့်လည်း သင်မှတ်လိုက မှတ်နိုင်သည်၊ မှတ်သင့်သေးသည်။ အာနန္ဒာ၊ မင်းချင်းယောကျ်ား၁တို့သည် မင်းအား ဤသို့ဆိုကုန်ရာ၏။ သင့်ကို မည်သူက မင်းမြှောက်ထားသနည်း။ ငါတို့ကမင်းအဖြစ်တင်မြှောက်ထားသည်မဟုတ်ပါလော။ အကယ်၍ အကျွန်ုပ်က အိမ်ရှေ့မင်းအဖြစ်၊ သူက စစ်သေနာပတိအဖြစ်၌ ရပ်တည်ခြင်းမရှိခဲ့သော် သင်တစ်ယောက်ထီးတည်း မင်းဖြစ်ရာပါသလော။ ငါတို့ကော သင့်အား မင်းအဖြစ်မြင်ကြရကုန်ရာသလောဟု ဆိုကုန်လေရာ၏။

အာနန္ဒာ၊ ထို့အတူ နာမ်၊ ရုပ်ကလည်း ဝိညာဉ်ကို ဤသို့ပြောသည်နှင့်တူ၏။ သင့်ကို ပဋိသန္ဓေဝိညာဉ်ဟု မည်သူက ပြုအပ်သနည်း။ ငါပြုအပ်သည်မဟုတ်ပါလော။ အကယ်၍ သင်သည် ခန္ဓာသုံးပါးကိုလည်းကောင်း၊ ဟဒယဝတ္ထုကိုလည်းကောင်း၊ မမှီမတွယ်လေဘဲ ပဋိသန္ဓေဝိညာဉ် မည်နိုင်ရာပါမည်လော။ ငါတို့ကကော သင့်ကို ပဋိသန္ဓေဝိညာဉ်အဖြစ်ဖြင့် မြင်နိုင်ကုန်ရာပါမည်လောဟု နာမ် ရုပ်က ဝိညာဉ်အား ပြောလေဟန် ဤပုံနှင့် ဟပ်၍လည်း သင်မှတ်နိုင်သည် အာနန္ဒာ။

**အာနန္ဒာ။** ။တင်ပါ့ဘုရား။

**ဗုဒ္ဓ။** ။ဤသို့လျှင် နာမ်၊ ရုပ်နှင့် ဝိညာဉ်တို့ကို အချင်းချင်း ကျေးဇူးပြုသည်၏ အစွမ်းအားဖြင့် သတ္တဝါကောင်သည် ဖြစ်မှုလည်းဖြစ်ရာ၏။ အိုမှုလည်း အိုရာ၏။ သေမှုလည်း သေရာ၏။ စုတိ၏ အစွမ်းအားဖြင့် တစ်ဘဝမှတစ်ဘဝသို့ ထပ်တလဲလဲ တွေ့မှုလည်း တွေ့ရာ၏။ ပဋိသန္ဓေ၏အစွမ်းအားဖြင့်လည်း ဘဝသစ်၌ အကြိမ်ကြိမ် ဖြစ်မှုလည်း ဖြစ်ရာ၏။

---

၁။ ယထာဟိရာဇပေုရိသာရာဇာနံ၊ ပ (မဟာဝဂ္ဂအဋ္ဌကထာ၊ မဟာနိဒါနသုတ်၊ ၉၃၊ ဆဋ္ဌမူ)

ဤသို့ ဝိညာဉ်နှင့် နာမ် ရုပ်အချင်းချင်း ကျေးဇူးပြုသောအားဖြင့် အဓိဝစနပထော=စကားပြောဖို့ ဝေါဟာရဖြစ်လာ၏။ နိရုတ္တိပထော= အလေးအနက်ပြုရာ သဒ္ဒါဖြစ်လာ၏။ ပညတ္တိပထော=ခေါ်ဝေါ် သမုတ်စရာ ပညတ်ဖြစ်လာ၏။ ပညာဝစရံ=ပညာ ကွန့်မြူးစရာ ဉာဏ်စားကျက်ဖြစ်လာ၏။ ဝဋ္ဋံဝတ္တတိ=သံသရာ စက်ရဟတ်ကြီး ချာချာလည်လာ၏။ ဣတ္ထတ္တံ=ခန္ဓာငါးပါးဖြစ်ဖို့ အထင်အရှား ဖြစ်လာ၏။

အာနန္ဒာ၊ ဤသို့ ဤသို့လည်း ခွဲခွဲခြားခြား မှတ်သားမိစေ ဦးလော့။

**အာနန္ဒာ။** ။တင်ပါ့ဘုရား။

တောအုပ်ကြီးသည်သာ မှောင်ရိပ်တွင် အိပ်မောကျနေ၏။ လရောင်ကား မမိုတ်သေး။ ထို့အတူ တောအုပ်ကြီးအတွင်း၌ တရားသံသည်လည်း မတိတ်သေး။

(ဒီဃနိကာယ်၊ မဟာဝဂ္ဂပါဠိတော်၊ မဟာနိဒါနသုတ်၊ ၄၇၊ ၅၄–ဆဋ္ဌမူ)

( ၁၈ )

# သံချိုင်းစည်ကားအောင် လုပ်နေသူများ

မ,အလို လိုက်လျှင် မိုက်ဘက်ပါတတ်သည်ဟူ၍လည်းကောင်း၊ မယား ထိလျှင် ဓားကြည့်ဟူ၍လည်းကောင်း၊ မ,အတွက်နှင့် အသက်သေသူဟူ၍ လည်းကောင်း ဤသို့စသောအားဖြင့် ပြောကြဆိုကြသောစကားများ ရေပန်းစားလာ ခဲ့သည်မှာ ကြာပြီဖြစ်၏။

ထိုစကားများ၏ မြစ်ဖျားခံရာကား၊ မ=မိန်းမဖြစ်၏။ မိန်းမအတွက် ဤစကားများ ထွက်လာခြင်းဖြစ်၏။ ထိုစကားလုံးတို့သည် အတုံးလိုက်၊ အတစ်လိုက် လူတို့၏ အာခံတွင်းထဲသို့ ဒိုက်ဗင်ထိုး၍ ဆင်းလာကုန်ကြသည်မှာ အကြောင်းမဲ့ မဟုတ်။

မိန်းမတို့၏ စိတ်အာရုံလောက် ယောကျာ်းတို့၏စိတ်ကို တုန်လှုပ်ချောက်ချား သွားစေနိုင်သောအရာသည် မရှိ။ မိန်းမတို့၏ ရူပါရုံ၊ ရုပ်အဆင်းသည်သာ ယောကျာ်းသားတို့၏ စိတ်နှလုံးကို ထုံးလိုချေ၊ ရေလိုနှောက်နေသည့် လက်နက် ဖြစ်သည်ဟူ၍ မြတ်ဘုရား မြွက်ကြားသွားတော်မူ၏။

အချုပ်အားဖြင့် ယောကျာ်းများ ဖောက်ပြားကြ၊ ဒုက္ခအမျိုးမျိုးရောက်ကြရ သည်မှာ ဘယ်သူ့ကြောင့်လဲ မေးခဲ့လျှင် မိန်းမကြောင့်၊ မိန်းမကြောင့်ဟု ဖြေ ရမည်သာဖြစ်၏။ မိန်းမအတွက်နှင့် ယောကျာ်းအချင်းချင်း ရက်စက်စွာ သတ်ကြ၊ ဖြတ်ကြ၊ ရိုက်နှက်ကြ၊ ထိုးခုတ်ကြ၊ ဤသို့ မလိုလားအပ်သော မှုခင်းများ ဖြစ်ပွားကြရသည်မှာ မိန်းမသာလျှင် အကြောင်းရင်းရှိသည်ဟု ဆိုလိုသည်။

ဤကမ္ဘာသည်လည်းကောင်း၊ ထိုထိုကမ္ဘာသည်လည်းကောင်း၊ မည်သည့်ကမ္ဘာမှ မိန်းမနှင့် ကင်းလေမည်မဟုတ်။ မိန်းမသည် ကမ္ဘာတိုင်း ကမ္ဘာတိုင်း၏ အဆင်တန်ဆာ တစ်မျိုးအသွင်ဖြင့် ထင်နေမည်သာဖြစ်၏။ မိန်းမ မပါလျှင် ကမ္ဘာတည်၍ ဖြစ်မည်မဟုတ်။

မိန်းမရှိနေသရွေ့ ယောကျ်ားလောက၌ သတ်ပွဲ၊ ရိုက်ပွဲများလည်း မည်သည့်အခါမှ ကင်းလေမည်မဟုတ်။ မိန်းမအတွက်နှင့်ပတ်သက်၍ ယောကျ်ားလောကတွင် ရှေးကလည်း သတ်ခဲ့ပြီ။ ယခုလည်းသတ်နေဆဲ။ နောင်တွင်လည်း သတ်ကြ၊ ဖြတ်ကြ၊ ရိုက်နှက်ကြဦးမည်သာတည်း။

ထင်ရှားစေပါအံ့။ ဗုဒ္ဓလက်ထက်တော်အခါက မိန်းမတစ်ယောက်ကို အကြောင်းပြုလျက် ယောကျ်ားပေါင်း သောင်းခြောက်ထောင်တို့ မြို့ပျက်မခန်း သောင်းကျန်းခဲ့ကြဖူးပေသည်။

နေရာကား ရာဇဂြိုဟ်မြို့တော်ကြီးအတွင်း၌ဖြစ်၏။ ပြည့်တန်ဆာမတစ်ယောက်သည် မက်လောင်အောင် အတော်ချော၊ အတော်လှ၏။ နာမည်ကျော်အမွှပါလီကဲ့သို့ ကြေးကြီးစား ပြည့်တန်ဆာမဖြစ်၏။ ကြေးတတ် ယောကျ်ားများမှသာ သူ့အပါးသို့ ချဉ်းကပ်နိုင်သော ဟူပေ၏။

ယင်းအချောအလှ မျိုးမ ပကာသနီကို အကြောင်းပြု၍ ရာဇဂြိုဟ်မြို့ကြီးသားကာလသားလောက၌ အုပ်စုနှစ်စုကွဲသွား၏။ အဝေမတည့် ဖြစ်ကုန်လေ၏။

ကာလသားအုပ်စုတစ်စုက ထိုပြည့်တန်ဆာမအား သူတို့ချည်းသာ ပျော်ပါးလိုကုန်သည်။ သူတို့သည်သာ အတွေ့ထူးဝယ် ယစ်မူးလိုကုန်သည်။ တစ်ဖက်အုပ်စုမှ ကာလသားများအား လုံးဝပျော်ပါးခွင့် မပေးလိုကြကုန်။

တစ်ဖက်သောအုပ်စုဝင် ကာလသားများမှာလည်း ခေသူများမဟုတ်ကြ။ ကြေးကြီးပေး၍ ထိုပြည့်တန်ဆာမအား သူတို့ချည်းသာ ပျော်ပါးလိုကြကုန်သည်။ ဟိုဘက်အုပ်စုက အကောင်တွေကို ယောင်လို့မှ မြည်းခွင့်မပေးလိုကြ။

ဤသည်မှအစ ပဋိပက္ခဖြစ်ကြလေ၏။ တစ်ဖက်နှင့်တစ်ဖက် ပထမသော်တကျက်ကျက် ဖြစ်ရုံလောက်သာရှိသည်။ နောင်တွင်မူ ပဋိပက္ခမှာ တဖြည်းဖြည်းကြီးထွားလာသည်။ အဆီတစ်ရစ်၊ အသားတစ်ရစ်၊ လုံးကျစ်ဖွံ့ထွား၊ သွားရည်တမြားမြား ကျချင်စရာကောင်းလှသော ထိုပြည့်တန်ဆာမ၏ ရူပါရုံဆွဲခေတ်ကြောင့် ဦးရာလူ တောက်တဲ့ကပ် ကပ်ကြရာမှအစ အချင်းချင်း စကားများကြ ရန်ဖြစ်ကြလေသောအခါ အနိုင်အရှုံး၊ လုံးထွေး သတ်ပုတ်ကုန်လေ၏။ ခဲနှင့် ထုသူကထု၊ လက်သီးစွမ်းပြသူကပြ၊ ဓားမိုး၊ တုတ်ဝဲ၊ လှံကို ဆွဲသူကဆွဲနှင့် လူသတ်ပွဲကြီးဖြစ်လာလေ၏။

ထိုသည့် အဓိကရဏ်းကြောင့် အချို့သော၊ အချို့ခြေကျိုး၊ အချို့လက်ပြတ်၊ အချို့မှာ ဒဏ်ရာအနာတရနှင့် မရှုမလှ သွေးမြေကျဖြစ်ကုန်လေ၏။

အချိန်မှာ တစ်မြို့လုံး ဝါဝါထိန်နေသော ဆွမ်းခံချိန်ဖြစ်သည့်အလျောက် ရဟန်းတော်များသည် စီတန်းလျက် ဆွမ်းခံလျက်ရှိနေကြ၏။ ထိုအချိန်တွင် ဓားရောင်တဖွေးဖွေး၊ လှံရေးတပြင်ပြင်နှင့် ရှိနေသော ဓားကြား တုတ်ကြား၌ ဆွမ်းခံကိုယ်တော်များ ပိတ်မိနေသဖြင့် ယင်းရိုက်ပွဲ ရှုကွက်ကို မမြင်လိုဘဲလျက် မြင်နေကြရလေသည်။

ဆွမ်းခံရင်း ကြုံတွေ့ခဲ့ရသော မြို့တွင်းက ထိုသတင်းသည် ကျောင်းသို့ အထိပါလာသည်။ ဆွမ်းစားပြီးလေသောအခါ ထိုဖြစ်ရပ်ကို မျိုသိပ်မထားနိုင်သော ကိုယ်တော်အချို့ ဘုရားသခင်ထံတော်သို့ သတင်းပို့ကြလေ၏။

ဘုရားသခင်အနေဖြင့် ထိုသတင်းစကားမျိုးကို မကြားလိုသော်လည်း ရဟန်းအချို့က အရင်းအတိုင်း ဖောက်သည်ချလေသည့်အတွက် နားရှက်ရှက်နှင့်ပင် ကြားတော်မူရလေ၏။

ထိုအခါ မြတ်ဗုဒ္ဓသည် တိုတိုတုတ်တုတ်ဖြင့် နှုတ်မြွက်ဆုံးမတော်မူရလေ၏။

"အို–ရဟန်းတို့၊ ဤအလုပ်ကား သင်တို့အလုပ်မဟုတ်၊ သင်တို့အနေဖြင့် လုပ်ရန်အလုပ်နှစ်မျိုးသာရှိ၏။ တစ်မျိုးကား တရားကိုအားထုတ်ခြင်း၊ နောက်တစ်မျိုးကား ရေငုံနှုတ်ပိတ် ခပ်မဆိတ်နေခြင်း၊ ဤနှစ်မျိုးသာ သင်တို့အလုပ်ဖြစ်ပေသည်"ဟု မိန့်တော်မူပြီးနောက် ဤသို့ ဖြစ်ရပ်ကိုအကြောင်းပြုကာ အောက်ပါတိုင်း ဥဒါန်း ကျူးတော်မူလိုက်လေသတည်း။

ကာမစွမ်းအားဖြင့် ရောက်တတ်သူလည်းရှိ၏။ ရောက်အပ်သူ၊ အရောက်ခံရသူလည်းရှိ၏။ ထိုနှစ်မျိုးစလုံးသည် ဇရာဖြင့် ပြွမ်းနေ၏။ ဇရာပျစ်ထူများသာ ဖြစ်ကြ၏။ တဏှာရောဂါ၊ ရာဂရောဂါ စွဲကပ်နေသူများဖြစ်ခြင်းကြောင့် ရောဂါ ထကာ အမြဲနာကျင်နေ၏။ သိက္ခာသရကို လိုလားကြသော အကြင်သူတို့သည် သီလဗ္ဗတ ဗြဟ္မစရိယအကျင့်ကို အသက်ကဲ့သို့ အလုပ်အကျွေးပြုကြကုန်၏။ ဤကား တစ်ခုသော အစွန်းဖြစ်၏။

အကြင်သူတို့သည်ကား ကာမမှုတို့၌ အပြစ်မရှိဟု အယူရှိကုန်၏။ ဤကား တစ်ခုသော အစွန်းဖြစ်၏။ ထိုအစွန်းနှစ်ခုတို့သည် ခန္ဓာကိုယ်အတ္တဘောကို ပွားစီးစေလျက် သင်္ချိုင်းစည်ကားအောင် ပြုကုန်၏။ ခန္ဓာကိုယ် အတ္တဘောကို

ပွားစီးစေသူတို့သည် အယူဝါဒ၊ အစွဲအလမ်းတစ်ခုခု၊ ဒိဋ္ဌိတစ်မျိုးမျိုးကို ပွားစီးစေသူတို့ဖြစ်ကုန်၏။ ယင်းအကြောင်းကို မသိသူအချို့တို့သည် တဏှာဖြတ်တောက်မှုမှ ဆုတ်နစ်ကုန်၏၊ အချို့တို့ကား ဘဝပြတ်မှအေးမည်ဟူ၍ တစ်ပြေးတည်း ပြေးနေကုန်၏။ အကြောင်းသိသူတို့ကား ပြေးဖို့ဝေးစွ၊ သချိုင်းအနီးသို့ပင် မသိကြတော့ကုန်။ သချိုင်းရှိသည်ဟူ၍ပင် မထင်လေတော့ကုန်။ ထိုသူတို့အဖို့ ပညတ်စရာ ဝဋ်ဟူသည် မရှိတော့ပြီ၊ ပြတ်လေပြီတည်းဟု ဤသို့ ဥဒါန်းကျူးတော်မူလေသတည်း။

(ခုဒ္ဒကနိကာယ်၊ ဥဒါန်းပါဠိတော်၊ ဂဏိကာသုတ်၊ ၁၆၆၊ ဆဋ္ဌမူ)

( ၁၉ )

# သဟဓမ္မိကပဥှာ ဆယ်ပါး

မစ္ဆိကာသဏ္ဍာဟူ၍ ပြည်နယ်တစ်ခုရှိ၏။ ထိုပြည်နယ်တွင် ထင်ရှားသော အကျော်ဇေယျများကို ရွေးထုတ်၍ သန်းခေါင်စာရင်းပြုလုပ်ခဲ့သော် စိတ္တသူကြွယ်ကို ချန်လှပ်ထားခဲ့၍ မဖြစ်ချေ။ စိတ္တသူကြွယ်ကား မျက်နှာဖုံးများစာရင်းတွင် ထိပ်ဆုံးမှ ပါဝင်နေသောကြောင့် ဖြစ်၏။

စိတ္တသူကြွယ်၏ ထင်ရှားခြင်းကား ဓနဂုဏ်ကြောင့်မဟုတ်။ ဇာတတ်၊ ပေတတ်၊ စကားတတ်၊ ဗဟုသုတအရာ၌ နှံ့စပ်သောကြောင့် ဖြစ်ပေ၏။

စိတ္တသူကြွယ်သည် ပညာလည်းကြီး၏။ ပညာရှိသောအကျင့်ကိုလည်း ကျင့်၏။ နှိုက်နဲ့သော အဘိဓမ္မာသဘော၊ ပရမတ်တရားများကိုလည်း အနှစ်ကျကျ သိထားသူဖြစ်၏။ အတွေးအခေါ်လည်း ဆန်းသစ်၏။ စကားပရိယာယ်လည်း ကြွယ်၏။ ဆန်းကြယ်သောစကားကို ဆိုတတ်သောအရာတွင် သူသာလျှင် အတော်ဆုံးဖြစ်သည့် "ဧတဒဂ်ဘွဲ့"ကိုပင် ရရှိထားသူ ဖြစ်လေသည်။

အဘိဓမ္မာသဘောတရားကို ရဟန်းသံဃာတော်များနှင့် ဆွေးနွေးဘက် ဖြစ်သောကြောင့် သံဃာ့လောက၌ ထင်ရှားရုံမက သူ့အား သံဃာတော်များကပင် ချီးကျူးခြင်း ပြုကြကုန်၏။

စိတ္တသူကြွယ်၏ ဉာဉ်တစ်ခုမှာ သူနှင့်တဒချင်းတူသည်ဖြစ်စေ၊ မတူသည်ဖြစ်စေ ထင်ရှားကျော်ကြားသော ပညာရှင်ထံ ချဉ်းကပ်လျက် သိမ်သိမ်မွေ့မွေ့ ပညာရှိပီသစွာ ဆိုပြောလေ့ ရှိခြင်းပင်တည်း။

သူနေထိုင်ရာ မစ္ဆိကာသဏ္ဍာသို့ မည်သည့် အယူဝါဒရှိသူမဆို အကျော်ဇေယျ ပုဂ္ဂိုလ်တစ်ဦးဦး ရောက်ရှိလာသည်ကြားသော် စိတ္တသူကြွယ်သည် ဦးဦးဖျားဖျား သွားရောက်တွေ့ဆုံကာ ပညာချင်းနှီးနှောလေ့ရှိ၏။

အခါတစ်ပါးတွင် နာဋအမည်ရှိသော နိဂဏ္ဌတက္ကတွန်းတစ်ဦးသည် နောက်ပါ တပည့် တက္ကတွန်းငါးရာ ခြံရံလျက် ထိုမစ္ဆိကာသဏ္ဍာသို့ ရောက်ရှိလာ၏။ ထိုနိဂဏ္ဌတက္ကတွန်းကား သာမညအညတရ ပုဂ္ဂိုလ်စားမျိုးမဟုတ်၊ ဘုရားအမည်ကို ခံယူနေသူ ဧရာမတက္ကတွန်းအရှင်ကြီး ဖြစ်လေသည်။

ဘုရားဟု အခေါ်ခံနေသော နိဂဏ္ဌသည် စိတ္တသူကြွယ်၏ အကြောင်းကို ကောင်းကောင်းကြားဖူးနားဝရှိထားပြီး အကြောင်းသိပြီးဖြစ်၏။ သိလျက်နှင့် ရောက်လာသည်ကိုထောက်သော် စိတ္တသူကြွယ်လောက်ကို မမှုလောက်ဟုထင်၍ ရောက်လာခြင်းပေလောဟူ၍ တွေးထင်နိုင်စရာရှိ၏။

မည်သို့ပင်ဖြစ်စေ နိဂဏ္ဌတက္ကတွန်း မစ္ဆိကာသဏ္ဍာသို့ ရောက်လာသည် ဟူသော သတင်းကိုကြားလျှင် စိတ္တသူကြွယ်သည် လျင်စွာပင်သွား၍ နိဂဏ္ဌနှင့် တွေ့ဆုံသည်။ မိတ်ဆက်စကားပြောသည်။ နိဂဏ္ဌလည်း ဝမ်းမြောက်စွာပင် စိတ္တသူကြွယ်နှင့် အလာပသလ္လာပစကား ဆိုပြောသည်။

ဗုဒ္ဓဝါဒီတို့များစွာနေထိုင်ရာ ဤမစ္ဆိကာသဏ္ဍာသို့ နိဂဏ္ဌရောက်ရှိလာခြင်းမှာ စည်းရုံးရေးအတွက် ဖြစ်တန်လေရာသည်။ သူ၏ပြောစကားများကို ထောက်ခြင်း အားဖြင့် စိတ္တသူကြွယ်ကဲ့သို့သော ဗုဒ္ဓဝါဒီခေါင်းဆောင်တစ်ဦးအား သူ့ဘက်သို့ပါ လာအောင် မြှူဆွယ်လေသည့်အသွင် ထင်ဟပ်နေပေသည်။ စိတ္တသူကြွယ်အား ရှေးဦးစွာ ပညာစမ်းလိုက်သည့်သဘော သို့မဟုတ် သူ၏ ခံယူချက် အတိမ်အနက်ကို ခန့်မှန်းလိုသည့်ဆန္ဒဖြင့် နိဂဏ္ဌသည် ဤသို့ စကားတစ်လုံး ပစ်သွင်းကြည့် လိုက်၏။

"အို–သူကြွယ်၊ အတ္ထိအဝိတက္ကော=အာရုံကို မတွေးတောခြင်းသည်ရှိ၏။ အတ္ထိအဝိစာရော=အာရုံ၌ မစူးစမ်းခြင်းသည်ရှိ၏။ အတ္ထိသမာဓိ=တည်ကြည် ခြင်းသည် ရှိ၏ဟု ရဟန်းဂေါတမက တွင်တွင်ဟောပြောနေပါပကောလား။ သူ့စကားကို သင် ယုံသလော"ဟူသော ဤပုစ္ဆာစကားဖြင့် စိတ္တသူကြွယ်၏ အာဘော်ကို အစ်ထုတ်ကြည့်လိုက်၏။ ထိုမေးခွန်းကို စိတ္တသူကြွယ်က ပေါ့ပါးစွာပင် ဖြေ၏။

"အို–အရှင်နိဂဏ္ဌ၊ ကျွန်ုပ်လာခဲ့ရခြင်းမှာ ရှင်ကြီးဂေါတမ၏စကားကို ယုံကြည်သူတစ်ယောက်အနေဖြင့် ရောက်လာခြင်းမဟုတ်ပါ"

ဤအသံကိုကြားလတ်သော် နိဂဏ္ဌသည် များစွာနှစ်ထောင်းအားရခြင်း ဖြစ်သွား၏။ ဤသို့ဖြစ်ခြင်းကား "စိတ္တသူကြွယ်သည် ရှင်ဂေါတမ၏ ဝါဒကို လက်ခံနေသူ မဟုတ်"ဟု အတွေးရောက်လေသောကြောင့် ဖြစ်၏။

ထို့ကြောင့် နိဂဏ္ဌာသည် ဝမ်းသာအားရစွာဖြင့် ခါးကိုကော့၍ လည်ကိုမော့လျက်မှ သူ့ပရိသတ်အား အပေါ်စီးမှ ကဲ၍ကြည့်ပြီးလျှင် ဤသို့ ကြွားကြွားဝင့်ဝင့် ရင့်ကြွေးလိုက်လေသတည်း။

"ဟရေးအချင်းရို့၊ အချင်းရို့။ ဤသူအား သင်တို့ကြည့်ကြကုန်၊ ရှုကြကုန်၊ မှတ်သားကြကုန်။ နာမည်ကျော် စိတ္တသူကြွယ်ဆိုသူကား ဤသူပင်တကား။ သူသည် ဥဇုကော=လူရိုးလူဖြောင့်၊ အသာဌော=ကောက်ကျစ်စဉ်းလဲခြင်းမရှိ၊ အမာယာဝီ=မလှည့်စားတတ်၊ အကြင်သူသည် ဝိတက် ဝိစာရ=ကြံတွေးမှု၊ စူးစမ်းမှုတို့ကို ချုပ်ငြိမ်းစေအပ်ကောင်းသည်ဟု ထင်လေအံ့။ (ဝါ) တွေးခေါ်ကြံစည်ခြင်းသဘောလည်းမရှိ၊ စူးစမ်းဆင်ခြင်တုံသဘောလည်းမရှိဟု ဆိုလေငြားအံ့။ ထိုသူသည် လေကိုပိုက်ကွန်ဖြင့် ထောင်၍ ဖမ်းနေသူဟု ငါထင်၏။ အဟုန်ဖြင့် စီးဆင်းလာသော တောင်ကျချောင်းရေကို လက်ခုပ်ဖြင့် ဆီး၍တားနေသူဟု ငါမြင်၏"

ဤသို့ လှိုက်လှိုက်လှဲလှဲ အားရပါးရ စိတ္တသူကြွယ်၏အကြောင်းကို သူ၏ တပည့်လက်သား တက္ကတွန်းများအား ချီးမွမ်းသတင်း သင်းပျံ့စေပြီးသည့် အဆုံးတွင် နိဂဏ္ဌာသည် ဆွယ်လုံးပိုးလုံးများကိုပါ သပ်ရိုက်၍ သွင်းလိုက်လေသည်။

သို့သော် စိတ္တသူကြွယ်ကား ပါးနပ်လိမ္မာလှ၏။ ဤနိဂဏ္ဌာကား ငါ့အပေါ်တွင် အထင်မှားနေပြီတကား။ ငါနှင့်ဗုဒ္ဓ၊ ဗုဒ္ဓနှင့်ငါအား ကင်းကွာအောင် ငါ့ကိုခွာနေချေ၏။ အမှားကိုအမှန်ရောက်အောင် ပြုပြင်ရန် တာဝန်မှာ ငါ့တာဝန်မဟုတ်ပါလောဟု စဉ်းစားကာ ဤစကားကို ဆိုရလေ၏။

"အို–အရှင်၊ အရှင်မည်သို့ထင်ပါသနည်း။ ဉာဏ်နှင့်သမာဓိဟူ၍ နှစ်မျိုးရှိ၏။ ယင်းနှစ်မျိုးတွင် မည်သည်က ထူးမြတ်ပါသနည်း"ဟု တုံ့ပြန်မေးလျှောက်ချက် ထွက်လာသောအခါ၌ကား နိဂဏ္ဌာသည် စိတ္တသူကြွယ်အား စူးစိုက်စွာကြည့်လျက်မှ ဤသို့ အသံထွက်လာ၏။

"အို–ဂဟပတိ၊ ယင်းကိစ္စအတွက် ပြဿနာထွက်စရာပင်မရှိ။ သဒ္ဓါကား ယုံကြည်မှုသက်သက်မျှသာ။ ဉာဏ်သည်ကား အမှောင်းခွင်း၍ အလင်းရောက် ထိုးဖောက်မြင်ခြင်း ဖြစ်သဖြင့် သဒ္ဓါထက် ဉာဏ်ကထူးမြတ်ပေသည်"ဟု ဖြေ၏။

စိတ္တသူကြွယ် လိုချင်သည်မှာလည်း ဤအဖြေပင်ဖြစ်၏။ လိုချင်သော အဖြေကို နိဂဏ္ဌာထံမှရရှိသောအခါ နိဂဏ္ဌာအား အမှန်တရားဘက်သို့ မျက်နှာမူလာစေရန် ကြိုးစားလေတော့၏။ ထိုအချိန်တွင် စိတ္တသူကြွယ်နှင့် နိဂဏ္ဌာတက္ကတွန်းတို့၏ ဖြစ်အင်ကို အားစမ်းပွဲတစ်ခုအဖြစ် မြင်နိုင်၏။ စိတ္တသူကြွယ်က ဆွဲသည်။ ငင်သည်။ နိဂဏ္ဌာတက္ကတွန်းက ရုန်းသည်။ တွန်းကန်သည်။ "အို–အရှင်၊ အရှင် စဉ်းစားနိုင်ပါရန် ကျွန်ုပ် ဖြစ်ရပ်တစ်ခုကို ဆိုပါအံ့။ ငါ ကာမဂုဏ်နှင့်ကင်းလို၏။

အကုသိုလ်နှင့်ဝေးလို၏။ ချမ်းသာအတိပြည့်ဝသော ပထမဈာန်၊ ဒုတိယဈာန်၊ တတိယဈာန်၊ စတုတ္ထဈာန်သို့ ကပ်ရောက်၍နေလို၏။ ဤသို့ ကျွန်ုပ်တောင့်တကာ နေလာခဲ့သူ ဖြစ်ပါသည်။ အို–အရှင်၊ ဤသို့ဉာဏ်ဖြင့် အမှန်တရားကို သိထားသူ ဖြစ်ပါလျက် အမှန်တရားကို မြင်ထားသူဖြစ်ပါလျက် အဘယ်ရဟန်း၊ အဘယ်ပုဏ္ဏား ထံသို့ ယုံကြည်သောအားဖြင့် ကျွန်ုပ်သွားတော့မည်နည်း။

ဤသို့ စိတ္တသူကြွယ်က ဆိုလိုက်သောအခါ နိဂဏ္ဌာသည် ခေါင်းငိုက်စိုက် ကျသွားလေ၏။ သူ့အထင်နှင့်အမြင် ကွာဟချက်ကြောင့် အတန်ကြာအောင် သက်ပြင်းကြီးတချချနှင့် ဖြစ်နေပြီးမှ ဆတ်ခနဲ ခေါင်းထောင်လာပြီးလျှင် သူ၏ ဘက်တော်သားတပည့် တက္ကတွန်းတို့အား စိတ္တသူကြွယ်ကို လက်ညှိုးထိုးကာ ထိုးကာနှင့် ဤသို့ ဆိုပြန်လေပြီ။

"အို–အရှင်ကောင်းတို့၊ ဤဒကာကြီး (စိတ္တသူကြွယ်)ကို သင်တို့ကြည့်ထား ကြကုန်။ စင်စစ်အားဖြင့် သူကား "အနုဇကော=လူရိုးလူဖြောင့်မဟုတ်။ သာဌော= ကောက်ကျစ်စဉ်းလဲသူပေတကား။ မာယာဝီ=လှည့်စားတတ်သူပေတည်း။ ယောက်ျား တန်မဲ့ သို့စင်မျှ ကောက်ကျစ်စဉ်းလဲ လှည့်စားတတ်သူကို သင်တို့ မှတ်သားကြ ကုန်လော့"

နိဂဏ္ဌာသည် ဒေါသအလျောက် စိတ်ပေါက်ပေါက်နှင့် စိတ္တသူကြွယ်အား ဟက္ကတွန်းတို့အလယ်၌ ရှုတ်ရှုတ်ချချနှင့် ပွစိပွစိဆိုပြောသော်ငြားလည်း စိတ္တ သူကြွယ်ကား တုန်လှုပ်ခြင်းမရှိ၊ ပကတိတည်ငြိမ်သော ဣန္ဒြေဖြင့် ဤသို့ တုံ့ပြန် ချေပခြင်း ပြုလေ၏။

"အို–အရှင်၊ တစ်ထိုင်တည်းမှာပင် အရှင်နှုတ်မြွက်ထွက်ဆိုချက် စကား နှစ်မျိုးကို ကျွန်ုပ် သိရှိမှတ်သားလိုက်ရပါ၏။ ပထမ တပည့်တော်အား ရိုးဖြောင့်သူ၊ ကောက်ကျစ်စဉ်းလဲခြင်းမရှိသူ၊ မလှည့်စားတတ်သူဟူ၍ အရှင်ဆိုခဲ့ပါသည်။ ဒုတိယတစ်ဖန် တပည့်တော်အား ကောက်ကျစ်သူ၊ စဉ်းလဲသူ၊ လှည့်စားတတ်သူဟူ၍ ရှုတ်ချသောစကားကို အရှင်ဆိုပြန်ပါသည်။

"အို–အရှင်၊ အရှင်စကားကို အသို့မှတ်ရမည်နည်း။ ပထမစကားမှန်ခဲ့သော် ဒုတိယစကားသည်မှား၏။ ဒုတိယစကားမှန်ခဲ့သော် ပထမစကားမှား၏" ဆိုလျှင် နိဂဏ္ဌာသည်လည်းကောင်း၊ သူ၏ပရိသတ်သည်လည်းကောင်း၊ ပါးစပ်ဟောင်းလောင်း နှင့် စိတ္တသူကြွယ်အား မမှိတ်မသုန် ကြည့်လင့်နေကြကုန်၏။ စိတ္တသူကြွယ်သည် ဆက်၍ဆက်၍ နိဂဏ္ဌာအား ဆိုလျှောက်နေ၏

"အို–အရှင်၊ သဟဓမ္မိကပဉှာ=ဆယ်ပါးဟူ၍ လာရှိပါသည်။ ယင်း ဆယ်ပါး၏ အနက်အဓိပ္ပာယ်ကို အရှင်သိသောအခါ်တွင် အကျွန်ုပ်ထံ အကြောင်း ပြန်ကြားပါ အရှင်။ သဟဓမ္မိကပဉှာ ဆယ်ပါးကား–

၁။ ဧကော ပဉှာ၊ ဧကော ဥဒ္ဒေသာ၊ ဧကော ဝေယျာကရဏာ။

၂။ ဒွေ ပဉှာ၊ ဒွေ ဥဒ္ဒေသာ၊ ဒွေ ဝေယျာကရဏာနိ။

၃။ တယော ပဉှာ၊ တယော ဥဒ္ဒေသာ၊ တီဏိဝေယျာကရဏာနိ။

၄။ စတ္တာရော ပဉှာ၊ စတ္တရော ဥဒ္ဒေသာ၊ စတ္တာရိ ဝေယျာ ကရဏာနိ။

၅။ ပဉ္စ ပဉှာ၊ ပဉ္စ ဥဒ္ဒေသာ၊ ပဉ္စဝေယျာကရဏာနိ။

၆။ ဆ ပဉှာ၊ ဆ ဥဒ္ဒေသာ၊ ဆ ဝေယျာကရဏာနိ။

၇။ သတ္တ ပဉှာ၊ သတ္တ ဥဒ္ဒေသာ၊ သတ္တ ဝေယျာကရဏာနိ။

၈။ အဋ္ဌ ပဉှာ၊ အဋ္ဌဥဒ္ဒေသာ၊ အဋ္ဌ ဝေယျာကရဏာနိ။

၉။ နဝ ပဉှာ၊ နဝ ဥဒ္ဒေသာ၊ နဝ ဝေယျာကရဏာနိ။

၁၀။ ဒသ ပဉှာ၊ ဒသ ဥဒ္ဒေသာ၊ ဒသ ဝေယျာကရဏာနိ။

ဤဆယ်ပါးတို့ ဖြစ်ပါကုန်သည်။ ယင်းတို့၏ အနက်ကို သိသောအခါ အကျွန်ုပ်ထံ အကြောင်းကြားပါ"ဟူ၍ မေးလျှောက်ခဲ့ပြီးလျှင် စိတ္တသူကြွယ်သည် နာဋပုတ္တ နိဂဏ္ဌ၏အပါးမှ ဖယ်ခွာ၍ ပြန်ခဲ့လေ၏။

စိတ္တသူကြွယ်၏ သဟာဓမ္မိက ပဉှာဆယ်မျိုးကား နာဋပုတ္တ နိဂဏ္ဌတက္ကတွန်း အတွက်သာ မဟုတ်တော့ဘဲ လူခပ်သိမ်းတို့အတွက်ပါ ပြဿနာဖြစ်၍ ကျန်ရစ်ခဲ့လေပြီတည်း။

(သဠာယတနဝဂ္ဂသံယုတ်ပါဠိတော်၊ စိတ္တသံယုတ်၊ ၄၈၇-ဆဋ္ဌမှ)

( ၂၀ )

# အနတ္တပုစ္ဆာ

စကားပြောရာ၌လည်း ပင်္ဂိုသန္ဓေဉာဉ် ပါပါသွားတတ်၏။ အချို့က ရယ်ရယ်မောမော၊ ခပ်ရွှင်ရွှင်ပြောတတ်သည်။ အချို့က ဘုကျကျ ဘောက်ဆတ်ဆတ်ပြောတတ်သည်။ အချို့က ပုံတိုပတ်စကလေးများ ညှပ်၍ညှပ်၍ပြောသည်။ အချို့က စကားကတ်၍ အကတ်ကိုင်၍ပြောတတ်သည်။ လူအမျိုးမျိုးရှိသည်နှင့်အမျှ ဝါသနာမှာလည်း အမျိုးမျိုးရှိကြောင်း လူ့သမိုင်းအကြောင်းတွင် ထင်လျက်ရှိနေ၏။

ဗုဒ္ဓလက်ထက်တော်က ပုဏ္ဏားတစ်ယောက်ရှိ၏။ အမည်မှာ အနတ္တပုစ္ဆကဟု တွင်၏။ အကျိုးမဲ့စကားကိုသာ ပြောတတ်၊ ဆိုတတ်၊ မေးတတ်၊ မြန်းတတ်သောကြောင့် အနတ္တပုစ္ဆကဟု အမည်တွင်နေခြင်းဖြစ်သည်။ လူချင်းဆုံမိလျှင် ဤသို့ အကျိုးမဲ့စကားများကို မေးမြန်းတတ်သည်မှာ သူ၏ ပင်္ဂိုသန္ဓေ ဉာဉ်ပင်ဖြစ်လေသည်။ ထိုဉာဉ်ကြောင့် အများက သူ့ကို ချဉ်ကြသည်။ "အလကားလူကြီး၊ ဘုသမားကြီး" ဟူ၍ သူ့ကို အချို့ကဆိုကြ၊ ပြောကြ၊ ရေရွတ်ကြသော်လည်း သူကမူ အနည်းငယ်မျှ မဖြုံ၊ ဝါသနာကို မစွန့်လေဘဲ မတုန်မလှုပ် ကျောက်ထုရုပ်ပမာ ငုံ့၍သာ ခံနေတတ်သည်။

ပုဏ္ဏားသည် အကျိုးမဲ့စကားကိုမေးမြန်းရာ၌ အဘယ်မျှ ဝါသနာကြီးနေသနည်းဆိုသော် မြတ်ဘုရားကိုပင် ချမ်းသာမပေး။ သူ့ဝါသနာအတိုင်း မေးလား မြန်းလား ပြုလေသတည်း။

အခါတစ်ပါးတွင် ထိုပုဏ္ဏားသည် ဘုရားသခင်နှင့် ဆုံမိလေ၏။ ထိုအခါ သူ့ဝါသနာအတိုင်း ဘုရားကို ဘာမေးရမည်နည်းဟုတွေး၏။ သူ့အတွေးမှ မေးခွန်း

ထုတ်စရာပေါ်လာ၏။ "ဘုရားသည် အကျိုးရှိရာရှိကြောင်း တရားကိုသာ ဟောတတ်သလော၊ သို့မဟုတ် အကျိုးမဲ့ပျက်စီးဆုတ်ယုတ်ကြောင်း တရားကိုကော ဟောတတ်သေးသလော" ထိုအကြောင်းကို ဘုရားအား ငါမေးကြည့်ဦးမည်။ ဤသို့ မေးကွက်ကို ရှာကြံ၍ ဘုရားထံချဉ်းကပ်ပြီး ဤသို့မေးလေသတည်း။

**ဗြာဟ္မဏ။** ။အရှင်ဘုရား၊ အရှင်တို့သည် အကျိုးစီးပွားဖြစ်ထွန်းကြောင်း တရားကိုသာ သိကြကုန်သူများဟု ကျွန်ုပ်ထင်၏။ စီးပွားဆုတ်ယုတ် ပျက်စီးကြောင်း အကျိုးမဲ့တရားကိုမူ သိမည်မဟုတ်ဟု ကျွန်ုပ်ထင်၏။ အသို့ပါနည်းဟု မေး၏။

သူ၏ မေးခွန်းများ ဆန်းနေသဖြင့် မြတ်ဗုဒ္ဓသည် မေးလာသူ ဗြာဟ္မဏအား တစ်ချက်မျှ လှည့်ကြည့်တော်မူပြီးမှ ရုတ်ခြည်းပင်ဖြေလိုက်၏။

**ဗုဒ္ဓ။** ။အချင်း ဗြာဟ္မဏ၊ အဘယ်ရည်စူးချက်ဖြင့် သင်မေးဘိသနည်း။ ငါကား အကျိုးရှိကြောင်း တရားအတ္တကိုလည်းသိ၏။ အကျိုးမဲ့ပျက်စီးကြောင်း အနတ္တကိုလည်း သိပေ၏။

**ဗြာဟ္မဏ။** ။အို–ဗုဒ္ဓ၊ သို့ဖြစ်ဘိသော် အကျွန်ုပ်အား အကျိုးဆုတ်ယုတ်ပျက်စီးကြောင်း အနတ္တတရားကို ဟောကြားတော်မူပါလော့ဟု ပုဏ္ဏားသည် ကတ်သီးကတ်သတ် လျှောက်လေ၏။ ဗုဒ္ဓကလည်း သူ၏ လျှောက်ချက်ကို လက်ခံကာ ပုဏ္ဏား၏ ဆန္ဒအတိုင်း ဖြေတော်မူလိုက်၏။

**ဗုဒ္ဓ။** ။အချင်းဗြာဟ္မဏ၊ ဤကား ကြံကြံစည်ရာ မေးတတ်သော သင့်အတွက် အဖြေတည်း။ အနတ္တ=ပျက်စီးဆုတ်ယုတ်ကြောင်း အကျိုးမဲ့တရားကား–

(၁) အိပ်သောအခါ နေမြင့်မှ အိပ်ရာက ထခြင်း၊

(၂) ပျင်းရိခြင်း၊

(၃) ကြမ်းကြုတ်ခြင်း၊

(၄) သောက်စားမူးယစ်ခြင်း၊

(၅) တစ်ယောက်တည်း ခရီးသွားခြင်း၊

(၆) သူ့မယားအိမ်သို့ သွားလာဝင်ထွက်ခြင်း၊

အချင်းဗြာဟ္မဏ၊ ဤသည်တို့ကို သင်မှီဝဲလော့။ သင့်အား မုချ ပျက်စီးခြင်းဖြင့် အကျိုးမဲ့သည် ဖြစ်လတ္တံ့။

အဘယ်ကြောင့် မသိ၊ ဗြာဟ္မဏသည် ထိုအဖြေကို အလွန်နှစ်ခြိုက်သွားလေသည်။ သာဓုခေါ်၍ မဆုံးနိုင်အောင် ဖြစ်သွား၏။

စပယ်ဦးစာပေ

**ဗြာဟ္မဏ။** ။သာဓု၊ သာဓု၊ ဂဏာစရိယ၊ ဂဏာဓေ္မ၊ ဂဏာပါမောက္ခကြီး ဖြစ်တော်မူသော အရှင်မြတ်ကြီးဘုရား၊ အရှင်ဘုရားတို့သည် အတ္တ၊ အနတ္တ=အကျိုးရှိ၊ အကျိုးမဲ့ကို ခွဲခွဲခြားခြား သိတော်မူတတ် ပါပေကုန်သည်။ ဤအဖြေကို အကျွန်ုပ် အလွန်နှစ်ထောင်းအားရ ရှိလှပါသည်ဟု ချီးကျူး၍ မပြီးနိုင်အောင် ဖြစ်နေ၏။

ထိုနောက် ဗုဒ္ဓသည် ဗြာဟ္မဏ၏ စိတ်နေသဘောထားကို ဆင်ခြင်ပြီးလျှင် ပုဏ္ဏားအား အလုပ်အကိုင်ကို မေးတော်မူ၏။

**ဗုဒ္ဓ။** ။အချင်းဗြာဟ္မဏ၊ မည်သည့်အလုပ်ဖြင့် သင်အသက်မွေးသနည်း။

**ဗြာဟ္မဏ။** ။လောင်းကစားအမှုဖြင့် အသက်မွေးပါသည် အရှင်။

**ဗုဒ္ဓ။** ။ဩ–ကစားသမားကြီးပေပ၊ ဆိုစမ်းလော့၊ ကစားရာမှ ရှုံးသလော၊ မြတ်သလော။

**ဗြာဟ္မဏ။** ။ကစားသမားတို့မည်သည် ရှုံးသည့်အခါရှုံး၍ မြတ်သည့်အခါ လည်း မြတ်ပါသည်။ အတိအကျပြောရန် မလွယ်လှပါအရှင်။

**ဗုဒ္ဓ။** ။အချင်းဗြာဟ္မဏ၊ ကစားရာတွင် နိုင်သည်ပင်ထားတော့။ ထို နိုင်ခြင်းမျိုးကား ပြောပလောက်သော နိုင်ခြင်းမျိုးမဟုတ်၍ ချီးမွမ်း ဖွယ်မရှိ။ မြတ်သောနိုင်ခြင်းဟု မဆိုအပ်။ ဗြာဟ္မဏ၊ မြတ်၍ ချီးမွမ်းအပ်သော အောင်နိုင်ခြင်းမျိုးကို သင်အလိုရှိပါလော့။

**ဗြာဟ္မဏ။** ။မှန်လှပါကြောင်း။ အမြတ်များများရမှုကိုသာ အကျွန်ုပ်အလို ရှိပါသည် အရှင်။

**ဗုဒ္ဓ။** ။အချင်း ဗြာဟ္မဏ၊ အောင်ပွဲလှလှ ရလိုဘိမူကား နာယူလော့။ အကြင်သူသည် ကိလေသာတည်းဟူသော အောင်ခြင်းဖြင့် မိမိ ကိုယ်ကို အောင်မြင်သည်ဖြစ်အံ့။ ထိုသူ၏ အောင်မြင်ခြင်းကို မြတ်သောအောင်ခြင်းဟု ဆိုအပ်၏။ အောင်နိုင်ခဲ့လှစွာသော အောင်ပွဲကြီးကို ကျဆုံးသွားအောင် (လက်လွတ်ဖြစ်သွားအောင်) မည်သူမျှ မပြုနိုင်တော့ချေ။

အချင်းဗြာဟ္မဏ၊ အတ္တံဟဝေ ဇိတံ သေယျော=ကိုယ်တွင်း ကိလေသာကို အောင်ခြင်းသည် စင်စစ်မြတ်၏။ ယာစာယံ ဣတရာပဇာ=ဤအောင်မြင်ခြင်းမှ တစ်ပါး၊ အခြားတစ်ပါးသူအား အောင်ခြင်းသည် မမြတ်။ မြတ်သောအောင်ခြင်းဟု မဆိုအပ်။

နိစ္စံ သညတ စာရိနော=အမြဲစောင့်စည်းသော အကျင့်ရှိသော၊ အတ္တဒန္တဿ ပေါသဿ=မိမိကိုယ်ကို ယဉ်ပါးအောင် ဆုံးမပြီးသူအား၊ နေဝဒေဝေါ ဓါ=ရှုံးသွားအောင် နတ်လည်းမတတ်နိုင်၊ နဂန္ဓဗ္ဗော=ဂန္ဓဗ္ဗနတ်လည်း မတတ်နိုင်၊ မာရောသဟာဗြဟ္မုနာ=မာရ်နတ်နှင့်တကွ ဗြဟ္မာမင်းကြီးတို့သော်မှလည်း မတတ်နိုင်ကုန်"ဟု မရှုံးနိုင်သော အောင်ခြင်းတရားကို ဟောကြားတော်မူ၏။

ဗြာဟ္မဏသည် အနတ္ထပုစ္ဆာ=အကျိုးမဲ့ ပျက်စီးကြောင်းကို မေးခဲ့၏။ ယင်း၏မေးခွန်းကို အကြောင်းပြု၍ ချီးမွမ်းအပ်၊ မြတ်သောအောင်ခြင်းတရားသည် ဗုဒ္ဓထံတော်မှ ဆုလာဘ်အဖြစ် အမြတ်ထွက်လာသဖြင့် စပ်စပ်စုစု မေးမြန်းတတ်သော အနတ္ထပုစ္ဆက ပုဏ္ဏားကိုပင် ကျေးဇူးတင်ဖွယ် ဖြစ်လာသတည်း။

(ဓမ္မပဒအဋ္ဌကထာ၊ ဒု၊ သဟဿဝဂ္ဂ၊ အနတ္ထပုစ္ဆက
ဗြာဟ္မဏ ဝတ္ထု၊ ၁၁၂၊ ဓမ္မပူမိတ်ဆွေမှ)

( ၂၁ )

# ဗုဒ္ဓ၏ ပညတ်တော် ဓာတ် ၆ မျိုး

မိမိကိုယ်ကို ဘုရားဟု သမုတ်လျက်"ဘုရား"အခေါ်ခံနေကြသော ပုဂ္ဂိုလ်ကြီး တို့တွင် ပူရဏကဿပသည် အတော်နာမည်ကြီး၏။ သူ့ဂိုဏ်းဂဏ၊ သူ့အဖွဲ့အစည်း၊ သူ့ဘက်တော်သား တပည့်များ ခြံရံလျက် အရပ်ထက်ဝန်းကျင်သို့ လှည့်လည်ကာ သူ၏ဝါဒထွန်းကားရေးအတွက် စည်းရုံးလျက်ရှိနေသူဖြစ်၏။

ပူရဏကဿပသည် အတုလ်အတုမရှိသော ဘုရားအဖြစ်ကို ခံယူလို၏။ ထို့ကြောင့် သူနှင့်ခေတ်ပြိုင်ပေါ်ထွန်းလျက် ရှိနေကုန်သော မက္ခလိဂေါသာလဘုရား၊ အဇိတသေသကမ္ဗလဘုရားစသော ခေတ်ပြိုင်ဘုရားကြီးများနှင့်မတူ တစ်မူထူးခြား သာလွန်သော ဝိသေသဗုဒ္ဓတစ်ဆူ ဖြစ်တော်မူရန်အလို့ငှာ ပညတ်တော်ခြောက်ပါးကို ထုတ်ပြန်သတ်မှတ်၍ ပညတ်လိုက်လေသည်။

ပူရဏကဿပ၏ ယင်း ပညတ်တော်ခြောက်ပါးသည် ကျင့်စဉ်တရား၊ (ဝါ) ကျင့်စရာ ပြဋ္ဌာန်းချက်မျိုး မဟုတ်သော်ငြားလည်း လှိုင်းပွက်သည့်နှယ် အတော်ကလေး ဂယက်ထလာသည်။ ပညတ်တော်ကြီး ခြောက်မျိုးကိုပင် ပညတ်တော်မူနိုင်သော ဘုရားဟူ၍ သူ၏ပရိသတ်များက သူ့အား ကင်ပွန်းတပ် လိုက်ကြကုန်သည်။ ချီးအံ့မဆုံးနိုင်အောင် အမွှမ်းတင်ကြကုန်သည်။ ယင်းသို့ လက်အောက်ငယ်သားများ၏ ဝါဒအဖြန့်ကောင်းမှုကြောင့် ထိုသတင်းသည် အရပ် ထက်ဝန်းကျင်တို့သို့ တောမီးပမာ ကူးစက်၍ ပြန့်ပွားသွားလေသတည်း။

ထိုအချိန်တွင် အစိန္တေယျ ဂေါတမရှင်တော်မြတ်ဘုရားသည် ရာဇဂြိုဟ် ပြည်သို့ ရောက်ရှိနေပြီး ဂိဇ္ဈကုဋ်တောင်၌ သီတင်းသုံးလျက်ရှိတော်မူနေ၏။ ပူရဏကဿပ၏သတင်းသည် လူတို့မှ တစ်ဆင့်ပွားကာ အရှင်အာနန္ဒာ၏နားသို့

ပေါက်ကြားလာ၏။ ထိုအခါ အရှင်အာနန္ဒာသည် ဘုရားသခင်၏ ရှေ့တော်သို့ဝင်၍ ထိုသတင်းကိုပို့လေ၏။ ဤသို့ လျှောက်လေ၏။

**အာနန္ဒာ။** ။ဘုန်းတော်ကြီးသော အရှင်မြတ်ဘုရား၊ ပူရဏကဿပသည် ပညတ်တော် ခြောက်ပါးကို ပညတ်လျက်ရှိကြောင်း ကြားရပါသည်။

**ဗုဒ္ဓ။** ။အဘယ်သို့ ပညတ်သတဲ့နည်း အာနန္ဒာ။

**အာနန္ဒာ။** ။ ၁။ ဆိတ်သတ်သမား၊ ဝက်သတ်သမား၊ သားသတ်သမား၊ ငှက်ခတ်မုဆိုး၊ တောလိုက်မုဆိုး၊ တံငါသည်များ အပါအဝင် အလုပ်ကြမ်းနှင့် အသက်မွေးကြသူ ဟူသမျှကို လူမည်းဇာတ် (ဝါ) အသားမည်း ဟူ၍လည်းကောင်း၊ ၂။ သာသနာ့ဆူးငြောင့် သဖွယ်ဖြစ်သော ရဟန်းများနှင့် အခြားကမ္မဝါဒီ၊ ကြိယဝါဒီ အယူရှိသူ မှန်သမျှကို အညိုဇာတ် (ဝါ) အသားညိုမျိုးဟူ၍ လည်းကောင်း၊ ၃။ အဝတ်တစ်ခုတည်းကိုဝတ်သော နိဂဏ္ဌတက္ကတွန်းကို အနီဇာတ်(ဝါ) အသားနီမျိုးဟူ၍ လည်းကောင်း၊ ၄။ အစေလက တက္ကတွန်းများ၏ တပည့် အဝတ်ဖြူဝတ်သူတို့ကို အဝါဇာတ် (ဝါ) လူဝါမျိုးဟူ၍လည်းကောင်း၊ ၅။ အာဇီဝက တက္ကတွန်းများနှင့် တက္ကတွန်းမများကို အဖြူဇာတ် (ဝါ) လူဖြူမျိုးဟူ၍လည်းကောင်း၊ ၆။ နန္ဒ၊ ဝစ္ဆ၊ ကိသ၊ သံကိစ္စနှင့် ပက္ခလိဂေါသာလတို့ကို ဆွတ်ဆွတ်ဖြူဇာတ် (ဝါ) ဆွတ်ဆွတ်ဖြူလူမျိုးဟူ၍လည်းကောင်း ဤသို့ ပညတ်ခြောက်မျိုးကို ပညတ်နေပါသည်တဲ့ ဘုရား။

**ဗုဒ္ဓ။** ။အာနန္ဒာ၊ အသို့နည်း။ ပူရဏကဿပအား ဤအမျိုးဇာတ်ခြောက်မျိုးကို ပညတ်ရန် တစ်လောကလုံးက ခွင့်ပြုပါသလော။

**အာနန္ဒာ။** ။ခွင့်မပြုပါ ဘုရား။

**ဗုဒ္ဓ။** ။အာနန္ဒာ၊ သင့်အား ငါဥပမာပြုအံ့။ ဆင်းရဲသူ၊ ကိုယ်ပိုင်ဥစ္စာမရှိသူ၊ မကြွယ်ဝသူ ယောကျ်ားတစ်ယောက်သည် ရှိလေရာ၏။ ထိုဆင်းရဲသားအား "အမောင်ယောကျ်ား၊ သင်သည် ဤအမဲသားကိုလည်းစား၊ ထိုက်သင့်သောအဖိုးကိုလည်းပေး" ဟု ထိုသူအလိုမရှိပါဘဲလျက် အမဲသားတွဲကြီးကို အတင်းထိုး၍ပေးလေဘိသကဲ့သို့၊ ဤပုံနှင့် အလားတူစွာသာလျှင် ပူရဏကဿပသည် သမဏဗြာဟ္မဏတို့၏ ဝန်ခံခွင့်ပြုချက်မရဘဲလျက် ဤဇာတ်

ခြောက်မျိုးတို့ကို ခေတ်အကြောင်းကို နားမလည်သူ ပညတ်ကဲ့သို့ မိုက်မဲစွာ ပညတ်ဘိချေ၏။

အာနန္ဒာ၊ အမျိုးဇာတ်ခြောက်မျိုးတို့ကို ငါပညတ်အံ့။ ယင်းခြောက်မျိုးကို သင်နာလော့။ ကောင်းစွာနှလုံးသွင်းလော့။ သင့်အား ငါဆိုပေအံ့။

**အာနန္ဒာ။** ။ကောင်းလှပါပြီ အရှင်ဘုရား။

**ဗုဒ္ဓ။** ။အာနန္ဒာ၊ ငါပညတ်မည့် အမျိုးဇာတ်ခြောက်မျိုးကား–

၁။ မည်းလျက် မည်းသော ဇာတ်တစ်မျိုး။

၂။ မည်းလျက်ဖြူသော ဇာတ်တစ်မျိုး။

၃။ မည်းလျက် မမည်း မဖြူသော ဇာတ်တစ်မျိုး။

၄။ ဖြူလျက် မည်းသော ဇာတ်တစ်မျိုး။

၅။ ဖြူလျက် ဖြူသော ဇာတ်တစ်မျိုး။

၆။ ဖြူလျက် မဖြူ မမည်းသော ဇာတ်တစ်မျိုး။

ဤသို့ အမျိုးဇာတ်ခြောက်မျိုးကို ငါ ပညတ်တော်မူ၏။

၁။ အာနန္ဒာ၊ မည်းလျက် မည်းသောဇာတ်ကို ဤသို့ မှတ်လေလော့။ အာနန္ဒာ၊ အချို့သောသူသည် နိမ့်သောအမျိုး ဖြစ်သည်။ ဒွန်းစဏ္ဍားမျိုး၊ တံငါ မုဆိုးမျိုး၊ နှီး ထိုးသမားမျိုး၊ ရထားမောင်းသမားမျိုး၊ မိလ္လာကျုံးသမားမျိုး၊ စားရမဲ့သောက်ရမဲ့ ဆင်းရဲငြိုငြင်စွာ အသက်မွေးရသောအမျိုး၌ ဖြစ်ရ၏။ ထိုသူသည် အဆင်းမလှ၊ ရှုချင်ဖွယ်မရှိ၊ ပုကွ၏။ အနာရောဂါထူ၏။ မျက်စိကန်း၊ သို့မဟုတ် ခါးကုန်း သို့မဟုတ် ခြေခွင်သူလည်း ဖြစ်၏။ စားစရာထမင်းမရှိ၊ သောက်စရာအဖျော်မရှိ။ ဝတ်စရာ အဝတ်မရှိ၊ စီးစရာယာဉ်မရှိ။ လိမ်းစရာအမွှေးနံ့သာပျောင်းမရှိ။ အိပ်စရာနေရာမရှိ။ ထွန်းစရာ မီးမရှိ။

ထိုသူသည် ကိုယ်ဖြင့် နှုတ်ဖြင့် စိတ်ဖြင့် မကောင်းသော အကျင့်ကိုကျင့်၏။ ထိုသူ သေလွန်သောအခါ ငရဲ၌ဖြစ်ရ၏။ အာနန္ဒာ၊ ဤအမျိုးကို မည်းလျက်မည်းသော ဇာတ်ဟု ငါ ပညတ်၏။

၂။ အာနန္ဒာ၊ မည်းလျက် ဖြူသောဇာတ်ကို ဤသို့မှတ်လော့။ အချို့သောသူသည် အမျိုးအားဖြင့်ကား နိမ့်၏။ ဆင်းရဲ၏။ သို့သော် ကိုယ်အားဖြင့်လည်းကောင်း၊ နှုတ်အားဖြင့်လည်းကောင်း၊

စိတ်အားဖြင့်လည်းကောင်း၊ ကောင်းသောအကျင့်ကို ကျင့်လေသည်။ ထိုသူကွယ်လွန်သောအခါ နတ်ရွာသုဂတိသို့လားရ၏။ အာနန္ဒာ၊ ဤအမျိုးဇာတ်ကို မည်းလျက်ဖြူသော ဇာတ်ဟု ငါပညတ်၏။

၃။ အာနန္ဒာ၊ မည်းလျက်မမည်း၊ မဖြူသော ဇာတ်ကို ဤသို့မှတ်လေလော့။ အာနန္ဒာ၊ အချို့သောသူသည် အမျိုးအားဖြင့် ကား နိမ့်ကျ၏။ ဆင်းရဲမွဲတေလှ၏။ သို့သော် ထိုသူသည် ဆံ၊ မုတ်ဆိတ်ကိုဖယ်၊ သစ်ခေါက်ဆိုး အဝတ်ကိုဝတ်၍ ရဟန်းပြု၏။ ထိုသူ ရဟန်းဖြစ်လတ်သော် စိတ်ညစ်ညူးကြောင်း၊ ပညာ၏ အားနည်းခြင်းကို ပြုတတ်ကုန်သော နီဝရဏတရားငါးပါးတို့ကို ပယ်၏။ သတိပဋ္ဌာန်လေးပါးတို့၌ စိတ်ကိုကောင်းစွာ တည်စေ၏။ ဗောဇ္ဈင် ၇ ပါးတို့ကို ဟုတ်တိုင်းမှန်ရာ ပွားများလျက် မည်းသည်လည်းမဟုတ်၊ ဖြူသည်လည်းမဟုတ်သော (မမည်း၊မဖြူ) နိဗ္ဗာန်သို့ ရောက်ရ၏။ အာနန္ဒာ၊ ဤသို့သော ဇာတ်မျိုးကို မည်းလျက် မမည်း မဖြူသော ဇာတ်ဟု ငါပညတ်တော်မူ၏။

၄။ အာနန္ဒာ၊ ဖြူလျက်မည်းသောဇာတ်ကို ဤသို့မှတ်လော့။ အာနန္ဒာ၊ အချို့သောသူသည် မြင့်မြတ်လှသော အမျိုး၌ဖြစ်၏။ မင်းမျိုး၊ ဗြာဟ္မဏမျိုး၊ သူကြွယ်မျိုး၊ သူဌေးမျိုး၌ဖြစ်၏။ ထိုသူသည် အဆင်းလှ၏။ ရှုချင်ဖွယ်ရှိ၏။ စားစရာထမင်းအသင့်၊ သောက်စရာ အဖျော်အသင့်၊ ဝတ်စရာအဝတ်၊ စီးစရာယာဉ်၊ လိမ်းကျံစရာနံ့သာ၊ အိပ်စရာနေရာ၊ ထွန်းညှိစရာမီးအသင့်၊ အားလုံးအသင့်ဖြစ်၏။ သို့သော် ထိုသူသည် ဒုစရိုက်သုံးမျိုးစလုံးကို ပြုကျင့်၏။ ထိုသူကွယ်လွန်သောအခါ အပါယ်သို့လားရ၏။ အာနန္ဒာ၊ ဤသို့သော ဇာတ်မျိုးကို ဖြူလျက်မည်းသော ဇာတ်ဟု ငါပညတ်၏။

၅။ အာနန္ဒာ၊ ဖြူလျက် ဖြူသောဇာတ်ကို ဤသို့မှတ်လော့။ အာနန္ဒာ၊ အချို့သောသူသည် မြတ်သောအမျိုး၌ဖြစ်၏။ စည်းစိမ်ဥစ္စာကြွယ်ဝချမ်းသာ၏။ ထိုသူသည် ကိုယ်ဖြင့်လည်း ဒုစရိုက်မှုကိုမပြု။ နှုတ်ဖြင့်လည်းကောင်း၊ စိတ်ဖြင့်လည်းကောင်း ဒုစရိုက်မှုကို သူ မပြု။ ထိုသူကွယ်လွန်သောအခါ နတ်ရွာသုဂတိသို့

လားရ၏။ အာနန္ဒာ၊ ဤသို့သော ဇာတ်မျိုးကို ဖြူလျက်ဖြူသော ဇာတ်ဟု ငါပညတ်၏။

၆။ အာနန္ဒာ၊ ဖြူလျက်မမည်း၊ မဖြူသောဇာတ်ကို ဤသို့ မှတ်လော့။ အာနန္ဒာ၊ အချို့သောသူသည် မြတ်သောမင်းမျိုး၊ ဗြာဟ္မဏမျိုး၊ သူဌေးသူကြွယ်မျိုး၌ဖြစ်၏။ အဆင်းလှ၏။ ရှုချင်စဖွယ်ရှိ၏။ ထိုသူသည် ဝတ်ကြောင်ကိုပယ်၍ သင်္ကန်းဆီးကာ ရဟန်းပြု၏။ ရဟန်းဖြစ်လတ်သော် နီဝရဏငါးပါးကိုပယ်။ သတိပဋ္ဌာန်လေးပါး၌ စိတ်ကိုထား၊ ဗောဇ္ဈင် ၇ ပါးကို ဟုတ်တိုင်းမှန်စွာ ပွားများပြီးလျှင် မည်းသည်လည်းမဟုတ်၊ ဖြူသည်လည်း မဟုတ်၊ (မမည်း မဖြူ)သော နိဗ္ဗာန်သို့ရောက်ရ၏။ အာနန္ဒာ၊ ဤသို့သောဇာတ်မျိုးကို ဖြူလျက်မမည်း၊ မဖြူသောဇာတ်ဟု ငါပညတ်၏ဟု မိန့်တော်မူသတည်း။

(ဆက္ကနိပါတ်၊ အင်္ဂုတ္တိုရ်ပါဠိတော်၊ ဆဠာဘိဇာတိသုတ်၊ ၃၃၆၊ ဆဋ္ဌမူ)

( ၂၂ )

# ဒု၊ သ၊ န၊ သော

နာမည်ကျော် ဇာတ်မင်းသား အလင်္ကာကျော်စွာ ရွှေမန်းတင်မောင်သည် ဒု၊ သ၊ န၊ သော သီချင်းကို သီဆိုလေ့ရှိ၏။ ထိုသီချင်းမှာ "ဒု၊ သ၊ န၊ သော။ ဒု၊ သ၊ န၊ သော တကြော်ကြော်၊ ရွှေမန်းတင်မောင် ဆင်ခြင်ပါ၏နော်" စသည် ဖြစ်၏။ သူတစ်ပါး၏ သားမယားအား ပြစ်မှားကျူးလွန်သူတို့ အပါယ်ငရဲ၌ ကျခံနေရကြောင်းကို ဖွဲ့ဆိုကာ ပရဒါရကံကို ကျူးလွန်နေသူတို့ ရပ်တန်းက ရပ်ကြရန် သတိပေးသော အပြုသဘော သရုပ်ဖော်တေး ဖြစ်လေသည်။

ဒု၊ သ၊ န၊ သော ဇာတ်ကွက် ဇာတ်အိမ်နှင့် တခမ်းတနား ထွက်ပေါ်လာသော ဝတ္ထုဖြစ်၏။ ထိုဝတ္ထုကိုဖော်သော် ကောသလဘုရင်ကို ချန်လှပ်၍မဖြစ်ချေ။ အဘယ့်ကြောင့်ဆိုသော် ကောသလဘုရင်သည် ထိုသည့် ဒု၊ သ၊ န၊ သော်ဇာတ်လမ်း၌ ပထမတန်းဇာတ်ဆောင်တစ်ဦးအဖြစ် ပါဝင်နေသောကြောင့်ဖြစ်၏။ ကောသလဘုရင်ကြောင့် ဤဇာတ်လမ်း ပွင့်ထွက်လာခြင်းဖြစ်ရာ ကောသလ မပါချေက တိုင်မပါဘဲ အိမ်ဆောက်သည်နှင့်သာ တူနေပေမည်။

မှန်၏၊ အချိန်မှာ ညသန်းခေါင်ယံဖြစ်၏။ အဆောင်တော်တစ်ခုလုံးမှာ စိန်ကြောင်နီလာ ရတနာရောင်တို့ဖြင့် ပြိုးပြိုးပြက်ပြက် တစ်ခဲနက်တောက်ပြောင်နေ၏။ သို့သော် ၎င်းနှင့်ဆန့်ကျင်လျက် အရောင်ညစ်ထတ်ထတ်၊ မျက်ထားတော် ညိုညိုနှင့် အလိုမကျ သက်ပြင်းကြီးများတချချနှင့် ဖြစ်နေသူကား ပြည်ကြီးသခင် ကောသလဘုရင် ဖြစ်လေသည်။

ကောသလဘုရင်သည် စက်တော်ခေါ် မပျော်လေတိုင်း သလွန်တော်ထက်တွင် သက်ပြင်း ချကာ ချကာနှင့် ရှိနေလျက်က သူ့သက်စောင့် ကိုယ်ရံတော်

ဗိုလ်မှူးကိုလည်းကောင်း၊ ဗိုလ်မှူး၏ ချစ်ဇနီးကိုလည်းကောင်း သူ့ဇာတ်ထဲဝယ် တရစ်ဝဲဝဲ မြင်ယောင်လျက်ရှိနေသည်။

အဘယ့်ကြောင့်ပါနည်း။ ကောသလမင်းသည် နက္ခတ်ပွဲသဘင်၌ အလွန်ချော အလွန်လှသော တောတွင်းသူတစ်ဦးကို တွေ့မြင်ခဲ့ရာက ပြင်းထန်စွာ စွဲလမ်းခြင်း ဖြစ်လာသည့်အလျောက် လင်ရှိ၊ မရှိကို ရှေးဦးစွာ စုံးစမ်းစေသည်။ ထိုအမျိုးသမီးမှာ ကာမပိုင် လင်ယောကျ်ားရှိကြောင်း သိရသောအခါ သူ့လင်ယောကျ်ား တောတွင်းသားအား ရှေ့တော်ခေါ်၍ သက်တော်စောင့်ရာထူးနှင့်ကာ ထိုတောရွာက ချောကလျာအား သူ့အပါးတွင် ခစားစေသည်။

ကောသလသည် ထိုချောကလျာအား ကြာလေစွဲလမ်းလေဖြစ်လာသောအခါ မင်းတို့ပရိယာယ်ဖြင့် သိမ်းပိုက်ရန် ကြံရွယ်လေတော့သည်။ ထိုအကြံကား သူ့လင် ကိုယ်ရံတော်ဗိုလ်မှူးအား ကိစ္စတစ်ခုဖြင့် အဝေးသို့စေလွှတ်လိုက်ရုံမက နေ့ချင်းပြန် အချိန်မီပြန်မရောက်က ကွပ်မျက်ခြင်းခံရမည်ဟူ၍ သတိပေးလိုက်သည်။ ကိုယ်ရံတော်ဗိုလ်မှူးမှာ မယားကို စိတ်မချရှာသော်လည်း မင်း၏အာဏာ မလွန်သာသဖြင့် ထွက်ခွာသွားရရှာလေရာ ဇနီးဖြစ်သူမှာ မျက်ရည်စက်လက်နှင့် ကျန်ရစ်ခဲ့ရှာ၏။

ကောသလသည် ထိုညအဖို့ စက်မပျော်နိုင်အောင် ဖြစ်နေခြင်းမှာ ရာဂသောင်းကျန်း၊ တောရွာက ချောကလျာကို စွဲလမ်းမှုများကြောင့်ဖြစ်၏။ "ချစ်ရမ္မက် ဒဏ်ဟာ ခံပြင်းလှပါကလား။ ဘာပဲဖြစ်ဖြစ် သူ့မယားကို လိုချင်လျှင် သူ့လင်ကို လှံနှင့်ထိုး၊ ဆိုရိုးစကားလဲ အရှိသားမို့ မနက်ဖြန်နံနက် အရုဏ်တော်ကျင်းလို့ နေမင်းကြီးထွက်ပေါ်လာချိန်မှာ သင်းကလေးကို ကြိုက်ချင်ကြိုက်၊ မကြိုက်ချင် ကြိုက် ဖွတ်အတင်းပင် ငါသိမ်းပိုက်တော်မူမည်။ မြန်မြန်မိုးလင်းပါစေ" ဟူသော စိတ်ကူးဖြင့် သလွန်ထက်တွင် လူးကာ လွန့်ကာနှင့် ကြည်နူးလျက် ရှိနေခိုက် မိုးကြိုးပစ်ချလိုက်သည့်အလား "ဒု၊ သ၊ န၊ သော။ ဒု၊ သ၊ န၊ သော" ဟု တကြော်ကြော်အော်လိုက်သော သံပြာဆိုးကြီးများကို ကြားရသောကြောင့် နားနှစ်ဘက်ကို ပိတ်လိုက်ပြီး ကောသလမင်းမှာ အဆောင်တွင်းဝယ် ကြက်သီးမွေးညင်း တဖြန်းဖြန်းထ၊ ဆောက်တည်ရာမရအောင် တုန်လှုပ်ချောက်ချားသွားလေ၏။

ဘုရား–ဘုရား။ ငါ့အတွက်လား၊ မိဖုရားအတွက်လား၊ နိုင်ငံတော်အတွက် လေလား၊ နိမိတ်ဆိုးကဖြင့် မိုးကြိုးပစ်သည့်နှယ် ပြနေပါပကောလား။

ကောသလမင်းသည် ချက်ချင်းပင် ပုရောဟိတ်ကိုခေါ်၍ အကျိုးအကြောင်းကို ပြောပြတိုင်ပင်လေသောအခါ ပုရောဟိတ် ပုဏ္ဏားက အကြံပေးလေသည်ကား

ဆင်၊ မြင်း၊ နွားလား၊ နို့စားနွားမ၊ ကြက်၊ ဝက်၊ ဆိတ်၊ လုလင်ပျို၊ သမီးပျိုများကို တစ်ရာစီ၊ တစ်ရာစီဖြင့် ယဇ်ပူဇော်ခြင်းပြုရမည်ဆိုသောအတိုင်း နံနက်မိုးသောက် လတ်သော် ပြုလုပ်ထားသော ယဇ်ပူဇော်ပွဲ အစီအစဉ်များကြောင့် အုတ်အုတ် ကျက်ကျက် နန်းတော်ထက်ဝန်းကျင်၌ ငိုသူကငို၊ အော်သူကအော် ကမ္ဘာပျက်သကဲ့သို့ ရှိလေသတည်း။

နန်းတော် ပွင့်ထွက်သွားလေတော့မတတ် ထိုဆူဆူညံညံ၊ ငိုကြွေးသံများကို ကြား၍ အူယားဖားယားနှင့် ကောသလမင်းထံ ပြေးလာသူ မိဖုရားကြီးကား မလ္လိကာဒေဝီဖြစ်လေသည်။ "ဟင် မောင်တော်ဘုရားမှာလဲ မျက်နှာတော်ညိုလို့၊ ဟိုမှာလဲ လူတွေတရုန်းရုန်း၊ ငိုမဆုံးဖြစ်နေကြပါကလား။ ဘာ့ကြောင့်များပါလဲ မောင်တော်"ဟု မေးမြန်းပြီးနောက် အကြောင်းစုံကို သိရလေသောအခါ "ဖြစ်ရလေ မောင်တော်ဘုရားရယ်၊ ဗုဒ္ဓမြတ်ဘုရားကိုယ်တော်ကြီး ရှိပါလျက်သားနဲ့ ဒီပုဏ္ဏား ကိုမှ မေးရလေသလား။ လာမောင်တော် မြတ်ဘုရားထံ သွားရောက်ပြီး လျှောက် ကြရအောင်"ဟု မလ္လိကာမိဖုရားက ကောသလမင်းအား ဘုရားသခင်ထံတော်သို့ ခေါ်သွားပြီး အကျိုးအကြောင်းကို မလ္လိကာမိဖုရားက ဘုရားသခင်အား လျှောက် ထားချက်အရ မြတ်စွာဗုဒ္ဓက ကောသလမင်းအား မေးတော်မူလေသည်ကား—

**ဗုဒ္ဓ**။ ။ဒကာတော်မင်းမြတ်၊ မလ္လိကာ လျှောက်ထားသည့်အတိုင်း မှန်၏လော။

**ကောသလ**။ ။မှန်ပါသည် ဘုရား။

**ဗုဒ္ဓ**။ ။ဒကာတော်၊ မည်သည့်အသံများကို သင်ကြားဘိသနည်း။

**ကောသလ**။ ။ဒု၊ သ၊ န၊ သော ဟူသော အသံကိုကြားပါသည် ဘုရား။

**ဗုဒ္ဓ**။ ။ဒကာတော်မင်းမြတ်၊ ယင်းအတွက်နှင့် စိုးရိမ်နှောင့်ကြောင့်ကြ ပူဆွေးခြင်းမဖြစ်လင့်၊ သင့်၌လည်းကောင်း၊ မိဖုရား၌လည်းကောင်း၊ နိုင်ငံ၌လည်းကောင်း တစ်စုံတစ်ရာ အန္တရာယ်ဖြစ်ဖွယ်မရှိ။ ဤ အသံကား ဒုစရိုက်မှုကို ပြုကျင့်သူတို့ မိမိတို့ခံစားနေရသည့် ဝေဒနာဒဏ် မခံမရပ်နိုင်ဖြစ်ကြသည့်အတွက် ဟစ်ကြွေးသော အသံသာဖြစ်သည် ဒကာတော်။

ထိုအခါ မင်းနှင့်မိဖုရားသည် အချင်းချင်းကြည့်ပြီးနောက်၊ အနည်း ငယ် စဉ်းစားဟန်ပြုပြီးနောက် ကောသလမင်းက မေးလျှောက်လေ၏။

**ကောသလ**။ ။အရှင်ဘုရား၊ အဘယ်သူတို့သည် မည်သည့်ဒုစရိုက်မှုမျိုးကို မည်သို့ ပြုကျင့်ကြပါကုန်သနည်း ဘုရား။

ဗုဒ္ဓ။ ။ဒကာမင်းမြတ်၊ သင်သိလိုမှုကား နာယူမှတ်သားလေလော့ဟု မိန့်တော်မူပြီးလျှင် ဒုစရိုက်ဇာတ်လမ်းကို သွယ်တန်းပြတော်မူလေသတည်း။

ဒကာတော်မင်းမြတ်၊ ရှေးဖြစ်စဉ်တစ်ခုမှာ ကဿပမြတ်စွာဘုရားသည် ရဟန်းများစွာခြံရံလျက် ဒေသစာရီကြွချီတော်မူရာက ဗာရာဏသီပြည်သို့ ရောက်သွားတော်မူ၏။ ထိုအခါ မြို့သူမြို့သားတို့သည် မိမိတို့တတ်နိုင်သမျှ သူ့ထက်ငါ လှူဒါန်းသမှုဖြင့် အာဂန္တုကဝတ်ကို ပြုစုကြကုန်၏။

ဤသို့ တစ်မြို့လုံးအုတ်အုတ်ကျက်ကျက် သူ့ထက်ငါလှူကြ၊ တန်းကြ ကုန်သော်လည်း သူဌေးသား လေးယောက်တို့ကား ပျော်ပါးမှုကိုသာ စိတ်ဝင်စားနေကြကုန်သည်။

ယင်းသူဌေးသားလေးယောက်တို့အနက် တစ်ဦးသောသူက "သူတကာတွေ ဘုရားကိစ္စအတွက် မည်သို့ပင် ဆောင်ရွက်နေစေကာမူ တို့အလုပ်မဟုတ်၊ တို့တစ်တွေ အရက်ကောင်းကောင်းသောက်ပြီး လျောက်လည်ကြရအောင်"ဟု ဆို၏။

တစ်ယောက်ကမူ သလေးထမင်းကောင်းကောင်း ချက်စားရအောင်ဟု ဆွယ်သည်။ တစ်ယောက်ကလည်း မုန့်ပဲသွားရည်စာကောင်းကောင်းနှင့် လျောက်လည်ရန် အကြံပေးသည်။ နောက်ဆုံးတစ်ယောက်ကမူကား "တို့မှာ သုံးမကုန် ဖြုန်းမကုန်အောင်ပိုက်ဆံပေါသည်။ ပျော်စရာထဲမှာ မိန်းမဟာ ပျော်စရာအကောင်းဆုံး၊ ဘယ်လောက်မာနကြီးတဲ့ မိန်းမပဲဖြစ်ဖြစ် ပိုက်ဆံနှင့်ပေါက်လျှင် ခံနိုင်မည်မဟုတ်၊ အိုအိုပျိုပျို ဘယ်မိန်းမကိုမဆို ငွေနှင့်မျှားလျှင် ထင်သလိုပျော်နိုင်ပါသည်။ ဘယ်ကိုမှ လျောက်လည်ဖို့မလို၊ ကြိုက်တဲ့မိန်းမကို ငွေနဲ့ခေါ်ပြီး ပျော်ပါးကြရအောင်"ဟု အဆိုပြုသည်။

ဒကာတော်မင်းမြတ်၊ သူဌေးသားလေးယောက်တို့သည် သမီးပျိုများကိုသာမက လင်ရှိမယားကိုပါ မရှောင် ငွေမျက်နှာကို ရှေ့တန်းတင်လျက် ဖျက်ဆီးပျော်ပါးကြလေကုန်သောကြောင့် လင်ရှိမယားများစွာတို့သည် ထိုသူဌေးသားလေးယောက်တို့၏ ဖျက်ဆီးမှုကြောင့် ပျက်စီးခြင်းသို့ ရောက်ကုန်လေ၏။

ဒကာတော်မင်းမြတ်၊ ထိုသူဌေးသားတို့ကွယ်လွန်လေသော အခါ လင်ရှိမယားကို ဖျက်ဆီး၍ ပရဒါရကံကို ကျူးလွန်ခဲ့ကြသော

ထိုပြစ်မှုကြောင့် အဝီစိငရဲသို့လားကြရလေကုန်၏။ ဘုရားတစ်ဆူ ပွင့်တော်မူရာ ကြားကာလအတွင်း နှစ်ပေါင်းများစွာ အဝီစိငရဲ၌ ကျခံကြရပြီးနောက် ထိုမှတစ်ဖန် ယူဇနာပေါင်းခြောက်ဆယ် ကျယ်ပြန့်သော လောဟကုမ္ဘီမည်သော ငရဲအိုးတွင်း၌ ကျခံကြရ ပြန်လေကုန်၏။

ဒကာတော်မင်းမြတ်၊ လောဟကုမ္ဘီငရဲ၌ ကျခံနေရသူတို့ကား နှစ်ပေါင်းခြောက်သောင်းကြာမှ တစ်ကြိမ်သာ ခေါင်းဖော်ခွင့်ရကြသည်။ ထိုသို့ ခေါင်းဖော်ခွင့်ရလိုက်သည့်အခိုက်တွင် ထိုသူဌေးသားလေးယောက်တို့သည် အချင်းချင်း တွေ့ဆုံခိုက် စကားပြောဆိုကြကုန်၏။ သို့သော် အက္ခရာတစ်လုံးစီသာ ပြောနိုင်ရှာကုန်သည်။ လျှပ်တစ်ပြက် ကာလအတွင်းမှာပင် ငရဲအိုးအတွင်းသို့ ပြန်၍ နစ်သွားကြလေကုန်သည် ဒကာတော်။

ကောသလမင်းသည် နားထောင်နေရင်းမှ မိမိကိုယ်ကို လိပ်ပြာမလုံဖြစ်လာသည်။ မိမိစွဲလမ်းနေသော တောရွာက ချောကလျာ၏ မျက်နှာကို မြင်လာလေလေ ကြက်သီးထလေလေ ဖြစ်လာသည်။ "ငါကံကောင်းလို့ ငရဲအိုးထဲ ခေါက်ထိုးဆင်းရတော့မလို့၊ တဲတဲကလေးလိုတော့ပါကလား"ဟု တွေးမိရာက ချွေးစေးကြီးများပင် ကျလာကာ တဟင်းဟင်းနှင့် သက်ပြင်းချကာ ချကာနှင့် ရှိနေလေရာ "ဒကာတော်"ဟု ခေါ်လိုက်သောအခါတွင် ရုတ်တရက် လန့်သလိုဖြစ်သွားကာ "ဘုရား"ဟု ထူးပြီး ဘုရားသခင့် မျက်နှာတော်ကို မော်၍ဖူးလေသည်။

**ဗုဒ္ဓ**။ ။ဒကာတော်မင်းမြတ်၊ ရှေးဦးစွာ သင်မည်သည့်အသံကို ကြားလိုက်သနည်း။

**ကောသလ**။ ။ဒု-ဟူသော အသံကို ရှေးဦးစွာကြားလိုက်ရကြောင်းပါ ဘုရား။

**ဗုဒ္ဓ**။ ။ဒကာတော်မင်းမြတ်၊ ပရဒါရကံ=လင်ရှိမယားကို ပြစ်မှားကျူးလွန်ခဲ့သော ထိုသူဌေးသားသည် ငရဲအိုးထဲမှနေ၍ သူ၏ဖြစ်ရပ်ကို ပြည့်ပြည့်စုံစုံဟစ်ကြွေး၍ တင်ပြခြင်းဖြစ်သော်လည်း စကားမဆုံးမီ လျှပ်တစ်ပြက်အတွင်း ပြန်၍ မြုပ်သွားလေသဖြင့် ဒု ဟူသော စကားတစ်လုံးကိုသာ သင်ကြားလိုက်ရခြင်းဖြစ်၏။ တိုင်တမ်းလိုသည့် ထိုသူပြောလိုသော စကားအပြည့်အစုံကား—

**ကောသလ**။ ။အမိန့်ရှိပါ ဘုရား။

**ဗုဒ္ဓ။** ။ဒုဇ္ဇီဝိတ မဇီဝိမှ စသည်ဖြစ်ပေ၏။ ထိုစကား၏အဓိပ္ပာယ်သော်ကား "အိုအချင်းတို့၊ ငါတို့ကား ရှေးကုသိုလ်ကံ အကျိုးကြောင့် သူဌေးမျိုးတွင် ဖြစ်ပါကုန်သော်လည်း ဖြစ်ရကျိုးမနပ်။ ဘဝကို အလွဲသုံးစားပြုကာ လင်ရှိမယားများကို ပြစ်မှားပျော်ပါးခြင်း အားဖြင့် မိုက်မဲစွာ အသက်မွေးမိခဲ့ကုန်ပြီ။ စီးပွားဥစ္စာတို့သည် ငါတို့အဖို့ သုံးမကုန်အောင် ပေါများပါတုံလျက် ငါတို့ကား တစ်ဖွန်းတစ်ယောက်စာကိုမျှ မလှူခဲ့ကုန်။ ငါတို့ပြုခဲ့သော ဒုစရိုက်ကံက ငါတို့အား အလင်းရောင်၌ နေခွင့်မပေး၊ မှောင်ချထားပါပြီတည်း"ဟု ဆိုခြင်းပင် ဖြစ်ပေသည်။ ဒုတိယကြားလိုက်ရသည့် အသံကို ဆိုဦးလော့ ဒကာတော်။

**ကောသလ။** ။ဒုတိယကြားလိုက်ရသော အသံမှာ သ–ဖြစ်ပါသည် အရှင်ဘုရား။ ၎င်း၏ အဓိပ္ပာယ်သွားကိုလည်း အကျယ်ပွား၍ ဟောတော်မူပါမှ သိရပါမည် ဘုရား။

**ဗုဒ္ဓ။** ။ဒကာတော်မင်းမြတ်၊ သ–အရ "သဋ္ဌိဝဿသဟဿာနိ" စသည်ကို ဆိုခြင်းဖြစ်၏။ အဓိပ္ပာယ်သော်ကား "အို သူငယ်ချင်းတို့၊ လင်ရှိမယားများကို ပြစ်မှားကျူးလွန်ခဲ့သောအပြစ်ဒဏ်ကြောင့် ဤလောဟကုမ္ဘီငရဲ၌ ကျခံနေရသော ငါတို့အား နေ့ညမလပ် တရစပ်ခံလာခဲ့ကြရသည်မှာ အနှစ်ပေါင်း ခြောက်သောင်းပင် ပြည့်ခဲ့လေပြီ။ ဘယ်သောအခါများမှ ဤဆင်းရဲဝဋ်က ကျွတ်မည်မသိ"ဟု ဆိုခြင်းဖြစ်၏။ တတိယအသံကို ဆိုဦးလော့ ဒကာတော်။

**ကောသလ။** ။တတိယအသံမှာ န–ဖြစ်ပါသည် ဘုရား။

**ဗုဒ္ဓ။** ။ဒကာတော်မင်းမြတ်၊ န–၏အဓိပ္ပာယ်သော်ကား 'နတ္ထိအန္တော ကုတော အန္တော' စသည်ကို ဆိုခြင်းဖြစ်၏။ "အိုသူငယ်ချင်းတို့၊ တို့လူဖြစ်ခဲ့စဉ်အခါက ငါနှင့်သင်တို့ သဘောတူ လင်ရှိမယားကို ကျူးလွန်ပြစ်မှားမိခဲ့ကြသောကြောင့် ယခု ငရဲခံနေရပြီကော။ လွတ်ရက်ဟူ၍ ငါတို့မှာမရှိ။ ငရဲမှ လွတ်ရက်ဟူသည် အဘယ်မှာပါနည်း။ ငါတို့ကား လွတ်ရက်မထင်ပါကလား"ဟူ၍ ဆိုခြင်း ဖြစ်ပေ၏။ စတုတ္ထကြားရသော အသံကို ဆိုဦးလော့ ဒကာတော်။

**ကောသလ။** ။စတုတ္ထအသံမှာ သော–ဟူ၍ ဖြစ်ပါသည်ဘုရား။

**ဗုဒ္ဓ** ။ဒကာတော်မင်းမြတ်၊ သော–၏အကျယ်မှာ 'သောဟံ နုန ဏ္ဏတော ဂန္တွာ' စသည်ကို ဆိုခြင်းဖြစ်၏။ အဓိပ္ပာယ်သော်ကား "အို–သူငယ်ချင်းတို့၊ မိုက်မဲဘိစွာသော ထိုငါသည် ဤငရဲမှ လွတ်မြောက်၍ ကံကောင်းထောက်မသဖြင့် လူ့ဘဝပြန်ရောက်ခဲ့ပါသော် ပညာရှိတို့ ဆိုဆုံးမသော ဩဝါဒကိုခံယူအံ့။ ကိုယ်ကျင့်တရားကောင်းသူဖြစ်အံ့။ အလှူအတန်းကို ရက်ရောစွာလှူဒါန်းအံ့" ဟု ဆိုခြင်းဖြစ်ပေသည် ဒကာတော်။

ထိုအချိန်တွင် ကောသလမင်း စေလွှတ်လိုက်သော ကိုယ်ရံတော်ဗိုလ်မှူးမှာ အသတ်ခံရမည်စိုးသောကြောင့် နန်းတော်သို့မပြန်ဝံ့ဘဲ ဘုရားကျောင်းတော်တွင် ဝင်ရောက်ခိုအောင်းလျက် ရှိနေလေရာ ဒု–သ–န–သော တရားကို ကောသလမင်းကြီးနည်းတူ ကောင်းစွာ ကြားရလေ၏။

ကောသလမင်းမှာ တရားအဆုံးတွင် ချွေးတလုံးလုံးနှင့် ရှိနေသဖြင့် ခဏခဏ ချွေးများကို သုတ်နေရှာ။ ချွေးစေးကြီးများ ဤသို့ကျလာခြင်း၌ အကြောင်းနှစ်ခုဖြစ်တန်ရာသည်။ လင်ရှိမယားအပေါ်၌ တိမ်းညွှတ်ခဲ့သော ငါ့စိတ်ဓာတ်၊ ငါ့အကြောင်းကို ဘုရားသခင် ကောင်းကောင်းသိသွားတော်မူလေပြီလားဟူ၍ တွေးမိကာ ကိုယ့်ကိုယ်ပြန်၍ ရှက်မိသည်က တစ်ကြောင်း၊ "ဩ–ပရဒါရကံဆိုတာ တယ်လဲကြောက်စရာကောင်းလှပါကလား။ ငါမှားပြီ၊ မှားပြီ။ ငရဲအိုးမှာ ချိုးကပ်တော့မလို့ သီသီကလေးလိုတော့သည်။ ဒီအချိန်ကစပြီး သူတစ်ပါးမယားကို မျက်မွေးတော်မော်၍ပင် ငါမကြည့်တော့။ စိတ်ဖြင့်တောင် ငါမပြစ်မှားတော့" ဟူ၍ နောင်တကြီးစွာရနေမိသည် တစ်ကြောင်း ဤအကြောင်းနှစ်ချက်ကြောင့် ဓောချွေးများ ထွက်နေဟန်တူ၏။

ကောသလမင်းသည် ညက တစ်ညလုံးအိပ်စက်မရသည်ကိုလည်း သတိရနေမိ၏။ အခွင့်သင့်ခိုက် ထိုအကြောင်းကိုပါ ဝင်၍လျှောက်လိုက်လေ၏။

**ကောသလ** ။အရှင်မြတ်ဘုရား လွန်ခဲ့သောညသည် ခါတိုင်းခါတိုင်းသော ညများထက် ပို၍ ညဥ့်တာရှည်သည်ဟု တပည့်တော်ထင်ပါသည် ဘုရား။

ကောသလမင်းကလျှောက်ထား၍အပြီး တစ်ဆက်တည်းပင် ကိုယ်ရံတော်ဗိုလ်မှူးကလည်း အပါးသို့တိုးလာကာ ရှိခိုး၍ လျှောက်လာပြန်သည်။ သူ၏ ရည်စူးချက်မှာ သူ့ကိုယ်သူ မင်းပြစ်ဒဏ်သင့်သူတစ်ယောက်ဟု ယူဆကာ ဘုရားသခင်ရှေ့တော်တွင် လျှောက်ထားချေက မိမိအတွက် အထောက်အကူ ဖြစ်တန်ရာသည်ဟု ကြံရွယ်မိသည့်အလျောက် လျှောက်ထားခြင်းဖြစ်၏။

စပယ်ဦးစာပေ

**မိုလ်မှူး။** ။အရှင်ဘုရား၊ ရွှေနန်းရှင်ဘုရင် ထီးဘုရားအားသာ ညဥ့်တာရှည်လှချည့်ဟု ထင်သည်မဟုတ်ပါ။ ဘုရားတပည့်တော်မှာလည်း ယမန်နေ့က သွားရသော တစ်ယူဇနာခရီးကား ခါတိုင်းထက်ပင် ရှည်လျားသည်ဟု ထင်ရကြောင်းပါ ဘုရား။

ဤ လျှောက်ထားသောစကားကြောင့် ကောသလမင်းသည် လှည့်၍ကြည့်လိုက်သည်တွင် မိမိ စေခိုင်းလိုက်သည့် ကိုယ်ရံတော်မိုလ်မှူး ဖြစ်နေသောကြောင့် ကျိတ်၍ ရှက်မိကာ ရာဇက္ကန္ဓေမပျက် ချုပ်တည်းထားရလေ၏။ ဗုဒ္ဓမြတ်စွာသည် လျှောက်ထားကြသည့် စကားနှစ်ရပ်ကို ဆက်စပ်၍ ကြည့်ပြီးနောက် အောက်ပါစကားကို မြွက်ကြားတော်မူလေသတည်း။

> ဒီဃာ ဇာဂရတော ရတ္တိ၊
> ဒီဃ သန္တဿ ယောဇနံ။
> ဒီဃော ဗာလာန သံသာရော၊
> သဒ္ဓမ္မံ အဝိဇာနတံ။

"ဒကာတော်မင်းမြတ်၊ အိပ်ရာမှနိုးနေသူအား ညဥ့်သည်ရှည်၏။ ခရီးပန်းနေသူအား တစ်ယူဇနာခရီးသည် အလွန်ရှည်သကဲ့သို့ ထင်ရ၏။ သူတော်ကောင်းတရားကို မသိသော လူမိုက်တို့အား သံသရာသည် ရှည်၏"

ဤတရားကို ကြားနာရပြီးသောအခါ ကောသလမင်းသည် ယဇ်ပူဇော်ရန်အတွက် စီရင်ထားသော တိရစ္ဆာန်များကိုလည်းကောင်း၊ ကာလသမီး၊ ကာလသားများကို လည်းကောင်း၊ အမြန်လွှတ်စေဟု အမိန့်တော် ထုတ်ပြန်လေသတည်း။

ထိုအခါ လူတို့သည် မိဖုရားခေါင်ကြီးကြောင့်သာ အားလုံးချမ်းသာရာရကြပေသည်ဟူ၍ မလ္လိကာဒေဝီအား ကျေးဇူးတင်၍မဆုံး ဖြစ်လာကုန်၏။

ကောသလမင်း၏ နား၌ကား ဒု၊ သ၊ န၊ သောဟူသော အသံကိုသာ ကြားယောင်လျက် ရှိနေသတည်း။

(ဓမ္မပဒအဋ္ဌကထာ၊ ပထမတွဲ၊ ဗာလဝဂ်၊ အညတရ
ပုရိသဝတ္ထု၊ ၂၈၀၊ ဓမ္မမိတ်ဆွေမှ)

# ( ၂၃ )

# ကြွေး

ကြွေးသည် ကြောက်စရာဖြစ်၏။ ကြောက်အပ်သော ကြောက်စရာ၊ ကြောက်စရာကောင်းသောအရာ မှန်၏၊ ကြွေးကိုပေးသူလည်း ကြောက်အပ်၏။ ယူသူလည်း ကြောက်အပ်၏။ ကြွေးကိုပေးသင့်မှပေးရာသည်။ ယူသင့်မှယူရာသည်။ အဘယ်ကြောင့်ပါနည်း။

အခါတစ်ပါးတွင် ဗုဒ္ဓမြတ်ဘုရားသည် ရဟန်းတို့အား ကြွေးတရား ဟောဓော်မူခဲ့သည်ဖြစ်ရာ ယင်းကြွေးတရား၌ အဖြေကိုရှာရာ၏။

ဗုဒ္ဓမြတ်ဘုရားသည် ယင်းကြွေးတရားကို ရဟန်းတို့အား ဤသို့ ဟောကြားတော်မူခဲ့လေသည်။

ကြွေးတရား မဟောမီ ဗုဒ္ဓမြတ်ဘုရားသည် "ရဟန်းတို့"ဟူ၍ ရှေးဦးစွာ ခေါ်တော်မူလိုက်သည်။ ဤသို့ခေါ်လိုက်ခြင်းမှာ အကြောင်းရှိ၏။ ထိုအကြောင်းကား ဤသို့ပါတည်း။

ရဟန်းတို့သည် [၁]အာရုံတစ်ပါးကို စိတ်ဝင်စားကုန်၍ လည်းကောင်း၊ တရားကို ဆင်ခြင်ကုန်၍လည်းကောင်း၊ ကမ္မဋ္ဌာန်းကို နှလုံးသွင်းကုန်၍လည်းကောင်း နေကြကုန်သည်ဖြစ်ရာ ထိုရဟန်းတို့ကို ရှေးဦးစွာ "ရဟန်းတို့"ဟူ၍ မခေါ်လေဘဲ တရားဟောခဲ့သော် ဤဒေသနာကား အဘယ်ကို အခြေခံသည်၊ အဘယ်ကို အထောက်အကူပြုလေသည်ဟူ၍ မှတ်ရန်မလွယ်။ ရဟန်းတို့ဟူ၍ ခေါ်လိုက်သော်ကား သတိရလာပြီး အာရုံစိုက်၍ မှတ်နိုင်စွမ်းရှိလာသည်။ ထို့ကြောင့် သတိဖြစ်စေခြင်းငှာ ရဟန်းတို့ဟု ခေါ်ပြီးမှ တရားဟောခြင်း ဖြစ်သောဟူ၏။

---

၁။ ဘိက္ခူပြာဟိ အညံ့ စိန္တေန္တာပိ၊ ပ၊ တသ္မာ သတိဇနနတ္ထံ ဘိက္ခဝေတိ အာလပတိ။
(ဋ္ဌတိဝုတ် အဋ္ဌကထာ လောဘသုတ်အဖွင့်၊ ၃၅၊ ဆဋ္ဌမူ)

ဗုဒ္ဓ။ ။ရဟန်းတို့။

ဘိက္ခု။ ။အရှင်ဘုရား။

ဗုဒ္ဓ။ ။လောကၶ ကာမဂုဏ်စည်းစိမ်ကို စံစားသူအား မွဲမှုသည် ဆင်းရဲသည် မဟုတ်ပါလော။

ဘိက္ခု။ ။မှန်ပါသည် ဘုရား။

ဗုဒ္ဓ။ ။ရဟန်းတို့၊ ပစ္စည်းမဲ့လူတန်းစား ကျော့မွဲဆင်းရဲသားသည် သူတစ်ပါးထံမှ ကြွေးယူရ၏။ ချေးငှားခြင်းပြုရ၏။ ရဟန်းတို့၊ လောကၶ သူတစ်ပါးထံ ကြွေးယူရခြင်းသည်လည်း ဆင်းရဲသည်မဟုတ်ပါလော။

ဘိက္ခု။ ။မှန်ပါ၊ ဆင်းရဲပါသည် ဘုရား။

ဗုဒ္ဓ။ ။ရဟန်းတို့၊ ပစ္စည်းမဲ့ကျော့မွဲသူဆင်းရဲသည် သူတစ်ပါးထံမှကြွေးကို ချေးယူပြီးလျှင် အတိုးပေးပါမည်ဟူ၍ဝန်ခံရ၏။ ရဟန်းတို့ လောကၶ ကာမဂုဏ်ခံစားသူအား အတိုးပေးပါမည်ဟူ၍ ဝန်ခံခြင်းသည်လည်း ဆင်းရဲသည် မဟုတ်ပါလော။

ဘိက္ခု။ ။မှန်ပါ၊ ဆင်းရဲပါသည် ဘုရား။

ဗုဒ္ဓ။ ။ရဟန်းတို့၊ ပစ္စည်းမဲ့ လူတန်းစား ကျော့မွဲဆင်းရဲသားသည် အတိုးမှန်မှန်ပေးပါမည်ဟု ဝန်ခံကတိထားရှိခဲ့သော်လည်း မွဲမှုကြောင့် အချိန်ကျလျှင် ဆပ်ရမည့်အတိုးကို မပေးဆပ်နိုင်။ ထိုအခါ အကြွေးရှင်က ထိုသူအား တောင်းဆိုကြလေကုန်၏။ ရဟန်းတို့၊ လောကၶ ကာမဂုဏ်ခံစားသူအား ကြွေးတောင်းခြင်းသည်လည်း ဆင်းရဲသည် မဟုတ်ပါလော။

ဘိက္ခု။ ။မှန်ပါ၊ ဆင်းရဲကြောင်းပါ ဘုရား။

ဗုဒ္ဓ။ ။ရဟန်းတို့၊ ပစ္စည်းမဲ့လူတန်းစား၊ ကျော့မွဲဆင်းရဲသားသည် တောင်းအပ်သောကြွေးကို မပေးဆပ်နိုင်။ ထိုအခါ ထိုသူ့နောက်သို့ ကြွေးရှင်တို့က လိုက်ကုန်လေ၏။ ရဟန်းတို့၊ လောကၶ ကာမဂုဏ်ခံစားသူအား ကြွေးရှင်တို့၏ အလိုက်ခံရခြင်းသည်လည်း ဆင်းရဲသည် မဟုတ်ပါလော။

ဘိက္ခု။ ။မှန်ပါ၊ ဆင်းရဲကြောင်းပါ ဘုရား။

ဗုဒ္ဓ။ ။ရဟန်းတို့၊ ပစ္စည်းမဲ့လူတန်းစား၊ ကျော့မွဲဆင်းရဲသားသည် မိမိနောက်သို့ တစ်ကောက်ကောက်လိုက်၍ အတောင်းခံရသော်လည်း သူ့ကြွေးကို

မပေးနိုင်ရာလေ။ ထိုအခါ ထိုသူဆင်းရဲ ကျော့မွဲအား ချုပ်နှောင်ကြလေကုန်၏။ ရဟန်းတို့၊ လောက၌ ကာမဂုဏ်ခံစားသူအား ကြွေးမပေးနိုင်၍ အချုပ်နှောင်ခံရခြင်းသည်လည်း ဆင်းရဲသည် မဟုတ်ပါလော။

ဘိက္ခု။ ။မှန်ပါ၊ ဆင်းရဲပါသည် ဘုရား။

ဗုဒ္ဓ။ ။ရဟန်းတို့၊ ဤသို့လျှင် ကာမဂုဏ်ခံစားသူအား လူဆင်းရဲ လူမွဲဖြစ်မှုသည်လည်း ဆင်းရဲ၏။ ကြွေးယူရခြင်းသည်လည်း ဆင်းရဲ၏။ အတိုးပေးရပါမည်ဟု ဝန်ခံခြင်းသည်လည်း ဆင်းရဲ၏။ ကြွေးတောင်းခံရခြင်း အချုပ်အနှောင်ခံရခြင်းသည်လည်း ဆင်းရဲ၏။ ကြွေးရှင်တို့အလိုက်ခံရခြင်းသည်လည်း ဆင်းရဲ၏။ အချုပ်အနှောင်ခံရခြင်းသည်လည်း ဆင်းရဲ၏။

ရဟန်းတို့၊ ဤအတူသာလျှင် အမှတ်မထင် တစ်စုံတစ်ယောက်သောသူအား ကုသိုလ်တရားတို့၌ ယုံကြည်မှုမရှိ၊ ရှက်မှုမရှိ၊ ထိတ်လန့်မှုမရှိ၊ အားထုတ်မှုမရှိ၊ အသိဉာဏ်မရှိ။

ရဟန်းတို့၊ ဤသို့သော လူစားမျိုးကို အရိယာတို့၏ အဆုံးအမဝိနဲ၌ ပစ္စည်းမဲ့လူတန်းစား၊ မကြွယ်ဝသူ လူမွဲဟူ၍ ဆိုအပ်၏။

ရဟန်းတို့၊ ကိုယ်ပိုင်ဥစ္စာဟူ၍ ဘာမျှမရှိသော ပစ္စည်းမဲ့လူတန်းစား၊ မကြွယ်ဝသူ ထိုလူမွဲသည် ကုသိုလ်တရားတို့၌ ယုံကြည်မှုသဒ္ဓါပါးခဲ့သော်၊ ရှက်ခြင်းကင်းခဲ့သော်၊ လန့်ထိတ်ခြင်းမရှိခဲ့သော်၊ အားထုတ်ခြင်း ခေါင်းပါးခဲ့သော်၊ ပညာဆွံ့ရှားခဲ့သော်၊ ကိုယ်နှုတ်နှလုံးသုံးပါးစလုံး စောင့်စည်းခြင်းမရှိ၊ ဒုစရိုက်မှုများကို ထင်တိုင်းပြုကျင့်လေ၏။ ဤသည်ကို ထိုလူမွဲ၏ကြွေးယူမှုဟု ငါဆို၏။

ထိုလူမွဲသည် ကာယဒုစရိုက်၊ ဝစီဒုစရိုက်၊ မနောဒုစရိုက်တို့လွှမ်းဖုံးခြင်းဟူသော အကြောင်းကြောင့် ယုတ်ညံ့သော တောင့်တမှုကို အားထုတ်၏။ "ငါ့အကြောင်းမသိပါစေလင့်"ဟူ၍ အလိုရှိ၏။ အလိုရှိသောအတိုင်း သူတစ်ပါးမသိစေနည်း နိသာရည်းကိုကြံတွေး၏။ အတွေးပေါက်လာသည့်အလျောက် ဖုံးကွယ်စကားပြော၏။ သူ့အကြောင်းကို လူမသိစေရအောင် ကာယကံမြောက် အားထုတ်၏။ ဤသည်ကို ထိုလူမွဲ၏အတိုးတက်မှုဟု ငါဆို၏။

ထိုသူကို မိတ်ကောင်းဆွေကောင်း အပေါင်းအသင်းတို့က ဤသူ ထိုသို့ပြောလေ့ရှိသည်။ ထိုအကျင့်မျိုး၊ ထိုဝသီမျိုးရှိသည်။

ပြောဆိုကြကုန်၏။ ဤသည်ကို ထိုလူမွဲ၏ ကြွေးတောင်းခံရမှုဟု ငါဆို၏။

ထိုလူမွဲသည် တောကိုပဲရောက်ရောက်၊ သစ်ပင်အောက်ကိုပဲ ရောက်ရောက်၊ မည်သည့်နေရာကိုပဲရောက်ရောက်၊ ရောက်လေရာရာ အရပ်၌ ထိုလူမွဲ၏နောက်သို့ နှလုံးမသာယာခြင်းနှင့်တကွသော ယုတ်ညံ့သောတွေးခေါ်မှု အလိုဆိုးတို့သည် တစ်ပြုံကြီး လိုက်လာကုန် လေ၏။ ဤသည်ကို ကြွေးရှင်တို့က အလိုက်ခံရမှုဟု ငါဆို၏။

ရဟန်းတို့၊ ထိုလူမွဲကောင်သည် ကံသုံးပါးဖြင့် ဒုစရိုက်မှု များကို ထင်သလိုပြု၍ ဘဝချုပ်ငြိမ်း၊ အမိုက်ဇာတ်သိမ်းပြီးသည်မှ နောက်ကာလ၌ ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာ၊ အသူရကာယ် တည်းဟူသော ချုပ်နှောင်ခြင်းဖြင့် အချုပ်ခံရလေ၏။

ရဟန်းတို့၊ လောက၌ လူမွဲဖြစ်ရခြင်းကိုလည်းကောင်း၊ ကြွေးယူရခြင်းကိုလည်းကောင်း ဆင်းရဲဟူ၍ ဆိုအပ်၏။ လူမွဲသည် ကြွေးယူ၍ စားသောက်ရခြင်းကြောင့် ပင်ပန်း၏။ ထို့ကြောင့် ထို သူ၏နောက်သို့ ကြွေးရှင်တို့ တစ်ကောက်ကောက်လိုက်ကုန်၏။ ကြွေးကို အကြောင်းပြု၍ ထိုသူသည် အချုပ်စခန်းသို့လည်း ရောက်ရ၏။ ကာမဂုဏ်ရမှုကို တောင့်တသူတို့အား ထိုသို့အချုပ်အနှောင် ခံရခြင်း သည် ဆင်းရဲသည်သာတည်း။

ရဟန်းတို့၊ ထို့အတူသာလျှင် အရိယာတို့၏ အဆုံးအမ သဒ္ဓါ ပါးရှားသူ၊ ရှက်ကြောပြတ်သူ၊ အကြောက်အလန့်ကင်းသူသည် ဒုစရိုက်မှု အမျိုးမျိုးပြုချင်တိုင်းပြုပြီးမှ "ငါ့အကြောင်းကို မသိပါစေနဲ့" ဟု အလိုရှိ၏။ ပြုမှားခဲ့သော ဒုစရိုက်မှုများကြောင့် အမြဲတစေ တုန်လှုပ်ချောက်ချားခြင်းဖြစ်ရ၏။

ရဟန်းတို့၊ အရိယာတို့၏ အဆုံးအမ၌ သဒ္ဓါတရားရှိသူ၊ ရှက်တတ်သူ၊ မကောင်းမှုမှ လန့်တတ်သူ၊ ပညာရှိသူ၊ သီလဖြင့် ပိတ်ဆို့ စောင့်ရှောက်ရှိသူကို ချမ်းသာစွာ အသက်မွေးခြင်းရှိသူ၊ ကြွေးမြီမှ ကင်းသူဟု ကြွေးမှုတရားကို နိဂုံးချုပ်တော်မူ၏။

(ဆက္ကနိပါတ်၊ အင်္ဂုတ္တိုရ်ပါဠိတော်၊ ဓမ္မိကဝဂ်၊ ဣဏသုတ်၊ ၃၀၉၊ ဆဋ္ဌမှ)

စပယ်ဦးစာပေ

( ၂၄ )

# ခံတွင်းထဲက ဓားမကြီးတစ်ချောင်း

ချစ်စေလိုသော် ခံတွင်းလက်လေးသစ်၊ မုန်းစေလိုသော် ခံတွင်းလက်လေးသစ် ဟု အဆိုရှိ၏။ လက်လေးသစ်ခန့်မျှ အရွယ်ပမာဏရှိသော ခံတွင်းက ချစ်အောင်လည်း တတ်နိုင်သည်။ မုန်းအောင်လည်း တတ်နိုင်သည်ဟု ဆိုခြင်းပင်တည်း။

လက်လေးသစ်ခန့်မျှ ပမာဏရှိသော ထိုခံတွင်းထဲတွင် အလွန်အသွားထက် လှသည့် ဓားမကြီးတစ်ချောင်းပါရှိသည်ဟု ဆိုသော် "ဟုတ်နိုင်ပါ့မလားဗျာ၊ ကြံကြီးစည်ရာ"ဟု အံ့ဘနန်းပင် ဖြစ်ပေလိမ့်မည်။

အံ့ချင်အံ့ပါစေတော့။ အချို့အချို့ကုန်သောလူတို့၏ ခံတွင်းထဲ၌မူကား အကယ်ပင် ဓားမကြီးတစ်ချောင်းပါရှိကြောင်းကို ကျမ်းဂန်တို့၌ အခိုင်အမာ ပြဆို ထားချက်များ ရှိပေ၏။

ထိုစကားကို ဆိုသင့်၍သာဆိုသည်၊ ထိုရောအခါ ထိုသည့်ခုနှစ်သက္ကရာဇ်တွင် သဗ္ဗညုမြတ်စွာဘုရားသည် သာဝတ္ထိပြည် ဇေတဝန်ကျောင်း၌ ဝါကပ်တော်မူ၏။

လက်ဝဲရံ၊ လက်ယာရံဟူ၍ ထင်ရှားသော အရှင်မောဂ္ဂလာန်နှင့် အရှင် သာရိပုတ္တရာ ကိုယ်တော်ကြီးနှစ်ပါးတို့ကား ဒေသစာရီကြွချီ၍ တရားဟောကြား ရာတွင် ခရီးနယ်ကျွံနေကြ၏။ ဝါဆိုမီ သာဝတ္ထိသို့ ပြန်လာကြကုန်သော်ငြား ခရီးလမ်းတာမှာ ကွာဝေးလှသည်ဖြစ်၍ ဝါဆိုမီ မရောက်နိုင်ကြကုန်သောကြောင့် လမ်းခုလတ် ကောကာလိကတိုင်း၊ ကောကာလိကမြို့တွင် ဝါကပ်နေကြ ရရှာကုန်၏။

ဝါဆိုကျောင်းမှာလည်း ဆောက်လှူသူကျောင်းဒါယကာ ကောကာလိက သူဌေးကို အစွဲပြု၍ ကောကာလိကကျောင်းဟူ၍ပင်တွင်၏။ ကျောင်းထိုင်ပုဂ္ဂိုလ် မှာလည်း ထိုကျောင်းဒါယကာ၏သား အရှင်ကောကာလိက ဖြစ်၏။

သာသနာတော်၌ စူဠကောကာလိက၊ မဟာကောကာလိကဟူ၍ ကောကာလိက နှစ်ပါးရှိလေရာ ဒေဝဒတ်၏ တပည့် ကောကာလိကမှာ စူဠကောကာလိက[၁] ဖြစ်၍ ထိုကျောင်းထိုင် ကောကာလိကကား ဗြာဟ္မဏအနွယ်ဖွား မဟာကောကာလိက ဖြစ်လေသည်။

အရှင်မောဂ္ဂလာန်နှင့် အရှင်သာရိပုတ္တရာ အဂ္ဂမဟာသာဝကနှစ်ပါးတို့သည် ကျောင်းထိုင်ပုဂ္ဂိုလ် ကောကာလိကထံ ခွင့်ပန်၍ ရဟန်းသံဃာတော်များနှင့် အတူတကွ ထိုကောကာလိကကျောင်း၌ ဝါဆိုကြကုန်၏။ သီတင်းဝါလ ကျွတ်လေသော အခါ "ငါတို့ပြန်ကြကုန်တော့အံ့"ဟူ၍ ပန်ကြားကြသည်တွင် "တစ်ရက်တာမျှ ဆိုင်းငံ့တော်မူပါဦး"ဟူ၍ လျှောက်ထားခဲ့ပြီးလျှင် ကျောင်းထိုင်ဆရာတော် ကောကာလိက သည် မြို့တွင်းသို့ကြွကာ လူတို့အား လှုံ့ဆော်ခြင်း ပြုလေသတည်း။

"အို–အချင်းဒကာတို့၊ အကျော်ဇေယျ ဖြစ်တော်မူသော အရှင်မောဂ္ဂလာန်၊ အရှင်သာရိပုတ္တရာ ကိုယ်တော်ကြီးနှစ်ပါးသည် ရဟန်းသံဃာများစွာနှင့်တကွ ငါ့ ကျောင်းတွင် ဝါဆိုတော်မူနေကြပါလျက်ကို သင်တို့ မသိကြကုန်တကား။ ဆွမ်းတစ်နပ်စာမျှ ကပ်ရကောင်းမှန်း မသိတတ်ကြကုန်တကား။ ဤသို့သောပုဂ္ဂိုလ်ကြီးများအား လှူဒါန်းရန် ကြုံခဲလှပါဘိခြင်း။ ကြုံတုန်းကြုံခိုက်မှာ လှူလိုက်ကြကုန်လော့။ ခွင့်သာဆဲမှာ ခဲလိုက်ကြကုန်လေ"ဟူ၍ လှုံ့ဆော်တိုက်တွန်းလေသော အခါ လူတို့လည်း ဝမ်းမြောက်စွာ ရတ်ချည်းပင် စည်းဝေးကြကုန်ပြီးသော် ထောပတ်၊ တင်လဲစသော လှူဖွယ်၊ တန်းဖွယ် အသွယ်သွယ်တို့ကို စီရင်ကြလေကုန်၏။ ထိုအခါ အရာဝတ္ထုသီးမျိုးစုံ ပဒေသာတို့သည် ဝေဝေဆာဆာ ပေါက်လာကုန်လေ၏။

ယင်းပဒေသာတို့ကို မြင်တွေ့လာသောအခါ ကျောင်းထိုင်ပုဂ္ဂိုလ်၏ သန္တာန်၌ လောဘဇောကပ် တပ်မက်ခြင်းဖြစ်လာ၏။ "ဤအရှင်ကြီးတို့ကား အလိုနည်းကုန်စွ။ ငါ၏ စီမံဆော်ဩမှုအရ ဖြစ်ပေါ်လာသော ဤလှူဖွယ်ဝတ္ထုတို့ကို သာယာကြကုန်မည်မဟုတ်။ အလှူခံကြမည်မဟုတ်။ ကျောင်းထိုင်ပုဂ္ဂိုလ် ငါ့အား လှူလိုက်ကြဟု ညွှန်ကြားကုန်လတ္တံ့"ဟု အာရုံမနောတွင် လောဘဇောဝင်လာလေသည်။

မဟာသာဝကကြီးနှစ်ပါး အမှူးပြုသော သံဃာတော်တို့အား ထိုလှူဖွယ်ဝတ္ထုတို့ကို လှူဒါန်းကြလေသောအခါ "ဤပစ္စည်းတို့သည် ငါတို့အားလည်းကောင်း၊ ကောကာလိကအားလည်းကောင်း မအပ်ကုန်၊ အလှူခံထိုက်"ဟူ၍ အလှူမခံလော်ဘဲ သာဝတ္ထိသို့ ကြွကြလေသောအခါ ကောကာလိကသည် ပဒေသာပင်များကိုကြည့်ကာ စိတ်မသက်မသာနှင့် ကျန်ခဲ့လေ၏။ သည်လှူဖွယ်ပစ္စည်းတွေကို ကိုယ်တိုင်လည်း

---

၁။ (ကော အယံ ကောကာလိကော၊ ကသွာစ ဥပသင်္ကမိ၊ ပ၊ သဂါထာဝဂ္ဂသံယုတ် အဋ္ဌကထာ၊ ကောကလိကသုတ် အဖွင့်၊ ၁၉၈၊ ဆဋ္ဌမူ)

အလှူခံမသွား၊ ငါ့ကိုလည်းပေးမထားခဲ့ကြ၊ ဘယ်လိုကိုယ်တော်တွေလဲဟူ၍ အခဲမကျေဖြစ်ကာ အရှင်မောဂ္ဂလာန်နှင့် အရှင်သာရိပုတ္တရာတို့အပေါ်၌ ရန်ငြိုးဖွဲ့လာလေသတည်း။

သာဝကကြီးနှစ်ပါးနှင့် သံဃာတော်များသည် နောက်တစ်ကြိမ် ထိုကောကာလိကမြို့၊ ထိုကောကာလိကကျောင်းသို့ ရောက်လာကြပြန်၏။ လူတို့သည် မိမိတို့၏ သဒ္ဓါတရားအလျောက် လှူဒါန်းခြင်းပြုကြလေသောအခါ၌ကား အလှူခံတော်မူကြလေကုန်၏။

ဤဖြစ်ရပ်သည် ကျောင်းထိုင်ပုဂ္ဂိုလ် ကောကာလိက၏ သန္တာန်၌ ငုတ်လျှိုးနေသော ရန်ငြိုးကို နှိုးဆွပေးသကဲ့သို့ဖြစ်လာ၏။ သာဝကကြီးနှစ်ပါးထံ ချဉ်းကပ်ကာ ဤသို့ စွပ်စွဲခြင်း ပြုပါလေတော့သည်။

"ငါ့ရှင်တို့ သင်တို့ကား ထိုစဉ်အခါတုန်းက အလိုနည်းသယောင်ယောင်နှင့် လှူဖွယ်ပစ္စည်းတွေကို ရှောင်သွားခဲ့ကြပြီးမှ ယခုတစ်ဖန် အလှူခံရအောင် ပြန်လာကြကုန်သည်။ အလိုရမ္မက်ကြီးဘိစွသော တကယ့်ပါပဘိက္ခုကြီးတို့ပေတကား"

ဤသို့ ပုတ်ခတ်၊ စွပ်စွဲခြင်း ပြုရုံမျှဖြင့် အားမရနိုင်သေးဘဲ စိတ်ထဲတွင် နာလုံးကြီးပေါက်လေသည့်အလျောက် သာဝတ္ထိသို့သွားကာ ဘုရားသခင်အား ဤသို့ လျှောက်ထားပါလေသတည်း။

ကောကာလိက။ ။ဘန္တေ=အရှင်ဘုရား၊ သာရိပုတ္တရာနှင့် မောဂ္ဂလာန်တို့ကား ရဟန်းတန်မဲ့ အလိုဆိုးရှိကုန်ဘိသည်။ အလိုဆိုးနောက်သို့ တကောက်ကောက်လိုက်ကုန်ဘိပါသည် ဘုရား။

ဗုဒ္ဓ။ ။ကောကာလိက၊ သင် ဤသို့မဆိုလင့်။ သာရိပုတ္တရာနှင့် မောဂ္ဂလာန်တို့သည် သင်ထင်သကဲ့သို့မဟုတ်။ သီလကိုလွန်စွာ ချစ်မြတ်နိုးကြကုန်၏။ သာရိပုတ္တရာ၊ မောဂ္ဂလာန်တို့အပေါ်၌ သင့်စိတ်ကို ကြည်လင်စေလော့။ စိတ်ကောင်းထားလော့။

ဤသို့ မြတ်ဘုရားက တားမြစ်သော်လည်းမရ။ ကောကာလိကသည် တားမြစ်သည့်ကြားက သုံးကြိမ်တိုင်တိုင် စွပ်စွပ်စွဲစွဲ အတင့်ရဲစွာ လျှောက်နေသည်။ မြတ်ဘုရားကလည်း သုံးကြိမ်စလုံးပင် ဤသို့မဆိုလင့်ဟူ၍ တားမြစ်တော်မူသည်။

သူ၏ လျှောက်ထားချက်ကို ဟန့်တားလေသောအခါ ကောကာလိကသည် ဘုရားထံမှထ၍ ပြန်သွားလေရာ ဇေတဝန်ကျောင်း၏ပြင်ဘက်သို့မရောက်မီ ကျောင်း ပရိဝုဏ်အတွင်းမှာပင် ဒုက္ခကောင်းကောင်းတွေ့လေပြီတည်း။ မုန်ညင်းစေ့ခန့်၊ ပဲနောက်စေ့ခန့်၊ ကုလားပဲစေ့ခန့်၊ ဆီးစေ့ခန့်၊ ဆီးသီးခန့်၊ ဖန်ခါးသီးခန့်ရှိသော အဖုအပိန့်တို့သည် သူ၏ တစ်ကိုယ်လုံးတွင် အပ်ချစရာမကျန်အောင် ပေါက်လာ

ကုန်လေ၏။ ထိုမှတစ်ဆင့် အဖုအပိန့်တို့ ပေါက်ပြကာ သွေး၊ ပြည် တစက်စက်ထွက်လာကုန်လေ၏။ ဇေတဝန်ကျောင်းတော်၏ ပရိဝုဏ်တံခါးဝအနီးတွင် ဝေဒနာကို မရှုမလှ ပြင်းပြစွာ ခံစားနေရရှာလေ၏။

နေ့မှည၌သို့ ကူးလာ၏။ ကောကာလိက တံခါးဝအနီးတွင် သွေး၊ ပြည် တရွဲရွဲနှင့်လဲနေရာမှ မထနိုင်ရှာတော့ပြီ။ သူ့အသက်သည် ထွက်ပေါက်ရှာနေသည့် ပမာ အသက်မှန်မှန်ပင် မရှူရှာတော့ချေ။

ထိုခဏ အရောင်အဝါလင်းခနဲ ဖြာထွက်လာသည်နှင့်အတူ တုရုမည်သော ဗြဟ္မာကြီးတစ်ပါး သူ့အနားသို့ရောက်လာသည်။ ထိုဗြဟ္မာကြီးကား ကောကာလိက၏ ဥပဇ္ဈာယ်ဆရာဖြစ်ခဲ့ဖူးသည့် တုရုမည်သော မထေရ်ကြီးဖြစ်လေရာ မိမိတပည့်၏ ဖြစ်ရပ်ကို ရင်သပ်ရှုမောသနားသော ကရုဏာဖြင့် ကောကာလိကအား သတိပေး ဆုံးမရန် ရောက်လာခြင်း ဖြစ်သည့်အလျောက် ဤသို့ဆို၏။

ဗြဟ္မာ။ ။ကောကာလိက၊ သာရိပုတ္တရာ၊ မောဂ္ဂလာန်တို့အပေါ်၌ သင့်စိတ်ကို ဖြူဖြူစင်စင်ထားလော့။ စိတ်ကောင်းမွေးပါလော့။ သာရိပုတ္တရာ မောဂ္ဂလာန်တို့ကား သင်စွပ်စွဲသကဲ့သို့ အလိုဆိုးရှိသူများမဟုတ်ကုန်။ သီလကို လွန်စွာ ချစ်မြတ်နိုးကြကုန်သော သူတော်စင် စစ်စစ်ကြီးတို့ပါပေတည်း။

ဤသတိပေး ဩဝါဒစကားများကို ကောကာလိက ကြားနိုင်သေး၏။ ကြားရုံမက မျက်စိဖွင့်ကြည့်ကာ ထိုဗြဟ္မာကြီးကိုပင် မချေမငံ့နှုတ်လှန်ထိုးနေချေသေး၏။

ကော။ ။ငါ့ကို စကားဆိုလာသော အိုဘယ့်လူ၊ သင်ကား အသူနည်း။

တုရု။ ။ကောကာလိက၊ ငါကား တုရုမည်သော သင်၏ဆရာဗြဟ္မာ ဖြစ်ပေ၏။ သင်၏ ပျက်စီးမှုကို မရှုနိုင်၍ ငါရောက်လာခဲ့ခြင်း ဖြစ်၏။ အရှင် ကိုယ်တော်မြတ်ကြီးနှစ်ပါးတို့အပေါ်၌ စိတ်ကောင်းထားလော့။

ကော။ ။အချင်းဗြဟ္မာ၊ သင့်အား ဘုရားသခင်က အနာဂါမ်ဟူ၍ မြွက်ကြားသည် မဟုတ်ပါလော။ သို့ပါလျက် ငါ့ထံသို့ သင် ဘယ်အတွက်လာသနည်း။ ကိုယ့်အပြစ်ကို ကိုယ်မြင်အောင်ရှုလော့။ ကိုယ့်နဖူးမှာ ဖူးဖူးရောင်နေသည့် လက်သီးဆုပ်လောက် အဖုကြီးကိုတော့ မမြင်ပါဘဲ မဖြစ်စလောက် မုန်ညင်းစေ့ခန့်မျှ အပြစ်ရှိသူငါ့ကိုလာ၍ သင်ဆရာလုပ်နေယောင်ပါတကားဟု တုံ့ပြန်၍ နှုတ်လှန်ထိုးနေသော တပည့်ကိုကြည့်ကာ တုရု

ဗြဟ္မာကြီးသည်–

"ပုရိသဿ ဟိ ဇာတဿ၊ ကုဌာရိ ဇာယတေ မုခေ"

စသော အောက်ပါဂါထာတို့ကို ရွတ်မိလေသတည်း။

၁။ လူဟူ၍ဖြစ်လာသော သတ္တဝါ၏ခံတွင်းထဲတွင် နှုတ်၊ အာ၊ လျှာ တည်းဟူသော အသွားထက်လှသည့် ဓားမကြီးတစ်ချောင်းပါလာ၏။ လူမိုက်သည် ကြမ်းကြုတ်သောစကားကို ဆိုပြောကာ ထိုစကား ဓားမကြီးဖြင့် မိမိကိုယ်ကို ဇီဝိန်ချုပ်သည်အထိ ခုတ်သတ်နေ၏။

၂။ အကြင်သူသည် ကဲ့ရဲ့ထိုက်သူကို ချီးမွမ်း၏။ ချီးမွမ်းထိုက်သူကို ကဲ့ရဲ့၏။ ထိုသူသည် ခံတွင်း၊ ပါးစပ်ဖြင့် အပြစ်ကို စုဆောင်းနေသူဖြစ်၏၊ ထိုအပြစ်ကြောင့် ထိုသူသည် ချမ်းသာကိုမရနိုင်။

၃။ အကြင်သူသည် ဝိုင်ပြိုင်ယှဉ်၍၊ လောင်းကစားပွဲတို့၌ စည်းစိမ် ပြုတ်အောင်သော်လည်းကောင်း၊ မိမိဘဝပါးနစ်မွန်းအောင်သော်လည်းကောင်း ဆုံးရှုံး သွား၏။ ဤသို့ဆုံးရှုံးခြင်းကား မဖြစ်စလောက် ရှုံးခြင်းမျိုးမျှသာတည်း။ အကြင် သူသည် တရားလမ်းကြောင်းပေါ်၌ ဖြောင့်မတ်စွာ သွားလာနေသော သူတော်ကောင်း ပုဂ္ဂိုလ်တို့၌ စိတ်ဖြင့် ပြစ်မှားမိလေ၏။ ဤသို့ပြစ်မှားမိခြင်းမျိုးကား လောင်းကစား ဝိုင်း၌ ရှုံးသောရှုံးခြင်းမျိုးထက် အဆပေါင်းများစွာ ပိုကဲ၍ ရှုံးသည်မည်၏။

၄။ စကားယုတ်၊ စိတ်ယုတ်မာကို ဆောက်တည်မွေးမြူလျက် အရိယာ နွယ်ဝင် သူတော်စင်ပုဂ္ဂိုလ်တို့အား ကဲ့ရဲ့နှုတ်ကြမ်း၊ ရမ်းကားမိသူသည် နိရဗ္ဗုဒ= နှစ်တို့၏ အရေအတွက်အားဖြင့် နှစ်ပေါင်းတစ်သိန်း၊ ထိုမှတစ်ရပ်၊ နိဗ္ဗုဒပေါင်း သုံးဆယ့်ခြောက်။ ထိုနောက် နိရဗ္ဗုဒပေါင်း ငါးခုတို့ ကာလပတ်လုံး လွတ်ရက်မရှိ။ ငရဲ၌ ကျရလေ၏။

ကောကာလိကသည် ထိုညဉ့်ပင်လျှင် ဇေတဝန်ကျောင်းတံခါးဝတွင် ထို ရောဂါဖြင့် ကွယ်လွန်လေသော် အရှင်နှစ်ပါးတို့အား ပြစ်မှားစွပ်စွဲမိခဲ့လေသော ထိုအပြစ်ကြောင့် ပဒုမမည်သော ငရဲအိုး၌ ချီးကပ်အောင် ကျခံရလေ၏။

ထိုညမှာပင် သဟမ္ပတိ ဗြဟ္မာသည် ဘုရားသခင်ထံလာ၍ "ကောကာလိက ရဟန်း ညက ကွယ်လွန်သွားကြောင်း၊ ပဒုမ မည်သော ငရဲ၌ ကျခံနေရကြောင်း" လျှောက်ထားသွား၏။

နံနက်မိုးသောက်သောအခါ ဘုရားသခင်က သံဃာ့အစည်းအဝေးတွင် ရဟန်းတို့အား ထိုအကြောင်းကို မြွက်ကြားလေသောအခါ ရဟန်းတစ်ပါးက လက်အုပ်ချီ၍ ဘုရားသခင်အား ဤသို့မေးလျှောက်လေ၏။

ဘိက္ခု။ ။ဘုန်းတော်ကြီးလှသော အရှင်မြတ်ဘုရား၊ ပဒုမမည်သော ငရဲ၏သက်တမ်းမှာ အဘယ်မျှ ရှည်လျားပါသနည်း ဘုရား။

ဗုဒ္ဓ॥ ॥ ချစ်သားရဟန်း၊ ပဒုမငရဲ၏ သက်တမ်းကား ရှည်လျားစွာ၏॥ နှစ်တို့၏ အရေအတွက်အားဖြင့် ရာထောင်သောင်းပေါင်းမည်မျှဟူ၍ ရေတွက်ရန် ခဲယဉ်းသည် ချစ်တပည့်။

ဘိက္ခု॥ ॥အရှင်ဘုရား၊ ထိုအကြောင်းကို ရိပ်စားမိနိုင်အောင် ဥပမာဖြင့် ပြနိုင်ပါမည်လား ဘုရား။

ဗုဒ္ဓ॥ ॥ချစ်တပည့်၊ ဥပမာသော်ကား ပြနိုင်၏॥ သင်နာယူလော့॥ ချစ်သားရဟန်း၊ ကောသလတိုင်း၌ အသုံးပြုသော တို့နှစ်ဆယ်ဝင် နှမ်းလှည်းတစ်စီးရှိရာ၏॥ ယောကျ်ားတစ်ယောက်သည် ထိုလှည်းတစ်စီးတိုက်ရှိ နှမ်းများကို နှစ်ပေါင်းတစ်ရာရှိလျှင် နှမ်းတစ်လုံးကိုယူ၍ ထုတ်ပစ်ရာ၏॥

ချစ်တပည့်၊ ဤသို့ နှစ်ပေါင်းတစ်ရာကြာလျှင် နှမ်းစေ့တစ်စေ့ယူခြင်းအားဖြင့် ထိုလှည်းတစ်စီးစာရှိသော နှမ်းများ ကုန်ခန်းသွားသော်ငြားလည်း တစ်ခုသော အဗ္ဗုဒ ငရဲကား ကုန်ခန်းခြင်းသို့ မရောက်နိုင်။

ချစ်တပည့်၊ အဗ္ဗုဒငရဲပေါင်းနှစ်ဆယ်သည် နိရဗ္ဗုဒငရဲ တစ်ခုဖြစ်၏॥ နိရဗ္ဗုဒငရဲနှစ်ဆယ်သည် အဗဗငရဲတစ်ခုဖြစ်၏॥ ထိုအဗဗငရဲနှစ်ဆယ်သည် အဋဋငရဲတစ်ခုဖြစ်၏॥ ထိုအဋဋငရဲ နှစ်ဆယ်သည် အဟဟငရဲတစ်ခုဖြစ်၏॥ ထိုအဟဟငရဲ နှစ်ဆယ်သည် ကုမုဒငရဲတစ်ခုဖြစ်၏॥ ထိုကုမုဒငရဲနှစ်ဆယ်သည် သောဂန္ဓိက ငရဲတစ်ခုဖြစ်၏॥ ထိုသောဂန္ဓိကငရဲနှစ်ဆယ်သည် ဥပ္ပလငရဲတစ်ခုဖြစ်၏॥ ထိုဥပ္ပလငရဲပေါင်း နှစ်ဆယ်သည် ပုဏ္ဍရိကငရဲတစ်ခုဖြစ်၏॥ ထိုပုဏ္ဍရိက ငရဲပေါင်းနှစ်ဆယ်သည် ပဒုမငရဲ တစ်ခုဖြစ်၏॥

ချစ်တပည့်၊ ကောကာလိကရဟန်းသည် သာရိပုတ္တရာနှင့် မောဂ္ဂလာန်တို့၌ ပြစ်မှားမိသောကြောင့် ပဒုမငရဲ၌ ဖြစ်၏ဟု မြွက်ကြားတော်မူလေ၏॥

ရဟန်းတို့သည် မိမိကိုယ်ကို လျှာတည်းဟူသော ကိုယ်ပိုင်ဓားဖြင့် ခုတ်သတ်၍ ဓာတ်သိမ်းသွားရှာသော ကောကာလိက ရဟန်း၏ အလောင်းကို အသုဘကမ္မဋ္ဌာန်းရှုကြရင်း သူတော်ကောင်းပုဂ္ဂိုလ်တို့အား မဟုတ်မဟတ် စွပ်စွဲပြစ်မှားမိခြင်း အပြစ်၏ ကြီးလေးလှသည်၏အဖြစ်ကို တွေးကာ သတိတရား ရှေ့ထား သံဝေဂ ပွားကာ ပွားကာနှင့် ရှိနေကြရာတည်း။

(သဂါထာဝဂ္ဂသံယုတ်ပါဠိတော်၊ တုရူဗြဟ္မသုတ်၊ ၁၅၁ နှင့်
ကောကာလိကသုတ် ၁၅၂၊ ဆဋ္ဌမူ)

# ( ၂၅ )

# အတ္ထိကဝါဒနှင့် နတ္ထိကဝါဒ

နာမည်ကျော်သမိုင်းဝင် ထင်ရှားသော ပုဂ္ဂိုလ်ကြီးတစ်ဦးဖြစ်၏။ သူ့ကို အများက ဖွားဘက်တော်မောင်ဆန်ဟူ၍လည်းကောင်း၊ မြင်းမြီးဆွဲမောင်ဆန်ဟူ၍ လည်းကောင်း၊ ဆန္နအမတ်ဟူ၍လည်းကောင်း ခေါ်ကြ၊ သိကြ၊ နားလည်ကြသည်။

ထိုဆန္နအမတ်သည် သူ့သခင်သိဒ္ဓတ္ထမင်းသား ဘုရားဖြစ်လာသောအခါ သူ့သခင်ထံဝင်၍ ရဟန်းပြုလေ၏။ ငယ်မည်အတိုင်း ဆန္နဟူ၍ပင်တွင်၏။ ဘိက္ခုဆန္န ဟူပေ၏။

ဘိက္ခုဆန္နသည် ရဟန်းဖြစ်လာသော်လည်း လူ့ဘဝက မာနကိုသူမချလေဘဲ "ငါ့ သိဒ္ဓတ္ထမင်းသား၏ လက်သုံးတော်"ဟူ၍ ရဟန်းတို့ကိုပင် သူနှင့်အဖက်တန် သည်ဟူ၍မထင်။ တို့ဘုရား၊ တို့ဘုရား ၁ဟူ၍ ဘုရားနှင့်တရားကို သူပိုင်သော သဘောမျိုးဖြင့် ပိုင်စိုးပိုင်နင်းပြု၍ ဆိုပြော ဆက်ဆံလေ့ရှိသည်။ ဗုဒ္ဓ၏ထံတော်ပါးတွင် သူ့ထက် ရာထူးဌာနန္တရကြီးသောသူ မရှိစေချင်။ သူသာလျှင် အကြီးဆုံး၊ သူသာ လျှင် အချုပ်အခြာ၊ သူသာလျှင် ဗုဒ္ဓ၏အတွင်းလူ လက်သုံးတော်ဟူ၍ တရားကို မကျင့်၊ မာန်တလူလူနှင့် ရှိနေသည်။

သခင်ကိုယ်တော်မြတ်ဘုရား တောထွက်တော်မူစဉ်အခါက မည်သူတစ်ဦး တစ်ယောက်မျှ နောက်တော်ကမပါ။ ဤဖေကိုယ် မောင်ဆန်တစ်ယောက်တည်း ရယ်ဟူ၍ အသားယူကာ ဝင့်ဝါလေ့ရှိသည်။ "ဘုရားဖြစ်၍ ကောင်းချိန်တန်တော့ မောဂ္ဂလာန်သော၊ ဘယ်ဟာသောနှင့် အလောသုံးဆယ် ဘယ်ညာဝိုင်းလို့ အုံကြ တယ်"ဟူ၍ လက်ဝဲရံ အရှင်မောဂ္ဂလာန် ကိုယ်တော်ကြီးနှင့် လက်ယာရံ အရှင်

---

၁။ အမှာက်ဗုဒ္ဓါ၊ အမှာက် ဓမ္မောတိ ဓဝ မက္ခိစေဝ ပဋ္ဌာသိစ၊ ပ၊
(ခန္ဓဝဂ္ဂသံယုတ် အဋ္ဌကထာ၊ ထေရဂ် ဆန္နသုတ်၊ ၂၉၁၊ ဆဋ္ဌမူ)

သာရိပုတ္တရာ ကိုယ်တော်ကြီးနှစ်ပါးကိုပင် ထိကပါး၊ ရိကပါး ဆိုပြောဆက်ဆံခြင်းများ ပြုလေရာ အခြားရဟန်းတော်များကိုမူ အဘယ်ဆိုဖွယ်ရာ ရှိပါချိမ့်မည်နည်း။

ရဟန်းတို့လည်း သူ့အကြောင်းကို သိကြသဖြင့် ဘိက္ခုဆန္နနှင့်ပြိုင်ဘက်၍ ခွန်းကြီး၊ ခွန်းငယ်ဆိုပြောခြင်းမပြုကြကုန်။ "ဘေးမဲ့"ကဲ့သို့ သဘောထားကာ ဘာသိဘာသာ နေကြကုန်၏။ ဤသို့ ဘာသိဘာသာနေကြလေလေ ငါ့ကို ဘယ်သူများ တုဝံ့လို့လဲဟူ၍ မာနကြီးသည်ထက် ကြီးလာလေလေ ဖြစ်နေသတည်း။

ထိုအကြောင်းကို ဗုဒ္ဓက သိရှိတော်မူသော်လည်း ယခုအချိန်တွင် ဘိက္ခုဆန္န အား ဆိုပြောဆုံးမဩဝါဒပေးခြင်းဖြင့် အကျိုးမရှိပုံ၊ ငါပရိနိဗ္ဗာန်ပြုပြီးသည့် နောက်တွင်မှ နောင်တကြီးစွာရလာကာ ကျွတ်တမ်းဝင်နိုင်မည်ဖြစ်ပုံကို သိမြင်တော်မူလေသဖြင့် "ရဟန်းတို့၊ ငါမရှိသည်နောက် ဆန္နရဟန်းအား သင်တို့ ဗြဟ္မဒဏ် ထားရစ်ကြကုန်"ဟူ၍ ရဟန်းတို့အား မှာထားသွားတော်မူ၏။

ဗြဟ္မဒဏ် သဘောအချုပ်ကား မည်သူမျှ ဆန္နရဟန်းနှင့် အပေါင်းအသင်း မလုပ်ရ။ ဆိုပြောဆက်ဆံခြင်းမပြုရ။ လွတ်လပ်စွာ ထားကြကုန်ဟု ဆိုခြင်းပင်တည်း။

ဘုရားပရိနိဗ္ဗာန်စံ၍ ပထမသံဂါယနာ တင်ကြလေသောအခါ ဗုဒ္ဓ၏ ပျာဒိတ်တော်မြွက်အတိုင်း ဗြဟ္မဒဏ်အမိန့်တော်ကို ဆန္နရဟန်းအား ပြန်ကြားရန် အတွက် သံဂါယနာတင် မထေရ်ကြီးတို့က အရှင်အာနန္ဒာအား တာဝန်လွှဲကုန် ကြ၏။ ထိုအချိန်တွင် ဆန္နရဟန်းကား ကောသမ္ဘီပြည်သို့ ရောက်နေသဖြင့် အရှင် အာနန္ဒာသည် ကောသမ္ဘီသို့လိုက်၍ ဆန္နရဟန်းအား ဗြဟ္မဒဏ်အမိန့် အမိန့်တော် ပြန်တမ်းကြီးကို ပြန်ကြားကာ ဒဏ်ထားခြင်း ပြုရလေသည်။

ယင်းသို့ ဗုဒ္ဓ၏ အာဏာစက်[၁]ဖြင့် ဗြဟ္မဒဏ်အမိန့်တော်ကို ပြန်ကြားလတ် သော် ဆန္နရဟန်းသည် အမိန့်တော်ကြားနာနေခိုက် စိတ်ထိခိုက်လာပြီးလျှင် တစ်ကိုယ်လုံး ပေါင်းတင်ထားဘိသကဲ့သို့ ပြင်းစွာပူလာရာက မိုက်ခနဲလဲကျသွား၏။ သတိမရ ဖြစ်သွားလေ၏။

အဆိုပါ ဗြဟ္မဒဏ်အမိန့်တော် ပြန်တမ်းသည် ချက်ချင်းတည်လေပြီဖြစ် ကြောင်းကို ဆန္နရဟန်းသည် အံ့သြစွာ ကြုံတွေ့ရလေ၏။ သတိရ၍လဲရာမှ ထလာသောအခါ ဆန္နရဟန်းသည် ရဟန်းတစ်ပါးထံ သွားရောက် တွေ့ဆုံသော် လည်း ထိုရဟန်းက သူ့အား လက်ခံ၍ စကားပြောခြင်းမပြုချေ။ ထို့အတူ အခြား ရဟန်းများထံ ချဉ်းကပ်ကြည့်ပြန်သောအခါတွင်လည်း သူနှင့် စကားတုံ့ပြန် ပြောဆိုသူကို တစ်ဦးမျှ မတွေ့ရတော့ဘဲ ရှိလေ၏။

---

၁။ သော ဒိန္နေ ဗြဟ္မဒဏ္ဍေ သင်္ဃာတပရိဠာဟော ဝိသညီဘူတော ပတိတွာ။ (ခန္ဓဝဂ္ဂသံယုတ် အဋ္ဌကထာ၊ ထေရဝဂ်၊ ဆန္နသုတ်၊ ၂၉၁၊ ဆဋ္ဌမူ)

ထိုအခါ ဆန္နရဟန်းသည် ပြင်းထန်စွာ ထိတ်လန့်လာ၏။ ကောသမ္ဗီပြည်တွင် မိမိနှင့်စကားပြောသူမရှိသဖြင့် သပိတ်သင်္ကန်းကိုယူကာ ဗာရာဏသီသို့ ပြန်လာသည်။

ဗာရာဏသီပြည် မိဂဒါဝုန်ကျောင်းတိုက်တွင် ရဟန်းများစွာတို့ သီတင်းသုံးလျက်ရှိကြရာ စိတ်ဓာတ်များ တုန်လှုပ်ချောက်ချားလျက်ရှိနေသော ထိုဆန္နရဟန်းသည် နေဝင်ဆည်းဆာအချိန်လောက်တွင် မိဂဒါဝုန်ကျောင်းတိုက်သို့ ရောက်သွား၏။ ကျောင်းများကိုကြည့်သောအခါ တံခါးပိတ်၍ တိတ်ဆိတ်နေသည်ကို တွေ့ရလေ၏။

ဆန္နရဟန်းသည် ပိတ်ထားသော တံခါးများကို သော့ဖြင့်ဖွင့်ကာ ကျောင်းစာ တစ်လျှောက် တစ်ကျောင်းဝင်တစ်ကျောင်းထွက် တိုးလျှိုးဝင်ရောက်ပြီးလျှင် မထေရ်ကြီးတို့အား ရှိခိုးဦးတင်လျက် ဤသို့လျှောက်ထား ပန်ကြားခြင်း ပြုလေသတည်း။

"အရှင်သူမြတ်တို့ဘုရား၊ တပည့်တော်အား သြဝါဒပေးတော်မူပါကုန်။ တပည့်တော်အား သနားသောအားဖြင့် အနုသာသနျ=ထပ်တလဲလဲ၊ အမြဲနိစ္စ၊ ဆုံးမတော်မူပါကုန်။ တရားသဘောကို ယထာဘူတကျကျ တပည့်တော် မြင်နိုင်စွမ်းသည်အထိ လမ်းပြညွှန်ကြားတော်မူကြပါကုန်"ဟူ၍ ပူပန်နှလုံး ယူကြုံးမရသော အသံဖြင့် မထေရ်ကြီးတို့ထံ ပန်ကြားလျှောက်ထား၏။

ထိုအခါ မထေရ်ကြီးတို့သည် ဆန္နရဟန်း၏ တစ်မျိုးတစ်ဖုံပြောင်းလာသော အမူအရာများနှင့် ရှေးကနှင့် မတူတော့သော ဆိုပြောဆက်ဆံပုံများကို မြင်တွေ့ရသောအခါ များစွာအံ့သြခြင်းဖြစ်ကြရပြီး သူ၏ တောင်းပန်ချက်ကို ငဲ့ကွက်သောအားဖြင့် အနိစ္စတရားနှင့် အနတ္တတရား၊ ဤတရားနှစ်ပါးကို ဆန္နရဟန်းအား ဟောကြားကြကုန်၏။

"ငါ့ရှင်ဆန္န၊ ခပ်သိမ်းသော တေဘူမက သင်္ခါရတရားတို့ကား ဖြစ်ပြီးသည့်နောက် အရှည်စွဲ၍ တည်မြဲခြင်းသဘော မရှိသောကြောင့် အနိစ္စတို့သာတည်း။ မိမိအကြိုက် မိမိအလိုသို့ မလိုက်သောကြောင့် အစိုးမရ၊ အနတ္တတို့သာတည်း"ဟု အနိစ္စနှင့် အနတ္တကိုသာ သြဝါဒပေးကြကုန်ပြီး ဒုက္ခလက္ခဏာ တရားကိုကား ဟောကြားခြင်းမပြုကြကုန်။[၁] အဘယ့်ကြောင့်ဆိုသော် မထေရ်ကြီးတို့အား ဤသို့ အကြံဖြစ်လာ၏။ ဒုက္ခလက္ခဏာကို သရုပ်ဖော်မြွက်ကြားလိုက်ခဲ့သော်—

---

၁။ တသ္မာ ဓဝံ ကိရ နေသံ အဟောသိ။ ပ။
(ခန္ဓဝဂ္ဂသံယုတ်အဋ္ဌကထာ၊ ထေရဝဂ်၊ ဆန္နသုတ်အဖွင့်၊ ၂၉၁၊ ဆဋ္ဌမူ)

စပယ်ဦးစာပေ

ဤဆန္နရဟန်းကား ရုပ်သည်ဒုက္ခ၊ ဝေဒနာသည်ဒုက္ခ၊ သညာသည်ဒုက္ခ၊ သင်္ခါရသည်ဒုက္ခ၊ ဝိညာဉ်သည်ဒုက္ခ၊ မင်္ဂသည်ဒုက္ခ၊ ဖိုလ်သည် ဒုက္ခဟူ၍ ဤသို့ ဒုက္ခအယူသည်းပြီးလျှင် "အိုရဟန်းတို့၊ သင်တို့ကား ဆင်းရဲတန်းလန်း ရှိနေကုန်သည့် ဒုက္ခိတရဟန်းတို့ပါတကား"ဟု ယူဆသွားလေရာ၏။ တရားသဘောနှင့် အံဝင်ခွင်ကျအောင် ယူနိုင်စွမ်းရှိမည်မဟုတ်။ ဤသို့ ပြစ်တင်ပြောဖွယ်မရှိအောင် ဟောလေမှ သင့်မည်ဟူသောအကြံဖြင့် ဒုက္ခလက္ခဏာကိုချန်၍ အနိစ္စနှင့်အနတ္တ လက္ခဏာ နှစ်ပါးကိုသာ ဟောခြင်းဖြစ်ကုန်၏။

ဆန္နရဟန်းသည် မထေရ်ကြီးတို့၏တရားကို ရိုသေစွာကြားနာ၏။ သို့သော် သူ့စိတ်တွင် ဘဝင်မကျဖြစ်နေ၏။ ထိုတရားသဘောလောက်ကိုမူ ငါ့အားလည်း သိပြီး၊ ရှိပြီး၊ သဘောပေါက်ပြီးသားပင်။ ရူပံ=ရုပ်သည်၊ အနိစ္စံ=မြဲသောသဘောမရှိ။ အနတ္တာ=အတ္တမှုဆိတ်၏။ အနှစ်သာရမရှိ ဆိုသည်လောက်ကိုကား ငါလည်း နားအလည်သား၊ အသိသားပင် ဖြစ်ချေသည်။

သို့ပါလျက်လည်း ငါ၏ စိတ်သည်ကား နိဗ္ဗာန်ပေါက်အောင် ထိထိရောက်ရောက် မပြေးဝင်နိုင်သေး။ ငါ့မှာ ပူပန်ခြင်းနှင့် စွဲလန်းခြင်း ဥပါဒါန်သာ ဖြစ်နေသည်။ ရုပ်စသည်တို့၌ တစ်ခုတလေမှ အတ္တမရှိ။ သို့ဖြစ်ဘိသော် အဘယ်အရာကို ငါ့အဖို့ အတ္တဆိုမည်နည်းဟူ၍ ဤသို့သာ ငါ့စိတ်သည် နောက်သို့ပြန်ဆုတ်၏။ သစ္စာလေးချက်၏ အနက်သဘောကို သိမြင်ထားပြီးသူအား ဤသို့ နောက်သို့ပြန်၍ ဆုတ်နစ်လေမည်မဟုတ်။ ငါ့အား တရားထင်မြင်လာအောင် အဘယ်ပုဂ္ဂိုလ် ပြလေမည်နည်း။

ဆန္နရဟန်းသည် သူ့ကိုယ်သူ ဘဝင်မကျ၊ အားမရနိုင်တိုင်း တွေးလေသည်။ ဤသို့တွေးရင်းမှ သူ့မျက်စိထဲတွင် အရှင်အာနန္ဒာကို ပြေး၍မြင်ယောင်လာသည်။ ထိုမှတစ်ဆင့် အကြံတစ်ခုပွင့်လာသည်။ ထိုအကြံကား—

အရှင်အာနန္ဒာသည် ယခုအခါ ကောသမ္ဗီပြည်၊ ဃောသိတာရုံကျောင်းသို့ ရောက်နေ၏။ ငါသူ့ထံသို့ပြန်သွားရလျှင် ကောင်းမည်။ အရှင်အာနန္ဒာကား နှယ်နှယ်ရရ ပုဂ္ဂိုလ်မဟုတ်။ ငါ့သခင်ဗုဒ္ဓမြတ်ဘုရားကိုယ်တိုင်လည်း သူ၏ဂုဏ်ကို ထုတ်ဖော်၍ အကြိမ်ကြိမ် ချီးကျူးတော်မူသည်။ သီတင်းသုံးဖော် ပညာကြီး ပညာကျယ် အရှင်သူမြတ်တို့ကလည်း ထပ်တလဲလဲပင် သူ့ကိုချီးကျူးကြရကုန်သည်။ အရှင်အာနန္ဒာသည် ငါ့အား အသိဉာဏ်ရင့် ဓမ္မမျက်စိပွင့်လာအောင် ဖွင့်ပေးနိုင်ပေလိမ့်မည်။ ငါနှင့်အရှင်အာနန္ဒာဆိုလျှင် အထူးပြောဖွယ်မရှိ။ အထူးပင်ခင်မင်ရင်းနှီးသူ ဖြစ်သောကြောင့် သူ့ထံ နိဿရည်းခံယူရန် သင့်၏။ ငါ သူ့ထံသွားရသော် ကောင်းစွ။ ငါသွားအံ့။

ထိုဆန္နရဟန်းသည် ဤအကြံဖြင့် အရှင်အာနန္ဒာရှိရာ ကောသမ္ဗီပြည်သို့ ပြန်သွားပြီးလျှင် အရှင်အာနန္ဒာအား အကြောင်းစုံလျှောက်ထားကာ သူ့အား တရားဉာဏ်ရင့် မျက်စိပွင့်အောင် ဖွင့်ပေးတော်မူပါရန် တောင်းပန်လေ၏။ တပည့်တော်ကို ဆုံးမတော်မူပါဟု သူ့ကိုယ်ကို အရှင်အာနန္ဒာအား ပုံ၍အပ်နှင်းခြင်း ပြုလေ၏။

ငါ့ရှင်ဆန္န၊ နားစွင့်၍ နာယူလော့။ သင်တရားသိထိုက်သူ တစ်ယောက် ဖြစ်လာပြီဟူ၍ ဤမျှသောစကားကို အရှင်အာနန္ဒာ၏ ထံမှ ကြားလိုက်ရကာမျှနှင့်ပင် ဆန္နရဟန်းအား ဝမ်းမြောက်ခြင်း ပြင်းစွာဖြစ်လာလေ၏။

ဆန္န။ ။ငါ့ရှင်အာနန္ဒာ၊ ငါ့ရှင်၏တရားကို ကြားနာရန် နားစွင့်လျက်ရှိပါ၏။ ဟောတော်မူပါလော့။

အာနန္ဒာ။ ။ငါ့ရှင်ဆန္န၊ အခါတစ်ပါးတွင် ကစ္စာနဂေါတ္တအမည်ရှိသော ရဟန်းအား မြတ်ဘုရားက တရားဟောခဲ့ဖူးရာ ထိုတရားတော်ကို ငါကောင်းစွာ မှတ်သားမိပေ၏။ ဘုရားမြတ်စွာက ကစ္စာနဂေါတ္တ ရဟန်းအား ဟောကြားတော်မူသည့်အတိုင်း သင့်အား ငါ ပြောပြပေအံ့။

ဆန္န။ ။ကောင်းပါပြီ ငါ့ရှင် အာနန္ဒာ။

အာနန္ဒာ။ ။ငါ့ရှင် ဆန္န၊ သို့ဖြစ်ဘိသော် သင်မှတ်သားလေလော့။ ကစ္စာနဂေါတ္တအား မြတ်ဘုရားက ဤတရားကို ဟောတော်မူခဲ့ပေသည်။

ချစ်တပည့် ကစ္စာန၊ ဤသတ္တဝါအပေါင်းသည် များသောအားဖြင့် အရာခပ်သိမ်းသည်ရှိ၏ဟု အယူရှိသော အတ္ထိကဝါဒနှင့် မရှိဟု အယူရှိသော နတ္ထိကဝါဒ၊ ဤနှစ်မျိုးကိုမှီနေ၏။ တစ်နည်းအားဖြင့်ဆိုသော် အရာခပ်သိမ်းသည် မြဲ၏[၁]ဟု အယူရှိသော သဿတဝါဒနှင့် မမြဲ၊ ပြတ်၏ဟု အယူရှိသော ဉစ္ဆေဒဝါဒ၊ ဤနှစ်မျိုးကို မှီနေ၏။

ချစ်တပည့်ကစ္စာန၊ သင်္ခါရလောက၏ တစ်ဖြစ်တည်း ဖြစ်နေပုံများကို ဟုတ်မှန်သောအတိုင်း ယထာဘူတကျကျ ကောင်းစွာသိထားသူအား လောက၌ မရှိဟူသော နတ္ထိကဝါဒသည်မဖြစ်။ သင်္ခါရတရားတို့၏ တစ်ပျက်တည်း ပျက်နေပုံများကို ယထာဘူတကျကျ သိရှိနားလည်ထားသူအား လောက၌ ရှိ၏ဟု ယူသော အတ္ထိကဝါဒသည် မဖြစ်။

---

၁။ အတ္ထိ တန္တိ သဿတံ၊ နတ္ထိ တန္တိ ဥစ္ဆေဒံ။
(နိဒါနဝဂ္ဂသံယုတ် အဋ္ဌကထာ၊ အာဟာရဝဂ်၊ ကစ္စာနဂေါတ္တသုတ် အဖွင့်။ ၃၁၊ ဆဋ္ဌမူ)

ချစ်တပည့်ကစ္စာန၊ များသောအားဖြင့် ဤလောကကို တဏှာ၊ ဒိဋ္ဌိအရင်းခံသော ဥပယ၊ ဥပါဒါန၊ အဘိဝေသဖြင့် ဖွဲ့စည်းရစ်နှောင်ထား၏။ တဏှာနှင့် ဒိဋ္ဌိ ဤနှစ်ပါးတို့ကား ငါ၊ ငါ့ဥစ္စာ၊ ငါ့ဟာ စသည်ဖြင့် တေဘူမက တရားတို့ကို ကပ်ရောက်တတ်လေသောကြောင့် ၎င်းနှစ်ပါးကို ဥပယဟုခေါ်ပေသည်။ ထို တေဘူမက တရားတို့ကိုပြင်းစွာ စွဲလမ်းတတ်သောကြောင့် ဥပါဒါနဟူ၍လည်း ခေါ်သည်။ ထိုတေဘူမက တရားတို့၌ ကျွံနစ်စူးဝင်တတ်သောကြောင့် အဘိနိဝေသ ဟူ၍လည်း ခေါ်ပေသည်။

ချစ်တပည့် ကစ္စာန၊ ဤအရိယာသာဝက ပုဂ္ဂိုလ်သည် စိတ်၏တည်ရာ၊ စိတ်၏ကျွံနစ်စူးဝင်ရာ၊ စိတ်၏ ကိန်းအောင်းရာဖြစ်သော ထိုဥပယနှင့် ဥပါဒါနသို့ "ငါ့အတ္တ၊ ငါ့အမာခံ"ဟူ၍ ကပ်ရောက်ခြင်းလည်းမရှိ။ စွဲလမ်းခြင်းလည်းမရှိ။ ဆောက်တည်ခြင်းလည်းမရှိ ဖြစ်ခဲ့သော် ဒုက္ခသာဖြစ်သည်။ ငါဖြစ်မဟုတ်။ ချုပ်ခဲ့ ပျက်ခဲ့သော် ဒုက္ခသာ ချုပ်ပျက်သည်၊ ငါချုပ်၊ ငါပျက်မဟုတ်။ ဤဖြစ်မှု ချုပ်မှုအရာ၌ ဒုက္ခမှတစ်ပါး အခြားသတ္တဝါမည်သည်မရှိဟု ယုံမှားခြင်းကိုမပြု။ တွေးတောမှုကိုမဖြစ်စေ[၁]။ ဤအရာ၌ ထိုအရိယာပုဂ္ဂိုလ်သည် သူတစ်ပါးကို အားကိုးအားထားပြု၍ ယုံကြည်သည်မဟုတ်။ ကိုယ်ပိုင်ဉာဏ်ဖြင့် သိခြင်းသာဖြစ်၏။

ချစ်သားကစ္စာန၊ ဤမျှဖြင့် သတ္တသညာကို ပယ်အပ်ပြီးဖြစ်သောကြောင့် ကောင်းသောမြင်ခြင်း သမ္မာဒိဋ္ဌိဖြစ်ပြီ။ အမြင်မှန် ဖြစ်လေပြီ။

ချစ်သားကစ္စာန၊ အလုံးစုံသည်ရှိ၏ အယူရှိသော သဿတဒိဋ္ဌိက ဝါဒသည် အစွန်းတစ်ခု။ အလုံးစုံသည် မရှိဟု အယူရှိသော သဗ္ဗနတ္ထိက ဝါဒသည် အစွန်းတစ်ခု။ ဤသို့အားဖြင့် အစွန်းနှစ်ခုရှိ၏။

ချစ်သားကစ္စာန၊ ငါဘုရားကား ဤအစွန်းနှစ်ဖက်တို့သို့ မသက်ရောက်စေဘဲ တရားကို မဇ္ဈိမပဋိပဒါ အလယ်အလတ်အားဖြင့် ဟောနေ၏။

အဝိဇ္ဇာကြောင့် သင်္ခါရဖြစ်ရပုံ၊ သင်္ခါရကြောင့် ဝိညာဉ်ဖြစ်ရပုံများ စသည်တို့ ဖြစ်ကုန်၏။

ငါ့ရှင်ဆန္န၊ ကစ္စာနဂေါတ္တအား ဟောသောတရားကို မြတ်ဘုရား၏ မျက်မှောက်တော်မှ ဤအတိုင်း ငါမှတ်သားမိခဲ့၏ဟု တစ်ဆင့်ကြားတရားကို ဖောက်သည်ချ၍ ဟောကြားပြီးသည်၏ အဆုံးတွင် ဆန္နရဟန်းမှာ နှလုံးပီတိ ရွှန်းရွှန်းအိ ဖြစ်သွားရလေသတည်း။

(သံယုတ္တနိကာယ်၊ ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်၊ ထေရဝဂ်၊ ဆန္နသုတ်၊ ဆဋ္ဌမှု)

---

၁။ န အညော တွေ့ သတ္တောနာမ အတ္ထီတိ ကင်္ခ နကရောတိ။
(နိဒါနဝဂ္ဂသံယုတ် အဋ္ဌကထာ၊ အာဟာရဝဂ်၊ ကစ္စာနဂေါတ္တသုတ်။ ၃၂၊ ဆဋ္ဌမှု)

( ၂၆ )

# ဘာကို ယုံရမည်နည်း

ကေသမုတ္တနိဂုံးသည် ကောသလတိုင်းကြီး၏ မီးရှူးတန်ဆောင်ဖြစ်၏။ နေရာလည်းသန့်သည်။ လူရည်လည်းသန့်သည်။ ရောင်းပန်းဝယ်ပန်းလည်းပွင့်သည်။ ဆန်ရေစပါး၊ အစားအစာနှင့်ပြည့်စုံသဖြင့်လည်း လွန်စွာသာယာ စည်ပင်လှသော နိဂုံးကြီးဖြစ်လေသည်။

ထိုနိဂုံး၌ နေသူတို့သည် အများအားဖြင့် ကာလာမ မင်းမျိုးတို့မှ ဆင်းသက်ပေါ်သည့် မဟာမျိုး မဟာနွယ်များဖြစ်ကြသည့် အားလျော်စွာ အဆောက်အအုံ တိုက်တာ နေအိမ် စသည်တို့မှာလည်း လူမျိုးဂုဏ်ကိုလိုက်၍ မဟာဆန်လှသည်။ စုလစ်မွန်းချွန် အထွတ်တပ်သော ဘုံဗိမာန်တို့ဖြင့် ကြွေးကြွားဝင့်ဝင့် တစွင့်စွင့် ရှိနေသည်။

ထိုအချိန် ထိုခေတ်၏ ပတ်ဝန်းကျင်တစ်ဝိုက်၌ ဘာသာရေးနှင့်ပတ်သက်သော ဝါဒရေးရာ လှိုင်းဂယက်များသည် ပြင်းပြင်းထန်ထန် ရိုက်ခတ်လျက်ရှိသောကြောင့် ကေသမုတ္တနိဂုံးသည် ဝါဒရေးရာ လှိုင်းလုံးကြီးများအကြားတွင် လှုပ်ရှားလျက် ရှိနေသည်။

ဂိုဏ်းဂဏအဖွဲ့ အစည်း အသီးသီးမှ ဆရာ့ဆရာအသီးသီးတို့သည် ထိုနိဂုံးသို့ လာရောက်လျက် တရားဟောခြင်း၊ စည်းရုံးသိမ်းသွင်းခြင်း ပြုလေ့ရှိကြကုန်၏။

ကာလာမမင်းမျိုး မဟာနွယ်ဖွား ထိုနိဂုံးသားတို့ကား တရားနာရေး၌ ဦးမလေးကြကုန်။ ဟောပြောသူများ ရောက်လာလျှင် ၎င်းတို့၏ ဟောပြောချက်ကို ကောင်းမွန်စွာ နာယူလိုက်ကြသည်။ ရဟန်းလာဟောလျှင်လည်း ရဟန်းတရားကို နာသည်။ ပုဏ္ဏားလာဟောလျှင် ပုဏ္ဏားတရားကိုနာသည်။ ထို့အတူ တိတ္ထိ၊ တက္ကတွန်း၊ အစေလက၊ နိဂဏ္ဌ၊ ပရိဗ္ဗာဇကများ လာရောက်ဟောကြားလျှင်လည်း ၎င်းတို့၏တရားကို ရိုသေစွာ ကြားနာကြသော 'တရားနာပရိသတ်များ' ဖြစ်ကုန်၏။

ထိုခေတ်တစ်ကြော၌ ပွင့်ထွန်းလျက် ရှိနေကြသည့် (ဘုရားအမည်ခံ) ပူရဏ... ဿပစသော တိတ္ထိဘုရားကြီး ခြောက်ဆူတို့သည်လည်း နိဂုံးသို့ ခြေရာချင်း ထပ်မျှပင် လာရောက်တရားဟောကြဖူးသည်။ ထို့ကြောင့် သူတို့၏နားမှာ တရားသံ စွဲနေသည်။ တရားရည်ဝသော နားများဖြစ်နေကြသည်။

"ငါးသိုင်းများတော့ ဟင်းဟုန်"ဆိုသည့်ပမာ ကြားရဖန်များလတ်သော် သူတို့၏ နားများမှာ ထုံလာကုန်သည်။ ကြားနာရသောတရားများမှာလည်း 'တစ်ခါလာ မည်းပြာပုဆိုး'ဆိုသကဲ့သို့ ကိုယ်ဖို့ကောင်းတရား၊ ကိုယ့်ငါးချဉ် တရား ချည်း... ဖြစ်သောကြောင့် ဓမ္မ၏အနှစ်သာရကို ရှာ၍မရကြဘဲ ဘာမှတ်ရမှန်းမသိ ဖြစ်ကုန်၏။ "ဘယ်သူ့တရားမှန်သည်" ဤသို့လည်း ဝေခွဲနိုင်စွမ်းမရှိအောင် ဖြစ်ကုန်သည်။ တရားမနာခင်က အကောင်းသား။ တရားနာပြီးခါမှ ပြောဟောသူ များ၏ ကိုယ့်ငါးချဉ် ကိုယ်ချဉ်မှု၊ အတ္တဆန်မှုများကြောင့် အကြံတုံး ဉာဏ်တုံးရတော့ မလောက် ဖြစ်ကုန်သည်။

သို့ကြောင့် စိတ်ဓာတ်ကျဆင်းကာ တရားဆိုလျှင်တန်၊ တရားသံကြားရလျှင် ဖျားချင်လောက်အောင်ပင် ဖြစ်လာလေကုန်သတည်း။

ဂေါတမရှင်တော်မြတ်ဘုရားနှင့် ကေသမုတ္တနိဂုံးသား ကာလာမမင်းသား တို့၏ ဆက်ဆံမှုကား အသို့ နေလေမည်နည်း။

ယင်းသို့ ကာလာမနွယ်ဖွား ကေသမုတ္တနိဂုံးသားတို့ တရားသံကြားလျှင် ဖျားချင်လောက်အောင် စိတ်ဓာတ်ကျဆင်းနေသော အချိန်တွင်မှ ...စိန္တေယျ လောကထွတ်ထား ဂေါတမရှင်တော်မြတ်ဘုရားသည် သံဃာများစွာ ခြံရံလျက် ထိုနိဂုံးသို့ ဒေသစာရီ ကြွချီတော်မူလာ၏။

"အချင်းတို့၊ ဘုရားတစ်ဆူတော့ ကြွလာပြီကော"တဲ့။

"အိုးဟို၊ လာပြန်ပြီလား ဘုရား၊ အဘယ်ဘုရားတဲ့နည်း"

"သာကီဝင်မင်းမျိုးမှ ရဟန်းပြုပြီး ဘုရားဖြစ်လာသည့် ဂေါတမ ဖြစ်လေ သတတ်။ သူသည် ငါတို့နိဂုံးသို့ရောက်လာတော့မည် သတင်းကြားသည်။ သူ့ အကြောင်း၊ သူ့သတင်းကား အခြားဘုရားများထက် ထူးဆန်းစွာ ဂယက်ရိုက် လာသည်။ ဗြဟ္မာ၊ နတ်၊ လူ သုံးဘုံသူတို့၏ ကြည်ဖြူကော်ရော် ပူဇော်အထူးကို ခံထိုက်သော အရဟံဆိုသည့် ဂုဏ်နှင့်လည်းပြည့်စုံသည်ဟုဆိုသည်။ တရားအချက် အလက်ဘက်က ဆိုပြန်သော် သင်ဆရာမရှိ၊ မိမိအလိုအလျောက် အမှန်တရားဟု ထိထိရောက်ရောက် သိသည်၊ မြင်သည်ဟူ၍လည်း ကျော်ကြားလျက် ရှိနေသည်။

"ထိုဘုရားကို ကိုယ်တိုင်ဖူးတွေ့ရဖူးသော ပုဂ္ဂိုလ်များ၏ ပြောပြချက်အရ ဆိုသော် အင်မတန်ကို ကြည်ညိုစရာကောင်းသော ထူးခြားသည့် ဘုရားဟုဆိုပါသည်။

သည်လိုဘုရားမျိုး ဖူးခွင့်ဆိုက်လို့ ကြုံကြိုက်သည့်အခါတွင် ဖူးလိုသူများရှိက ဖူးနိုင်ရန် သတင်းကောင်း ပေးပို့ခြင်းဖြစ်ပါသည်”ဟု တစ်ဦးသော ကာလာမမင်းက သတင်းလွှင့်လိုက်၏။

ထိုအခါ တစ်ဦးသော ကာလာမမင်းက ခေါင်းခါသည်။ သည့်နောက်တွင် သူက ဆက်လိုက်သေးသည်။

“ဘုရားဆိုလျှင် တန်ပါပြီ။ သည်ဘုရားလဲ အလျင်ဘုရားများနှင့် အလားတူ သည်ပုတ်ထဲက သည်ပဲမျိုး ဖြစ်လေမည်တစ်မုံ့။ ကိုယ်တို့ဆီကို လာလာပြီး တရားဟောကြသည်ကား ဘုရားပေါင်းစုံလှပြီ။ သာဝကဆိုသူတွေကား မရေတွက်နိုင်ကုန်။ သူတို့ဟောကြလေသည်ကား ငါမှငါ၊ ငါ့တရားမှတရား။ ဤသို့ချည်းသာ ဟောသွားကြကုန်ပြီ။ ကိုယ်တို့ ဖို့မှာ အဆီအနှစ် (တရားသား)ကို ရှာ၍မရကြ။ ဂေါတမဆိုသော ဘုရားကိုလည်း “သည်ဘုရားမျိုးနေမှာပဲ” ငါထင်၏ဟု ခေါင်းယမ်းကာနှင့် ဆိုသည်။

“သည်လိုလဲ မထင်စကောင်း၊ လူအမျိုးမျိုး၊ နတ်အမျိုးမျိုးဆိုသကဲ့သို့ ဘုရားလည်း အမျိုးမျိုးရှိဦးမှာပ။ သူ့ကိုမြင်ဖူး၊ တွေ့ဖူး၊ သူနှင့်ပြောဖူး ဆိုဖူး မရှိသေးပါဘဲလျက် ဤသို့ ထင်မြင်ချက်ပေးသည်မှာ စောလွန်းနေမည်ဟု အကျွန်ုပ်သဘောရပါသည်။ သည်ဂေါတမဘုရား၏ ကျော်စောသတင်းကား တိမ်တိမ်ကလေးမဟုတ်။ မိုးကြီးခြိမ်းသည့်နှယ် ဟိန်းဟိန်းမားမားပဲ့တင်ထပ်လျက် ထွက်လာပုံများကို ထောက်က သူနှင့်တွေ့ဆုံပြီး ဆွေးနွေးကြည့်လျှင် ကောင်းမည်ထင်၏။ ဤသို့ တွေ့ဆုံခြင်းဖြင့် အကျွန်ုပ်တို့မှာ တစ်စုံတစ်ရာ နစ်နာဖွယ်မဖြစ်နိုင်ပါ။ အရှုံးမရှိနိုင်ပါ” တစ်ဦးသောသူက ဂေါတမဘုရားနှင့် တွေ့ဆုံရေးကို ဆွေးနွေးသွားလေ၏။

နောက်ဆုံးတွင်မူကား ထိုကာလာမနွယ်ဖွား ကေသမုတ္တနိဂုံးသားတို့သည် ဘုရားသခင်၏ ရှေ့တော်မှောက်သို့ ရောက်လာကြကုန်ပြီး အကဲခတ်သော မျက်လုံးအစုံတို့ဖြင့် ဘုရားသခင်ကို ကြည့်ကြကုန်သည်။ အလျင်ဘုရားများနှင့် ယခုဘုရားကို ဘုရားချင်းယှဉ်၍ ရှုကြကုန်သည်။

အချို့ကမူ အဆွယ်ကောင်း၍သာ လိုက်ပါလာခဲ့ကြသည်။ ဘုရားသခင်အား စိတ်ဝင်စားဟန်မတူ။ ထောင့်တစ်နေရာတွင် တသောသောနှင့် ပြောချင်ရာပြောနေကြသည်။

ရောင်ခြည်တော်ခြောက်သွယ်ကပင် မြူဆွယ်ခြင်းပြုလေသလော။ မကြာခင်သော ကာလအတွင်းမှာပင် ကာလာမမင်းသားအားလုံးပင် ဦးခေါင်းကျို့ကျို့၊ ကိုယ်ယို့ယို့ဖြင့် ဘုရားသခင်၏ ခြေတော်စုံကို နဖူးဖြင့် ဦးခိုက်လာကြကုန်လေတော့သတည်း။

သူတို့အထဲတွင် အကြီးအကဲဟု ထင်ရသော ကာလာမမင်းသားကြီးတစ်ဦးက လက်အုပ်ချီလျက် သူတို့စိတ်ထဲ၌ ဘဝင်မကျနိုင်အောင် ဖြစ်နေသည့်အချက်ကို ပွဲဦးထွက်အဖြစ်ဖြင့် ဘုရားသခင်အား မေးမြန်းခြင်းပြုလေသည်။

"အရှင်ဘုရား၊ လျှောက်ထားခွင့်ပြုတော်မူပါဘုရား။ တပည့်တော်များ နေထိုင်ရာ ဤကေသမုတ္တနိဂုံးသို့ အရှင်ဘုရားသာ ကြွတော်မူသည်မဟုတ်ပါ။ ရသေ့၊ ရဟန်း၊ ပုဏ္ဏား၊ တိတ္ထိ၊ တက္ကတွန်း၊ ပရိဗိုဇ် စသည်တို့အမြောက်အမြားပင် လာရောက်ကြပြီး တရားဓမ္မဟောပြောခြင်း ပြုကြပါကုန်သည် ဘုရား။ အချုပ်အားဖြင့် လျှောက်ထားရမည်ဆိုပါလျှင် သူတို့၏ဝါဒကောင်းကြောင်းကိုသာ အမွှမ်းတင်ပြီး ဟောဟောသွားကြပါသည်။ သူတို့၏ ဝါဒအရောင် ပြောင်လက်ထွန်းပရေးကို ရှေးရှုလုံးပန်းရုံတွင် ရပ်မနေဘဲ သူတို့နှင့် ဝါဒချင်း မတူသော တစ်ဖက်ဂိုဏ်းဂဏ အဖွဲ့အစည်းများကို အမျိုးမျိုး ထိပါးပုတ်ခတ်ခြင်း၊ မထေမဲ့မြင်ပြုခြင်း၊ ရှုတ်ချခြင်း၊ ချေဖျက်ခြင်းများ ပြုကြပါကုန်သည် ဘုရား။

"အရှင်ဘုရား၊ ထိုသူ၊ ဤသူ၊ ထိုဘုရား၊ ဤဘုရားများအနက် အဘယ်သူ၏ စကားသည် မှန်လေသနည်း။ အဘယ်သူ အဘယ်သူများသည် မှန်သောစကားကို ဆိုလေသနည်းဟု ဝေဖန်နိုင်စွမ်းမရှိသဖြင့် ထိုသူလော၊ ဤသူလော ယုံမှားဒွိဟ သံသယတန်းလန်းနှင့်သာ တပည့်တော်များ နေလာခဲ့ကြရပါသည် ဘုရား"

ဤသို့ လျှောက်လေသောအခါ အခြား ကျန်ရှိနေသူ ကာလာမမင်းသားတို့လည်း "ဤလျှောက်ထားချက်တွင် တပည့်တော်လည်း ပါပါသည်ဘုရား" ဟူသော အသွင်မျိုးဖြင့် ဘုရားသခင်ကို ရှိခိုးကာ ဘုရားသခင် မြွက်ကြားမည့်စကားကို စောင့်ကြိုလျက် ရှိနေကြကုန်၏။

"အို–မင်းသားတို့၊ သင်တို့သန္တာန်၌ ယုံမှားသံသယဖြစ်မည်ဆိုကလည်း ဖြစ်ထိုက်ပေ၏။ ယင်းအကြောင်းနှင့်ပတ်သက်၍ တစိမ့်စိမ့်တွေးမည်ဆိုကလည်း တွေးထိုက်ပေ၏။

"အို–မင်းသားတို့၊ သတိချပ်ကြလေကုန်။ နာသူရှိ၍ ပြောသူရှိလာသည်။ ပြောသူရှိလည်း နာသူရှိလာသည်။ ဤကား ဓမ္မတာဖြစ်၏။

"အို–မင်းသားတို့၊ ရှေ့တိုးကြကုန်။ ရှေ့တိုး၍ နာလင့်ကြကုန်။

(၁) တစ်ဆင့်ကြားကာမျှဖြင့် မှန်ပြီဟု မယူဆကုန်လင့်ဦး။
(၂) အစဉ်အလာစကားများဖြင့်လည်း မှန်ပြီဟု မယူဆကုန်လင့်ဦး။
(၃) သည်လိုဖြစ်ခဲ့ဖူးသည် ဆိုရုံမျှဖြင့်လည်း မှန်ပြီဟု မယူဆကုန်လင့်ဦး။
(၄) ကျမ်းအကိုးအကားရှိသည်ဟူ၍လည်း မှန်ပြီဟု မယူဆကုန်လင့်ဦး။
(၅) တွေးခေါ်ကြံဆချက်ဖြင့်လည်း မှန်ပြီဟု မယူဆကုန်လင့်ဦး။

(၆) မိုငြမ်းပြုခြင်းမျှဖြင့်လည်း မှန်ပြီဟု မယူဆကုန်လင့်ဦး။
(၇) အခြင်းအရာကို ဆင်ခြင်သောအားဖြင့်လည်း မှန်ပြီဟု မယူဆကုန်လင့်ဦး။
(၈) အယူအဆချင်းတူညီသည်ဟူ၍လည်း မှန်ပြီဟု မယူဆကုန်လင့်ဦး။
(၉) မှန်ထိုက်သည် ထင်ကာမျှဖြင့်လည်း မှန်ပြီဟု မယူဆကုန်လင့်ဦး။
(၁၀) လေးစားအပ်သော ဆရာစကားဟူ၍လည်း မှန်ပြီဟု မယူဆကုန်လင့်ဦး။

ရှေးရှေးသော ဆရာ့ဆရာတို့၏ ပြောပုံ ဟောပုံနှင့်မတူ တစ်မူထူးခြားနေသော သတိပေးစကားကို ကြားသိရသောအခါ ကာလာမမင်းသားတို့သည် အံ့အားသင့်ကုန်သည်သာမက ဗုဒ္ဓအား ပို၍စိတ်ဝင်စားသော အမူအရာများဖြင့် ဗုဒ္ဓဆီသို့ စူးစူးစိုက်စိုက် အာရုံပြုလာကြကုန်၏၊ ထိုရောအခါ ဗုဒ္ဓက ဆက်၍ မြွက်ကြားတော်မူလေသည်ကား—

"အို—မင်းသားတို့၊ အကြင်အခါ၌ အံမှန်တရားကို သင်တို့ကိုယ်တိုင် သိရှိနားလည်လာကြကုန်လိမ့်အံ့။ အဘယ်သို့ သိလာကုန်မည်နည်းဆိုသော်—

"ဤဟာ၊ ဤအရာ၊ ဤသဘော၊ ဤအပြုအမူမျိုးတို့ကား မကောင်းကုန်။ ကောင်းသောအရာ၊ ကောင်းသောသဘော၊ ကောင်းသောအပြုအမူမျိုးတို့ မဟုတ်ကုန်။ အပြစ်များသာတကား။ သူတော်ကောင်းတို့ ကဲ့ရဲ့ဖွယ်များသာတကား။ ယင်းတို့ကို ဖြည့်တင်းအပ်၊ ဆောက်တည်အပ်သည်ရှိသော် အကျိုးဆုတ်ယုတ်ရန်အတွက်၊ ဆင်းရဲရန်အတွက်သာ ဖြစ်ကုန်ချေ၏"ဟူ၍ ဤသို့ သင်တို့ကိုယ်တိုင် သိလာကြသောအခါ ယင်းအယူအဆတို့ကို စွန့်လိုက်ကုန်ရာ၏"ဟူ၍ မိန့်တော်မူလေသည်တွင် ကာလာမမင်းသားတို့သည် "မှန်ပေစွ၊ မှန်လိုက်လေ"ဟူသော သဘောဖြင့် ခေါင်းတညိတ်ညိတ်နှင့် ရှိနေကြကုန်လေ၏။

"အို—မင်းသားတို့၊ ငါဆိုပေဦးအံ့။ ထိုစကားကို သင်တို့မည်သို့ထင်ကုန်သနည်း၊ သင်တို့အား ငါမေးအံ့။ သင်တို့ ကိုယ်ပိုင်ဉာဏ်ဖြင့် ဝေဖန်ချိန်ဆ၍ လွတ်လပ်စွာ ဖြေကုန်လော့။ အိုမင်းသားတို့၊ ပုဂ္ဂိုလ်၊ သတ္တဝါတစ်ဦးတစ်ယောက်၏ အဇ္ဈတ္တသန္တာန်၌ လိုချင်တပ်မက်ခြင်း လောဘဓာတ်သည် ကပ်လာ၏။ ယင်းသို့ လောဘဓာတ်ကပ်လာခဲ့သော် ထိုသူအား အကျိုးဖြစ်ထွန်းရန် သို့မဟုတ် အကျိုးဆုတ်ယုတ်ပျက်စီးရန် ဖြစ်သည် မဟုတ်ပါလော"

---

၁။ ၁—မာ အနုဿဝေန၊ ၂—မာ ပရမ္ပရာယ၊ ၃—မာ ဣတိကိရာယ၊ ၄—မာ ပိဋကသမ္ပဒါနေန၊ ၅—မာ တက္ကဟေတု၊ ၆—မာ နယဟေတု၊ ၇—မာ အာကာရ ပရိဝိတက္ကေန၊ ၈—မာဒိဋ္ဌိနိဇ္ဈာနက္ခန္တိယာ၊ ၉—မာ ဗဗ္ဗရူပတာယ၊ ၁၀—မာ သမဏောနော ဂရု။

စပယ်ဦးစာပေ

"မှန်ပါ၊ အကျိုးဆုတ်ယုတ်ပျက်စီးရန် အမှန်စင်စစ်ဖြစ်ကြောင်းပါ ဘုရား"

"ကောင်းဘိစွ မင်းသားတို့။ လေဘာရမ္မက် ငမ်းငမ်းတက်ဖြစ်နေသည့် အခိုက် လောဘစိတ်က ဖိစီး၍ မှိုင်းတိုက်လိုက်သော် ထိုသူသည်သာ ပိုင်စီးလိုစိတ် ပေါက်လာပြီး လိုချင်သောအရာကို သတ်ယူမှရမည်ဆိုလျှင်လည်း သတ်၍ယူလေ၏။ ခိုးယူမှရမည်ဆိုလျှင်လည်း ဇက်ရဲလက်ရဲခိုးယူလေ၏။ သူတစ်ပါး၏ သားမယား ကိုလည်း ပြစ်မှားကျူးလွန်လေ၏။ မမှန်သောစကားကိုလည်း ဖောဖောသီသီ ပြောလေ၏။ လုပ်သည့်နည်းတူ အခြားသူများအားလည်း လုပ်ရန် တိုက်တွန်းလေ၏။ ယင်းသို့သော အပြုအမူများသည် ထိုသူအား အချိန်ရှိသရွေ့ အကျိုးမဲ့ရန်အတွက်၊ ဆင်းရဲနစ်မွန်းရန်အတွက် ဖြစ်နိုင်သည် မဟုတ်ပါလော"

"မှန်လှပါ၊ ဖြစ်နိုင်ကြောင်းပါ ဘုရား"

"အို-မင်းသားတို့၊ သာဓု သာဓု၊ ကောင်းဘိစွ၊ ကောင်းဘိစွ။ ဒေါသနှင့် မောဟသည်လည်း ထိုနည်းငင်းပင် ဖြစ်ချေ၏။ ဒေါသမွန်လာသော်လည်းကောင်း၊ မောဟဖုံးလွှမ်းလာသော်လည်းကောင်း ထိုသူသည် နိုင်ထက်ကလူ ပြုမူလိုစိတ် ဖြစ်လာပြီး သတ်လည်းသတ်ဝံ့လာသည်။ ခိုးလည်းခိုးဝံ့လာသည်။ သူ့သားမယားကို လည်း ပြစ်မှားဝံ့လာလာသည်။ မုသားစကားကိုလည်း ဆိုရဲလာသည်။ ဤအပြုအမူ အားလုံးသည်လည်း ထိုသူအား အချိန်ရှိသရွေ့ ကာလပတ်လုံး အကျိုးမဲ့ရန်အတွက် ဆင်းရဲနစ်မွန်းရန်အတွက် ဖြစ်နိုင်သည်ပင် မဟုတ်ပါလော"

"တင်ပါ့ ဘုရား၊ ဖြစ်နိုင်ပါသည် ဘုရား"

ဓမ္မမဏ္ဍပ်ရခေါ်သော တရားဟောရာ မဏ္ဍပ်ကြီးအတွင်း၌ ကာလာမမင်းသား တို့သည် ဗုဒ္ဓရှိရာ ဓမ္မာသနပလ္လင်ဆီသို့ ဦးညွှတ်လျက် အကန့်လိုက် အကန့်လိုက် သူ့အကန့်နှင့်သူ စည်းကမ်းသေဝပ်စွာ စီတန်း၍ တရားနာနေကြကုန်၏။ ဗုဒ္ဓ ဘုရားသခင် စံပယ်တော်မူရာ တရားပလ္လင်တော်၏ ဝဲယာ၌လည်းကောင်း၊ ပလ္လင်တော်၏ နောက်၌လည်းကောင်း ခြံရံလျက် သံဃာများလည်း တရားတော်ကို နာယူလျက်ရှိနေကြကုန်၏။

အို-မင်းသားတို့ဟူ၍ မြွက်ကျူးတော်မူလိုက်သော အာလုပ်စကား မိန့်ခွန်း တော်အောက်တွင် ကာလာမ မင်းသားတို့ကား ဘုရားရှေ့တော်တွင် ပြားပြားဝပ် ခစားလျက် ရှိနေကြကုန်၏။

ဗုဒ္ဓ။ ။မင်းသားတို့၊ ငါဆက်၍ ဆိုဦးမည့်စကားကို သင်တို့မည်သို့ ထင်ကုန်သနည်း။ ဆိုပြီးခဲ့သော ဤအခြင်းအရာ ဤအပြုအမူ တို့သည် ကုသိုလ်ဖြစ်ကုန်သလော၊ အကုသိုလ်တို့ ဖြစ်ကုန်

သလော၊ ကောင်းသောအရာတို့လော၊ မကောင်းသောအရာတို့လော၊ ယင်းပုစ္ဆာကိုလည်း လွတ်လပ်စွာစဉ်းစား၍ ဖြေကြကုန်ဦးလော့ဟု မေးလျှင်–

မင်းသားများ။ ။အကုသိုလ်ပါဘုရား၊ မကောင်းသောအရာများပါ ဘုရားဟူ၍ သံပြိုင်ဖြေကြကုန်၏။

ဗုဒ္ဓ။ ။အိုမင်းသားတို့၊ အကုသိုလ်ဖြစ်ဘိသော် ထိုအရာတို့သည် အပြစ်ရှိသောအရာတို့လော၊ အပြစ်မရှိသော အရာတို့လော။

မင်းသားများ။ ။အပြစ်ရှိသော အရာများပါဘုရား။

ဗုဒ္ဓ။ ။အပြစ်ရှိသောအရာများဖြစ်ခဲ့သော် သူတော်ကောင်းတို့ကဲ့ရဲ့ဖွယ် ဖြစ်ကုန်သလော၊ သို့မဟုတ် ချီးမွမ်းဖွယ် ဖြစ်ကုန်သလော။

မင်းသားများ။ ။ကဲ့ရဲ့ဖွယ် ဖြစ်ကုန်ပါသည် ဘုရား။

ဗုဒ္ဓ။ ။အိုမင်းသားတို့၊ အကုသိုလ်လည်းဖြစ်၊ အပြစ်ရှိတရားလည်း ဖြစ်ခဲ့၊ သူတော်ကောင်းတို့ ကဲ့ရဲ့ဖွယ်လည်း မှန်လှသော ထိုအရာ၊ ဤအရာ၊ အနှီသို့သောအရာများကို ဖြည့်တင်းခြင်း ဆောက်တည်ခြင်း ပြုအပ်ခဲ့ကြကုန်သော် အကျိုးမဲ့ဖို့၊ ဆင်းရဲဖို့ ဖြစ်နိုင်ကုန်မည်လော၊ သို့မဟုတ် အကျိုးဖြစ်ထွန်းဖို့၊ ချမ်းသာဖို့ ဖြစ်နိုင်ကုန်မည်လော။ ဤအရာ၌ သင်တို့စိတ် မည်သို့ဖြစ်သနည်း။

မင်းသားများ။ ။အကျိုးဖြစ်ထွန်းဖို့၊ ချမ်းသာဖို့မဟုတ်၊ အကျိုးမဲ့ဖို့၊ ဆင်းရဲဖို့သာ ဖြစ်ပါကုန်သည်။ ဤအရာ၌ တပည့်တော်များ စိတ် ဤသို့ ဖြစ်ပါသည် ဘုရားဟူ၍ လျှောက်ကြလေကုန်၏။

အိုမင်းသားတို့ သာဓု၊ သာဓု၊ သာဓု ကောင်းဘိစွ၊ ကောင်းဘိစွ၊ ကောင်းဘိစွ။ "တစ်ဆင့်ကြားကာမျှဖြင့် အမှန်ဟုမယူဆကြကုန်လင့်ဦး" စသည်ဖြင့် သင်တို့အား ငါဆိုခဲ့သည်ကား ဤအကြောင်း၊ ထိုအကြောင်း၊ ဤဖြစ်ရပ် ထိုဖြစ်ရပ်များကို အစွဲပြု၍ ဆိုခဲ့ခြင်းဖြစ်ပေသည်။ သင်တို့ကိုယ်တိုင် ကိုယ်ပိုင်ဉာဏ်ဖြင့် အကျိုးအကြောင်း၊ အဆိုးအကောင်း၊ အမှားအမှန်ကို ဝေဖန်ခွဲခြားကာ မကောင်းသော အရာများကိုရှောင်၊ ကောင်းသောအရာများကိုဆောင်၍ ချဉ်းကပ်ခြင်းဖြင့် နေကုန်ရာ၏။

ဤသို့မိန့်တော်မူလျှင် ကာလာမမင်းသားတို့သည် ကြည်သာရွှင်ပျလှသော အမူအရာများဖြင့် ဦးခေါင်းညိတ်ကာ ညိတ်ကာရှိနေကြကုန်၏၊ တရားတော်ကို ကြားနာကြရကုန်သည့်အဆုံးတွင် အားလုံးသော ကာလာမမင်းသားတို့က ဗုဒ္ဓအား ဤသို့လျှောက်ထားခြင်း ပြုကြလေကုန်ပြီတည်း။

စပယ်ဦးစာပေ

"အရှင်ဘုရား၊ တရားတော်သည် အလွန်နှစ်သက်ဖွယ်ကောင်းလှပါပေသည် ဘုရား။ တပည့်တော်တို့အားလုံးသည် ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးကို 'ကိုးကွယ်ရာ'ဟူ၍ ဆည်းကပ်ကြပါကုန်၏။ ယနေ့ ယခုအချိန်မှစ၍ အသက်ထက်ဆုံး တပည့်တော်တို့အား ဥပါသကာများဟူ၍ အမှတ်ပြုတော်မူပါဘုရား"ဟူ၍ လျှောက်ကြလေကုန်သတည်း။

ကာလာမမင်းသားတို့အဖို့ "ဘယ်ဟာကို ယုံရမည်နည်း"ဟူ၍ သူတို့နှလုံးသား၌ ကြာမြင့်စွာ စူးဝင်နေသော သံသယပြောင့်ကြီးကား ဗုဒ္ဓနှင့်အတွေ့တွင် အငုတ်မျှ မကျန်အောင် ပြုတ်လေသတည်း။

(အင်္ဂုတ္တိုရ်ပါဠိတော်၊ တိကနိပါတ်၊ မဟာဝဂ် ကေသမုတ္တိသုတ်။ ၁၈၉၊ ဆဋ္ဌမူ၊ သာဋ္ဌသုတ်၌လည်း အလားတူပါ၏။)

( ၂၇ )

# ဗုဒ္ဓအမြင်

## ကမ္ဘာဦးခေတ် လူသားများ အခြေအနေ

သာဝတ္ထိပြည်၌ အဓိကရကျောင်းတိုက်ကြီး နှစ်တိုက်ရှိ၏။ မြို့၏တောင်ဘက်၌ ဇေတဝန်ကျောင်းတိုက်ကြီးရှိသည်။ ကျောင်းဒါယကာကား အနာထပိဏ်သူဌေးဖြစ်၏။ မြို့၏ အရှေ့ဘက်တွင် ပုဗ္ဗာရုံကျောင်းတိုက်ကြီးရှိသည်။ ကျောင်းအမကား ဝိသာခါဖြစ်သော ဟူ၏။

မြတ်စွာဘုရားသည် တစ်မြို့တည်းတွင် အပြိုင်ရှိနေသော ထိုကျောင်းတိုက်ကြီးနှစ်တိုက်၌ တစ်လှည့်စီ သီတင်းသုံးတော်မူ၏။ သည်နှစ် ပုဗ္ဗာရုံကျောင်းတွင် ဝါကပ်တော်မူက နောင်နှစ်ခါ ဇေတဝန်ကျောင်းတော်၌ ဝါကပ်တော်မူမည်ဖြစ်၏။ တစ်နည်းအားဖြင့် ဇေတဝန်ကျောင်းတွင် ဝါဆိုတော်မူက ဝါပအခါများတွင် ပုဗ္ဗာရုံကျောင်းတော်၌ သီတင်းသုံးတော်မူသည်ဟူ၍လည်း ယူဆနိုင်ရာသည်။

ယခုအချိန်တွင်မူ ဗုဒ္ဓသည် ပုဗ္ဗာရုံကျောင်းတော်၌ ရှိနေ၏။ အချိန်မှာ ညနေစောင်းဖြစ်သည့်အလျောက် အရိပ်များသည် အရှေ့ဘက်သို့ ထွက်လေ၏။ ဗုဒ္ဓသည် ပုဗ္ဗာရုံကျောင်းတော်ပေါ်မှ ဆင်းသက်ခဲ့၍ ကျောင်းတော်၏အရိပ်လွင်တီးခေါင်း၌ စင်္ကြံ လျှောက်တော်မူနေ၏။

ပုဗ္ဗာရုံကျောင်းတော်၏ တည်ပုံကား တောင်နှင့်မြောက်* အလျားရှည်၏။ ပြာသာဒ်ချွန်းများဖြင့် အထွင့်တပ်ထား၏။ ထိုပြာသာဒ်ချွန်းတို့ဖြင့် ဝေဝေဆာဆာ

တောင်နှင့်မြောက် အလျားရှည်ရှည်ဆောက်ထားသော ပုဗ္ဗာရုံကျောင်းတော်ကြီးကို အနောက်မှနေ၍ နေရောင်ထိုးလိုက်သောအခါ ကျောင်းတော်၏ အရိပ်သည် အရှေ့ဘက်သို့ ဖြာ၍ထွက်လာသည်ဖြစ်ရာ မြတ်စွာဗုဒ္ဓသည် ထိုအေးရိပ်ဆာယာ အောက်၌ စင်္ကြံ လျှောက်တော်မူနေသည်ကို ဝါသေဋ္ဌနှင့် ဘာရဒွါဇ အမည်ရှိသည့် ကိုရင်နှစ်ပါးက လှမ်းမြင်ကြသည်။

ထို ကိုရင်နှစ်ပါးကား ကုဋေလေးဆယ်စီ ကြွယ်ဝကြသည်။ ဥဒိစ္စပုဏ္ဏား မျိုးတည်း။ အသက်နှစ်ဆယ် မပြည့်သေး၍ ရဟန်းမခံကြရသေး၊ အသက်ပြည့် သည်နှင့်တစ်ပြိုင်နက် ပဉ္စင်းတက်ကြမည့် ရဟန်းလောင်းများပေတည်း။ ပညာအရည် အသွေးအားဖြင့် ဗေဒင်သုံးရပ် ကမ်းခပ်အောင် တတ်ကြလေသတတ်။

ဘုရားသခင် စင်္ကြံလျှောက်တော်မူနေသည်ကို မြင်ကြသော် ငါ့ရှင် ဘာရဒွါဇ၊ ဘုရားသခင့်ထံသို့ တို့သွားကြရအောင်၊ တရားနာခွင့်ရချင်လဲရတန် ကောင်းပါရဲ့ဟူ၍ အချင်းချင်း တိုင်ပင်ကြပြီး ဘုရားသခင့်ထံချဉ်းကပ်ကြလေသည်။ ဗုဒ္ဓသည် စင်္ကြံလျှောက်မြဲ လျှောက်နေသဖြင့် သူတို့လည်း ဘုရားသခင်၏ နောက်တော်ပါးမှ မြောင်း၍ ဗုဒ္ဓနှင့်အတူ စင်္ကြံလျှောက်ကြသည်။

ထိုကိုရင်နှစ်ပါးအနက် ကိုရင် ဝါသေဋ္ဌကား ပါးရည်နပ်ရည်ရှိသည်။ အကင်းပါသည်။ သွက်လက်ချက်ချာသည်။ ကိုရင်ဘာရဒွါဇမှာမူ အေးလွန်းသည်။ ဗုဒ္ဓသည် စင်္ကြံလျှောက်နေရင်းမှ ကိုရင်နှစ်ပါးကိုကြည့်ပြီး ကိုရင် ဝါသေဋ္ဌကို ဤသို့ မေးတော်မူ၏။

ဗုဒ္ဓ။ ။ဝါသေဋ္ဌ၊ သင်တို့ကား ဥဒိစ္စပုဏ္ဏားမျိုး၊ ကျိုကျိုတက် ကြွယ်ဝ ချမ်းသာသော လူချမ်းသာဘဝမှထွက်၍ သင်္ကန်းဆီးကာ သာသနာ့ ဘောင်ရောက်လာသူများ ဖြစ်ကြ၏။ အသို့ပါနည်း ဝါသေဋ္ဌ၊ ဤသို့ သင်တို့ ကိုရင်ဝတ်ခြင်းကို အကြောင်းပြု၍ သင်တို့အား ပုဏ္ဏားများက မဆဲကြကုန်ပေဘူးလား၊ မရှုတ်ချကြပေဘူးလား ဟူ၍ မေးတော်မူ၏။

ဝါသေဋ္ဌ။ ။အရှင်ဘုရား၊ အမှန်အတိုင်းလျှောက်ထားရပါလျှင် ပုဏ္ဏားများက တပည့်တော်တို့အား ဝိုင်း၍ ဆဲကြပါကုန်သည်၊ ကဲ့ရဲ့ရှုတ်ချ ကြပါကုန်သည် ဘုရား။

---

၁။ အဇ္ဈောကာသေ စင်္ကမတိတိ ဥတ္တရဒက္ခိဏေန အာယတသ ပါသာဒသ ပုရတ္ထိမဒိသာဘာဂေ ပါသာဒစ္ဆာယာယံ။ သုတ်ပါထေယျ အဋ္ဌကထာ။ ဝါသေဋ္ဌ ဘာရဒွါဇ ဝဏ္ဏနာ။ ၄၄၊ ဆဋ္ဌမူ။

ဝါသေဋ္ဌ။ ။အရှင်ဘုရား၊ အမှန်အတိုင်းလျှောက်ထားရပါလျှင် ပုဏ္ဏားများက တပည့်တော်တို့အား ဝိုင်း၍ဆဲကြပါကုန်သည်။ ကဲ့ရဲ့ရှုတ်ချကြပါကုန်သည်ဘုရား။

ဗုဒ္ဓ။ ။ဝါသေဋ္ဌ၊ မည်သို့ ဆဲကြကုန်သနည်း။

ဝါသေဋ္ဌ။ ။အရှင်ဘုရား၊ ပုဏ္ဏားများက တပည့်တော်တို့အား ဤသို့ဆိုပါကုန်၏။ လောက၌ လူမျိုးတကာတွင် ပုဏ္ဏားမျိုးသာ အမြတ်ဆုံး။ အခြားလူမျိုးများကား အမျိုးယုတ်ကုန်၏။ ပုဏ္ဏားလူမျိုးသာ အကျင့်ဖြူသည်။ အခြားလူများမဖြူကုန်။ ပုဏ္ဏားလူမျိုးသာ စင်ကြယ်သည်။ အခြားလူမျိုး မစင်ကြယ်ကုန်။ ပုဏ္ဏားတို့ကား မဟာဗြဟ္မာမင်းကြီး၏ ရင်နှစ်သည်းချာ သားရတနာဖြစ်ကုန်သည်။ ဗြဟ္မာမင်း၏ ရင်၌ကိန်းဝပ်၍ ဗြဟ္မာမင်း၏ခံတွင်းမှ ထွက်လာသူများ ဖြစ်ကြသည်။ ဗြဟ္မာမင်း၏ အမွေစား အမွေခံများ ဖြစ်ကြသည်။

အို–အမောင်ရို့၊ ဝါသေဋ္ဌရို့၊ ဘာရဒွါဇရို့၊ သင်တို့ ရူးကုန်ပြီလော့။ သို့စင်မျှလောက်မြင့်သော၊ မြတ်သော ပုဏ္ဏားမျိုးရိုးမျက်နှာကိုမျှမထောက်၊ အမျိုးကိုစွန့်ခွာကျောခိုင်း၍ ဦးပြည်းခေါင်းတုံးလည်းဖြစ်၊ ဗြဟ္မာမင်း၏ ခြေဖဝါးအောက်၌လည်းဖြစ်သော ရဟန်းဂေါတမထံ၌ ဘောက်မဲ့ကြောင့် သက်နိုးဆီးကြကုန်ဘိသနည်း။ သင်တို့ အပြုအမူကားမကောင်း။ နည်းလမ်းမဟုတ်။ ငါတို့ ပုဏ္ဏားလူမျိုးများအား မလျောက်ပတ်။ မြင့်သော၊ မြတ်သော၊ အထွတ်အထိပ်ရောက်သော ကိုယ့်ဘဝကိုစွန့်လွှတ်၍ ယုတ်နိမ့်အောက်ကျလှသည့် ရဟန်းဂေါတမခြေရင်း၌ အလုပ်အကျွေးပြုသည်မှာ ရှက်ဖွယ်ကောင်းဘိစွဟူ၍ ဤသို့ကဲ့ရဲ့ပြစ်တင် ရှုတ်ချကြပါကုန် ဘုရား။

ကိုရင်ဝါသေဋ္ဌသည် ပုဏ္ဏားတို့၏ ကဲ့ရဲ့ပုံများကို ခရေစေ့တွင်းကျ လျှောက်ထားလေ၏။ ထိုအခါ ယင်းသို့ ကဲ့ရဲ့ခြင်းနှင့်ပတ်သက်၍ ကိုရင်ဝါသေဋ္ဌအား မြွက်ကြားတော်မူသည်မှာ—

ဗုဒ္ဓ။ ။ချစ်တပည့် ဝါသေဋ္ဌ၊ သင်တို့အမျိုးအနွယ်ဖြစ်သော ထိုပုဏ္ဏားတို့ကား စင်စစ်အားဖြင့် အစဦးအလာ လောကအကြောင်းကို မသိကြ၍သာ၊ သို့မဟုတ် သိလျက် သတိမမူကြ၍သာ ဤစကားစုကို သင်းတို့တစ်တွေ လက်ကိုင်ပြု၍ ဆိုပြောနေကြခြင်းဖြစ်ကုန်၏။

ငါမှငါ၊ ငါ့လူမျိုးမှလူမျိုး၊ ငါ့အကျင့်မှ ငါ့အကျင့်ဟူ၍ အစွဲအလမ်း ကြီးနေကြကုန်၏။

ချစ်တပည့် ဝါသေဋ္ဌ၊ သင်ပဲစဉ်းစားကြည့်စမ်းလော့၊ ပုဏ္ဏားများက သူတို့ကိုယ်သူတို့ ဗြဟ္မာ့သားဟု ဆိုကြသည်။ ဟုတ်နိုင်၊ မဟုတ်နိုင်ကို ကိုယ်ပိုင်ဉာဏ်ဖြင့် ချင့်စမ်းပါဘိ၊ သည်မှာ ဝါသေဋ္ဌ၊ ပုဏ္ဏားလူမျိုးသည် ယောကျ်ားသပ်သပ် လူမျိုးလော။

ဝါသေဋ္ဌ။ ။မဟုတ်ပါ၊ မိန်းမပုဏ္ဏားများလည်း ရှိကြောင်းပါဘုရား။

ဗုဒ္ဓ။ ။ကောင်းပြီ။ မိန်းမရှိခဲ့သော် ထိုပုဏ္ဏားများသည် မင်္ဂလာ မဆောင်ဘဲ နေကြသလော။

ဝါသေဋ္ဌ။ ။မနေကြပါ။ အချိန်အရွယ်ရောက်လျှင် မင်္ဂလာဆောင်ကြသည်သာ ဖြစ်ပါသည်။

ဗုဒ္ဓ။ ။ဟုတ်စေတော့။ မင်္ဂလာဆောင်ပြီးလေသောအခါ ကိုယ်ဝန်ဆောင်ကြသည် မဟုတ်ပါလော။

ဝါသေဋ္ဌ။ ။မှန်ပါ၊ ကိုယ်ဝန်ဆောင်ကြမြဲပါ ဘုရား။

ဗုဒ္ဓ။ ။ဝါသေဋ္ဌ၊ ကိုယ်ဝန်ဆောင်ခဲ့သော် ထိုကိုယ်ဝန်သည် မဖွားဘဲများ နေသလော။

ဝါသေဋ္ဌ။ ။မနေပါဘုရား၊ ရက်လစေ့သည်နှင့် တစ်ပြိုင်နက် ဖွား..ါသည် ဘုရား။

ဗုဒ္ဓ။ ။ချစ်တပည့် ဝါသေဋ္ဌ၊ လက်တွေ့အားဖြင့် မငြင်းနိုင်သော "ပုဏ္ဏားမှ ပုဏ္ဏားမွေးဖွားမှု"သည်ဟာ သည်ဟာတွေအထင်အရှား ရှိပါလျက်ကနှင့် ဗြဟ္မာက မွေးဖွားသည်၊ ဗြဟ္မာမင်း၏ သားဟူ၍ ပြောနေကြသည်။ စင်စစ်ဆိုသော် ထိုသို့ပြောဆိုသူတို့သည် ပုဏ္ဏားလူမျိုးတို့ သိက္ခာကျအောင်လုပ်နေသူ၊ မမှန်စကား မုသားဆိုသူ၊ အကုသိုလ်မပွားပွားအောင် လုပ်နေသူများသာ ဖြစ်ကုန်၏။

ဗုဒ္ဓမြတ်ဘုရားသည် ဤမျှသောစကားအစဉ်ဖြင့် ငါတို့ ဗြဟ္မာမျိုး၊ ဗြဟ္မာမင်းကြီး၏ ရင်ထဲအောင်းပြီး ဗြဟ္မာမင်းကြီး၏ ခံတွင်းတော်မှ ဖွားလာသော လူမျိုးဟု ပြောနေသူများအား နှုတ်ပိတ်စကား မြွက်ကြားတော်မူပြီးနောက် အမျိုးလေးပါးရှိကြောင်း၊ မည်သူမဆို ကောင်းသောအကျင့်ကို ကျင့်မှသာလျှင် စင်ကြယ်သူ ဖြစ်နိုင်ကြောင်းကို ဆက်၍ မြွက်ကြားတော်မူလိုသဖြင့်—

ချစ်တပည့် ဝါသေဋ္ဌ၊ လူမျိုးနှင့်ပတ်သက်၍—

ခတ္တိယ=မင်းမျိုး။

ဗြာဟ္မဏ=ပုဏ္ဏားမျိုး။

ဝေဿ=ကုန်သည်မျိုး။

သုဒ္ဒ=သူဆင်းရဲမျိုးဟူ၍ ဤသို့အားဖြင့် အမျိုးလေးပါးရှိပေသည်။

ဝါသေဋ္ဌ၊ ယင်းအမျိုးလေးပါးတွင် အချို့အချို့သောသူများသည် သတ်လည်း သတ်၏။ ခိုးလည်းခိုး၏။ သူ့သားမယားကိုလည်း ပြစ်မှား၏။ မမှန်စကားကိုလည်း ဆို၏။ ကုန်းလည်းတိုက်၏။ သဝန်လည်းတို၏။ စိတ်လွှင့်၏။ အယူလည်းမှား၏။ သည်အပြုအမူရှိသူများသည် အမျိုးလေးပါးစလုံး၌ ရှိ၏။

ဝါသေဋ္ဌ၊ သင် မှတ်လေဦးလော့။

သည်ဟာ အကုသိုလ်အစု။

သည်ဟာ အကုသိုလ် ဆိုထိုက်သော အစု။

သည်ဟာ အပြစ်စု။

သည်ဟာ အပြစ်ဟု ဆိုထိုက်သော အစု။

သည်ဟာ မှီဝဲအပ်သောအရာ။

သည်ဟာ မှီဝဲထိုက်သည့်အထဲတွင် အကျုံးဝင်သောအရာ။

သည်ဟာ အရိယာ မဖြစ်ထိုက်သောတရား။

သည်ဟာ အရိယာ မဖြစ်ထိုက်ဟု ဆိုသင့်သောတရား။

သည်ဟာ အမှောင်တရား။

သည်ဟာ အမှောင်တရား၏ အကျိုးစု။

ဝါသေဋ္ဌ၊ သည်ဟာ သည်ဟာ အားလုံးသည် အမျိုးလေးပါးလုံး၌ ပုဂ္ဂိုလ် အားလျော်စွာ ရှိလေသည်သာဖြစ်၏။

ချစ်တပည့် ဝါသေဋ္ဌ၊ ဤသို့ အမျိုးလေးပါး၌ အမူအကျင့်မသင့်လျော်၊ မသင့်သူများရှိသည့်နည်းတူ အကျင့်သီလကောင်းမွန် ဖြောင့်မှန်သူများလည်း ရှိလေသည်သာဖြစ်၏။

ချစ်တပည့် ဝါသေဋ္ဌ၊ ဤအမျိုးလေးပါးတို့သည် ဤသို့ အကောင်းနှင့်အဆိုး၊ နှစ်မျိုး ရောပြွမ်းကုန်ခဲ့သော်၊ အဖြူအမည်း ရောထွေးယှက်တင် ဖြစ်ကုန်ခဲ့သော်၊ ကဲ့ရဲ့ချီးမွမ်း ပြိုးပြွမ်းခဲ့သော် ငါမှငါ၊ ငါ့အမျိုးမှ အမျိုးမြတ်စသည်ဖြင့် ဆိုလေ့ရှိသော ပုဏ္ဏားတို့၏ ပြောစကားကို ပညာရှိတို့က ခွင့်မပြုကြကုန်။

အဘယ့်ကြောင့်ဆိုသော် ချစ်တပည့် ဝါသေဋ္ဌ၊ ဤအမျိုးလေးပါးတို့အနက် တွင် အကြင်ရဟန်းသည် ပူဇော်အထူးခံထိုက်၏။ ကုန်ပြီးသော အာသဝေါရှိ၏။ ကျင့်စရာ ပြုစရာရှိသမျှ ရဟန်းကိစ္စအားလုံး ပြုပြီးပြီဖြစ်၏။ ကိလေသာဝန်ထုပ်

ခန္ဓာထုပ်ကြီး ချုပ်ပြီးဖြစ်၏။ ဘဝသံယောဇဉ်ဟူသမျှ သူ့မှာမရှိတော့။ ထိုရဟန်းသည် ထိုသူတို့အား တရားသဖြင့်သာ အမြတ်တရားကိုဟော၏။ တရားလမ်းကြောင်းကို ဖဲ၍မဟောချေ။ ထိုပုဏ္ဏားတို့ကား ထိုသို့မဟုတ်ကုန်။[၁] ထိုသို့ အမှန်ကိုဟောပြောသော သဘောမျိုးမရှိကုန်။ ထို့ကြောင့် ယင်းတို့၏စကားကို သူတော်ကောင်းတို့အနေဖြင့် ခွင့်မပြုနိုင်ကြခြင်း ဖြစ်လေသည်။

ဝါသေဋ္ဌ၊ ဤလူ့ပြည်၌ ယဉ်ကျေးမှုတရားဟူသည် ဤမျက်မှောက် ဘဝမှာဖြစ်စေ၊ တစ်ပါးသော ဘဝမှာဖြစ်စေ၊ မည်သည့်ဘဝ၌မဆို မြတ်သည်သာ ဖြစ်ပေ၏။

ချစ်တပည့်ဝါသေဋ္ဌ၊ ထိုအကြောင်းကို အောက်ပါဖြစ်ရပ်ထောက်သဖြင့် လည်း သိတန်ပေရာသည်။ ဝါသေဋ္ဌ၊ ပသေနဒီကောသလမင်းကို သင်သိသည် မဟုတ်လော။ ထိုမင်းသည် ငါ သာကီဝင်မျိုးမှထွက်၍ ရဟန်းပြုသည်ကို သူ့ ကောင်းစွာသိသူဖြစ်ပေသည်။ ကောသလမင်းသည် အသက်ကြီးပြီ။ အသက်ကြီးသော ဝယဝုမိဂုဏ် သူ့မှာရှိသည်။ သာကီဝင်မင်းသားတို့ကား ငယ်ကြသည်။ သို့သော် အသမ္မိန္နဂုဏ် သူတို့မှာ ရှိကြသည်။

ဝါသေဋ္ဌ၊ သာကီဝင်တို့သည် အမျိုးဂုဏ်အားဖြင့် မြတ်သည်မှန်သော်လည်း ဝယဝုမိဂုဏ်ကိုမူကား လေးစားသူများ ဖြစ်ကြသည့်အလျောက် မိမိတို့ထက် အသက်ကြီးရင့်သော ကောသလမင်းအား ရိုသေလေးစားကြသည်။ ရှိခိုးခြင်း၊ ခရီးဦးကြိုပြုခြင်း၊ လက်အုပ်ချီခြင်း အမှုများကို လေးလေးစားစား ပြုကြကုန်သည်။

ဝါသေဋ္ဌ၊ သာကီဝင်တို့၏ အလေးပြုခြင်းကို ခံယူခဲ့သော ကောသလမင်းက တစ်ဖန် ငါ့ကိုအလေးပြုပြန်သည်။ ငါ့ကို သူအလေးပြုခြင်းကား ငါ သူ့ထက် အမျိုးသန့်သောကြောင့်မဟုတ်။ ငါက သူ့ထက်လှပသောကြောင့်၊ သူ့ထက် ခွန်အားဗလ ကောင်းသောကြောင့်၊ သူ့ထက်ကြည်ညိုဖွယ်ကောင်းသောကြောင့်၊ သူ့ထက်ဘုန်းတန်ခိုးကြီးသောကြောင့်မဟုတ်ချေ။ စင်စစ်အားဖြင့်ဆိုသော်ကား လူ့ယဉ်ကျေးမှုတရားကို ပူဇော်သောအားဖြင့် ယဉ်ကျေးမှုကို အလေးပြုသောအားဖြင့် ဤသို့ ဤသို့သော ရိုသေလေးစားမှုများကို သူပြုခြင်းဖြစ်ပေသည်။ ကောသလ မင်း၏ အပြုအမူများကိုထောက်ခြင်းအားဖြင့် မျက်မှောက် ဘဝဖြစ်၌လည်းကောင်း၊ တစ်ပါးသောဘဝ၌လည်းကောင်း၊ လူ့ယဉ်ကျေးမှုတရားသည် အဓိကမွန်မြတ်သော အရာ၌ တည်ကြောင်းကို ကောင်းစွာသိနိုင်ပေသည်။

---

၁။ တေစ န ဓမ္မေန ဝဲရှပါ၊ တသ္မာ နေသံ ဝိညူ နာန ဇာနန္တိ။ သုတ်ပါထေယျ၊ အဋ္ဌကထာ၊ အဂ္ဂညသုတ်၊ စတုဝဏ္ဏသုဒ္ဓိဝဏ္ဏနာ။ ၄၇။ ဆဋ္ဌမူ)

ဝါသေဋ္ဌနှင့် ဘာရဒွါဇကဲ့သို့သော လူတော်၊ လူချွန်၊ လူထက်ကလေးနှစ်ယောက် ရဟန်းဂေါတမ၏ ဘက်တော်သားဖြစ်သွားရခြင်းမှာ ပုဏ္ဏားတို့အဖို့ ကြီးစွာသော ဆုံးရှုံးမှုတစ်ရပ်ဖြစ်၏။ ထိုသူကလေးနှစ်ယောက်တို့သည် လူပင်ငယ်စေကာမူ ပညာကြွယ်ဝသူများဖြစ်သည့်အလျောက် ပုဏ္ဏားတို့က များစွာအားထားလျက် ရှိနေကြစဉ် မမျှော်လင့်ဘဲ ရဟန်းဂေါတမဘက်သို့ ရုတ်တရက် ကူးပြောင်း၍ ရဟန်းဂေါတမထံ တပည့်ခံလိုက်ကြသောအခါ ဆတ်ဆတ်ခါ နာကျည်းကုန်လျက် ၎င်းတို့အား ဝိုင်း၍ ဆဲရေးတိုင်းထွားခြင်းပြုကြသည်မှာ မဆန်းလှချေ။

ထိုအချိန်၌ ဝါသေဋ္ဌနှင့် ဘာရဒွါဇတို့ ဗုဒ္ဓ၏ဘက်တော်သားအဖြစ် ခံယူလာကြသည်မှာ ကြာသေးဟန်မတူ။ အောက်ပါအမှာအကြား ဩဝါဒစကားများကို ထောက်ခြင်းအားဖြင့် ပူပူနွေးနွေးပင် ရှိဦးမည်ဖြစ်ကြောင်း ရိပ်စားမိနိုင်ပေသည်။ သူတို့အား ဘယ်သူက အဘယ်သို့ပင် သွေးဆောင်စေကာမူ ကြံ့ကြံ့ခံနိုင်ရည်ရှိအောင် ဗုဒ္ဓကိုယ်တော်တိုင် ကြပ်မ သင်ကြားထား၏။

ချစ်တပည့် ဝါသေဋ္ဌ၊ သင်တို့သည် အထူးထူးသောဇာတ်၊ အထူးထူးသော အမည်၊ အထူးထူးသောအနွယ်၊ အထူးထူးသောအမျိုးမှ ထွက်၍ သာမဏေပြုကြကုန်သလော။ သင်တို့ မည်သူတွေနည်းဟူ၍ မေးမြန်းသူများ ရှိကောင်းရှိလာမည်။ ယင်းသို့ အမေးအမြန်းရှိလာခဲ့သော် "ငါတို့ သာကီဝင်မျိုးမှထွက်၍ သာမဏေပြုကြကုန်သည်"ဟူ၍ ဝန်ခံလိုက်ကြကုန်။ ဝါသေဋ္ဌ၊ အကြင်ပုဂ္ဂိုလ်အား ငါဘုရား၌ ယုံကြည်ခြင်း သဒ္ဓါသည် စွဲဝင်နေ၏။ ဖြူးသောနိမ့်ခြင်းကင်းသည်တည်နေ၏။ အခြေခိုင်၏။ လောက၌ ရဟန်းကသော်လည်းကောင်း၊ ပုဏ္ဏားကသော်လည်းကောင်း၊ နတ်ကသော်လည်းကောင်း၊ မာရ်နတ်ကသော်လည်းကောင်း၊ ဗြဟ္မာကသော်လည်းကောင်း မည်သူကပင်ဖြစ်စေ ရွေ့လျားပြောင်းလဲ သွားအောင် မတတ်နိုင်။ ထိုပုဂ္ဂိုလ်တို့အား 'ငါဘုရားမြတ်စွာ၏သား၊ ဘုရားမြတ်စွာ၏ ရင်၌ဖြစ်၍ ခံတွင်းတော်မှ ဖွားမြင်သောသား၊ တရားမှဖြစ်သောသား၊ တရားက ဖန်ဆင်းသောသား၊ ဘုရား၏ အမွေခံသား' ဟူ၍ ပြောနိုင်ပေသည် ဝါသေဋ္ဌ၊ ရဲဝံ့စွာသာလျှင် ပြောဘိလော့။

အဘယ်ကြောင့်ဆိုသော် ဝါသေဋ္ဌ၊ ငါသည် ပိဋကတ်သုံးပုံဟု ဆိုအပ်သော စကားတော်ကို ငါ့နှလုံးသားဖြင့် ကြံဆခဲ့ပြီး ငါ့နှုတ်တော်ဖြင့် ဖော်ထုတ်မြွက်ကြားခဲ့ပေသည်။ ငါ၏ ကိုယ်ကာယကား တရားဖြင့်ပြီးသော တရားရည်ဝနေသော ကိုယ်ကာယ ဖြစ်ပေ၏။

ထိုကြောင့်ရကား ဓမ္မကာယဟူသော အမည်သည်လည်းကောင်း၊ ဗြဟ္မကာယဟူသော အမည်သည်လည်းကောင်း၊ ဓမ္မဘူတ၊ ဗြဟ္မဘူတဟူသော အမည်သည်

လည်းကောင်း ငါ၏ အမည်များသာဖြစ်သဖြင့်၊ သင်တို့အနေအားဖြင့် 'ဘုရားသားတော်'ဟု ပြောသည်ဖြစ်စေ၊ တရားသားတော်ဟု ပြောသည်ဖြစ်စေ ပြောသင့် ပြောထိုက်သည်ချည်းသာ ဖြစ်ပေသည်။ ရဲဝံ့စွာသာ ပြောဘိလော့ ဝါသေဋ္ဌ။

ဝါသေဋ္ဌနှင့် ဘာရဒွါဇ ကိုရင်နှစ်ပါးအား ဤသို့ဟောရင်း၊ ပြောရင်းနှင့် အချိန်ကုန်လွန်သွားလေ၏။ ပုဗ္ဗာရုံကျောင်းတော်ကြီး၏ အရိပ်သည် အရိပ်ဟူ၍ မထင်တော့ဘဲ လောကဓာတ်တစ်ခုလုံး အရိပ်ကြီးသဖွယ် အုံ့မှိုင်းမှိုင်းဖြစ်လာ၏၊ ဤသည်ကပင်လျှင် နေဝင်သွားလေပြီဟူသော အမှတ်ကို ပြလေသတည်း။

သို့တိုင်အောင် တရားတော်ကား ပြီးပြတ်ခြင်းမရှိသေး။ ဤကိုရင်နှစ်ပါးသည် အရေးကြီးသောလူထူး လူချွန်ကလေးများဖြစ်သောကြောင့် ဓမ္မအချက်အလက်တိုင်း၌ သူတစ်ပါးတို့ မချောက်ချားနိုင်အောင် ခြေကုပ်ရရဖြစ်စေဖို့ လိုသည့်အလျောက် ကမ္ဘာကြီးပျက်ပုံ၊ တည်ပုံများနှင့် ပတ်သက်သော အောက်ပါတရားကို ဆက်၍ ဟောကြားတော်မူပြန်လေ၏။

ချစ်တပည့် ဝါသေဋ္ဌ၊ ကာလရှည်ကြာသောအခါတွင် ဤကမ္ဘာကြီးသည် တစ်ခါခါ ပျက်ကိန်းနှင့် ကြုံလာ၏။ ဤသို့သောအခါမျိုးလည်း ရှိပေသည် ဝါသေဋ္ဌ။ ယင်းသို့ ပျက်ကိန်းကြုံလာခဲ့သော် သတ္တဝါတို့သည် များသောအားဖြင့် အာဘဿရာမည်သော ဗြဟ္မာဘုံ၌သွား၍ ဖြစ်ကြရကုန်လေ၏။ ထိုဗြဟ္မာဘုံ၌ဖြစ်သမျှ သတ္တဝါတို့ကား ထူးဆန်းကုန်ဘိစွ။ စိတ်အလိုဆန္ဒရှိတိုင်း ပြီးကုန်၏။ နှစ်သိမ့်ခြင်းလျှင် အစာရှိကုန်၏။ ကိုယ်မှ အရောင်ထွက်ကုန်၏၊ ငှက်တို့သဖွယ် ကောင်းကင်၌ ပျံသန်းကျက်စားကုန်၏။ ကောင်းသောတည်ရာဘုံရှိသည်ဖြစ်၍ ကာလကြာမြင့်စွာ တည်ကြကုန်သတည်း။

ချစ်တပည့် ဝါသေဋ္ဌ၊ ကာလကြာမြင့်လတ်သော် ဤကမ္ဘာကြီး အသစ်တစ်ဖန် ပြန်လည်၍ တည်လာဖို့ကိန်း ကြုံလာပြန်၏။ ထိုအခါမျိုးလည်း ရှိပေသည် ဝါသေဋ္ဌ။ ကမ္ဘာသစ်တည်ရန် ကြုံလာသောအခါ သတ္တဝါတို့သည် များသောအားဖြင့် အာဘဿရာ ဗြဟ္မာ့ဘုံမှ စုတေခဲ့၍ ဤလူ့ဘုံသို့ ရောက်လာကုန်လေ၏။ ထိုအခါ လူသားတို့သည် ဗြဟ္မာတို့၏ တန်ခိုးအရှိန်အဝါ မကုန်သေးဘဲ ဗြဟ္မာတို့၏ အငွေ့အသက်အားလျော်စွာ စိတ်ဆန္ဒအတိုင်း လိုရာပြီးကုန်၏၊ နှစ်သိမ့်ခြင်းလျှင် အစာရှိကုန်၏။ ကိုယ်မှအရောင် တလက်လက်ထွက်ကုန်၏၊ ကြာမြင့်စွာသော ကာလပတ်လုံး ဤအတိုင်းဖြစ်တည်လျက် ရှိနေကုန်၏။

ဗုဒ္ဓသည် ဝါသေဋ္ဌအား ဤစကားရပ်များဖြင့် ဤကမ္ဘာမြေကြီးစတင်ဖြစ်ပေါ်လာပုံနှင့် ကမ္ဘာဦးသူ လူသားတို့၏ ဘဝကို ပြတော်မူ၏။ တစ်ဖန် ထိုမှတစ်ဆင့် ဤကမ္ဘာသည် မည်သို့ ဖြစ်လာပုံများကိုပါ ဆက်၍ ပြောကြားတော်မူပြန်လေ၏။

ချစ်တပည့် ဝါသေဋ္ဌ၊ ထိုစဉ်အခါတွင် စကြဝဠာကြီးတစ်ခုလုံးသည် အမိုက်မှောင်တုံးကြီးဖြစ်နေ၏။ နေဟူ၍လည်းမထင်သေး။ လနှင့်နက္ခတ်တာရာတို့လည်း မထင်လာကုန်သေး။ နေ့၊ ည၊ လ၊ နှစ်တို့လည်း မထင်လာကုန်သေး။ မိန်းမ၊ ယောကျ်ားဟူ၍ ခွဲခွဲခြားခြားမဖြစ်လာကုန်သေးဘဲ သတ္တဝါဟူ၍သာ ခေါ်ဆိုရသော အခါ ဖြစ်လေသည်။

ချစ်တပည့် ဝါသေဋ္ဌ၊ ကမ္ဘာသည် တစ်မျိုးတစ်ဖုံ ထူးခြားလာလေသည်။ ကာလကြာမြင့်လာသောအခါ ရသပထဝီဟူ၍ ဖြစ်ပေါ်လာ၏။ ဥပမာအားဖြင့် ကျိုထားသောနို့ရည်များ အေးသွားလေသောအခါ အပေါ်ယံ၌ အဆီအပြင်(မလိုင်) တက်နေသည်နှင့် အလားတူပေ၏။ ၎င်းကို ရသပထဝီဟူ၍ခေါ်၏။ ထိုရသပထဝီကား အဆင်းအားဖြင့်လည်း လှ၏။ အနံ့အားဖြင့်လည်း သင်း၏။ အရသာအားဖြင့်လည်း လွန်စွာအရသာရှိလှ၏။ ထောပတ်ဆီဥနှင့် အလားတူ၏။

ချစ်တပည့် ဝါသေဋ္ဌ၊ ထိုသို့ ရသပထဝီဟူ၍ ပေါ်လာသောအခါ လျှပ်ပေါ်သော သတ္တဝါတစ်ဦးသည် "သည်ဟာ အသို့နည်း။ လှလည်းလှ၊ ရနံ့လည်းသင်းပါဘိသနှင့်၊ သူ့အရသာမှာ ဘယ်လိုများနေလေဘိ"ဟူ၍ ရသပထဝီကို လက်ဖြင့်ကော်၍ လျက်ကြည့်လေသော် ထိုသူအား ရသပထဝီ၌ ပြင်းစွာတပ်မက်ခြင်းတဏှာ ဖြစ်လာလေသတည်း။

ချစ်တပည့် ဝါသေဋ္ဌ၊ အတုမြင်လျှင် အတတ်သင်ကုန်လေပြီကော။ ထိုသူလျက်သည်ကို မြင်ကုန်သည်ရှိသော် အခြားအခြားသော သတ္တဝါတို့သည်လည်း ထိုသူကို အတုယူကာ ရသပထဝီကို လက်ဖြင့်ကော်၍ ကော်၍ လျက်ကြလေသောအခါ ထိုသူ့အလားတူပင် လျက်သူတို့အား ရသပထဝီ၌ ပြင်းစွာတပ်မက်ခြင်း တဏှာသည် ဖြစ်လာလေသတည်း။

ချစ်တပည့် ဝါသေဋ္ဌ၊ ထိုအခါ ထိုသတ္တဝါတို့သည် ရသပထဝီ၏ ဆွဲဆောင်မှုကြောင့် လျှာဖြင့် လျက်ရုံမျှဖြင့် အားမရနိုင်ကြလေဘဲ ထမင်းလုတ်များပမာ အလုတ်လုတ်ပြု၍ စားရန် အားထုတ်ကြလေကုန်ပြီကော။

ချစ်တပည့် ဝါသေဋ္ဌ၊ ရသပထဝီကို သတ္တဝါတို့ အလုတ်လုတ်ပြု၍ စားသောက်ခြင်းပြုကြသည့်အခါ ထိုသူတို့အား ဘာဖြစ်လာသည် ထင်သနည်း။ သူတို့၏ ကိုယ်ကာယမှ တပြောင်ပြောင်ထွက်နေသော အရောင်တို့သည် ကွယ်ကုန်လေ၏။ ကိုယ်ရောင်ကိုယ်ဝါတို့ ကွယ်ကန်လတ်သော် လ+ နေတို့ ထင်ရှားစွာ ဖြစ်ပေါ်လာကုန်သည်။ လ၊ နေ ဖြစ်ပေါ်လာကုန်သော် နက္ခတ်တာရာတို့ ထွက်ပေါ်လာကုန်သည်။ နက္ခတ်တရာတို့ ထွက်ပေါ်လာကုန်သော် နေ့၊ ည၊ လ၊ နှစ်တို့

ဖြစ်ပေါ်လာကုန်သည်။ ဝါသေဋ္ဌ၊ ဤပုံဤနည်းအားဖြင့် ကမ္ဘာသည် အသစ်တစ်ဖန် ဖြစ်တည်လာခဲ့လေသတည်း။

ချစ်တပည့် ဝါသေဋ္ဌ၊ နှစ်ရှည်လများ ကြာမြင့်စွာသော ကာလပတ်လုံး ထိုရသပထဝီကို စားသုံးကြလေသော် ထိုကမ္ဘာဦးသူ လူသားသတ္တဝါတို့၏ ကိုယ်ကာယသည် ကြမ်းလာ၏။ ရုပ်အဆင်းမှာလည်း လှသူကလှ၊ အရုပ်ဆိုး သူကဆိုးနှင့် အသွင်အမျိုးမျိုး ဖြစ်လာကုန်သည်။ ထိုအခါ ရုပ်ဆင်းလှသူများက အရုပ်ဆိုးသူများအား အထင်အမြင်သေးခြင်း ဖြစ်လာကုန်သည်။ အရုပ်ဆိုး၊ အကျည်းတန်သူများအား ရုပ်ချောသူများက ခေါ်ပြောနှုတ်ဆက်ခြင်း မပြုလိုမှုများ ဖြစ်လာကုန်သည်။ ထိုသူတို့၏ အဆင်းမာန်တက်မှုကြောင့် သူတို့မှီဝဲစားသုံးရသော ရသပထဝီသည် ကွယ်သွားလေတော့၏။ ရသပထဝီ ကွယ်လတ်သော် ထိုသူတို့သည် ခေါင်းချင်းဆိုင်ကာဆိုင်ကာနှင့် "ငါတို့အား အရသာကွယ်လေပကော။ ငါတို့အား အရသာကွယ်လေပကော" ဟူ၍ ဤသို့ ညည်းတွားကြလေကုန်သတည်း။

ထိုနောက် ဗုဒ္ဓသည် ဝါသေဋ္ဌအား ရသပထဝီကွယ်သော် မြေဆီလွှာပေါ်လာပုံ၊ ယင်းမြေဆီကွယ်ခဲ့သော် ပဒါလတာနွယ်ပေါ်လာပုံ၊ ယင်းနွယ်ကွယ်ခဲ့သော် သလေး စပါးပေါ်လာပုံ၊ ယင်းသလေးစပါးကို စားကြရာမှ မိန်းမယောကျ်ားဟူ၍ ဖြစ်လာပုံ များကို ဟောကြားတော်မူပြီးနောက် ယောကျ်ားမိန်းမ သံဝါသပြုကြသည့်အဖြစ်သို့ ရောက်လာပုံများကိုပါ ဆက်၍ ဟောကြားလေ၏။

ချစ်တပည့် ဝါသေဋ္ဌ၊ ယောကျ်ားနိမိတ် မိန်းမနိမိတ်များ အထင်အရှား ဖြစ်ပေါ်လာသောအခါ ယောကျ်ားကလည်း မိန်းမ၏ နိမိတ်(အင်္ဂါဇာတ်)ကို သေချာစွာ စေ့စေ့ငုငုကြည့်ရှုခြင်းပြုလေ၏။ ထို့အတူ မိန်းမကလည်း ယောကျ်ားကို စေ့စေ့ငုငု ကြည့်ရှုခြင်းပြုလေ၏။ ထိုအခါ ရာဂစိတ်များ တဖွားဖွားဖြစ်လေ၏။ တစ်ကိုယ်လုံး ကိလေသာရာဂ အပူလောင်ကာ အပူကောင်ကြီးဖြစ်လာလေ၏။ ထိုအခါ ချုပ်တည်း အောင့်အည်းခြင်းငှာ မတတ်နိုင်တော့သည်အဆုံး၌ မေထုန်မှီဝဲကြလေကုန်သတည်း။

ချစ်တပည့် ဝါသေဋ္ဌ၊ ထိုအခါ မေထုန်ကိစ္စသည် အရပ်ထက်ဝန်းကျင်၌ တင်းကျမ်းပြည့် ဟိုနေရာတွေ့၊ သည်နေရာတွေ့နှင့် ရှိလာလေရာ ယင်းသည့် မေထုန်မှုများကို တွေ့ရလတ်သော် အမြင်မတော်သူတို့က ထိုသို့ပြုကျင့်သူအား ခဲဖြင့်ပေါက်ခြင်း၊ ပြာဖြင့်ပက်ခြင်း၊ နွားချေးချောက်ဖြင့် ပေါက်ခြင်းများပြုကုန်လေ၏။ သတ္တဝါတစ်ဦးသည် အခြားသတ္တဝါတစ်ဦးအား ဤသို့ မဖွယ်ရာသောအမှုမျိုးကို ဘောက်မဲ့ကြောင့် ပြုတုံဘိသနည်းဟူ၍ ရေရွတ်ကြလေကုန်၏။

ချစ်တပည့် ဝါသေဋ္ဌ၊ ထိုခေတ်ထိုအခါ၌ ခဲစသည်ဖြင့်ပစ်ပေါက်ခြင်းကို အဓမ္မ သမ္မတ=မတရားဟု သမုတ်ထားကြ၏။ ထို့ကြောင့် ဝါသေဋ္ဌ၊ အကြင်သူတို့

သည် မေထုန်မှုကိုပြုကြကုန်သည်ဖြစ်အံ့။ ထိုသူတို့သည် ခဲပေါက်ခံကြရမည်စိုးသောကြောင့် တစ်လတန်သည်၊ နှစ်လတန်သည် မိမိနေရာရွာ နိဂုံးသို့ မဝင်ဝံ့ကြတော့ကုန်။ ဝါသေဋ္ဌ၊ ထိုသူတို့သည် အလွန်ကြာမြင့်လေမှ ထိုမေထုန်မှုကို မှီဝဲခွင့်ရကြလေရာ ထိုသို့အခွင့်ရသည့်အခိုက်တွင် မေထုန်မှီဝဲမှုကို လူသူလေးပါးတို့ မမြင်အောင် ဖုံးလွှမ်းရန်အတွက် လုံခြုံသောအိုးအိမ်များကို တည်ဆောက်ခြင်း ပြုကြကုန်တော့သည်။

ချစ်တပည့် ဝါသေဋ္ဌ၊ ထိုအခါ တစ်ဦးသောလူပျင်းတစ်ယောက်အား ဤသို့ အကြံဖြစ်လေသတတ်။ အိုဟို ဘောက်မဲ့ကြောင့် ငါကိုယ်ငါ ညှဉ်းဆဲတော့မည်တို့၊ ညနေစာအတွက် ညနေတစ်ကြိမ်၊ နံနက်စာအတွက် နံနက်တစ်ခါ သလေးစပါးကို သွားသွားယူနေရသည်မှာ ဆင်းရဲလှ၏။ နေ့ဖို့ညစာ တစ်ခါတည်းနှင့်အပြီး သလေးစပါးကို သွားယူထားရလျှင် ကောင်းလေစွဟု ဤသို့ အကြံဖြစ်လာလေသတတ်။

ချစ်တပည့် ဝါသေဋ္ဌ၊ ဤသို့ အကြံဖြစ်ပေါ်လာသည့်အလျောက် ထိုသတ္တဝါကောင်သည် သလေးစပါးကို နေ့ဖို့ညစာအတွက် တစ်ခေါက်တည်းနှင့် အပြီး ယူဆောင်ထားလေတော့သည်။ ဝါသေဋ္ဌ၊ ထိုအခါ နေ့ဖို့ညစာ သိုမှီးထားသော ထိုသူ၏ထံသို့ အခြားသူတစ်ဦးက သွားရောက်ပြီး ဤသို့ပြောလေသည်။ "အို-မိတ်ဆွေ၊ လာ- သလေးစပါး သွားသယ်ချေကြရအောင်" ဟု ခေါ်လျှင် "တော်ပြီမိတ်ဆွေ၊ ကျုပ် သယ်ထားပြီးပြီ။ နေ့ဖို့ညစာအတွက် တစ်ခါတည်းနှင့် အပြီး ကျုပ်ယူလာခဲ့ပြီးပြီ"ဟု အမှန်အတိုင်း ဖွင့်ပြောလိုက်လေသည်။

ချစ်တပည့် ဝါသေဋ္ဌ၊ ထိုစကားကိုကြားလေသောအခါ ထိုကြားရသူသည်လည်း ထိုသူ၏ အတုကို မှီးကာ နေ့ဖို့ညစာအတွက် တစ်ခေါက်တည်းနှင့် အပြီး၊ သလေးစပါးများကို သယ်ယူ၍ ထားပြန်လေသည်။

ချစ်တပည့် ဝါသေဋ္ဌ၊ ဤသို့အားဖြင့် တစ်ယောက်ကအစ တစ်ရာဆိုသကဲ့သို့ ထိုခေတ်ထိုအခါ သတ္တဝါတို့အား လောဘသက္ကာယဖက်ပြီးလျှင် သလေးစပါးများကို သယ်၍ အိမ်၌နေ့ဖို့ညစာ လှောင်ထားကြလေကုန်ပြီကော၊ သိုမှီးထားခြင်း၊ စုဆောင်းထားခြင်း ပြုကြလေကုန်ပြီကော။ ထိုအခါ သလေးဆန်တို့သည် အဖျင်းအညှံ့အရောရော၊ ဖွဲ့အရောရော ဖြစ်လာကုန်လေ၏။ ဆန်လုံးလည်း ရှေးကကဲ့သို့ ကြီးထွားခြင်းမရှိတော့ကုန်။ သလေး ကောက်ပင်တို့သည်လည်း တစ်စုတစ်ခဲတည်း မဟုတ်တော့ဘဲ ဟိုနားစုစု၊ သည်အနားစုစုနှင့် ဖြစ်ကုန်လေ၏။

ချစ်တပည့် ဝါသေဋ္ဌ၊ ထိုသို့ သလေးစပါးများ ဖျင်းသည်းကုန်သောအခါ ထိုကမ္ဘာဦးသူ လူသားတို့ စည်းဝေးကြပြီး ဤသို့ ဆုံးဖြတ်ကြကုန်လေ၏။ "အို

အချင်းတို့၊ ယုတ်မာသောအကျင့်ဆိုးတို့သည် သတ္တဝါတို့၏ သန္တာန်၌ ထင်ရှား ဖြစ်ပေါ်လာကုန်ပြီတကား။ ငါတို့သည် ရှေးအခါက စိတ်ဆန္ဒရှိတိုင်း လိုရာပြီးကုန်၏၊ ပီတိလျှင် အစာရှိကုန်၏။ ကိုယ်ရောင် ကိုယ်ဝါ တလင်းလင်းနှင့် ရှိကုန်၏။ ငှက်များသဖွယ် ကောင်းကင်၌ ကျက်စားကြကုန်၏။ ဤသို့သောအခြေအနေမျိုး၌ ငါတို့ နှစ်ပေါင်းကြာညောင်းစွာ နေလာခဲ့ကြကုန်သည်။ အိုအချင်းတို့၊ သလေးစပါးကို ငါတို့ ဝေခြမ်းကြကုန်စို့၊ ကိုယ့်ဟာနှင့်ကိုယ် ဘောင်ခတ်ကြပါစို့”ဟူ၍ ဝေခြမ်းခြင်း၊ ဘောင်ခတ်ခြင်း ပြုကြကုန်ပြီ။

ချစ်တပည့် ဝါသေဋ္ဌ၊ ထိုသို့ ဝေပုံကျစနစ်ဖြင့် သဘောတူဝေခြမ်းပြီးသည့် နောက်ကာလတွင် အညတရသတ္တဝါတစ်ယောက်သည် ကိုယ့်ဖို့ ကိုယ်ဝေစုကို သိမ်းဆည်းထားပြီး အခြားသူ၏ ဝေစုကို ခိုး၍စားလေ၏။ ထိုခိုးသူကိုဖမ်းပြီးလျှင် ဤသို့ဆုံးမကုန်၏။ “ဟယ်သူယုတ်၊ သို့စင်မျှ ယုတ်မာမှုကို သင်ပြုရက်ဘိစွ။ ကိုယ့်အတွက် ကိုယ့်ဝေစုကိုတော့ သိမ်းဆည်းထားပြီး အခြားသူ၏ ဝေစုကို ခိုး၍ စားရက်ဘိ၏။ ဟယ်အယုတ်တမာကောင်၊ နောင်ကို ဤအကျင့် ဤအမှုမျိုးကို မပြုလေနှင့်”ဟူ၍ ဝိုင်းဝန်းဆုံးမကြသည့်အခါ ထိုသူလည်းရှောင်ကြဉ်ပါအံ့ဟူ၍ ပဋိညာဉ်ပြုလေသည်။ ဝါသေဋ္ဌ၊ သို့ဝန်ခံကတိပြုစေကာမူလည်း ထိုသူသည် သုံးကြိမ်တိုင်တိုင် ထိုပြစ်မှုကို အတင့်ရဲစွာ ကျူးလွန်လေသတည်း။

ထိုအခါ ထိုသူအား သည်းမခံနိုင်အောင် ဖြစ်လာကြပြီး အချို့တို့ကလက်ဖြင့် ရိုက်မောင်းပုတ်မောင်း လုပ်ကြကုန်လေ၏။ အချို့တို့က ခဲဖြင့်ပေါက်ကြကုန်လေ၏။ အချို့တို့က တုတ်ဖြင့် ရိုက်ကြကုန်လေ၏။

ချစ်တပည့်ဝါသေဋ္ဌ၊ ကမ္ဘာဦးကာလ၌ ထိုသည့် မဖွယ်ရာသောပြစ်ရပ်ကို အကြောင်းပြု၍ ခိုးမှုဟူ၍ ထင်လာခဲ့၏။ ကဲ့ရဲ့စရာထင်လာကဲ့၏။ မုသာဝါဒ ထင်လာခဲ့၏။ ဒဏ်ခတ်ခြင်း အသွင်ထင်လာခဲ့၏။

ချစ်တပည့် ဝါသေဋ္ဌ၊ ဤသို့ မဖွယ်ရာသော ခိုးမှုပြဿနာပေါ်ပေါက်လာသော အခါ ကမ္ဘာဦးသူ လူသားတို့ စည်းဝေးကြပြန်ကုန်ပြီ။ စည်းဝေးပြီးလျှင် ဤသို့ ဆုံးဖြတ်ကြကုန်ပြီ။ “အိုအချင်းတို့၊ သတ္တဝါတို့ သန္တာန်၌ ယုတ်မာသောအကျင့် ဆိုး၊ ဝသီဆိုး၊ ညာဉ်ဆိုးများကြီးထွားမြဲ ကြီးထွားလျက် ရှိနေပေသည်။ ဤယုတ်မာမှု အကြောင်းပြု၍ ခိုးမှုလည်း ထင်မြဲထင်လတ္တံ့။ ကဲ့ရဲ့ဖွယ်လည်း ထင်မြဲထင်လတ္တံ့။ မုသားစကားလည်း ထင်မြဲထင်လတ္တံ့။ ဒဏ်ခတ်ခြင်းအသွင်လည်း ထင်မြဲထင်လတ္တံ့။ သို့ကြောင့် အကြင်ပုဂ္ဂိုလ်သည် ငါတို့အား ရှုတ်ချတန်သူကို ရှုတ်ချ၊ ကဲ့ရဲ့ထိုက်သူကို ကဲ့ရဲ့၊ ပြည်နှင်ဒဏ်ခတ်ထိုက်သူကို ပြည်နှင်ဒဏ်ခတ်ရာ၏။ ငါတို့သည် ထိုပုဂ္ဂိုလ်အား သလေးစပါး လယ်ထွက်ပစ္စည်း၏ ဆယ်ဖို့တစ်ဖို့ကို ပေးပေကုန်အံ့။ ထိုကဲ့သို့

သမာ သမတ်ရှိသူ ပုဂ္ဂိုလ်တစ်ဦးဦးကို အံကြီးအကဲအဖြစ် သမုတ်တင်မြှောက်ကြရသော် ကောင်းလေစွ"ဟူ၍ တိုင်ပင်ကြလေကုန်၏။

ချစ်တပည့် ဝါသေဋ္ဌ၊ ထိုသို့ အကြီးအကဲ တင်မြှောက်ရန် ဆုံးဖြတ်ကြပြီးသောအခါ ထိုကမ္ဘာဦးသူ လူသားတို့သည် မိမိတို့အထဲတွင် အကြင်သူသည် ဥပဓိရုပ်လည်း ခံ့ညား၏။ ကြည်ညိုဖွယ်လည်းကောင်း၏။ သြဇာတိက္ကမလည်း ရှိ၏။ ထိုသူ၏ထံသို့ ချဉ်းကပ်၍ ဤသို့ တောင်းပန်ကြကုန်ပြီ။

"အိုအရှင်၊ ကြွတော်မူပါ၊ ကျွန်ုပ်တို့အထဲမှာ ရှုတ်ချထိုက်သူရှိပါက ပိုင်နိုင်စွာ ရှုတ်ချတော်မူပါ။ ကဲ့ရဲ့ထိုက်သူရှိကလည်း ကျကျနနကဲ့ရဲ့တော်မူပါ။ နှင်ထိုက်သူတွေ့ကလည်း မထောက်မညှာ နှင်တော်မူပါ။ အရှင့်အား လယ်ထွက်စပါးသလေးဆန်များကို ဆယ်ဖို့တစ်ဖို့၊ ဆယ်ခိုင့်တစ်ခိုင် အကျွန်ုပ်တို့ ပူဇော်ပါကုန်အံ့" ဟူ၍ တောင်းပန်ကြကုန်ပြီ။ ဝါသေဋ္ဌ၊ ထိုအရှင်ကလည်း "အမောင်တို့ကောင်းပြီ" ဟု ဝန်ခံပြီးလျှင် အုပ်ချုပ်ခြင်းပြုလေသည်။ ကမ္ဘာဦးသူတို့ကလည်း သူတို့ဝန်ခံကတိရှိကြသည့်အတိုင်း ထိုသူ့အား လယ်ထွက်ပစ္စည်းမှ ဆယ်ခိုင့်တစ်ခိုင်ကို ထိုအရှင်အား ပူဇော်ခြင်းပြုကြကုန်ပြီ။

ချစ်တပည့် ဝါသေဋ္ဌ၊ လူအများစုက သမုတ်တင်မြှောက်သည်ကို အကြောင်းပြု၍ "မဟာသမ္မတ၊ မဟာသမ္မတ"ဟူ၍သာလျှင် ရှေးဦးစွာ အက္ခရာဖြစ်လာသည်။ ဝါသေဋ္ဌ၊ လယ်တို့ကို အစိုးရသူဆိုသည်ကို အကြောင်းပြု၍ "ခတ္တိယ၊ ခတ္တိယ"ဟူ၍သာလျှင် ဒုတိယအကြိမ် အက္ခရာဖြစ်လာသည်။ ဝါသေဋ္ဌ၊ တရားသဖြင့် လူတို့ကို နှစ်သက်စေသူဆိုသည်ကို အကြောင်းပြု၍ "ရာဇာ၊ ရာဇာ"ဟူ၍သာလျှင် တတိယအကြိမ် အက္ခရာဖြစ်လာသည်။

ချစ်တပည့် ဝါသေဋ္ဌ၊ ဤသို့အားဖြင့် ထိုကမ္ဘာဦးသူ လူသားတို့အားသာလျှင် ဤသို့ သဘောရှိသော ခတ္တိယမျိုး မင်းအပေါင်းအား ရှေး၌အမြွတ်ဟူ၍ သိအပ်သောအက္ခရာဖြင့် ထင်ရှားဖြစ်ပေါ်လာခြင်းဖြစ်လေပြီ။ တစ်ပါးသူတို့အား မဖြစ်လေ။ ထိုသူတို့နှင့်အလားတူ သူတို့အားသာလျှင် ထင်ရှားဖြစ်လေပြီ။ မတူသူတို့အား မဖြစ်လေ။ တရားသဖြင့်သာလျှင် ထင်ရှားဖြစ်လေပြီ။ မတရားသဖြင့် မဖြစ်။ ဝါသေဋ္ဌ၊ ယဉ်ကျေးမှုတရားဟူသည်ကား ဤလူ့လောက၌ မျက်မှောက်ဘဝ အဖြစ်မှာဖြစ်စေ၊ အခြားတစ်ပါးသော ဘဝအဖြစ်မှာဖြစ်စေ မြတ်သည်သာလျှင် မဟုတ်ပါလော။

ချစ်တပည့် ဝါသေဋ္ဌ၊ မဟာသမ္မတမင်းအဖြစ် တင်မြှောက်ပြီးသော ထိုအခါ၌ ထိုကမ္ဘာဦးသူ လူသားတို့အနက် အချို့သော ပုဂ္ဂိုလ်တို့အား ဤသို့သော တွေးခေါ်မှုမျိုး ဖြစ်ပေါ်လာလေသည်။ "အို-အချင်းတို့၊ ယုတ်လှစွာသော အကျင့်ဆိုး၊

ဝသီဆိုး၊ စရိုက်ဆိုး၊ ဘုဉ်ဆိုးတို့သည် သတ္တဝါတို့သန္တာန်ဝယ် ကြီးထွားဆဲ ကြဲ့ထွားလျက်ပင် ထင်ကုန်သည်တကား။ ဤသည်ကို အကြောင်းပြု၍ ခိုးမှုလည်း ထင်ဦးလတ္တံ့။ ကဲ့ရဲ့ဖွယ်လည်း ထင်ဦးလတ္တံ့။ မုသာဝါဒလည်း ထင်ဦးလတ္တံ့။ ဒဏ်ခတ်ခြင်း၊ နှင်ဒဏ်ပေးခြင်းလည်း ထင်ဦးလတ္တံ့။ ငါတို့သည် အကုသိုလ်မှု ထိုဒုစရိုက်တရားတွေကို မျှောပစ်လိုက်ကြသော် ကောင်းလေစွ"ဤသို့သော အတွေး အခေါ်မျိုး ဖြစ်ပေါ်လာကြပြီးလျှင် အကုသိုလ်အသိုက် ဒုစရိုက်မှုတွေကို မျှောလိုက် ကြလေကုန်ပြီ။

ချစ်တပည့် ဝါသေဋ္ဌ၊ ယင်းသည့် အကုသိုလ်အမှိုက် ဒုစရိုက်မှုတွေကို မျှောလိုက်သည်ကို အကြောင်းပြု 'ဗြာဟ္မဏ၊ ဗြာဟ္မဏ'ဟူ၍ သာလျှင် ရှေးဦးစွာ အက္ခရာဖြစ်လာ၏။ ထိုကမ္ဘာဦးသူ လူသားတို့သည် တောအရပ်၌ သစ်ရွက်မိုးသော ကျောင်းများ တည်ဆောက်ကြလျက် ထိုကျောင်းတို့၌ ဈာန်ဝင်စားကြကုန်၏။ ချက်၍ စားအပ်သောအစာ မရှိသောကြောင့် မီးကျီးလည်းဆိတ်၊ မီးခိုးလည်း တိတ်ကုန်၏။ ထုထောင်း၍ ချက်ဖွယ်မရှိသောကြောင့် ကျည်ပွေ့လည်း ဆောင်စရာ မလိုတော့ကုန်။ နေ့ဖို့ ညစာအတွက် အစာရှာရန်အလို့ငှာ ရွာ၊ နိဂုံး၊ မင်းနေပြည်တို့သို့ သက်ဝင်ကြကုန်၏။

ထိုကမ္ဘာဦးသူ လူသားတို့သည် အစားအစာရကြကုန်လတ်သော် တောသို့ တစ်ဖန်ပြန်လာကြကုန်ပြီး သစ်ရွက်မိုးသောကျောင်းတို့၌ ဈာန်ဝင်စားကြကုန်၏။ ထိုသူတို့၏ အမူအကျင့်ကို လူတို့မြင်ကြလေသော် ဤသို့ ဆိုကြကုန်ပြီ။ "အို အချင်းတို့၊ ဤသူတို့ကား တောအရပ်၌ သစ်ရွက်မိုးတို့ကိုဆောက်လျက် ထိုကျောင်း တို့၌နေ၍ ဈာန်ဝင်စားကြကုန်၏။ ချက်၍ စားသောက်ဖွယ် မရှိသောကြောင့် မီးကျီးလည်းဆိတ်၊ မီးခိုးလည်းတိတ်ကုန်၏။ ထုထောင်း၍ ချက်ဖွယ်မရှိသောကြောင့် ကျည်ပွေ့လည်း ဆောင်စရာမလိုတော့ကုန်။ နေ့ဖို့ညစာအတွက် အစာရှာရန်အလို့ငှာ ရွာ၊ နိဂုံး၊ မင်းနေပြည်တို့သို့ သက်ဝင်ကြကုန်၏။ သူတို့သည် အစားအစာရှာ၍ ပြည့်စုံလတ်သော် တောသို့ တစ်ဖန်ပြန်လာကြပြီး သစ်ရွက်မိုးကျောင်းတို့၌ ဈာန်ဝင်စားကြကုန်၏။ ထိုသည်ကိုအကြောင်းပြု၍ 'ဈာယကာ၊ ဈာယကာ' ဟူ၍သာလျှင် ဒုတိယအကြိမ် အက္ခရာဖြစ်လာ၏။

ချစ်တပည့် ဝါသေဋ္ဌ၊ ထိုကမ္ဘာဦးသူ လူသားတို့အနက်တွင် အချို့သော သူတို့သည် တောအရပ်၊ သစ်ရွက်မိုး ကျောင်းများ၌ ထိုဈာန်ကိုဝင်စားခြင်းငှာ မစွမ်းနိုင်ကြကုန်သည်ဖြစ်၍ ရွာ၏အနီး၊ နိဂုံး၏အနီးသို့ သက်ဝင်ကြပြီးလျှင် သုံးပုံသော ဗေဒင်ကျမ်းတို့ကို မွမ်းမံလျက်လည်းကောင်း၊ ပို့ချလျက်လည်းကောင်း နေကြကုန်၏၊ ထိုသူတို့ကို လူတို့မြင်လတ်သော် ဤသို့ဆိုကုန်၏၊ 'အိုအချင်းတို့၊

ဤသူတို့ကား တောအရပ် သစ်ရွက်မိုးကျောင်းများ၌ ဈာန်ဝင်စားခြင်းငှာ မစွမ်းနိုင်ရာ ကြသောကြောင့် ရွာ၊ နိဂုံးအနီးသို့ ချည်းကပ်ကြပြီး ဗေဒင်ကျမ်းများကို မွမ်းမံခြင်း၊ စီစီချခြင်းပြု၍ နေကြကုန်၏၊ ယခုအခါတွင် ဤသူတို့ကား ဈာန်မဝင်စားကြတော့ကုန်' ဤသို့ ဆိုပြောကြသောစကားကို အကြောင်းပြု၍ 'အဇ္ဈာယကာ၊ အဇ္ဈာယကာ'ဟူ၍ ခေါ်ဝေါ်အပ်သော ဝေါဟာရ အက္ခရာသည် ဖြစ်လာ၏။

ချစ်တပည့် ဝါသေဋ္ဌ၊ ယခုအခါ၌ မြတ်သည်၊ အမြတ်ဟူ၍ သမုတ်ထားသော မေထုန်ဆောင်ခြင်း၊ မေထုန်ပို့ချခြင်းကို ထိုခေတ်ထိုအခါကမူ 'ယုတ်သည်၊ အယုတ်'ဟု သမုတ်ထားကြ၏။ ဝါသေဋ္ဌ၊ ဤပြဟ္မာအပေါင်း၏ ရှေး၌ဖြစ်သော အမြတ်ဟူ၍ သိအပ်သည့်အက္ခရာဖြစ်ပေါ်ခြင်းသည် ထိုသူတို့အားသာဖြစ်၏။ တစ်ပါးသူတို့အား မဖြစ်လေ။ ဖြစ်သော် တရားသဖြင့်သာဖြစ်သည်။ တရားမဲ့ မဖြစ်လေ။

ချစ်တပည့်ဝါသေဋ္ဌ၊ ယဉ်ကျေးမှုတရားဆိုသည်မှာ မျက်မှောက်ဖြစ်သော ဘဝအဖြစ်၌သော်လည်းကောင်း၊ တစ်ပါးသော ဘဝအဖြစ်၌သော်လည်းကောင်း ဤလူ့ပြည်လောက၌ မွန်မြတ်သည်သာပင်တည်း။

ချစ်တပည့် ဝါသေဋ္ဌ၊ ထိုကမ္ဘာဦးသူ လူသားတို့အနက်တွင် အချို့အချို့သော သူတို့သည် မေထုန်အကျင့်ကို ဆောက်တည်ကြကုန်လျက် (မေထုန်မှီဝဲခြင်း အမှုကို မစွန့်ကြကုန်လေဘဲ) နွားကျောင်းခြင်း၊ ကုန်ရောင်းခြင်း၊ လယ်ထွန်ခြင်းစသော လူမှုလုပ်ငန်းကိစ္စအဝဝတို့ကို ပြုကြကုန်၏။ ဝါသေဋ္ဌ၊ ဤသည်ကို အကြောင်းပြု၍ပင် 'ဝေဿ၊ ဝေဿ'ဟူ၍ ခေါ်ဝေါ်အပ်သော ဝေါဟာရ အက္ခရာသည် ဖြစ်လာ၏။

ချစ်တပည့် ဝါသေဋ္ဌ၊ ဤသို့လျှင် ဤကုန်သည်အပေါင်း၏ ရှေး၌ဖြစ်သော အမြတ်ဟူ၍ သိအပ်သည့် ဝေါဟာရအက္ခရာဖြစ်ပေါ်လာခြင်းသည် ထိုကုန်သည်တို့အားသာဖြစ်၏။ အခြားသူတို့အားမဖြစ်၊ ယင်းတို့နှင့် သဘာဝချင်း တူသူတို့အားသာ ဖြစ်၏။ သဘာဝချင်း မတူသူတို့အားမဖြစ်။ ဖြစ်သော် တရားနှင့်ယှဉ်၍သာ ဖြစ်သည်။ မတရားမဲ့ မဖြစ်လေ။

ချစ်တပည့် ဝါသေဋ္ဌ၊ ယဉ်ကျေးမှုတရားဆိုသည်မှာ မျက်မှောက်ဖြစ်သော ဘဝအဖြစ်၌ဖြစ်စေ၊ တစ်ပါးသော ဘဝအဖြစ်၌ဖြစ်စေ၊ မည်သည့်ဘဝ၌မဆို ဤလူ့လောက၌ မွန်မြတ်သည်ပင်တည်း။

ချစ်တပည့်ဝါသေဋ္ဌ၊ ထိုကမ္ဘာဦးသူ လူသားတို့အထဲတွင် အကြွင်းသူတို့သည် ထိုမင်း၊ ပုဏ္ဏား၊ ကုန်သည် စာရင်းတွင် မပါဘဲ ကြွင်းကျန်ရစ်ကုန်၏။ ထိုသူ ထိုသူတို့သည် ကြမ်းကြုတ်သောအကျင့်၊ ယုတ်ညံ့သောအကျင့်ရှိသူတို့ ဖြစ်ကုန်၏။

ဝါသေဋ္ဌ၊ ဤသည်ကို အကြောင်းပြု၍ပင် ထိုသူတို့အား 'သုဒ္ဒါ၊ သုဒ္ဒါ' ဟူ၍ ခေါ်ဝေါ်အပ်သော ဝေါဟာရအက္ခရာသည် ဖြစ်လာ၏။

ချစ်တပည့်ဝါသေဋ္ဌ၊ ဤသို့လျှင် ဤဆင်းရဲသားအသိုင်းအဝန်း၏ ရှေး၌ ဖြစ်သော အမြွတ်ဟူ၍ သိအပ်သည့် ဝေါဟာရအက္ခရာဖြစ်ပေါ်ခြင်းသည် ထိုသူဆင်းရဲတို့အားသာဖြစ်၏။ အခြားသူတို့အား မဖြစ်။ ယင်းတို့နှင့် သဘာဝချင်းတူသူတို့အားသာဖြစ်၏။ မတူသူတို့အားမဖြစ်။ ဖြစ်သော် တရားနှင့်ယှဉ်၍သာ ဖြစ်၏။ တရားမဲ့ မဖြစ်လေ။

ချစ်တပည့် ဝါသေဋ္ဌ၊ ယဉ်ကျေးမှုသဘောဆိုသည်မှာ မျက်မှောက်ဖြစ်သော ဘဝအဖြစ်၌သော်လည်းကောင်း၊ သို့မဟုတ် တစ်ပါးသောဘဝအဖြစ်၌သော် လည်းကောင်း ဤလူ့လောက၌ မွန်မြတ်သည်ပင်တည်း။

ချစ်တပည့် ဝါသေဋ္ဌ၊ မင်း ၊ ပုဏ္ဏား၊ ကုန်သည်၊ ဆင်းရဲသား၊ လေးပါးသော အမျိုးအနက်မှ ဘုရင်လုပ်နေသူသည် မိမိ၏အမှုအကျင့်ကို ရှက်နိုးသဖြင့် ထီးနန်းကိုစွန့်၍ 'ငါရဟန်းပြုအံ့' ဟူ၍ ရဟန်းပြုသွားလေ၏။ ဤသို့သော အခါမျိုးလည်း ရှိပေသည် ဝါသေဋ္ဌ။

ထို့အတူ ချစ်တပည့်ဝါသေဋ္ဌ၊ ပုဏ္ဏားသည်လည်းကောင်း၊ ကုန်သည်သည်လည်းကောင်း၊ ဆင်းရဲသားသည်လည်းကောင်း ကိုယ့်အကြောင်းကိုယ်သိ၊ ကိုယ့်လိပ်ပြာ ကိုယ်လန့်ပြီး ကိုယ့်ကိုယ်ကို ရှုတ်ချလျက် ဝတ်ကြောင်ကိုစွန့်၍ 'ငါရဟန်းပြုအံ့' ဟူ၍ ရဟန်းပြုသွားလေ၏။ ဤသို့သော အခါမျိုးလည်း မရှိမဟုတ်။ ရံခါရံခါ ရှိတတ်ပေသည်။

ချစ်တပည့် ဝါသေဋ္ဌ၊ ဤသို့လျှင် လေးမျိုးသော အသိုင်းအဝိုင်းတို့တွင် ရဟန်းအသိုင်းအဝိုင်းတစ်ခု ထင်ရှားဖြစ်ပေါ်လာခြင်းသည် အမျိုးလေးပါးတို့၌ အကျုံးဝင်ကုန်သော ထိုသတ္တဝါတို့အားသာဖြစ်၏။ အခြားသူတို့အား မဖြစ်။ ယင်းတို့နှင့် သဘာဝချင်းတူသူတို့အားသာဖြစ်၏။ မတူသူတို့အားမဖြစ်။ ဖြစ်သော် တရားနှင့်ယှဉ်ဖြစ်၏။ တရားမဲ့စွာ မဖြစ်လေ။

ဗုဒ္ဓမြတ်စွာဘုရားသည် ကိုရင် ဝါသေဋ္ဌအား အမျိုးလေးပါး သရုပ်ကို ခွဲခွဲခြားခြား မြွက်ကြားတော်မူပြီးနောက် မည်သူမဆို ကိုယ်၊ နှုတ်၊ နှလုံး ဤသုံးပါးကို စောင့်စည်းဖို့လိုအပ်ပုံ၊ ဤသို့ စောင့်စည်းခြင်းမရှိချေက မည်သို့ ဖြစ်ပုံများကို ဆက်၍ မြွက်ကြားတော်မူပြန်၏။

ချစ်တပည့် ဝါသေဋ္ဌ၊ မင်းလုပ်သူသည်လည်း ကိုယ်ဖြင့်မကောင်းသော အကျင့်ကျင့်၏။ နှုတ်ဖြင့်မကောင်းသောအကျင့်ကျင့်၏။ စိတ်ဖြင့် မကောင်းသော အကျင့်ကျင့်၏။ ဤသို့ ကိုယ်၊ နှုတ်၊ နှလုံး သုံးပါးလုံးဖြင့် ဒုစရိုက်မှုများကို

ပြချင်တိုင်းပြပြီးလျှင် မိစ္ဆာဒိဋ္ဌိအယူကိုယူ၏။ မိစ္ဆာဒိဋ္ဌိကဲ့သို့ ဆောက်တည်၏။ ဤသို့သော ဤသို့သော ဒုစရိုက်မှုအစုစုတို့ကြောင့် ထိုမင်းသည် ခန္ဓာစဲသော် အပါယ်လေးပါးသို့ လားရောက်ရလေ၏။

ချစ်တပည့် ဝါသေဋ္ဌ၊ ပုဏ္ဏားး ကုန်သည်၊ ဆင်းရဲသားတို့လည်း ထိုနည်းအတိုင်းပင်တည်း။ ကံသုံးပါးကို လုံအောင်မစောင့်စည်းသော်လည်းကောင်း၊ မိစ္ဆာဒိဋ္ဌိအယူကိုယူလျက် မိစ္ဆာဒိဋ္ဌိကံကို အလုပ်အကျွေးပြုခဲ့သော်လည်းကောင်း မည်သူမဆိုသေသည်၏အခြားမဲ့၌ အပါယ်လေးပါးသို့ လားရောက်ရမည်သာ ဖြစ်ပေ၏။

ချစ်တပည့် ဝါသေဋ္ဌ၊ မင်းလုပ်သူသည်လည်း ကိုယ်၊ နှုတ်၊ နှလုံး ဤသုံးပါးလုံးဖြင့် ကောင်းသောအကျင့်ကိုကျင့်၏။ သမ္မာဒိဋ္ဌိအယူကိုယူ၏။ သမ္မာဒိဋ္ဌိကံကို ဆောက်တည်၏။ ဤသို့ဤသို့သော သုစရိုက်မှု ကုသိုလ်အစုစုတို့၏အကျိုးအားဖြင့် ထိုမင်းကွယ်လွန်သော် နတ်ရွာသို့လား၏။ ချစ်တပည့် ဝါသေဋ္ဌ၊ ကျန်ပုဏ္ဏားး ကုန်သည်၊ ဆင်းရဲသားတို့လည်း ဤနည်းနှင်နှင်ပင်တည်း။ ကောင်းသောအမှု၊ ကောင်းသောအကျင့်ကို ကျင့်သူမှန်က မည်သူမဆို နတ်ရွာသုဂတိသို့လားရောက်လေမည်သာတည်း။

ချစ်တပည့် ဝါသေဋ္ဌ၊ ဆက်၍မှတ်သားနာယူဦးလော့။ မင်းလုပ်သူသည်လည်းကိုယ်ဖြင့်ကောင်းမှု၊ မကောင်းမှု နှစ်မျိုးကိုပြု၏။[၁] (ရံခါကောင်းမှုကိုပြုပြီး၊ ရံခါမကောင်းမှုကိုပြု၏။) နှုတ်ဖြင့် ကောင်းမှု မကောင်းမှုနှစ်မျိုးကိုပြု၏။ စိတ်ဖြင့်ကောင်းမှု၊ မကောင်းမှု နှစ်မျိုးကိုပြု၏။ သမ္မာဒိဋ္ဌိ၊ မိစ္ဆာဒိဋ္ဌိ အယူနှစ်မျိုးကိုယူ၏။ ထိုအယူနှစ်မျိုးကို အလုပ်အကျွေးပြု၏။ ဤသို့ အယူနှစ်မျိုးကို အလုပ်အကျွေးပြုဆောက်တည်မှုကြောင့် ထိုမင်းကွယ်လွန်ခဲ့သော် ချမ်းသာ၊ ဆင်းရဲနှစ်မျိုးကိုခံစားရလေ၏။

**မှတ်ချက်။** ။ချမ်းသာ ဆင်းရဲခံစားရမှုနှင့်ပတ်သက်၍ အဋ္ဌကထာ၌ ဖွင့်ပြသည်ကား "သုခ ဒုက္ခပဋိသံဝေဒီ ဟောတီတိ ကေက္ခဏေ ဥဘာယဝိပါက ဒါနဋ္ဌာနံနာမ နတ္ထိ။ အဓိပ္ပာယ်မှာ–တစ်ပြိုင်နက်သော ခဏ အကျိုးနှစ်ခုကိုပြိုင်တူပေးသော ဌာနမည်သည်မရှိ၊ အကြင်သူသည် အကုသိုလ်ကို များများပြု၏။ ကုသိုလ်ပြုသည်ကားနည်း၏။ ထိုသူသည် ထိုအနည်းငယ်ပြုသော ကုသိုလ်ကိုအမှီပြု၍ မင်းမျိုး၌သော် လည်းကောင်း၊ ပုဏ္ဏားမျိုး၌လည်းကောင်း ဖြစ်ရ၏။ ထိုသို့ ဖြစ်ရသော်ငြားလည်း ပြုခဲ့ဖူးသော အကိုသုလ်ကံက ကန်းအောင်ပြု၏။ ကုန်အောင်လည်းပြုတတ်၏။ ဆွံ့အောင်လည်း ပြုတတ်၏။ ထိုသူသည် မင်းအဖြစ်နှင့်သော်လည်း

၁။ ဒွယကာရီတိ ကာလေ ကုသလံ ကရောတိ။ ကာလေန အကုသလန္တိ ဧဝံ ဥဘာယကာရီ၊ သုတ်ပါထေယျ အဋ္ဌကထာ၊ ဒုစ္စရိတာဒိကထာ ဝဏ္ဏနာ ၅၅၊ ဆဋ္ဌမူ။

မထိုက်တန်ဖြစ်တတ်၏။ မင်းဖြစ်သည့်တိုင်အောင်လည်း အဘိသိက်သွန်းလေသော အခါ မင်းစည်းစိမ်ကို သုံးဆောင်ခြင်းငှာ မစွမ်းနိုင် ဖြစ်တတ်၏။

ကွယ်လွန်သောအခါ၌ ကမ္ဘာကျော်လက်ဝှေ့သမားကြီး နှစ်ဦးကဲ့သို့ ထို ကုသိုလ်၊ အကုသိုလ် နှစ်မျိုးစလုံး ဟုန်းခနဲ ထလာလေကုန်၏။ ယင်းနှစ်မျိုးတွင် အကုသိုလ်က အားကောင်းသည်ဖြစ်အံ့၊ ထိုအကုသိုလ်က ကုသိုလ်ကို ဟန့်တားလိုက် ပြီးလျှင် တိရစ္ဆာန်ဘုံ၌ ဖြစ်စေ၏။ ကုသိုလ်ကံသည်လည်း ပဝတ္တိဖြစ်ရာဘဝ၌ ခံစားအပ်သည်ဖြစ်၏။ ထိုသူကို မင်္ဂလာဆင်တော်ကို သော်လည်းကောင်း၊ မင်္ဂလာမြင်းတော်ကိုသော်လည်းကောင်း၊ မင်္ဂလာနွားလားဥသဘကိုသော် လည်း ကောင်း ပြုကုန်၏။ ထိုသူတို့သည် ဤသမ္ပတ္တိ (စည်းစိမ်ချမ်းသာ)ကို ခံစားရ၏။ ဤသည်ကို ရည်ရွယ်၍ 'သုခ ဒုက္ခ ပဋိသံဝေဒီ' ဟု ဆိုပေသတည်း။ သုတ်ပါထေယျ– အဋ္ဌကထာ၊ ဒုစ္စရိတာဒိကထာ ဝဏ္ဏနာ–၅၅။

ချစ်တပည့် ဝါသေဋ္ဌ၊ မင်းလုပ်သူလည်း ကိုယ်အမူအရာဖြင့် စောင့်စည်း၏။ နှုတ်အမူအရာဖြင့် စောင့်စည်း၏။ ဗောဓိပက္ခိယတရားခုနစ်ပါး[၁] ပွားများခြင်းကို အစွဲပြု၍ မျက်မှောက်ဘဝ၌ပင် ကိလေသာခပ်သိမ်း ငြိမ်းသွား၏။ ချစ်တပည့် ဝါသေဋ္ဌ၊ ကုန်သည်၊ သူဆင်းရဲတို့ကိုလည်း ဤအတိုင်း မှတ်ရာ၏။

ဗုဒ္ဓမြတ်ဘုရားသည် ဤသို့အားဖြင့် အမျိုးလေးပါးတို့ကိုပြပြီးလျှင် ကိုယ်ပိုင် ဉာဏ်ဖြင့် ထိုးထွင်း၍ သိအပ်သော သစ္စာလေးပါးရှိသူ ရဟန္တာပုဂ္ဂိုလ်သည်သာ နတ်လူတို့တွင် အမြတ်ဆုံးဖြစ်ကြောင်း၊ မင်း၊ ပုဏ္ဏား၊ ကုန်သည်၊ သူဆင်းရဲအမျိုး လေးပါးတွင် မည်သည့်အမျိုးပင် ဖြစ်စေကာမူ အာသဝေါကုန်ခန်းပြီး ရဟန္တာမဟုတ် သမျှ မြတ်သောအမျိုးဟု မဆိုထိုက်ကြောင်းကို ကိုရင် ဝါသေဋ္ဌအား ပြောပြတော်မူ၏။

ထိုအကြောင်းကို ပုဏ္ဏားလူမျိုးတို့ ကိုးကွယ်ခြင်းပြုကြသည့် 'သနင်္ကုမာရ' မည်သော ဗြဟ္မာမင်းက ဂါထာတွတ်တွတ်ရွတ်၍ ချီးကျူးကြောင်းကိုပါ ဆက်၍ မြွက်ကြားတော်မူလေသည်။

ချစ်တပည့်ဝါသေဋ္ဌ၊ ယင်းအအမြတ်ဆုံးပြဿနာနှင့်ပတ်သက်၍ သနင်္ကုမာရ မည်သော ဗြဟ္မာသည်လည်း ဤဂါထာကို ဆိုအပ်ပြီ။

ခတ္တိယော သေဋ္ဌော ဇနေတသ္မိံ၊
ယေ ဂေါတ္တ ပဋိသာရိနော။
ဝိဇ္ဇာ စရဏ သမ္ပန္နော၊
သော သေဋ္ဌော ဒေဝမာနုသေ။

---

၁။ (၁)သတိပဋ္ဌာန်လေးပါး၊ (၂) သမ္မပ္ပဓာန်လေးပါး၊ (၃) ဣဒ္ဓိပါဒ်လေးပါး၊ (၄) ဣန္ဒြေငါးပါး၊ (၅) ဗိုလ်ငါးပါး၊ (၆) ဗောဇ္ဈင်ခုနစ်ပါး၊ (၇) မဂ္ဂင်ရှစ်ပါး။

အကြင်သူတို့သည် အနွယ်ကို သာယာကုန်၏။ အနွယ်ကို အလေးအမြတ် ထားကြကုန်၏။ ဤအနွယ်ကို သာယာကြသူ၊ လူ့အုပ်စု၊ လူ့အသိုင်းအဝိုင်း၌ မင်းမျိုးသည်မြတ်၏။ အမြတ်ဆုံးဖြစ်၏။ အကြင်သူသည် အသိဉာဏ်=ဝိဇ္ဇာ၊ အကျင့်=စရဏနှင့် ပြည့်စုံ၏။ နတ်ပြည်၊ လူ့ရပ်၊ လောကဓာတ်၌ ထိုသူသည် မြတ်၏။ အမြတ်ဆုံးဖြစ်၏။

ချစ်တပည့်ဝါသေဋ္ဌ၊ သနင်္ကုမာရဗြဟ္မာ ရွတ်ဆိုသော ထိုဂါထာကား ကောင်းသော ဂီတပုဒ်ဟု ငါဆို၏။ မကောင်းသော ဂီတမဟုတ်။ သူ့စကားသည် စကားကောင်း၊ မကောင်းစကားမဟုတ်။ သူ့စကားသည် အကျိုးရှိစကား၊ အကျိုးမဲ့စကားမဟုတ်။ သူ့စကားကို ငါလက်ခံသည်။ ငါကြိုက်နှစ်သက်သည်။ ငါလည်း ဤအတိုင်းပင်ဆိုသည် ဝါသေဋ္ဌ။

ဤဆိုအပ်ပြီးသော စကားအစဉ်ဖြင့် မြတ်ဗုဒ္ဓသည် ကိုရင်နှစ်ပါးအား "အမြတ်ဖြတ်ဝါဒ"ပြပြီးလျှင် တရားတော်ကို အရဟတ္တဖိုလ်အထွတ်တပ်၍ အဆုံးသတ်တော်မူ၏။ ဘာရဒွါဇ၊ ဝါသေဋ္ဌ တည်းဟူသော ကိုရင်နှစ်ပါးတို့ကား ဘုရားသခင်၏ တရားတော်ကို သာခုခေါ်၍ မဆုံးနိုင်အောင်ပင် ဖြစ်နေကြလေသတည်း။

(သုတ်ပါထေယျပါဠိတော်၊ အဂ္ဂညသုတ်၊ ၆၆ ဆဋ္ဌမူ။)

( ၂၈ )

# လူကို ဒုက္ခပေးနေသူ တရားခံ

အဝေးကကြည့်လျှင် သစ်ငုတ်တိုပေါ်၌ လင်းတကြီးတစ်ကောင်နားနေသည် ထင်ရ၏။ လင်းတကား မဟုတ်။ ဂိဇ္ဈကုဋ်တောင်ဟု ခေါ်ခြင်းဖြစ်၏။

ထိုဂိဇ္ဈကုဋ်တောင်ရယ်၊ ဝေပုလ္လတောင်ရယ်၊ ဣသိဂိရိတောင်ရယ်၊ ဝေဘာလ တောင်ရယ်၊ ပဏ္ဍဝတောင်ရယ် ဤတောင် ငါးလုံးတို့သည် ရာဇဂြိုဟ်မြို့ကို ဖုံးလွှမ်းလျက်တည်ရှိကုန်၏။ သို့ကြောင့်လည်း "တောင်ငါးလုံး ကာခို ရာဇဂြိုဟ်" ဟု အစဉ်အလာအားဖြင့် ဆိုစမှတ်ပြုလာခဲ့ကြသည်။ ဤတောင်ငါးလုံးတို့ကား ရာဇဂြိုဟ်၏ ထူးခြားသော အမှတ်အသားများ ဖြစ်ကြသတည်း။

ထို့အတူ ဘာသာရေးဆိုင်ရာ အဆောက်အအုံထဲက ဆိုပြန်လျှင်လည်း ဝေဠုဝန် ကျောင်းတော်သည် ရာဇဂြိုဟ်၏ ဘာသာရေး မှတ်ကျောက်တစ်ခုပင် ဖြစ်လေသည်။

တစ်နေ့သော နံနက်ခင်းဆည်းဆာအောက်တွင် ဘုရားသခင်သည် ရဟန်း များစွာ ခြံရံလျက် ဝေဠုဝန်ကျောင်းတော်မှ သပိတ်ပိုက်၍ ထွက်တော်မူလာ၏။ ရှေ့ရှုရာကား ရာဇဂြိုဟ်မြို့ ဖြစ်သတည်း။

ရာဇဂြိုဟ်မြို့ကား ဘာသာရေးသမားများ အလွန်ခြေရှုပ်သော (ဝါ) ဘာသာရေး ပြွမ်းထူ၊ အယူဝါဒအသီးသီးရှိသူတို့ စားကျက်ဆိုကလည်း မမှားချေ။ ထိုမြို့ကိုခို၍ ဘာသာရေးပုဂ္ဂိုလ်များစွာတို့, နေထိုင်ကြသောကြောင့် ဖြစ်၏။

ရှုလိုက်စမ်းပါဘိ၊ ရာဇဂြိုဟ်မြို့တွင်းက လမ်းတစ်နေရာတွင် ဘာသာရေး သမား တိတ္ထိတစ်ဦးသည် စိုက်စိုက်စိုက်စိုက်နှင့် လျှောက်လာနေသည်ကော။ သူ့ အမည်ကား အစေလကဿပဟု တွင်လေသတတ်။

— စပယ်ဦးစာပေ

အစေလကဿပသည် တစ်စုံတစ်ရာကို အလေးအနက် တွေးလာဟန်တူ၏။ ပတ်ဝန်းကျင်ကို ဂရုမစိုက်၊ ဦးခေါင်းငိုက်စိုက်နှင့် လျှောက်လာသည်။ တစ်နေရာတွင်မူ အမှတ်မထင် ရှေ့တူရူဆီသို့ လှမ်းကြည့်လိုက်သည်။ ထိုအခါ သူ့မျက်နှာသည် သိသိသာသာ ပြောင်းလဲသွားလေသည်။ လှမ်းနေသော ခြေလှမ်းအားမာန်ကို ရှေ့သို့ပင့်၍ ဝင်လိုက်ပြီး ခပ်သွက်သွက်ကလေး ဆက်လျှောက်သွားလေသည်။

ထိုအချိန်တွင် ရာဇဂြိုဟ်တစ်မြို့လုံး သက်နံးရောင်ဖြင့် ဖုံးနေလေပြီ။ ဘုရားသခင်နှင့် သံဃာတော်များ ဆွမ်းခံလျက်ရှိနေ၏။ ဆွမ်းလောင်းသူကလောင်း၊ လှူသူကလှူနှင့် တစ်မြို့လုံး ဒါနအောင်လံထူနေဆဲဖြစ်၏။

ထိုစဉ်အခါ အစေလကဿပသည် ပျာယီးပျာယာနှင့် ဘုရားသခင်အပါးသို့ ပြေးကပ်လာပြီး ဘုရားသခင်ရှေ့တွင် စုံစပ်လိုက်သည်။ ထိုအခါ ရှေ့ကကာဆီး၍ လမ်းပိတ်ထားသကဲ့သို့ ဖြစ်နေ၍ ဘုရားသခင်မှာ မကြွသာ။ အစေလကဿပ၏ အမူအရာကိုသာ အကဲခတ်တော်မူနေသည်။ ရဟန်းသံဃာများကလည်း ဘာ့ကြောင့်ပါလိမ့်ဟူ၍ အစေလကဿပဆီသို့ စောင်းငဲ့၍ ကြည့်ကြကုန်သည်။

ရဟန်းသံဃာများက ကြည့်နေဆဲတွင် အစေလကဿပသည် လက်အုပ်ချီ၍ မြတ်ဘုရားအား မေးလျှောက်လေ၏။

အစေလ။ ။ကျွန်ုပ်အား ခွင့်ပြုပါအရှင်ဂေါတမ၊ အရှင့်အား ကျွန်ုပ် စကားတစ်ခွန်းလောက် မေးစမ်းပါရစေ။

ဗုဒ္ဓ။ ။ကဿပ၊ ငါတို့ကား ဆွမ်းခံနေဆဲဖြစ်၍ မေးရန်မသင့်သေး။ သင့်လျော်သောအချိန်ကို သင် ငံ့လေဦး။

လမ်းပေါ်တွင် သပိတ်ကိုယ်စီနှင့် သံဃာတန်းကြီးမှာ ထိန်နေသည်။ ဆွမ်းလောင်းလိုသူတို့ကလည်း အိမ်ရှေ့ထွက်ကာ ဆွမ်းအုပ်ကိုယ်စီနှင့် မျှော်နေကြသည်။

အစေလကဿပကား သူ့အဖို့ အလွန်အရေးကြီးသော ပြဿနာဖြစ်ဟန်တူသည်။ မေးရန် မသင့်သေးဟု တားမြစ်သည့်ကြားမှ သုံးကြိမ်တိုင် မေးမိအောင် မေးရှာလေသည်။ သို့သော် ဗုဒ္ဓသည် သူ့အားခွင့်မပြု။ မေးရန်မသင့်သေးဟူ၍သာ ဟန့်တားတော်မူ၏။

အစေလ။ ။အို အရှင်ဂေါတမ၊ များများစားစားမမေးပါ။ တစ်ခွန်းလောက်ကိုတော့ မေးခွင့်ပြုပါ အရှင်။

ထိုအခါတွင်မူကား ဗုဒ္ဓသည် သူ့အား သနားလာမိဟန်တူ၏။

ဗုဒ္ဓ။ ။သို့တပြီးကား မေးလော့ဟု ခွင့်ပြုတော်မူလိုက်သော် အစေလကဿပ သည် ခပ်သွက်သွက် မေးလျှောက်လေ၏။

အစေလ။ ။အို အရှင်ဂေါတမ၊ ဒုက္ခဟူ၍ရှိ၏။ ယင်းဒုက္ခကို မည်သူလုပ်ပါ သနည်း။ မိမိက လုပ်ပါသလော။ မေးလျှင် ဗုဒ္ဓက လက်ကာလျက်—

ဗုဒ္ဓ။ ။ကဿပ၊ ဤသို့ မဆိုစကောင်း။

အစေလ။ ။သည်လိုဆိုပါလျှင် ဒုက္ခကို အခြားသူလုပ်ပါသလား။

ဗုဒ္ဓ။ ။ကဿပ၊ ဤသို့ မဆိုစကောင်း။

အစေလ။ ။အရှင်ဂေါတမ၊ သို့ဖြစ်ဘိသော် ဒုက္ခကို မိမိလည်းမလုပ်၊ သူတစ်ပါး လည်းမလုပ် မှတ်ရမည်လော။

ဗုဒ္ဓ။ ။ကဿပ၊ ဤသို့ မဆိုစကောင်း။

အစေလ။ ။အရှင်ဂေါတမ၊ သို့ဖြစ်ဘိသော် ဒုက္ခကို မိမိလုပ်အပ်သည်လည်း မဟုတ်၊ သူတစ်ပါး လုပ်အပ်သည်လည်းမဟုတ်၊ အလိုအလျောက် ဖြစ်လာပါသလော။

ဗုဒ္ဓ။ ။ကဿပ၊ ဤသို့ မဆိုစကောင်း။

အစေလ။ ။အရှင်ဂေါတမ၊ သည်လိုဆိုပါလျှင် ဒုက္ခသည် မရှိသလော။

ဗုဒ္ဓ။ ။ကဿပ ဒုက္ခသည်မရှိမဟုတ်၊ ရှိကားရှိပေ၏။

အစေလ။ ။ရှိခဲ့သော် အရှင်သည် ဒုက္ခကို မသိသလော။ မမြင်သလော။

ဗုဒ္ဓ။ ။ကဿပ၊ ဒုက္ခကို ငါမသိမဟုတ်၊ မမြင်မဟုတ်။ ငါသိပေ၏။ ငါမြင်ပေ၏။

ထိုသို့မိန့်တော်မူလိုက်သောအခါ အစေလကဿပသည် ကြောင်စီစီ ဖြစ်သွား လေ၏။ ပါးစပ်ပေါက် အဟောင်းသားနှင့် အတန်ကြာအောင် ငေး၍ကြည့်နေမိ လေ၏။ ဗုဒ္ဓ၏ ဖြေတော်မူလိုက်ပုံကို ဉာဏ်မမီသဖြင့် ထပ်၍ မေးလျှောက်ပြန်လေ၏။

အစေလ။ ။အရှင်ဂေါတမ၊ အရှင်၏အဖြေကို အကျွန်ုပ်မည်သို့ မှတ်ရပါ မည်နည်း။ ဒုက္ခကို မိမိပြုပါသလော မေးသောအခါ 'ဤသို့မဆို စကောင်း'ဟု မိန့်ပေ၏။ ဒုက္ခကို အခြားသူပြုသလောဆိုသောအခါ တွင်လည်း 'ဤသို့မဆိုစကောင်း'ဟူ၍ မိန့်ပေ၏။ ဒုက္ခဆိုတာ ရှိပါသလား မေးသောအခါ၌ကား ရှိသည်ဟူ၍လည်း ပြောသည်။ ဒုက္ခကို သိလည်းသိသည်၊ မြင်လည်းမြင်သည်ဟူ၍ ပြောသည်။ အရှင်ဂေါတမ၊ အရှင်သိသော ဒုက္ခကို ကျွန်ုပ်အား ပြောပြတော် မူပါလော။ ဒုက္ခဆိုသည်မှာ အဘယ်ပါနည်း အရှင်ဂေါတမ။

ဗုဒ္ဓ။ ။ကဿပ၊ သင်မှတ်ဘိလော့။ ထိုသူပြုအပ်၏။ ထိုသူခံစားအပ်၏ဟူ၍ သိထားပြီးဖြစ်ခဲ့သော် ဒုက္ခကို မိမိပြုအပ်၏ဆိုသူသည် သဿတ အယူဘက်သို့ ယိမ်းသွားလေ၏။ တစ်ဖန် သူတစ်ပါးပြုအပ်၏။ သူတစ်ပါးခံစားအပ်၏ဟူ၍ သိထားပြီးဖြစ်ခဲ့ပြန်သော် ဝေဒနာ နှိပ်စက်နေခိုက် ဒုက္ခကို တစ်ပါးသူပြုအပ်၏ ဆိုသူသည် ဥစ္ဆေဒ အယူဘက်သို့ ယိုင်သွားလေ၏။

ကဿပ၊ ငါသည် သဿတအစွန်း၊ ဥစ္ဆေဒအစွန်း၊ ဤအစွန်းသို့ မရောက်စေဘဲ အလယ်အလတ်အားဖြင့်သာ တရား ဟောလာခဲ့၏။

သင်္ခါရ= မသိခြင်းကို အရင်းခံအကြောင်းပြု၍ ပြုစီရင်မှု=သင်္ခါရတို့ဖြစ်လာကုန်သည်။ (အဝိဇ္ဇာပစ္စယာ သင်္ခါရာ)

ဝိညာဏ= ပြုစီရင်မှု သင်္ခါရကို အကြောင်းခံ၍ သိမှု=ဝိညာဉ်ဖြစ်လာသည်။ (သင်္ခါရပစ္စယာ ဝိညာဏံ)

နာမရူပ= သိမှု=ဝိညာဉ်ကို အကြောင်းခံ၍ နာမ်၊ ရုပ်တို့ဖြစ်လာကုန်သည်။ (ဝိညာဏပစ္စယာ နာမရူပံ)

အာယတန= နာမ်၊ ရုပ်တို့ကိုအကြောင်းခံ၍ တည်ရာ=အာယတနခြောက်ပါးတို့ ဖြစ်လာကုန်သည်။ (ဝိညာဏ ပစ္စယာ သဠာယတနံ)

ဖဿ= တည်ရာ=အာယတန ခြောက်ပါးကို အကြောင်းခံ၍ ထိတွေ့မှု=ဖဿ ဖြစ်လာသည်။ (သဠာယတန ပစ္စယာ ဖဿော)

ဝေဒနာ= ထိတွေ့မှု=ဖဿကိုအကြောင်းခံ၍ ခံစားမှု=ဝေဒနာ ဖြစ်လာသည်။ (ဖဿပစ္စယာ ဝေဒနာ)

တဏှာ= ခံစားမှု=ဝေဒနာအကြောင်းခံကြောင့် တပ်မက်မှု=တဏှာ ဖြစ်လာသည်။ (ဝေဒနာပစ္စယာ တဏှာ)

ဥပါဒါန= တပ်မက်မှု=တဏှာအကြောင်းခံကြောင့် ပြင်းစွာစွဲလမ်းမှု=ဥပဒါန် ဖြစ်လာသည်။ (တဏှာပစ္စယာ ဥပဒါနံ)

ဘဝ= ပြင်းစွာစွဲလမ်းမှု=ဥပါဒါန်အကြောင်းခံ၍ ဘဝဖြစ်လာသည်။ (ဥပါဒါနပစ္စယာ ဘဝေါ)

ဇာတိ= ဘဝအကြောင်းခံကြောင့် ပဋိသန္ဓေနေမှု = ဇာတိ ဖြစ်လာသည်။ (ဘဝပစ္စယာ ဇာတိ)

စပယ်ဦးစာပေ

ဇရာ၊ မရဏ= ပဋိသန္ဓေနေမှု=ဇာတိအကြောင်းခံကြောင့် ဇရာ=အိုမှု၊ မရဏ=သေမှု၊ သောက=စိုးရိမ်မှု၊ ပရိဒေဝ=ငိုကြွေးမှု၊ ဒုက္ခ=ဆင်းရဲမှု၊ ဒေါမနဿ= နှလုံးမသာယာမှု၊ ဥပါယာသ=ပြင်းစွာပင်ပန်းမှုတို့ ဖြစ်ကုန်သည်။ (ဇာတိပစ္စယာ ဇရာ မရဏ သောက ပရိဒေဝ ဒုက္ခ ဒေါမနဿ ပါယာသာ)

ကဿပ၊ ဤသို့လျှင် အလုံးစုံသော ဆင်းရဲမှုအစုသည် ဖြစ်လာ၏။ အဝိဇ္ဇာ=မသိမှုချုပ်လျှင် ပြုစီရင်မှု သင်္ခါရတို့ ချုပ်ကုန်လေ၏။ ပြုစီရင်မှု သင်္ခါရတို့ ချုပ်ငြိမ်းကုန်သော် သိမှုဝိညာဉ်ချုပ်ငြိမ်း၏။ (**မှတ်ချက်။** အကြွင်းကိုဖြည့်၍ဆို) ဤသို့လျှင် အလုံးစုံသော ဆင်းရဲအစု ချုပ်လေ၏။

နေရာကား ရာဇဂြိုဟ်မြို့တွင်းက လမ်းမကြီးပေါ်မှာဖြစ်၏။ ဗုဒ္ဓက တရားဟောနေလျက်၊ ကဿပက ရိုသေစွာ တရားနာနေလျက်။ ဤတရားဒေသနာတော်၏ အဆုံးတွင် အစေလကဿပအဖို့ သံရဏဂုံတည်သွားလေသည်သာမက မြတ်စွာဘုရားထံ ရဟန်းပြုခွင့်တောင်းလေ၏။

မြတ်စွာဘုရားအဖို့ ထိုနေ့ ဆွမ်းခံတော်မူရင်းမှ ဆွမ်းသာလျှင်မက ရဟန္တာလောင်းလျာ တပည့်သာဝကတစ်ဦးကိုလည်း ထူးထူးခြားခြား ရရှိတော်မူခဲ့လေသတည်း။

(နိဒါနဝဂ္ဂသံယုတ်ပါဠိတော်၊ အာဟာရဝဂ်၊ အစေလကဿပသုတ်၊ ၂၅၉၊ ဆဋ္ဌမူ)

( ၂၉ )

# ဗုဒ္ဓကို အပုပ်ချလိုက်ကြပုံက

ထိုလောဘ၊ ဤလောဘ အနှိအနှိသို့သော လောဘသည် လူတို့၌ ရှိ၏။

လောဘဖိစီးလာသော် မိမိလည်းပျက်၏။ သူ့ကိုလည်း ဖျက်တတ်၏။ ထိုလောဘသည် အဖျက်သမား သက်သက်သာတည်း။ အပျက်ကိုရှုစေသည်။ အဖျက်ကိုအားပေးသည်။ ဤဖြစ်ရပ်၌ သာဓကရှိပေ၏။ တိတ္ထိတို့သည် သာဓက၏ ပြယုဂ်များ ဖြစ်လေသည်။ အဖျက်ဝါဒ၊ အဖျက်လမ်းစဉ်ကို တိတ္ထိတို့သည် လက်တွေ့ (ကာယကံမြောက်) ကျင့်သုံးနေကြသူများ ဖြစ်ကြသည်။ ကျင့်သုံးပုံကား ဤသို့ ဖြစ်လေသတတ်။

အစည်းအဝေးတစ်ခု ရှိလေသည်။ ထိုအစည်းအဝေးကား တိတ္ထိတို့၏ လျှို့ဝှက် အစည်းအဝေးဖြစ်၏။ စည်းဝေးခြင်း၏ အကြောင်းအရင်းကား ဤသို့၊ ဤသို့–

"သခင်တို့၊ ပသို့ကြံကြမည်နည်း။ ပသို့ လုပ်ကြမည်နည်း။ သည့်အတိုင်း နေချေက ကိုယ်တို့ရပ်တည်နိုင်ရန် ခက်ကပြီ။ ရဟန်းဂေါတမ ပေါ်လာသည့် အချိန်ကစ၍ ကိုယ်တို့မှာ သိသိသာသာကြီး လာဘ်တိတ်ခဲ့ကုန်ပြီ။ လှူသူမရှိ။ ပေးကမ်းသူနတ္ထိ။ သည်ဟာတွင် ကရိုးလား။ ကိုယ်တို့ကိုရှိသည်ဟူ၍ပင် လူတွေက မထင်ကြတော့ကုန်။ အဖြစ်ဆိုးနှင့် ကြုံချေပြီကော။ ပသို့လုပ်ကြမည်နည်း။ ရဟန်းဂေါတမ၌ လာဘ်လာဘတို့ကား လှိုင်းလုံးကြီးတွေ တက်တက်လာသည့် နှယ်။ ကိုယ်တို့မှာကား လာဘ် လာဘဆိုသည်မှာ လက္ခယ်ကုန်းခေါင် မိုးမှောင် ကြီးကျလေသည့်သဖွယ်။ ဘယ့်နှယ်လုပ်ကြကုန်မည်နည်း"

တစ်ဦးသော တိတ္ထိအကြီးအကဲက သူတို့၏လက်ရှိ ဘဝအခြေအနေကို တင်ပြကာ ပရိသတ်ထံ အကြံဉာဏ်တောင်းလေသည်။ ထိုအခါ တိတ္ထိတစ်ဦးက ထ၍ အကြံပေးလေသည်ကား—

"သခင်တို့၊ သခင်တို့၊ ရဟန်းဂေါတမအား လွယ်လွယ်နှင့်ကျဆုံးအောင် ပြုနိုင်မည်မထင်။ သူ့နောက်တွင် အလွန်တောင့်တင်းသော ထုထည်ကြီးရှိနေသည်။ ထို့ကြောင့် ပူးကပ်သတ်နည်းကို အသုံးပြုလေမှ အောင်မြင်အံ့ထင်သည်။ ယင်းကိစ္စအတွက် ဂေါတမနှင့်ဝင်၍ ပူးနိုင်ရန် ကိုယ်တို့အထဲက ယုံကြည်စိတ်ချရသူ တစ်ဦးကောင်း တစ်ယောက်ကောင်း လက်ရွေးစင်ရွေးထုတ်ဖို့လိုသည်။ ထိုသူနှင့် ပူးတွဲလုပ်ကြမှသာ ဂေါတမသတင်း မှိန်ပြီး သူ၏ လာဘ်လာဘအရှိန်လည်း ကျဆုံးသွားမည်ဖြစ်သည်။ သို့ဖြစ်လေရာ ဂေါတမနှင့် ဝင်ဆံ့နိုင်မည်သူကို ရှေးဦးစွာ ရွေးသင့်ကြောင်း အကြံပေးလိုပါသည်ဟု ဆို၏။

ဤအကြံပေးချက်ကို လက်ခံသည်အနေဖြင့် တိတ္ထိတစ်ဦးက ထ၍ ရပ်လိုက်ပြီး ထောက်ခံစကားပြောရင်း ရဟန်းဂေါတမနှင့် သင့်လျော်မည့်သူကို ထောက်ပြလေသည်။

"သခင်တို့ဘုရား၊ ခုနက တင်ပြသွားသော သခင်၏အကြံပေးချက်ကား လျော်ကန်လှပါသည်။ ထိုအသံကြားလိုက်ရစဉ်ကပင် သုန္ဒရီကိုပြေး၍ မြင်ယောင်လာပါသည်။ ယင်းကိစ္စအတွက် သုန္ဒရီကိုသာ တာဝန်ပေးရသော် မုချအောင်မြင်လိမ့်မည်ဟု ယုံကြည်စရာရှိပါသည်။ ရဟန်းဂေါတမသည် အလွန်လှသူဖြစ်ပါသည်။ သူလှသလို သုန္ဒရီကလည်း လှသည်။ အလှချင်းထပ်ဖက်၍ အတူနေမိသော် ယုတ်စွအဆုံး ဂေါတမမှာ နာမည်ပျက်မည်မှာ သေချာသည်။ ထိုအခါ သူ့မှာ လာဘ်တိတ်ပြီး တို့ထံသို့ လာဘ်များပြန်လာကုန်လိမ့်မည်။ သို့ပါ၍ ဂေါတမထံ ဝင်ထွက်ဆက်ဆံရန်အတွက် သုန္ဒရီအား တာဝန်လွှဲရန် အကြံပေးလိုပါကြောင်း" ဆို၏။

ထိုလျှို့ဝှက်အစည်းအဝေးက ဤအကြံပေးချက်ကို လက်ခံအတည်ပြုပြီး သုန္ဒရီအား ရဟန်းဂေါတမထံ စေလွှတ်ရန် ဆုံးဖြတ်လိုက်လေသတည်း။

သုန္ဒရီ ဆိုသူကား အသူနည်း။

သုန္ဒရီကား ပရိဗိုဇ်ရဟန်းမတည်း။ အချောအလှတွင် နာမည်ကြီးသူဖြစ်သည်။ နာမည်ကြီးသလောက် ချောလည်းချော၊ လှလည်းလှ၊ ယဉ်လည်းယဉ်။ သူ့အချောသည် ဖြီးလိမ်းပြင်ဆင်ရခြင်းမရှိသော ပင်ကိုချောဖြစ်လေသည်။ ပရိဗိုဇ် ရဟန်းမပင်ဖြစ်စေကာမူ တဖေးတမောကြီး ကြည့်ယူရလောက်အောင် လှသည်။

သို့သော် သုန္ဒရီသည် ဣန္ဒြေသိက္ခာမရှိလှ။[၁] ပျံသည်။ ကလက်သည်။ ဆတ်ကော့ လတ်ကော့နိုင်သည်။ အပြောဆို ဖက်ရဲလက်ရဲ သွက်လွန်းသည်။ မြူဆွယ်မှု အတတ်၌ လိမ္မာပါးနပ်စွာဖြင့် ဆွဲဆောင်နိုင်စွမ်းရှိသည်။ သို့ကြောင့်ပင် သုန္ဒရီကိုမှ ရွေးကာ ရဟန်းဂေါတမထံ စေလွှတ်ရန် ဆုံးဖြတ်လိုက်ကြသည်။

တစ်နေ့သောအခါ သုန္ဒရီသည် တိတ္ထိကျောင်းတိုက်ကြီးသို့ ရောက်သွားလေသော် တိတ္ထိဆရာကြီးများအား ဦးချကန်တော့ခြင်းပြုလေ၏။ ထိုအခါ တိတ္ထိဆရာကြီးများသည် သုန္ဒရီအား ခေါ်ခြင်း၊ မေးမြန်းခြင်းမပြုကြဘဲ ကြောင်တောင် ကြည့်နေလိုက်ခြင်းဖြင့် သုန္ဒရီအား ရှေးဦးစွာ သိမ်းသွင်းလိုက်ကြကုန်သည်။

သူ့အား တစ်စုံတစ်ဦးကမျှ စကားပြောဆိုခြင်းမပြုသောအခါ သုန္ဒရီသည် အံ့အားလည်း... ၊ မရဲမဝံ့၊ ရွံ့လည်းရွံ့သလို ဖြစ်သွား၏။ ဆရာ့ဆရာကြီးများ မျက်နှာတော် မသာမှန်းသိလေ 'ငါ့မှာ ဘာအပြစ်များ ရှိနေပါလိမ့်'ဟူ၍ သုန္ဒရီမှာ စိတ်ဆင်းရဲလေဖြစ်လာသည်။ သို့ကြောင့်ပင် သုန္ဒရီသည် ကြောက်ကြောက်နှင့်ပင် မဝံ့မရဲ မေးလျှောက်လေ၏။

"ဆရာတော်များဘုရား၊ ဘုရားတပည့်တော်မမှာ မည်သည့်အပြစ်များရှိနေ၍ စကားဆိုပြောခြင်း မပြုကြပါသနည်း။ အပြစ်ရှိသည်ဖြစ်က ပေးအပ်သောဒဏ်ကို ခံယူပါအံ့။ အမိန့်ရှိတော်မူပါကုန် ဘုရား"

ဤသို့မေးလျှောက်ခြင်း ပြုလတ်သော် အကွက်ဝင်ပြီဖြစ်ကြောင်း သိသည့် အလျောက် တိတ္ထိဆရာကြီးတစ်ဦးက သုန္ဒရီအား ပြစ်တင်လေသံဖြင့် ဤသို့ ဆိုလေသတည်း။

"အဘယ်သုန္ဒရီ၊ ရဟန်းဂေါတမအပြစ်ကို နင် မသိသလော။ သူသည် ငါတို့အား ညှဉ်းဆဲနေသူတကား။ ငါတို့လာဘ်တိတ်အောင် ပြုနေသူတကား။ နယ်စုံလှည့်၍ တရားဟောခြင်းဖြင့် ငါတို့လာဘ်ပိတ်အောင် ပြုမူနေသည်ကို သင် မမြင်သလော"ဟု ခြိမ်းမဲသံကြီးဖြင့် မေး၏။

"သည်ကိစ္စမှာ ဘုရားတပည့်တော်မအနေဖြင့် မည်သို့ပြုသင့်ပါသလဲ ဘုရား၊ ပေးအပ်သောတာဝန်ကို အသက်စွန့်၍ ဆောင်ရွက်ပါအံ့၊ ညွှန်ကြားတော်မူကြပါကုန် ဘုရား"

မကြည်သောမျက်နှာ ဝမ်းနည်းသည့်အမူအရာဖြင့် သုန္ဒရီက လျှောက်သည်။ ထိုအခါတွင်မူကား စီစဉ်ထားသောအတိုင်း သုန္ဒရီအား တာဝန်ချလေတော့ သတည်း။

---

၁။ သာဒ အနတိတ ယောဗ္ဗနာ အသံသတသမာစာရာဝ ဟောတိ (ဥဒါန်းအဋ္ဌကထာ၊ သုန္ဒရီသုတ္တဝဏ္ဏနာ။ ၂၃၂။ ဆဋ္ဌမူ)

"အဘယ်ချစ်စွာသော နမသုန္ဒရီ၊ သင်ကား လူ့ဝတ်ကြောင်မိန်းမသားများ ထက်ပင် အဆင်းလှသူဖြစ်ပေ၏။ တင့်တယ်လှပါသည် ဆိုသူတို့ကပင် မမ၊ မမဟု ခေါ်ရလောက်အောင် တင့်တယ်သူလည်းဖြစ်ပေ၏။ ငါတို့အား သင် လေးစားဘိမှုကား ရဟန်းဂေါတမ အရှိန်အစော်မှဲ့အောင်၊ ဂုဏ်သိက္ခာကျဆင်းအောင်၊ လာဘ်လာဘ တိတ်အောင် သင် ပြုအပ်စကောင်းသည်။ ပြုရမည်။ ဤကိစ္စဖြစ်မြောက် အောင်မြင်သည်အထိ ဆောင်ရွက်ရန်မှာ သင့်တာဝန်။ သင့်အား ငါတို့အမိန့်ပေး၏။ သင် ဆောင်ရွက်လော့"ဟု ဆို၏။

သုန္ဒရီကား ငြင်းဆန်ခြင်းမပြု။ ပေးအပ်သောတာဝန်ကို ကျေပွန်အောင် ဆောင်ရွက်ပါမည်ဟူ၍ အာမဘန္ဒေခံလိုက်ပြီးသည့် အချိန်မှစ၍ သုန္ဒရီသည် သူ့ လုပ်ငန်းကို စလေတော့သည်။ မြို့သူမြို့သားများ တရားနာပြီး၍ ဇေတဝန် ကျောင်းတော်မှ ပြန်လာသည့် ညနေစောင်းအချိန်တွင် သုန္ဒရီသည် လှူဖွယ်တန်းရာ ပန်းနံ့သာများကိုယူလျက် ဇေတဝန်ကျောင်းတော်ဘက်သို့ ထွက်လာသည်။ တရား နာရာမှပြန်လာသူများနှင့်ဆုံမိ၍ သူ့ကို ဘယ်သွားမလို့လဲဟု မေးသောအခါ ကျွန်တော်မ ဇေတဝန်ကျောင်းတော် ရှင်ကြီးဂေါတမထံ သွားမည်လို့ပါ။ ဂန္ဓကုဋိ တိုက်က အခန်းကြီးထဲမှာ ရှင်ကြီးဂေါတမနှင့်အတူ ကျွန်တော်မ နေပါသည်ဟု ခပ်တည်တည်နှင့် ပြောပြလေသည်။

ကျောင်းတော်သို့ တရားနာလာသူများနှင့် တွေ့သောအခါ "သုန္ဒရီ ဘယ်က ပြန်လာလဲ"ဟု မေးကြသော် "ကျွန်တော်မ ဇေတဝန်ကျောင်းတော်က ပြန်လာခဲ့ ပါသည်။ ကျောင်းတော်တွင် ရဟန်းဂေါတမနှင့်အတူ အိပ်စက်၍ ကိလေသာရမ္မက် ဖြင့် အာသာပြေအောင် ဖြေဖျော်၍ ပြီးခဲ့ပြီကောရှင်၊ ပြန်ရုံရှိတော့တာပ။ ဟဲ-ဟဲ" ဟု ရှက်တော့သယောင် ပြုံးဖြီဖြီနှင့် ခပ်ဟဲဟဲကလေး ပြောပြလေသောအခါ ကြားရသူများမှာ ဇဝေဇဝါ ဖြစ်ကုန်လေ၏။

အမြော်အမြင်ရှိသူများကမူ ဗုဒ္ဓမြတ်ဘုရားပေါ်၌ တစ်စုံတစ်ရာ သံသယ ဖြစ်ခြင်းမရှိဘဲ "သည်ကောင်မ ရူးများနေရှာသလား"ဟူ၍ သုန္ဒရီကိုသာ အပြစ် ဆိုကြသော်လည်း အသိဉာဏ်ခေါင်းပါးသူများကမူ သုန္ဒရီ၏ အလှအချောနှင့် သာယာချောင်စွာသော အပြောကိုချင့်ကာ "အင်းဟင်း၊ အင်းဟင်း"နှင့်ပင် ယုန်ထင် ကြောင်ထင် ဖြစ်ကုန်လေ၏။

(**မှတ်ချက်။** ။စင်စစ်အားဖြင့် သုန္ဒရီ၏ အပြုအမူကား လူသူလေးပါး အထင်အမြင်လွဲမှားအောင် ပြုလုပ်ခြင်းသာဖြစ်သည်။ ဇေတဝန်ကျောင်းတိုက်ကြီး အတွင်းသို့ပင် ရောက်လေသည်မဟုတ်၊ လူအများ အသွားအလာ ရှုပ်ယှက်ခတ် ဖြစ်ချိန်ကို တမင်ရွေး၍ ကျောင်းသို့သွားဟန်ကျောင်းမှပြန်လာဟန် ပြုခြင်းသာတည်း။)

ဇေတဝန်ကျောင်းတော်၏ အနီးအပါးတွင် ရစ်သီရစ်သီနှင့် သွားလာလျက် 'ဟန်ရေးပြ'အလုပ်သည် တိတ္ထိဆရာကြီးများ၏ စေခိုင်းချက်အရ နေ့စဉ်ဆောင်ရွက်ရသော သိန္ဒရီ၏အလုပ်ပင် ဖြစ်လေသည်။

ကံကြမ္မာက သုန္ဒရီအား မည်သို့ဖန်တီးလိုက်လေသည်မသိ။ "သုန္ဒရီ တစ်ယောက် ပျောက်ခြင်းမလှ ပျောက်နေသည်"ဟူသော သတင်းသည် တိတ္ထိတို့ အသိုင်းအဝိုင်းမှ ထွက်လာပြီး တောမီးပမာ ကူးစက်ပြန့်နှံ့သွားလေ၏။

တိတ္ထိတို့သည် မိမိတို့၏တပည့်မ သုန္ဒရီပျောက်ဆုံးနေကြောင်းကို ကောသလ မင်းထံ ကိုယ်တိုင်ဝင်၍ အကြောင်းကြားကြလေကုန်၏။ ထိုအခါ ကောသလမင်းကြီး သည် တိတ္ထိတို့အား မေးမြန်းခြင်းပြုရလေ၏။

"အရှင်ဆရာကြီးတို့၊ သုန္ဒရီပျောက်ဆုံးသည်ဆိုခြင်းမှာ ဟုတ်တန်စေ။ ဆရာကြီးတို့အနေဖြင့် မည်သို့ ထင်ပါကုန်သနည်း။ မည်သည့်နေရာ၊ မည်သည့် ဌာနကို သံသယရှိပါသနည်း။ နေရာကိုသိက စုံစမ်း၍လွယ်ပါသည်။ နေရာကို ညွှန်ကြားပါကုန်"

"မြတ်သောမင်းကြီး၊ နေရာအတိအကျပြောရန် ခက်ဘိစွ၊ ခုတစ်လောတွင် သုန္ဒရီသည် နေ့ညအချိန်မရွေး ဇေတဝန်ကျောင်းကိုသာ သွားသွားနေပါ၏၊ မယုံသင်္ကာဖြစ်စရာဆို၍ ဇေတဝန်မှတစ်ပါး အခြား ငါတို့မထင်တတ်"

"သို့ဖြစ်ဘိသော် ဇေတဝန်ကျောင်းတော်တွင်းဝင်၍ ဆရာကြီးတို့ ကျေနပ်အောင် ရှာကြပါကုန်"

ကောသလမင်းက ရှာခွင့်ပြုလိုက်သောအခါ တိတ္ထိတို့သည် မင်း၏အမိန့် ဖြင့် ဇေတဝန်ကျောင်းတိုက်တွင်းသို့ဝင်၍ ရှာကြလေကုန်၏။

တိတ္ထိတို့သည် ကျောင်းအသီးသီး၌ သမန်ကာလျှံကာ ရှာဟန်ပြုပြီး 'ကျောင်းတော်ဘေးက ရေမြောင်းထဲ'[၁] ကို ဖိ၍ သဲကြီးမဲကြီး ရှာကြလေသည်။

"ဟောသည်မှာ၊ သည်မှာ တွေ့ပြီ"

ရေမြောင်းထဲ၌ သုန္ဒရီကို တွေ့ကြလေပြီ။ တွေ့ရသော် သုန္ဒရီကား အရှင် မဟုတ် တုတ်ဖြင့် ရိုက်သတ်ထားသည့် အလောင်းကောင် သုန္ဒရီသာ ဖြစ်ချေ၏။

တိတ္ထိတို့သည် သုန္ဒရီ၏ အလောင်းကို မြောင်းထဲမှဆယ်၊ ညောင်စောင်း ပေါ်တင်၊ ပခုံးဖြင့်ထမ်းလျက် သာဝတ္ထိမြို့ထဲသို့ ယူလာပြီး လမ်းကြီးလမ်းငယ်

---

၁။ ဥဒါန်းပါဠိတော်၊ သုန္ဒရီသုတ်၊ ၁၂၉ ပရိခါကူပဟုရှိ၏။ (ပရိခါကူပ=ကျုံး၊ ရေမြောင်း)။ ပရိခါကူပေတိ ဒီဃိကာ ဝါငွေ၊ ဝင်းအဋ္ဌကထာ။ ဓမ္မပဒ အဋ္ဌကထာ၊ ဒု၊ သုန္ဒရီပရိဗ္ဗာဇိကာ ဝတ္ထု၊ ၄၁၅ ၌ မာလာကစဝရရှိ၏။ (မာလာကစဝရ=ပန်းမှိုက်သွန်ရာအရပ်၊ အမှိုက်ပုံ)

အသွယ်သွယ်တို့၌ ကြော်ငြာလုညည့်သကဲ့သို့ လှည့်၍ မြို့သူမြို့သားတို့အား အလောင်းကို ပြကာ ပြကာဖြင့် ဤသို့ ကြွေးကြော်တိုင်တမ်းခြင်း ပြုကြလေကုန်၏။

သုန္ဒရီ၏အလောင်းကို ခုတုံးလုပ်၍ ဘုရားနှင့်တကွ ရဟန်းသံဃာများအား အပုပ်ချကြလေကုန်၏။

"အို-မြို့သူမြို့သားအပေါင်းတို့၊ သကျပုတ္တိယ ရဟန်းဂေါတမ၏ တပည့်များ ပြုလိုက်သည့် လူမဆန်သောအမှုကို ရှုကြကုန်လော့၊ ဤရဟန်းတို့ကား အရှက်မရှိကြကုန်။ ဒုဿီလ၊ အကျင့်ယုတ်၊ မုသာဝါဒီများပါပေတကား။ ဤသူတို့အား ရဟန်းအဖြစ်သည်မရှိ။ မြတ်သောအဖြစ်သည်မရှိ။ ဤသူတို့ကား ရဟန်းအဖြစ်၊ မြတ်သောအဖြစ်သည် ပျက်စီးလေပြီကော။ ဤသူတို့အား ရဟန်းအဖြစ်၊ မြတ်သောအဖြစ်ဟူသည် အဘယ်မှာရှိတော့မည်နည်း။ ဤသူတို့သည် ရဟန်းအဖြစ်မှ ကင်းကုန်ပြီကော။ ယောကျ်ားသည် ယောကျ်ားကိစ္စ[၁] အလိုပြည့်အောင် မေထုနသံဝါသအမှုကို ပြုရပြီးလာ ပဲဟာ ဘောက်မဲ့ကြောင့် မိန်းမ(သုန္ဒရီ)ကို ရက်ရက်စက်စက် သတ်ပစ်ကြသတုန်း။ သူတို့ဆရာကြီး ရဟန်းဂေါတမ၏ ယုတ်မာမှု အကျင့်ဆိုးတွေ ပေါ်ကုန်မည်စိုး၍ သူ့တပည့်ရဟန်းများက သုန္ဒရီကိုသတ်ပြီး ရေမြောင်းထဲ ပစ်ချထားကြသည်တကား။

"အို-လူအပေါင်းတို့၊ ဤသည်ကား ငါတို့အသက်၊ ငါတို့မျက်စိ သဖွယ်ဖြစ်သော သုန္ဒရီ၏ အလောင်းပါတည်း။ ရှုစမ်းကြကုန်လော့" (သုန္ဒရီအား မုဒိမ်းကျင့်ပြီးမှ ပေါ်မည်စိုးသောကြောင့် ရဟန်းတို့က သတ်ပစ်လေဟန် သတင်းလွှင့်ကြခြင်း။)

တိတ္ထိတို့သည် သုန္ဒရီ၏အလောင်းကိုထမ်း၍ မြို့တွင်း၌ ရဟန်းတို့၏ မကောင်းသတင်းကို ဝါဒဖြန့်ကြပြီးနောက် တစ်ဖန် အလောင်းကို ကောသလမင်းကြီး၏ နန်းတော်သို့ ယူဆောင်သွားကြပြန်သည်။

ကောသလမင်းကြီးသည်လည်း ဤလူသတ်မှုအတွက် ကရုဏာလည်းသက်၊ ဒေါသလည်းထွက်၊ အတော်လည်း အခံရခက်နေပုံရ၏။ သို့ကြောင့်လည်း အလောင်းကို ချက်ချင်းသင်္ဂြိုဟ်ခြင်းမပြုစေဘဲ သုသာန်၌ ငြမ်းဆောက်၍ ငြမ်းပေါ်တွင် အလောင်းတင်လျက် အစောင့်အကြပ်များချထားစေသည်။ ရဟန်းတို့၏ ယုတ်မာမှုကို အများသိသွားအောင် ဤသို့ စီစဉ်ခြင်းဖြစ်သည်။

---

၁။ ပုရိသကိစ္စန္တိ မေထုနပ္ပဋိသေဝနံ သန္ဓာလ ဝဒန္တိ။ ဥဒါန်းအဋ္ဌကထာ၊ ၂၃၆၊ ဆဋ္ဌမူ။

ဤလူသတ်မှု၏ ဂယက်ကား နိုင်ငံပျက်တော့မလောက် ချောက်ချားသွားလေသည်။ သာဝတ္ထိတစ်မြို့လုံး လူသတ်မှုသတင်းက ဖုံးနေသည်။ တိတ္ထိတို့ဘက်မှ မျက်နှာပန်းလှသည်နှင့်အမျှ ရဟန်းတို့ဘက်၌ အရှုံးထွက်လေ၏။

အရိယာ ပုဂ္ဂိုလ်များမှအပ သာဝတ္ထိမြို့သူမြို့သားတို့သည် အများအားဖြင့် ရဟန်းတို့အား ဝါးစားချင်လောက်အောင်ပင် ချဉ်ကုန်လေတော့သည်။ "ကြည့်စမ်း ပါဦးကရို၊ သည်ဟာ ရဟန်းအလုပ်တဲ့လား။ လူသတ်ခြင်းဟာ ရဟန်းအလုပ်တဲ့လား" ဟူ၍ မြို့တွင်း၊ မြို့ပြင်၊ ကျေးလက်တောရွာများပါမကျန် လှည့်၍ ရဟန်းတို့အား ဆဲရေးကြ၊ ကဲ့ရဲ့ရှုတ်ချခြင်း ပြုကြလေကုန်၏။

ရဟန်းတို့လည်း ထုံးစံအတိုင်း သာဝတ္ထိမြို့တွင်း၌ ဆွမ်းခံကြလေကုန်၏။ ထိုအခါ ဆွမ်းလောင်းသူများ သိသိသာသာ လျော့နည်းဆုတ်ယုတ်သွားရုံမက တိုက်ရိုက်အားဖြင့်သော်လည်းကောင်း၊ မကြားတကြားသော်လည်းကောင်း၊ စောင်းချိတ်၍သော်လည်းကောင်း၊ လူတို့၏ ဆဲဆိုခြင်းကို အခြောက်တိုက် ခံနေကြရလေ၏။ ထိုအချိန်အထိ သုန္ဒရီကိုသတ်သူ တရားခံလူသတ်ကောင် တိတိကျကျ မပေါ်သေးသဖြင့် ဤလူသတ်မှုတွင် ဇေတဝန်ကျောင်းတော်နှင့် ရဟန်းတို့မှာ အားစာခံဖြစ်နေကြရှာလေ၏။

ဆွမ်းခံရာမှ ပြန်ရောက်လာသောအခါ ရဟန်းတို့သည် 'လူတို့အထင်အမြင်လွဲမှားကြပြီး ရဟန်းတို့အား ဆဲရေးကြကြောင်း'ကို မြတ်စွာဘုရားအား လျှောက်ထားကြလေကုန်၏။ ထိုအခါ မြတ်စွာဘုရားက လူတို့အား တုံ့ပြန်ချေပရန် ဂါထာကို ရဟန်းတို့အား သင်ပေးတော်မူလေ၏။

"ရဟန်းတို့၊ လူတို့အား ဤသို့ တုံ့ပြန်ချေပကြကုန်၊ ဆိုပြောကြကုန်။ ငါပေးသော ဂါထာကိုရွတ်၍ တန်ပြန်ကြလေကုန်။ ရွတ်ရမည့် ဂါထာကား[၁]—

"မမှန်မှုသား ဆိုပြောတတ်သူလည်း တစ်ယောက်၊ မိမိလုပ်မိသော အလုပ်ကို မလုပ်ဟု ဖြောင်လိမ်ညာ၍ ပြောတတ်သူလည်းတစ်ယောက်၊ ဤသူ နှစ်ယောက်စလုံးသည် ငရဲလားရလေ၏။ ထိုသူနှစ်ယောက်စလုံးပင် အကျင့်ယုတ်ကို ခါးပိုက်ပိုက်ထားသူများဖြစ်၍ တမလွန်လောကတွင် ငရဲခံရသောအခါ သာတူညီမျှ ဆတူပင်ခံကြရသတည်း"

ရဟန်းတို့လည်း ဗုဒ္ဓညွှန်ကြားတော်မူသည့်အတိုင်း ပြုမူကုန်လေ၏။ လူတို့က ဆဲလျှင် ခံမနေတော့ဘဲ ဂါထာရွတ်၍ တန်ပြန်လိုက်ကြကုန်၏။

---

၁။ အဘူတဝါဒီ နိရယံ ဥပေတိ၊ ယောစာပိ၊ ကတွာ နကရောမိစ္စာဟ။
ဥဘောပိတေ ပေစ္စ သမာဘဝန္တိ။ နိဟီနကမ္မာ မနုဇာ ပရတ္ထာတိ။
(ဓမ္မပဒအဋ္ဌကထာ၊ ဒု၊ ၄၁၆၊ ဥဒါန်းပါဠိတော်၊ ၁၃၀)

ထိုအခါ လူတို့အား ဤအသိစိတ် ဤအတွေးအခေါ်မျိုး ဖြစ်ပေါ်လာကြလေသတည်း။ "ယုတ်မာသောအမှုမျိုးကို ဤရဟန်းများပြုရန် အကြောင်းမရှိ။ ဤလူသတ်ခြင်းအလုပ်ကို ဤရဟန်းတော်တို့ မည်သည့်နည်းနှင့်မျှ လုပ်ကြမည်မဟုတ်" ဟူပေ၏။

ဤလူသတ်မှုမှာ ဇေတဝန်ကျောင်းနှင့် ပတ်သက်နေသောကြောင့် လူသတ်ကောင်ကို ဖော်ထုတ်နိုင်ရန်အတွက် ကောသလမင်းကြီးမှာ တာဝန်ရှိနေ၏။ ထို့ကြောင့် သက်ဆိုင်ရာ စုံထောက်များအား "တရားခံအမြန်ဖော်ထုတ်ရမည်" ဟု ပြင်းပြင်းထန်ထန် စေခိုင်းတော်မူလေသတည်း။

မင်းချင်းယောကျ်ား (စုံထောက်)များသည်လည်း မင်းမိန့်အတိုင်း အရပ်သားအသွင်ဖြင့် အရက်ဆိုင်တစ်ဆိုင်အတွင်းဝင်၍ အရက်သောက်ရင်း စူးစမ်းကြသောအခါ အရက်သမားအချင်းချင်း ငြင်းခုံနေကြသည်ကို တွေ့လတ်သော် အကဲခတ်ကြသည်။

"ဟေ့ကောင်၊ ငါတောင်းတာ ပေးရင်ပေး၊ မပေးရင်"

"မပေးဘူး၊ မင်းက ဘာလုပ်ချင်သလဲ"

"မပေးရင်ဖော်ထုတ်ရုံပေါ့၊ တိတ္ထိတွေက မင်းကိုငွေပေးပြီး သုန္ဒရီကို တစ်ချက်တည်းနဲ့ အသေရိုက်သတ်ပြီး ကျောင်းဘေးကမြောင်းကြီးထဲ ပစ်ချတာလေ"

ဤတွင် ထိုအရက်သမား လူသတ်ကောင်များအား မင်းချင်းယောကျ်ားများက ဖမ်းဆီးလျက် မင်းအား ဆက်သကြလေ၏။ ကောသလမင်းက စစ်မေးလေသောအခါ တိတ္ထိတို့က ငွေပေး၍ အသတ်ခိုင်းသဖြင့် သတ်မိကြောင်း ဖြောင့်ချက်ပေးသည်။

ထိုအခါ ကောသလမင်းသည် ဒေါသအမျက်ချောင်းချောင်းထွက်လျက် တိတ္ထိတို့အား ချက်ချင်းခေါ်စေပြီးလျှင် စစ်မေးလေသောအခါ မကွယ်သာတော့ဘဲ ဟုတ်မှန်ကြောင်း ဝန်ခံကြရလေကုန်၏။ ဤသို့ အမှုမှန်လူသတ်တရားခံ ပေါ်လေသေအခါ တိတ္ထိတို့အား ဤသို့ စေခိုင်းလေသတည်း။

"အချင်းတို့သွားကြကုန်၊ မြို့တွင်းမြို့ပြင်လှည့်၍ ဤသို့ ကြွေးကြော်ချေကြကုန်။ အို–လူအပေါင်းတို့၊ ရဟန်းဂေါတမအား အပြစ်ဖြစ်၊ ဂုဏ်သိက္ခာကျ၊ လူအကြည်အညိုပျက်စေခြင်းငှာ မသမာသောစိတ်ဖြင့် သုန္ဒရီကို ငါတို့သတ်ပစ်လိုက်ခြင်းသာဖြစ်သည်။ ဤလူသတ်မှုနှင့်ပတ်သက်၍ ရဟန်းဂေါတမ၌လည်းကောင်း၊ သူ၏တပည့် ရဟန်းများ၌လည်းကောင်း၊ လုံးဝ အပြစ်မရှိ။ ဤအပြစ်ကား ငါတို့အပြစ်သာ၊ ငါတို့သာ လူသတ်တရားခံအစစ်ဟု ကြွေးကြော်ကြကုန်လော့"

တိတ္ထိတို့လည်း မင်းမိန့်အတိုင်း ကြွေးကြော်ရလေသောအခါ ရဟန်းများအပေါ်၌ သံသယရှိနေကြသော လူအချို့တို့သည် အမှန်ကိုသိနားလည်ကာ ဘုရား

အမှူးရှိသော သံဃာများအား ကဲ့ရဲ့ခြင်းပျောက်ပြီး ရှေးကထက်ပင် ကြည်ညိုလာကြလေကုန်၏။

မြတ်စွာဘုရားသည် ထိုအကြောင်းကို သိတော်မူရလေသောအခါ ဤသို့ ဥဒါန်းကျူးတော်မူလေသတည်း။

"ကိုယ် နှုတ် နှလုံး သုံးပါးစလုံး စောင့်စည်းခြင်းအလျှင်းမရှိသဖြင့် ဟင်းလင်းပွင့်နေသော လူယုတ်မာတို့သည် နှုတ်၊ ဝါစာ၊ စကားဖြင့် အမျိုးမျိုး ထိုးဆွ၊ ပစ်ခတ်ကြ၊ တိုက်ခိုက်ကြကုန်၏။ ပမာအားဖြင့် စစ်မြေပြင်အရပ်၌ တိုက်ပွဲဝင်နေသော ဆင်ပြောင်ကြီးကို တစ်ဖက်ရန်သူများက မြှားအမျိုးမျိုးတို့ဖြင့် ပစ်ခတ်ကြသည်နှင့် အလားတူ၏"

သူတစ်ထူးအား ပြစ်မှားလိုစိတ်မရှိသော ရဟန်းသည် လူယုတ်မာတို့ ဆိုပြောတိုက်ခိုက်လာသည့် ရန့်ကြမ်းသော စကားကိုကြားသော် "ဤအရာကား သံသရာ သဘာဝပေတကား"ဟူ၍ သည်းခံရာ၏။

(ဥဒါန်းပါဠိတော်၊ သုန္ဒရီသုတ် ၁၂၈၊ ၎င်းအဋ္ဌကထာ၊ ၂၃၃ နှင့် ဓမ္မပဒ အဋ္ဌကထာ၊ ၃၊ သုန္ဒရီပရိဗ္ဗာဇိကာဝတ္ထု၊ ၄၁၅)

( ၃၀ )

# ဒွယံ ဒွယံ သံဝါသ လေးမျိုး

နေပူသောကြောင့်သော်လည်းကောင်း ဖြစ်တန်ရာသည်။ သို့မဟုတ် ခရီးပန်း နွမ်းနယ်သောကြောင့်သော်လည်း ဖြစ်တန်ရာသည်။ ဗုဒ္ဓသည် လမ်းပေါ်မှ ဖဲ၍ လမ်းဘေးရှိ သစ်တစ်ပင်အောက်တွင် ဝင်၍ ခိုနေ၏။ နေရာကား မဓုရမြို့နှင့် ဝေရဉ္စာပြည်အကြားတွင် ဖြစ်လေသည်။

ဝေရဉ္စာပြည်နှင့် မဓုရမြို့သည် ခရီးအတော်ကလေး လှမ်းဟန်တူသည်။ သို့ကြောင့်လည်း မြတ်စွာဘုရားသည် အထက်ပါမြို့နှစ်မြို့၏အကြား လမ်းခရီးတွင် ခရီးရှည် ကြွတော်မူသည်ဟု ဆိုသတည်း။

ထိုအချိန်တွင် ထိုနှစ်မြို့အနက် တစ်မြို့မြို့၌ ကြီးကျယ်စွာသော ပွဲလမ်းသဘင် သော်လည်းကောင်း၊ သို့မဟုတ် အံ့ဘနန်း ထူးဆန်းသော ဖြစ်ရပ်တစ်ခုခုသော် လည်းကောင်း ရှိတန်ရာသည်။ အဘယ်ကြောင့်ဆိုသော် ထိုအချိန်၌ အကူးအသန်း အသွားအလာများသောကြောင့် ဖြစ်၏။

မှန်၏။ များစွာသော သူကြွယ်လင်မယား၊ ဇနီးမောင်နှံတို့သည် အတွဲလိုက် အတွဲလိုက် ထိုလမ်းခရီးအတိုင်း ခရီးရှည်သွားလျက်ရှိနေကြလေရာ သူတို့သည် ခရီးသွားရင်းမှ လမ်းဘေးသစ်ပင်အောက်၌ အပန်းဖြေ နားနေတော်မူသော ဘုရား သခင်ကို မလှမ်းမကမ်းမှ လှမ်းမြင်ကြလေသော် ကြွတောင့်ကြွခဲ၊ ဖူးရခဲဘိခြင်းဟူ၍ ဘုရားသခင်ရှိရာသို့ ချဉ်းကပ်ဖူးမြော်ကြလေသည်။

ဗုဒ္ဓသည် တစ်ခါတုန်းကလည်း တောလမ်းခရီးအတိုင်း ခရီးဆန့်ခဲ့စဉ် တဟုန်းဟုန်း တောမီးလောင်နေသည်ကို တွေ့ရလေသောအခါ ဤတောမီး ကို သာဓကထား၍ မီးတရား (အဂ္ဂိခန္ဓောပမသုတ်) ကို ဟောတော်မူခဲ့ ဖူးပေသည်။

ယခုလည်း သူ့ရှေ့မှောက်သို့ ရောက်လာကြသည့် သူကြွယ်လင်မယား တစ်သိုက်ကို အတွဲလိုက် အတွဲလိုက် မြင်ရလေသောအခါ ထိုမြင်ကွင်းက ဘုရားသခင်အား တရားဟောဖို့ရန် တောင်းပန်သည်နှင့်တူနေ၏။ ထိုစုံတွဲများထဲတွင် လိမ္မာသူနှင့်မိုက်သူ အုတ်အရောရော ကျောက်အရောရော ပါလာသည်ကို သိရှိတော်မူလိမ့်မည်။ သို့ကြောင့်ပင် ဗုဒ္ဓသည်သူကြွယ် လင်မယားတို့နှင့် အတန်ငယ်စကားစမြည်ပြောပြီးနောက် အကွက်ဆိုက်ရောက်လာသည်နှင့် လင်မယားတရားကို ကောက်၍ ဟောတော်မူလေ၏။

ဥပါသကာ၊ ဥပါသကီ အနီးသို့သော တူစုံမောင်မယ် သူကြွယ်လင်မယား အို-ခရီးသွားတို့၊ အကြောင်းသင့်ဆဲတွင် သင်တို့အား သံဝါသ[၁]=အတူတကွ ပေါင်းသင်းနေထိုင်ခြင်းဟူသော စုံတွဲတရားကို ငါဟောကြားပေအံ့။ အို-သူကြွယ်တို့၊ ဇနီးမောင်နှံတို့ကား အောက်ပါအတိုင်း လေးမျိုးလေးစားရှိကုန်၏။

(၁) လူသေ အလောင်းကောင်ချင်း ညားသော လင်မယားတစ်မျိုး။

(၂) လင်အသေကောင်၊ မယား နတ်သမီးနှင့် ညားသော လင်မယား တစ်မျိုး။

(၃) လင် နတ်သား၊ မယား အသေကောင်နှင့် ညားသောလင်မယား တစ်မျိုး။

(၄) လင် နတ်သား၊ မယား နတ်သမီးနှင့် ညားသောလင်မယား တစ်မျိုး။

ဤသို့အားဖြင့် လင်မယားတို့သည် လေးမျိုးလေးစားရှိကုန်၏။

## (၁) အလောင်းချင်းညားသော လင်မယား

အို-သူကြွယ်တို့၊ ယင်းလေးမျိုးအနက် အလောင်းချင်းညားသော လင်မယားကား အဘယ်နည်း။

အို-သူကြွယ်တို့၊ လောက၌ လင်မယားနှစ်ယောက်အနက် လင်ဖြစ်သူသည် ကံငါးပါးမလုံခြုံ၊ သူ့အသက်ကိုလည်းသတ်၏။ ဥစ္စာကိုလည်းခိုး၏။ သူ့မယားကိုလည်း ကျူးလွန်ပြစ်မှား မုသားစကားကိုလည်း ဖွာလောက်အောင်ပြော၏။ အရက်သေစာ မူးယစ်သောက်စားခြင်းလည်းပြု၏။ သီလဟူသည် အလျှင်းမရှိ။ အကျင့်ယုတ်၏။ ဝန်တိုမစ္ဆရိယ အားကြီး၏။ ရသေ့ရဟန်းတို့အား ကိုင်းရှိုင်းခြင်းလည်း မရှိ။ ခြိမ်းခြောက်ဆဲရေးခြင်း ပြု၏။

---

၁။ သံဝါသ = အတူတကွ ပေါင်းသင်းနေထိုင်ခြင်း။

ထိုလင်ဆိုး လင်ယုတ်မာ၏ မယားသည်လည်း လင်နှင့်တစ်ထေရာတည်း ယုတ်မာ၏။ သူကြွယ်တို့၊ ဤလင်မယားကား အသက်ရှိသော်ငြားလည်း သူသေနှင့် အလားတူ၏။ သို့ကြောင့်ရကား ဤသို့သော လင်မယားကို "သူသေကောင် အလောင်းချဉ်း ညားသောလင်မယား"ဟု မှတ်ရာ၏။

## (၂) လင်အသေကောင်၊ မယားနတ်သမီး လင်မယား

အို-သူကြွယ်တို့၊ အများအားဖြင့် "အသွင်မတူ အိမ်သူမဖြစ်"ဆိုသော်လည်း မတူသောအိမ်ရှင်မများလည်း လောက၌ ရှိပေသေးသည်။ လင်ဖြစ်သူသည် ယုတ်မာ၏။ ရိုင်းစိုင်း၏။ ကံငါးပါးကို မစောင့်စည်း အမြဲတစေ ကျူးလွန်ချေ၏။ လူနှင့်မလိုက်၊ အပြစ်ဗရပျစ်နှင့် ဖြစ်ချင်တိုင်း ဖြစ်နေသော လင်ဖြစ်၏။

အို-သူကြွယ်တို့၊ ယင်းလင်မသမာ လင်ယုတ်မာ၏ ကြင်ယာသက်ထား မူကား မယားပီသ၏။ ကံငါးပါးလုံ၏။ အကျင့်သိက္ခာနှင့်ပြည့်စုံ၏။ အများအားဖြင့် မိန်းမတို့၌ ဖြစ်တတ်သော ဝန်တိုခြင်း၊ ငြူစူစောင်းမြောင်းခြင်းကင်း၏။ သူကြွယ်တို့၊ ညား၍သာ ညားနေကြသည်။ ဤလင်မယားကား ပြဒါးတစ်လမ်း သံတစ်လမ်း ဖြစ်ချေ၏။ ဘဝချင်းအလျှင်းပင်မတူကြ။ ဤသို့သော လင်မယားကို "လင်သူသေ မယားနတ်သမီး"ဟု မှတ်ရာ၏။

## (၃) လင်နတ်သား၊ မယားအသေကောင် လင်မယား

အို-သူကြွယ်တို့၊ ကောင်းသောမယားရှိသည့်နည်းတူ ဆိုးသောမယားလည်း ရှိတတ်၏။ လင်ကောင်းသလောက် မယားကဖောက်ပြန်၏။ လင်သည် သူတော်ကောင်းလင်၊ ကံငါးပါးလုံသောလင်၊ ခိုးဆိုးသတ်ဖြတ်ခြင်း စသည်တို့မှ ကင်း၍ သန့်ရှင်းသောလင်၊ ရတနာသုံးပါး ဦးထိပ်ထား၍ မိဘဆရာသမားအား အမြဲတစေ ရိုသေကိုင်းရှိုင်းသော လင်ဖြစ်သော်လည်း ထိုလင်၏ မယားမူကား မုဆိုးတပိုင်း မိန်းမရိုင်းဆန်လှ၏။ ဒုစရိုက်မှုများကို ဒိုင်ခံ၍ ကျူးလွန်လေ့ရှိ၏။ ဤသို့သော လင်မယားကို "လင်နတ်သား၊ မယားအသေကောင် လင်မယား"ဟု မှတ်ရာ၏။

## (၄) လင်နတ်သား၊ မယားနတ်သမီး လင်မယား

အို-သူကြွယ်တို့၊ အဆိုးနှင့်အကောင်း၊ အကြောင်းနှင့်အကျိုး၊ အမိုးနှင့် အခင်း၊ အတွင်းနှင့်အပြင်၊ အယဉ်နှင့်အရိုင်း၊ ကွာချင်တိုင်းကွာဘိသည့်အလား ဘက်မညီသော လင်မယားရှိသကဲ့သို့ပင် အကောင်းချင်းဆုံသော လင်မယား စုံတွဲများလည်း ဤလောက၌ ရှိပေသေး၏။

အို–သူကြွယ်တို့၊ ဘုရားသွားကျောင်းတက် အလှူရေစက် လက်နှင့်မကွာ မယားခများလည်း သူတော်စင်၊ လင်ဖြစ်သူကလည်း သူတော်ကောင်း။ ဒုစရိုက်ကို နှာနှာထောင်း။ သုစရိုက်ကို မာမာဆောင်းလျက် အကြောင်းဆက် ပေါင်းဖက်မိကြသော လင်မယားကို "လင်နတ်သား၊ မယားနတ်သမီး လင်မယား"ဟု မှတ်ရာ၏။

ဤသို့ လင်မယားစုံတွဲ တရားဟောပြီးသည်၏အဆုံးတွင် ဗုဒ္ဓမြတ်စွာသည် ရှေ့သို့ ခရီးဆက်ရန်အတွက် ထိုင်ရာမှ ထတော်မူလိုက်သော် သူကြွယ်လင်မယား ဇနီးမောင်နှံစုံတို့သည်လည်း အစုံလိုက် အစုံလိုက် အတွဲလိုက် အတွဲလိုက် ဘုရားသခင်အား လက်အုပ်ချီလျက်ပင် ထိုင်ရာမှ ထလိုက်ကြကုန်သတည်း။

ကောင်းကင်တစ်ခိုဝယ် တိမ်ညိုအချို့သည် မဖြို၏သို့ ပြို၏သို့နှင့် ကြွကြွရှရှရှိနေ၏။ ယန်းတိမ်ညိုညိုတို့အောက်တွင်မူ တမတ်စောက်စောက်နှင့် ခရီးဆက်၍ လျှောက်တော်မူနေသော ရှင်တော်မြတ်ဘုရားအား သူကြွယ်လင်မယားအားလုံးတို့က မျက်စိတစ်ဆုံး ဖူးမြော်လျက် ကျန်ရစ်ခဲ့ကြလေသတည်း။

(အင်္ဂုတ္တိုရ် ပါဠိတော်၊ စတုက္ကနိပါတ်၊ ပုညာဘိသန္ဒဝဂ်၊
ပထမသံဝါသသုတ်၊ ၃၆၈၊ ဆဋ္ဌမူ။)

စပယ်ဦးစာပေ

( ၃၁ )

# ဥပမာ ရှစ်ရာ လူသားများ

လူအမျိုးမျိုး၊ နတ်အမျိုးမျိုး ဆိုသကဲ့သို့ လောက၌ ပုဂ္ဂိုလ်အမျိုးမျိုး လူတန်းစားလည်း အသီးသီးပင်ဖြစ်၏။ လိမ္မာမည် ထင်ရလျက် မိုက်သောလူစားမျိုး၊ မိုက်မည်ထင်ရလျက် လိမ္မာသော လူစားမျိုး၊ ဆိုးမည်ထင်ရလျက် ကောင်းသော လူစားမျိုး၊ ကောင်းမည်ထင်ရလျက် ဆိုးသောလူစားမျိုး၊ ဖြောင့်မည်ထင်ရလျက် ကောက်သောလူစားမျိုး၊ ဤသို့ စသောအားဖြင့် ပုဂ္ဂိုလ်သည် အမျိုးမျိုး ရှိလေ၏။

ထိုပုဂ္ဂိုလ်၊ ဤပုဂ္ဂိုလ်၊ အနီအနီးသို့သော ပုဂ္ဂိုလ်များကို ကွဲကွဲပြားပြား ခြားခြားနားနား သိစေရန်အတွက် ဥပမာဖြင့် တင်စား၍ ပြဆိုထားချက်များကိုလည်း ကျမ်းဂန်တို့၌ ဟိုအနားတစ်ချက်၊ သည်အနားတစ်ကွက် ဆိုသကဲ့သို့ ဟိုနေရာတွေ့၊ သည်နေရာတွေ့နှင့် နေရာများစွာတို့၌ တွေ့နိုင်၏။ တွေ့ရ၊ မြင်ရပါ၏။

မှန်၏။ ပုဂ္ဂလပညတ် ပါဠိတော်၌ ပုဂ္ဂိုလ်အစားစားကို သူ့အကန့်နှင့်သူ၊ တစ်သန့်စီ တစ်ကန့်စီ ကတ္တားခြား၍ ခြား၍ ဤသို့ ဥပမာဖြင့် ပြဆိုထား ပေသည်။

## မိုးတိမ် လေးမျိုး

(၁) ချုန်းလျက် မရွာသော မိုးတစ်မျိုး၊
(၂) ရွာလျက် မချုန်းသော မိုးတစ်မျိုး၊
(၃) ချုန်းလည်းချုန်း၊ ရွာလည်းရွာသော မိုးတစ်မျိုး၊
(၄) ချုန်းလည်းမချုန်း၊ ရွာလည်းမရွာသော မိုးတစ်မျိုး။

ဤသို့အားဖြင့် မိုးတိမ်တို့သည် လေးမျိုးလေးစား ရှိကုန်၏။

စပယ်ဦးစာပေ

## မိုးတိမ်နှင့်တူသူ လေးယောက်

(၁) ချုန်းလျက် မရွာသောမိုးနှင့်တူသူ တစ်ယောက်၊

(၂) ရွာလျက်မချုန်းသောမိုးနှင့်တူသူ တစ်ယောက်၊

(၃) ချုန်းလည်းချုန်း၊ ရွာလည်းရွာသော မိုးနှင့်တူသူ တစ်ယောက်၊

(၄) ချုန်းလည်းမချုန်း၊ ရွာလည်းမရွာသော မိုးနှင့်တူသူ တစ်ယောက်၊

ဤသို့အားဖြင့် မိုးတိမ်နှင့်တူသူတို့သည် လေးယောက်ရှိကုန်၏။

## မိုးတိမ်နှင့်တူပုံ

အဘယ်သို့ တူလေသနည်း။

(၁) ဤလောက၌ လူအချို့သည် ပြောကားပြော၏။ ပြောသည့်အတိုင်း ကားမလုပ်။ (နှုတ်ကားသာပါ၏။ လက်ကားမပါချေ။) ဤသို့ ပြောရုံသာပြောလျက် ပြောတိုင်းမလုပ်သောသူသည် "ချုန်းလျက် မရွာသောမိုးနှင့် တူသည်မည်၏" ဤသို့သော လူစားမျိုးသည် လောက၌ များစွာရှိလေ၏။

(၂) ဤလောက၌ လူအချို့သည် လုပ်ကားလုပ်၏။ ပြောကားမပြောချေ။ (လက်ကသာပါ၏။ နှုတ်ကမပါ။) ဤသို့ လုပ်ရုံသာလုပ်၍ မပြောသောသူသည် "ရွာလျက်မချုန်းသော မိုးနှင့်တူသည်မည်၏။"

(၃) ဤလောက၌ လူအချို့သည် လုပ်လည်းလုပ်၏။ ပြောလည်းပြော၏။ (နှုတ်လည်းသာ၏။ လက်လည်းပါ၏။) ဤသို့လုပ်လည်းလုပ်၊ ပြောလည်းပြောသော သူသည် "ချုန်းလည်းချုန်း၊ ရွာလည်းရွာသောမိုးနှင့်တူသည်မည်၏" ဤပုဂ္ဂိုလ်မျိုး လည်း လောက၌ များစွာရှိလေ၏။

(၄) ဤလောက၌ လူအချို့သည် ပြောလည်းမပြော၊ လုပ်လည်းမလုပ်၊ ဤသို့ပြောလည်းမပြော၊ လုပ်လည်းမလုပ်သောသူသည် "ချုန်းလည်းမချုန်း၊ ရွာလည်းမရွာသော မိုးနှင့်တူသည် မည်၏။"

## ကြွက်လေးမျိုး

(၁) တွင်းတူးလျက် မအောင်းသော ကြွက်တစ်မျိုး၊

(၂) အောင်းလျက် တွင်းမတူးသော ကြွက်တစ်မျိုး၊

(၃) တွင်းလည်းတူး၊ အောင်းလည်းအောင်းသော ကြွက်တစ်မျိုး၊

(၄) တွင်းလည်းမတူး၊ အောင်းလည်းမအောင်းသော ကြွက်တစ်မျိုး။

ဤသို့အားဖြင့် ကြွက်တို့သည် လေးမျိုးရှိကုန်၏။

## ကြွက်နှင့်တူသူ လေးယောက်

(၁) တွင်းတူးလျက် မအောင်းသော ကြွက်နှင့်တူသူ တစ်ယောက်။

(၂) အောင်းလျက် တွင်းမတူးသော ကြွက်နှင့်တူသူ တစ်ယောက်။

(၃) တွင်းလည်းတူး အောင်းလည်းအောင်းသော ကြွက်နှင့်တူသူ တစ်ယောက်။

(၄) တွင်းလည်းမတူး အောင်းလည်းမအောင်းသော ကြွက်နှင့်တူသူ တစ်ယောက်။

ဤသို့အားဖြင့် ကြွက်နှင့်တူသူတို့သည် လေးယောက်ဖြစ်ကုန်၏။

## ကြွက်နှင့်တူပုံ

အဘယ်သို့ တူလေသနည်း၊

(၁) ဤလောက၌ လူအချို့သည် စာကိုကားသင်၏။ (သုတ္တ၊ ဂေယျ၊ ဝေယျာကရဏ၊ ဂါထာ၊ ဥဒါန၊ ဣတိဝုတ္တက၊ ဇာတက၊ သဗ္ဗုတဓမ္မ၊ ဝေဒလ္လ တည်းဟူသော တရားတော်ကိုကား သင်ယူ၏။) ထိုသူသည် စာ၏ အနက်အဓိပ္ပာယ် ဆိုလိုချက်ကိုကား ဘာမျှမသိ။ (ဤကား ဒုက္ခဟူ၍ ယထာဘူတကျကျ မသိ။ ဤသည်ကား ဒုက္ခဖြစ်ကြောင်း တရားဟူ၍ ဟုတ်တိုင်းမှန်ရာကိုမသိ။ ဤသည်ကား ဒုက္ခချုပ်ငြိမ်းရာဟူ၍ အမှန်ကို အမှန်အတိုင်းမသိရာ။ ဤကား ဆင်းရဲချုပ်ငြိမ်းရာ နိဗ္ဗာန်သို့သွားရာ ကျင့်စဉ်တည်းဟု မသိ။)

ဤပုဂ္ဂိုလ်သည် တွင်းသာတူးလျက် မအောင်းသောကြွက်နှင့်တူ၏။ ကြွက်သည် တွင်းသာတူးပြီး မအောင်းသကဲ့သို့ ထို့အတူ ထိုသူသည် ပိဋကတ်ကျမ်းဂန်သာ တတ်ကျွမ်းပြီး အမှန်တရားကို နားမလည်သူ ဖြစ်လေသည်။

(၂) ဤလောက၌ လူအချို့သည် စာကိုကား မသင်။ ထိုသူသည် "အမှန်တရားကိုကား သိ၏။"

ထိုပုဂ္ဂိုလ်သည် အောင်းလျက်တွင်းမတူးသော ကြွက်နှင့်တူ၏။ ထိုကြွက်သည် အောင်းသာအောင်းပြီး တွင်းမတူးသကဲ့သို့ ထို့အတူ ထိုပုဂ္ဂိုလ်သည် စာမတတ်ဘဲ လျက် အမှန်ကိုအမှန်အတိုင်း ယထာဘူတကျကျ သိသောသူ ဖြစ်လေသည်။

(၃) ဤလောက၌ လူအချို့သည် စာကိုလည်းသင်၏။ အမှန်တရားကိုလည်း သိ၏။ ထိုသူသည် တွင်းလည်းတူး၊ အောင်းလည်းအောင်းသော ကြွက်နှင့်တူ၏။

ထိုကြွက်သည် တွင်းလည်းတူး၊ အောင်းလည်းအောင်းသကဲ့သို့ ထို့အတူ ထိုသူသည် စာလည်းတတ်၊ တရားကိုလည်း ဟုတ်မှန်သောအတိုင်း သိသောသူ ဖြစ်လေသည်။

(၄) ဤလောက၌ လူအချို့သည် စာကိုလည်းမသင်။ အမှန်တရားကိုလည်း မသိ။ ထိုသူသည် တွင်းလည်းမတူး၊ အောင်းလည်း အောင်းသော ကြွက်နှင့်တူ၏။ ထိုကြွက်သည် တွင်းလည်းမတူး၊ အောင်းလည်းမအောင်းသကဲ့သို့ ထိုသူသည် စာကိုလည်းမသင်၊ ဘာကိုမျှလည်း မသိသူ ဖြစ်လေသည်။

## သရက်သီး လေးမျိုး

(၁) စိမ်းလျက်မှည့်ရောင်ထင်ရသော သရက်တစ်မျိုး။

(၂) မှည့်လျက် စိမ်းရောင်ထင်ရသော သရက်တစ်မျိုး။

(၃) စိမ်းလျက် စိမ်းရောင်ရှိသော သရက်တစ်မျိုး။

(၄) မှည့်လျက် မှည့်ရောင်ရှိသော သရက်တစ်မျိုး။

ဤသို့အားဖြင့် သရက်တို့သည် လေးမျိုးရှိကုန်၏။

## သရက်နှင့်တူသူ လေးယောက်

(၁) စိမ်းလျက် မှည့်ရောင်ရှိသော သရက်သီးနှင့်တူသူ တစ်ယောက်။

(၂) မှည့်လျက် စိမ်းရောင်ရှိသော သရက်သီးနှင့်တူသူ တစ်ယောက်။

(၃) စိမ်းလည်းစိမ်းလျက် စိမ်းရောင်ရှိသော သရက်သီးနှင့်တူသူ တစ်ယောက်။

(၄) မှည့်လျက် မှည့်ရောင်ရှိသော သရက်သီးနှင့်တူသူ တစ်ယောက်။

ဤသို့အားဖြင့် သရက်သီးနှင့်တူသူတို့သည် လေးယောက်ရှိကုန်၏။

## သရက်နှင့်တူပုံ

အဘယ်သို့ တူလေသနည်း။

(၁) ဤလောက၌ အချို့သောပုဂ္ဂိုလ်၏ ရှေ့သို့ ခြေလှမ်းပုံ၊ နောက်သို့ ပြန်ဆုတ်ပုံ၊ ကြည့်ရှုရာတွင်လည်း ရှေ့တူရူသို့ကြည့်ပုံ၊ ဘေးတိုက်ဘေးစောင်းကြည့်ပုံ၊ ခြေ လက်ကို ကွေးပုံ၊ ဆန့်ပုံ၊ ဒုကုဋ်၊ သပိတ်၊ သင်္ကန်းကိုဆောင်ပုံများသည် မြင်ရသူတို့အား ကြည်ညိုခြင်းကိုဖြစ်စေ၏။ ကြည်ညိုဖွယ်ဆောင်၏။ ထိုပုဂ္ဂိုလ်သည် စကားမတတ်။ အမှန်တရားကိုမသိ။

ဤသို့ ကြည်ညိုဖွယ်ရှိလျက် အမှန်တရားကို မသိသော ပုဂ္ဂိုလ်သည် စိမ်းလျက် မှည့်ရောင်ရှိသော သရက်သီးနှင့်တူ၏။ ထိုသရက်သီးသည် စိမ်းလျက် မှည့်သည်ထင်ရသကဲ့သို့ ထို့အတူ ဤသို့သောပုဂ္ဂိုလ်မျိုးကား ကြည်ညိုဖွယ်ရှိလျက် အမှန်တရားကို မသိသောပုဂ္ဂိုလ် ဖြစ်လေသည်။

(၂) ဤလောက၌ အချို့သော ပုဂ္ဂိုလ်၏ရှေ့သို့ ခြေလှမ်းပုံ၊ နောက်ပြန်ဆုတ်ပုံ၊ ကြည့်ရှုရာတွင်လည်း ရှေ့တူရူသို့ကြည့်ပုံ၊ ဘေးတိုက်ဘေးစောင်းကြည့်ပုံ၊ လက်ခြေတို့ကိုကွေးပုံ၊ ဆန့်ပုံ၊ ဒုကုဋ်၊ သပိတ်၊ သင်္ကန်းကို ဆောင်ပုံများသည် မြင်သူတို့အား ကြည်ညိုဖွယ်မဖြစ်စေ၊ ကြည်ညိုဖွယ် သပ္ပာယ်လှခြင်းမရှိ။ ထိုပုဂ္ဂိုလ်သည် အမှန်တရားကိုကား သိ၏။

ဤသို့ကြည်ညိုဖွယ်မရှိဘဲလျက် အမှန်ကို အမှန်အတိုင်း ယထာဘူတကျကျ သိသောပုဂ္ဂိုလ်သည် မှည့်လျက်စိမ်းရောင်ရှိသော သရက်သီးနှင့်တူ၏။ ထိုသရက်သီးသည် မှည့်လျက်စိမ်းရောင်ရှိသကဲ့သို့ ထို့အတူ ဤပုဂ္ဂိုလ်ကား ကြည်ညိုဖွယ်မရှိသော်လည်း အမှန်တရားကို သိသောပုဂ္ဂိုလ်ဖြစ်လေသည်။

(၃) ဤလောက၌ အချို့သောပုဂ္ဂိုလ်သည် ကြည်ညိုဖွယ်လည်းမရှိ။ အမှန်တရားကိုလည်း ယထာဘူတကျကျ မသိ။ ဤသို့ ကြည်ညိုဖွယ်လည်းမရှိ၊ တရားကိုလည်း မသိသောပုဂ္ဂိုလ်သည် စိမ်းလျက်စိမ်းရောင်ရှိသော သရက်သီးနှင့်တူ၏။ ထိုသရက်သီးသည် စိမ်းလျက်စိမ်းရောင်ရှိသကဲ့သို့ ထို့အတူ ဤသို့သော ပုဂ္ဂိုလ်သည် ကြည်ညိုဖွယ်လည်းမရှိ၊ တရားကိုလည်း မသိသောပုဂ္ဂိုလ်ဖြစ်လေသည်။

(၄) ဤလောက၌ အချို့သော ပုဂ္ဂိုလ်သည် ကြည်ညိုဖွယ်လည်းရှိ၏။ အမှန်တရားကိုလည်းသိ၏။ ဤသို့ကြည်ညိုဖွယ်လည်းရှိ၊ အမှန်တရားကိုလည်း သိသော ပုဂ္ဂိုလ်သည် မှည့်လျက်မှည့်ရောင်ရှိသော သရက်သီးနှင့်တူ၏။ ထိုသရက်သီးသည် မှည့်လျက်မှည့်ရောင်ရှိသကဲ့သို့ ထို့အတူဤသို့သောပုဂ္ဂိုလ်သည် ကြည်ညိုဖွယ်လည်းရှိ၊ တရားကိုလည်းသိသော ပုဂ္ဂိုလ်ဖြစ်လေသည်။

## အိုး လေးမျိုး

(၁) ရေမရှိဘဲလျက် ပိတ်ထားသော အိုးတစ်မျိုး။
(၂) ရေပြည့်လျက် ဖွင့်ထားသော အိုးတစ်မျိုး။
(၃) ရေမရှိဘဲလျက် ဖွင့်ထားသော အိုးတစ်မျိုး။
(၄) ရေပြည့်လျက် ပိတ်ထားသော အိုးတစ်မျိုး။

ဤသို့အားဖြင့် အိုးတို့သည် လေးမျိုးရှိကုန်၏။

## အိုးနှင့်တူသူ လေးယောက်

(၁) ရေမရှိဘဲလျက် ပိတ်ထားသောအိုးနှင့်တူသူ တစ်ယောက်။
(၂) ရေပြည့်လျက် ဖွင့်ထားသော အိုးနှင့်တူသူ တစ်ယောက်။
(၃) ရေမရှိဘဲလျက် ဖွင့်ထားသော အိုးနှင့်တူသူ တစ်ယောက်။

(၄) ရေပြည့်လျက် ပိတ်ထားသော အိုးနှင့်တူသူ တစ်ယောက်။
ဤသို့အားဖြင့် အိုးနှင့်တူသူတို့သည် လေးမျိုးဖြစ်ကုန်၏။

## အိုးနှင့်တူပုံ

(**မှတ်ချက်**။ ။ဥပမာ၊ ဥပမေယျ အနက်အဓိပ္ပာယ်မှာ သရက်သီးလေးမျိုး အတိုင်းဖြစ်၏။ စိမ်းလျက်မှည့်ရောင် သရက်သီးကို ရေမရှိဘဲလျက် ပိတ်ထားသော အိုးနှင့်ဟပ်ယူ၊ မှည့်လျက် စိမ်းရောင်သရက်သီးကို ရေပြည့်လျက် ဖွင့်ထားသောအိုးနှင့် ဟပ်ယူ၊ တက်ခြင်း၊ ဆုတ်ခြင်း၊ ကွေးခြင်း၊ ဆန့်ခြင်း စသည်တို့မှာ အတူတူ။)

## ရေအိုင် လေးမျိုး

(၁) တိမ်လျက် နက်ယောင်ရှိသော ရေအိုင်တစ်မျိုး။
(၂) နက်လျက် တိမ်ယောင်ရှိသော ရေအိုင်တစ်မျိုး။
(၃) တိမ်လျက် တိမ်ယောင်ရှိသော ရေအိုင်တစ်မျိုး။
(၄) နက်လျက် နက်ယောင်ရှိသော ရေအိုင်တစ်မျိုး။

ဤသို့အားဖြင့် ရေအိုင်တို့သည် လေးမျိုးဖြစ်ကုန်၏။

## ရေအိုင်နှင့်တူသူ လေးယောက်

(၁) တိမ်လျက် နက်ယောင်ရှိသော ရေအိုင်နှင့်တူသူ တစ်ယောက်၊
(၂) နက်လျက် တိမ်ယောင်ရှိသော ရေအိုင်နှင့်တူသူ တစ်ယောက်၊
(၃) တိမ်လျက် တိမ်ယောင်ရှိသော ရေအိုင်နှင့်တူသူ တစ်ယောက်၊
(၄) နက်လျက် နက်ယောင်ရှိသော ရေအိုင်နှင့်တူသူ တစ်ယောက်။

ဤသို့အားဖြင့် ရေအိုင်နှင့်တူသူတို့သည် လေးမျိုးဖြစ်ကုန်၏။

## ရေအိုင်နှင့်တူပုံ

(**မှတ်ချက်**။ ။ယခင်သရက်သီး ဥပမာအတိုင်းမှတ်။ တိမ်လျက်နက်ယောင် ရှိသော ရေကို စိမ်းလျက်မှည့်ယောင်ရှိသော သရက်သီးနှင့်ဟပ်ယူ။ ကွေးခြင်း၊ ဆန့်ခြင်းစသည်လည်း အတူတူ။)

## နွားလား လေးမျိုး

(၁) ကိုယ့်နွားအုပ်ထဲမှာသာ ဗိုလ်ကျ၍ အခြားနွားအုပ်၌ ဗိုလ်မကျသော နွားလားတစ်မျိုး၊

(၂) အခြားနွားအုပ်၌ မိုလ်ကျ၍ ကိုယ့်နွားအုပ်တွင် မိုလ်မကျသော နွားလားတစ်မျိုး၊

(၃) ကိုယ့်နွားအုပ်ရော၊ သူ့နွားအုပ်ပါ မိုလ်ကျသော နွားလားတစ်မျိုး၊

(၄) ကိုယ့်နွားအုပ်မှာရော၊ သူ့နွားအုပ်မှာရော မိုလ်မကျသောနွားလား တစ်မျိုး၊

ဤသို့အားဖြင့် နွားလားတို့သည် လေးမျိုးဖြစ်ကုန်၏။

## နွားလားနှင့်တူသူ လေးယောက်

(၁) ကိုယ့်အချင်းချင်း မိုလ်ကျ၍ သူ့အုပ်သင်း၌ မိုလ်မကျသော နွားလားနှင့်တူသူ တစ်ယောက်။

(၂) သူ့အုပ်သင်း၌ မိုလ်ကျ၍ ကိုယ့်အချင်းချင်း မိုလ်မကျသော နွားလားနှင့်တူသူ တစ်ယောက်။

(၃) ကိုယ့်အချင်းချင်းကိုရော၊ သူ့အုပ်သင်းကိုရော မိုလ်ကျသော နွားလားနှင့်တူသူ တစ်ယောက်။

(၄) ကိုယ့်အချင်းချင်းကိုရော၊ သူ့အုပ်သင်းကိုရော မိုလ်မကျသော နွားလားနှင့်တူသူ တစ်ယောက်။

ဤသို့အားဖြင့် နွားလားနှင့်တူသူတို့သည် လေးမျိုးဖြစ်ကုန်၏။

## နွားလားနှင့်တူပုံ

အဘယ်သို့ တူလေသနည်း။

(၁) လောက၌ အချို့သောပုဂ္ဂိုလ်သည် ကိုယ့်ပရိသတ်၊ ကိုယ့်ဘက်တော်သားကို လန့်ထိတ်၊ ချောက်ချားစေလျက် သူ့ပရိသတ်ကိုကား မထိပါးလေ။ ဤသို့သော ပုဂ္ဂိုလ်မျိုးသည် ကိုယ့်နွားအုပ်ထဲမှာသာ မိုလ်ကျ၍ သူ့အုပ်ထဲ၌ မိုလ်မကျရဲသော နွားလားနှင့်တူ၏။ ထိုနွားလားသည် ကိုယ့်အုပ်ထဲမှာသာ မိုလ်ကျ၍ သူ့အုပ်၌ကား မိုလ်မကျရဲသကဲ့သို့ ထို့အတူ ဤပုဂ္ဂိုလ်သည် ကိုယ့်အချင်းချင်း၊ ကိုယ့်ပရိသတ်၊ ကိုယ့်ဘက်တော်သား၊ ကိုယ့်လုပ်ဖော်ကိုင်ဘက်များ အပေါ်၌သာ မိုလ်ကျ၍ အခြားအုပ်စု၊ အခြားသူများအပေါ် မိုလ်မကျရဲသော ပုဂ္ဂိုလ်မျိုးဖြစ်လေသည်။

(၂) အချို့သော ပုဂ္ဂိုလ်သည် တစ်ဖက်အုပ်စု၊ တစ်ဖက်အဖွဲ့အစည်း၊ တစ်ဖက်ဂိုဏ်းဂဏကို ထိတ်လန့်တုန်လှုပ်ချောက်ချားစေပြီး ကိုယ့်အုပ်စု၊ ကိုယ့်အဖွဲ့အစည်း၊ ကိုယ့်ဂိုဏ်းဂဏကိုကား မထိတ်လန့်စေ၊ မတုန်လှုပ်စေ၊ မချောက်ချား

စေ။ ဤသို့သော ပုဂ္ဂိုလ်မျိုးသည် သူ့နွားအုပ်၌ ဗိုလ်ကျ၍ ကိုယ့်အုပ်ထဲ၌ ဗိုလ်မကျသော နွားလားနှင့်တူ၏။ ထိုနွားလားသည် သူ့အုပ်ထဲ၌သာ ဗိုလ်ကျ၍ကိုယ့်နွားအုပ်ထဲ၌ ဗိုလ်မကျသကဲ့သို့ ထို့အတူဤပုဂ္ဂိုလ်သည် တစ်ဖက်အုပ်စု၊ တစ်ဖက်အဖွဲ့ အစည်းတစ်ဖက် ဂိုဏ်းဂဏအပေါ် ဗိုလ်ကျ၍ ကိုယ့်အချင်းချင်း၊ ကိုယ့်အုပ်စု၊ ကိုယ့်ဂိုဏ်းဂဏ အဖွဲ့အစည်းအပေါ်၌ ဗိုလ်မကျသော ပုဂ္ဂိုလ်မျိုးဖြစ်လေသည်။

(၃) ဤလောက၌ အချို့သောပုဂ္ဂိုလ်သည် ကိုယ့်ပရိသတ်ကိုရော၊ သူ့ပရိသတ်ကိုပါ ဗိုလ်ကျ၏။ (ဝါ)ကိုယ့်အချင်းချင်းအပေါ်၌လည်းကောင်း၊ သူတစ်ပါးအပေါ်၌ လည်းကောင်း ဗိုလ်ကျ၏။ ဤသို့သောပုဂ္ဂိုလ်သည် ကိုယ့်အုပ်၌ လည်း ဗိုလ်ကျ၊ သူ့အုပ်၌လည်းဗိုလ်ကျသော နွားလားနှင့်တူ၏။ ထိုနွားလားသည် ကိုယ့်အုပ်၊ သူ့အုပ်၊ နွားနှစ်အုပ်စလုံးအပေါ်၌ ဗိုလ်ကျသကဲ့သို့ ထို့အတူ ဤပုဂ္ဂိုလ်သည် ကိုယ့်ပရိသတ်၊ သူ့ပရိသတ်၊ (ဝါ)ကိုယ့်အုပ်စု၊ သူ့အုပ်စု၊ အုပ်စုနှစ်စုစလုံးအပေါ်၌ ဗိုလ်ကျသော ပုဂ္ဂိုလ်မျိုးဖြစ်လေသည်။

(၄) ဤလောက၌ အချို့သော ပုဂ္ဂိုလ်သည် ကိုယ့်ပရိသတ်ကိုရော၊ သူ့ပရိသတ်ကိုပါ ဗိုလ်မကျ။ (ဝါ) ကိုယ့်အချင်းချင်း အပေါ်၌လည်းကောင်း၊ သူတစ်ပါးအပေါ်၌လည်းကောင်း ဗိုလ်မကျ၊ ခြိမ်းခြောက်ခြင်းမပြု။ ဤသို့သော ပုဂ္ဂိုလ်သည် ကိုယ့်အုပ်၌လည်း ဗိုလ်မကျ၊ သူ့အုပ်၌လည်း ဗိုလ်မကျသော နွားလားနှင့်တူ၏။ ထိုနွားလားသည် ကိုယ့်အုပ်၊ သူ့အုပ်၊ နွားနှစ်အုပ်စလုံးအပေါ်၌ ဗိုလ်မကျ၊ ခြိမ်းခြောက်ခြင်းမပြုသကဲ့သို့ ထို့အတူ ဤပုဂ္ဂိုလ်သည် ကိုယ့်ပရိသတ်၊ သူ့ပရိသတ် (ဝါ) ကိုယ့်အုပ်စု၊ သူ့အုပ်စု နှစ်ခုစလုံးအပေါ်၌ ဗိုလ်မကျသော ပုဂ္ဂိုလ်မျိုး ဖြစ်လေသည်။

## မြွေ လေးမျိုး

(၁) အတက်မြန်လျက် အဆိပ်မပြင်းသော မြွေတစ်မျိုး။
(၂) အဆိပ်ပြင်းလျက် အတက်မမြန်သော မြွေတစ်မျိုး။
(၃) အတက်လည်းမြန် အဆိပ်လည်းပြင်းသော မြွေတစ်မျိုး။
(၄) အတက်လည်းမမြန် အဆိပ်လည်းမပြင်းသော မြွေတစ်မျိုး။

## မြွေနှင့်တူသူ လေးယောက်

(၁) အတက်မြန်လျက် အဆိပ်မပြင်းသော မြွေနှင့်တူသူ တစ်ယောက်။
(၂) အဆိပ်ပြင်းလျက် အတက်မမြန်သော မြွေနှင့်တူသူ တစ်ယောက်။
(၃) အတက်လည်း မြန်၊ အဆိပ်လည်း ပြင်းသော မြွေနှင့်တူသူ တစ်ယောက်။

(၄) အတက်လည်း မမြန်၊ အဆိပ်လည်း မပြင်းသော မြွေနှင့်တူသူ တစ်ယောက်။

ဤသို့အားဖြင့် မြွေနှင့်တူသူတို့သည် လေးယောက်ဖြစ်ကုန်၏။

## မြွေနှင့်တူပုံ

အဘယ်သို့ တူလေသနည်း။

(၁) ဤလောက၌ အချို့သောပုဂ္ဂိုလ်သည် အမြဲစိတ်ဆိုး'ဒေါသ'ထွက်တတ်၏။ ထိုဒေါသကား ထိုသူ၏သန္တာန်၌ အရှည်စွဲ၍မနေ။ ခဏအတွင်းဆိုသလို ပင် ပြေသွား၏။ ဤသို့သော ပုဂ္ဂိုလ်သည် အတက်မြန်လျက် အဆိပ်မပြင်းသော မြွေနှင့်တူ၏။ ထိုမြွေသည် (ကိုက်လေသော်) အတက်မြန်လျက် အဆိပ်မပြင်းသကဲ့သို့ ထို့အတူ ဤပုဂ္ဂိုလ်သည် ရက်တရက် ဒေါသအမျက်ခြောင်းခြောင်းထွက်ပြီး ပြေပျောက် လွယ်သော ပုဂ္ဂိုလ်မျိုးဖြစ်လေသည်။

(၂) ဤလောက၌ အချို့သော ပုဂ္ဂိုလ်သည် စိတ်မဆိုးတတ်၊ ဒေါသ မထွက်တတ်၊ (အကယ်၍ ဒေါသထွက် စိတ်ဆိုးလတ်သော်) ထိုအမျက်ဒေါသ သည် ထိုပုဂ္ဂိုလ်အား ကြာရှည်စွာ စွဲတည်နေတတ်၏။ ဤသို့သောပုဂ္ဂိုလ်သည် အဆိပ်ပြင်းလျက် အတက်မမြန်သော မြွေနှင့်တူ၏။ ထိုမြွေသည် (ကိုက်လတ်သော်) အဆိပ်ပြင်းလျက် အတက်မမြန်သကဲ့သို့ ထို့အတူ ဤပုဂ္ဂိုလ်သည် ရက်တရက် ဒေါသအမျက်မထွက်သော်လည်း ထွက်မိပြီဆိုသောအခါ ပြေပျောက်ခဲသော ပုဂ္ဂိုလ်မျိုး ဖြစ်လေသည်။

(၃) ဤလောက၌ အချို့သောပုဂ္ဂိုလ်သည် အမျက်ဒေါသလည်း ထွက် လွယ်သည်။ ပြေလည်းပြေခဲ၏။ ဤသို့သောပုဂ္ဂိုလ်မျိုးသည် အတက်လည်းမြန်၊ အဆိပ်လည်းပြင်းသော မြွေနှင့်တူ၏။ ထိုမြွေသည် အတက်လည်းမြန်၊ အဆိပ် လည်းပြင်းသကဲ့သို့ ထို့အတူ ဤပုဂ္ဂိုလ်သည် ဒေါသလည်းထွက်လွယ်၊ စိတ်လည်း ဆိုးလွယ်၍ ပြေလည်းပြေခဲသော ပုဂ္ဂိုလ်မျိုးဖြစ်လေသည်။

(၄) ဤလောက၌ အချို့သော ပုဂ္ဂိုလ်သည် အမျက်ဒေါသလည်း မထွက်တတ်၊ (ထွက်ခဲ့သော်လည်း) အကြိတ်အခဲနှင့် အရှည်စွဲမနေဘဲ ပြေပျောက် လွယ်၏။ ဤသို့သော ပုဂ္ဂိုလ်သည် အတက်လည်းမမြန်၊ အဆိပ်လည်းမပြင်းသော မြွေနှင့်တူ၏။ ထိုမြွေသည် အတက်လည်းမမြန်၊ အဆိပ်လည်းမပြင်းသကဲ့သို့ ထို့အတူ ဤပုဂ္ဂိုလ်သည်လည်း ဒေါသလည်းမထွက်၊ စိတ်လည်းမဆိုးတတ်။ (အကယ်၍ စိတ်ဆိုးဒေါသထွက်သည့်တိုင်အောင်) အကြိတ်အခဲနှင့် အရှည်စွဲမနေဘဲ ပြေပျောက်လွယ်သော ပုဂ္ဂိုလ်မျိုးဖြစ်လေသည်။

## သစ်ပင် လေးမျိုး

(၁) အခွံဖြစ်လျက် အနှစ်ရှိသော အပင်တစ်မျိုး။
(၂) အနှစ်ဖြစ်လျက် အခွံရှိသော အပင်တစ်မျိုး။
(၃) အခွံဖြစ်လျက် အခွံရှိသော အပင်တစ်မျိုး။
(၄) အနှစ်ဖြစ်လျက် အနှစ်ရှိသော အပင်တစ်မျိုး။

ဤသို့အားဖြင့် သစ်ပင်တို့သည် လေးမျိုးဖြစ်ကုန်၏။

## သစ်ပင်နှင့်တူသူ လေးယောက်

(၁) အခွံဖြစ်လျက် အနှစ်ရှိသော အပင်နှင့်တူသူ တစ်ယောက်။
(၂) အနှစ်ဖြစ်လျက် အခွံရှိသော အပင်နှင့်တူသူ တစ်ယောက်။
(၃) အခွံဖြစ်လျက် အခွံရှိသော အပင်နှင့်တူသူ တစ်ယောက်။
(၄) အနှစ်ဖြစ်လျက် အနှစ်ရှိသော အပင်နှင့်တူသူ တစ်ယောက်။

ဤသို့အားဖြင့် သစ်ပင်နှင့်တူသူတို့သည် လေးယောက်ဖြစ်ကုန်၏။

## သစ်ပင်နှင့်တူပုံ

အဘယ်သို့ တူလေသနည်း။

(၁) ဤလောက၌ အချို့သောပုဂ္ဂိုလ်သည် သီလမရှိ။ အကျင့်ယုတ်၏။ သူ၏အခြွေအရံပရိသတ်မှာမူ သီလရှိသည်။ ကိုယ်ကျင့်တရား ကောင်းမွန်သည် ဖြစ်၏။ ဤသို့သော ပုဂ္ဂိုလ်သည် အခွံဖြစ်လျက် အနှစ်သာရခြံရံသော သစ်ပင်နှင့်တူ၏။

(၂) ဤလောက၌ အချို့သောပုဂ္ဂိုလ်သည် သီလရှိ၏။ အကျင့်ကောင်း၏။ ထိုသူ၏ အခြွေအရံ ပရိသတ်များကား သီလလည်းမရှိ။ အကျင့်လည်းယုတ်၏။ ဤသို့သော ပုဂ္ဂိုလ်သည် အနှစ်သာရဖြစ်လျက် အခွံခြံရံသော သစ်ပင်နှင့်တူ၏။

(၃) ဤလောက၌ အချို့သောပုဂ္ဂိုလ်သည် သီလလည်းမရှိ၊ အကျင့်လည်း ယုတ်၏။ ယင်း၏အခြံအရံများသည်လည်း ထိုနည်းလည်းကောင်း သီလလည်း မရှိ၊ အကျင့်လည်းယုတ်၏။ ဤသို့သောပုဂ္ဂိုလ်သည် အခွံဖြစ်လျက် အခွံခြံရံသော သစ်ပင်နှင့်တူ၏။

(၄) ဤလောက၌ အချို့သောပုဂ္ဂိုလ်သည် သီလလည်းရှိ၏။ အကျင့် လည်းကောင်း၏။ ယင်း၏အခြွေအရံများသည်လည်း သူကဲ့သို့ပင် သီလလည်း ရှိ၏။ အကျင့်လည်းကောင်းကြ၏။ ဤသို့သော ပုဂ္ဂိုလ်သည် အနှစ်သာရဖြစ်လျက် အနှစ်သာရ ခြံရံသော သစ်ပင်နှင့်တူလေ၏။

အဘိဓမ္မာပိဋက၊ ပုဂ္ဂလပညတ် ပါဠိတော်၊ စတုက္ကပုဂ္ဂလပညတ္တိ။ ၁၄၈၊ ၁၆၁၊ ဆဋ္ဌမူ)

( ၃၂ )

# ဗိဝကပဉ္စာ

"ဝင်အမြဲ၊ ငရဲမှာအပ"ဟုဆိုသည်။ ငရဲသို့မလားအောင် ရှောင်ကွင်းနိုင်သော်လည်း ဝင့်မှလွတ်မြောက်အောင် ဆိုသည်ကိုမူကား ဘုရားသော်မှပင် မတတ်နိုင်ဟု ဆိုခြင်းပင်တည်း။

အောက်ပါဖြစ်ရပ်သည် ယင်းစကား၏ မှတ်ကျောက်တစ်ခုပင်။

အချိန်မှာ ယုဂန်ဇွေစွန်းမှ နေဝန်းကြီးထွက်ပြူလာစအချိန် ဖြစ်လေသည်။ ထိုနေ့ထွက်ပြူလာသော နေရောင်ခြည်သည် ခါတိုင်းကဲ့သို့ ကြည်လင်ခြင်းမရှိလှ။ အရောင်ဖျော့ဖျော့နှင့် အားပျော့နေပုံရ၏။ ညှိုးငယ်နွမ်းလျ ဝမ်းနည်းလှသည့် အသွင်ထင်နေ၏။

ထိုနေ့အဖို့ နေမင်းသည် ဂိဇ္ဈကုဋ်တောင်ရိုးကို နေခြည်ထိုးလိုက်ရသော်လည်း "ငါ့ပယောဂများ ပါလေမည်လား"ဟု တွေးပူမိကာ မသာမယာ ဖြစ်နေဟန်တူ၏။

ဤအတွေးဖြင့် နေမင်းကြီး ဆွေးမည်ဆိုကလည်း ဆွေးထိုက်ပေသည်။ ဂိဇ္ဈကုဋ်တောင်စောင်းက ကျောက်မောင်းဆင်နေကြပါပြီကော။

သူတို့ကား မည်သူတွေနည်း။

ဘုရားကိုသတ်၍ ဘုရားလုပ်မည့်သူက တစ်ယောက်၊ ဘုရင်ကိုသတ်၍ ဘုရင်လုပ်မည့်သူက တစ်ယောက်၊ ဤသို့ နှစ်ယောက်တို့ ဖြစ်လေသည်။ ဤသူနှစ်ယောက်အနက် တစ်ဦးကား ဒေဝဒတ်၊ တစ်ဦးကား အဇာတသတ်ဖြစ်သောဟူပေ၏။

ကျောက်တုံးကြီးတစ်ခု ဘေးတွင်ရပ်လျက် သူတို့နှစ်ယောက်က အမိန့်ပေးနေသည်။ အာဏာသားများက ကျောက်တုံးကြီးကို တောင်အောက်သို့ တွန်းလှိမ့်ချရန် အသင့်ပြင်ပြီး ဖြစ်နေသည်။

ဒေဝဒတ်နှင့် အဇာတသတ်သည် တောင်အောက်ကို ခဏခဏငုံ့ကြည့်ကာ ကြည့်ကာနှင့်ရှိနေသည်။ အာဏာသားများသည် သူတို့ထံမှအမိန့်ကို စောင့်ရင်း ဒေဝဒတ်နှင့် အဇာတသတ် မျက်နှာကိုသာ အကဲခတ်လျက် ရှိနေကြသည်။

အဇာတသတ်သည် အောက်သို့ ငုံ့ကြည့်လျက်မှ လက်ဟန်ဖြင့်"ချလိုက်"ဟု အမိန့်ပေးလိုက်သည့်အဆုံးတွင် "ဝုန်း"ဟူသော အသံကြီးသည် တစ်တောင်လုံး ဟိန်းကာ ပဲ့တင်ထပ်လျက် ထွက်လာသည်နှင့်တစ်ချိန်တည်းမှာပင် သပိတ်တော်သည် ဘုရားသခင်၏ လက်တော်မှလွင့်စဉ်လျက် တစ်နေရာသို့ လိမ့်သွားလေသည်။ ဘုရားသခင်မှာလည်း ခွေလျက်သား လဲကျသွားလေ၏။

"ဟင်– ဘုရားသခင်ကို ထိသွားပါပြီကော"

ရဟန်းတို့ ပြေးလာကုန်ပြီး ဘုရားသခင်အား ဝိုင်းဝန်းပွေ့ထူပြုစုကြကုန်၏။ ခြေတော်၌ ထိခတ်မိသောဒဏ်ရာကြောင့် ဘုရားသခင်၌ ဝေဒနာသည် ပြင်းစွာ ဖြစ်လေ၏။

ရဟန်းတို့လည်း နောက်ထပ် အန္တရာယ်တွေ့မည်စိုးသောကြောင့် ဘုရားသခင်ကို အတင်းထမ်းကာ မဒ္ဒကုစ္ဆိတောင်သို့ ဆောင်ယူပြေးကြလေ၏။ ထိုအခါ—

"ရဟန်းတို့၊ ငါ့ကို ဇီဝကဥယျာဉ်သို့ ခေါ်သွားကြ။ ဇီဝကဥယျာဉ်သို့ ခေါ်သွားကြ"ဟု စေခိုင်းတော်မူသဖြင့် ရဟန်းတို့လည်း အမိန့်တော်အတိုင်း ဇီဝကဥယျာဉ်သို့ ကွေ့ကာ ဘုရားသခင်ကို ထမ်းဆောင်ပြေးကြလေ၏။

ဤရှုကွက်ကို တောင်ပေါ်မှကြည့်ကာ အဇာတသတ်အား ဒေဝဒတ်က အားပါးတရ ပြောလေသည်ကား—

"ဒကာ၊ ငါ့တာဝန်ကျေပြီ။ ငါ့ကိစ္စကားပြီးပြီ။ ဂေါတမ သေပြီ။ ငါဘုရားပြုအံ့။ သင်လည်း သင့်တာဝန်ကျေအောင်လုပ်။ ခမည်းတော်ကို သတ်၍ မင်းပြုလော့" ဟူပေသတည်း။

ဇီဝကလည်း ဘုရားသခင် ဒဏ်ရာရကြောင်းကြားလျှင်ကြားချင်း ပြေးလာပြီးလျှင် ကုသခြင်းပြုလေ၏။ အနာကိုဆေးထည့်ပြီး စည်းနှောင်၍ (ပတ်တီးစည်း၍) ပေးပြီးလျှင် ဤသို့လျှောက်၏။

"အရှင်ဘုရား၊ ဝေဒနာက တဖြည်းဖြည်း သက်သာသွားပါလိမ့်မည်ဘုရား၊ မြို့ထဲ၌ အရေးကြီးသော လူနာတစ်ဦးကို ကုစားရန်ရှိနေပါသည်။ တပည့်တော်အား သွားခွင့်ပြုတော်မူပါ။ မကြာခင် ချက်ချင်းဆိုသလိုပင် တပည့်တော် ပြန်လာခဲ့ပါ

မည်။ အနာစည်းနှောင်ထားသည်ကို တပည့်တော် မလာမချင်း မဖြေပါနှင့်ဘုရား''ဟု ဤသို့ လျှောက်ထားပြီး ဘုရားသခင်၏အပါးမှ ဖဲခွာသွားလေ၏။

သို့သော် ဇီဝကမှာ ချက်ချင်းပြန်လာလိုသော်လည်း လူနာမှာ အလွန်အရေးကြီးသော(အသက်ကိုလုယူရသော) အခြေအနေဆိုက်နေသဖြင့် ထိုလူနာကို ထားခဲ့၍လည်း မသင့်လျော်ဖြစ်နေသည်။ ဘုရားသခင်ထံသို့လည်း အမြန်ပြန်လာ လိုသည်။ သို့သော် အခြေအနေက သူ့ကိုခွင့်မပြုလေ။

နေမွန်းတည့်ပြီဖြစ်၏။ ဇီဝကသည် ပြန်မရောက်လာသေး။ ညနေစောင်းသွားပြီဖြစ်၏။ ဇီဝကကား မလာသေး။ နေဝင်သွားပြီဖြစ်၏၊ ဇီဝကကား မလာသေး။

ခြေတော်၌ ခံမှန်သောဒဏ်ရာကြောင့် ဘုရားသခင်အား ကိုက်ခဲနာကျင်သော ဝေဒနာတို့သည် ပြင်းစွာဖြစ်လာကုန်လေ၏။ မြတ်စွာဘုရားသည် သတိကြီးစွာထား လျက် ထိုဝေဒနာကို သည်းခံတော်မူနေ၏။ အကိုက်အခဲ နာကျင်မှုသက်သာစိမ့်သောငှာ မြတ်စွာဘုရားသည် ဒုကုဋ်သင်္ကန်းကြီးကို လေးခေါက်ခေါက်၍ ခင်းပြီးလျှင် လက်ယာစောင်း၍ လျောင်းတော်မူသည်၊ ခြေတစ်ဖက်ပေါ်တွင် ဒဏ်ရာရသော ခြေကိုတင်လျက် သတိနှင့် လျောင်းတော်မူ၏။

ထိုအချိန်တွင် မာရ်နတ် ရုတ်တရက်ရောက်လာပြီး ဘုရားသခင်အား ဤသို့ မေးလျှောက်ခြင်းပြု၏။

မာရ်နတ်။ ။သင်သည် မိန်းမောတွေဝေသဖြင့် အိပ်သလော။[၁] သို့မဟုတ် ကဗျာဆရာများကဲ့သို့ စိတ်ကူး၍ အိပ်သလော။ သင့်အားများစွာသော အကျိုးတို့သည် မရှိကုန်သလော။ တိတ်ဆိတ်သောနေရာ၌ တစ်ယောက်တည်း အဘယ့်ကြောင့် အိပ်နေပါသနည်း။

ဗုဒ္ဓ။ ။ငါသည် မိန်းမောတွေဝေသဖြင့် အိပ်သည်မဟုတ်။ ကဗျာဆရာများကဲ့သို့ စိတ်ကူး၍ အိပ်သည်မဟုတ်။ ငါသည် နိဗ္ဗာန်ဟူသောအကျိုးသို့ ကောင်းစွာ ရောက်ပြီးသူဖြစ်သဖြင့် ငါ့မှာ ပူပင်ကြောင့်ကြစရာ သောကမရှိ။ သတ္တဝါခပ်သိမ်းတို့အား ချီးမြှောက်လိုစိတ်၊ စောင့်ရှောက်လိုစိတ်ဖြင့် ဆိတ်ငြိမ်ရာအရပ်၌ ငါ တစ်ယောက်တည်း အိပ်၏။

---

၁။ (၁) မန္ဒိယာနုတိ မန္ဒဘာဝေန မောမူဟာဘာဝေန။ (၂) ဥဒါဟု ကာဝေယျ မတ္တောတိ ယထာ ကဝိကဗ္ဗ စိန္တေန္တော တေနကဗ္ဗကရဏေန မတ္တော သယတိ၊ ဧဝံ သယတိ (သဂါထာဝဂ္ဂ သံယုတ်အဋ္ဌကထာ၊ သလီကာသုတ္တ ဝဏ္ဏနာ၊ မာရသံယုတ်၊ ၁၆၂၊ ဆဋ္ဌမူ)

အကြင်သူတို့၏ ရင်ဝ၌ မြားသည် စူးဝင်လေ၏။ ထိုသူတို့၏နှလုံးသားသည် တလှပ်လှပ်တုန်လှုပ်နေ၏။ ရင်ဝ၌ မြားတန်းလန်းနှင့် ရှိနေသူများပင်လျှင် အိပ်ခြင်းကို ရနိုင်တုံသေး၏။ မြားစူးခြင်းမရှိသောငါ့အား အဘယ့်ကြောင့် မအိပ်ဘဲ ရှိမည်နည်း။

ငါသည် ဘေးရန်ရှိသော ခရီးပင်ဖြစ်စေဦးတော့ "ငါ့အားဘေးဖြစ်လိမ့်မည်လား"ဟူ၍ ယုံမှားခြင်းအလျှင်းမရှိ၊ အကယ်၍ ဘေးရန်ရှိစေကာမူလည်း ငါ အိပ်ရဲသည်၊ မကြောက်။ နေ့ညဥ့်တို့သည် ငါ့ကို မပူစေရကုန်။ လောက၌ တစ်စုံတစ်ခုသော ဆုတ်ယုတ်ခြင်းကိုမမြင်။ ထို့ကြောင့် **သတ္တဝါခပ်သိမ်းတို့အပေါ်၌ ထားရှိသော သနားကရုဏာစိတ်ဖြင့် ငါအိပ်၏။**

ဤသို့ မိန့်တော်မူလတ်သော် မာရ်နတ်သည် "ငါ့အကြောင်းဘုရားသိသွားပြီ" ဟူ၍ ခေါင်းတခါခါနှင့် ပြန်သွားလေ၏။ မာရ်နတ် ပြန်သွားပြီးနောက် မကြာခင်အတွင်း ဘုရားသခင်အထံသို့ အရှင်အာနန္ဒာဝင်လာ၏။

"အာနန္ဒာ၊ ခု ဘယ်အချိန်ရှိပြီနည်း"

"သန်းခေါင်ယံအချိန်ပါ ဘုရား"

မြတ်ဘုရားသည် ဆန့်ထားသော ခြေကိုကွေး၍ စည်းနှောင်ထားသော အနာကို ရှုစားလျက်မှ—

"အာနန္ဒာ၊ ဇီဝကက မလာမချင်းမဖြေပါနှင့်ဟု မှာခဲ့သည်မှန်၏။ သို့သော် သန်းခေါင်ယံအချိန်တိုင် သင်းမရောက်လာသေး။ ဝေဒနာသည် ပြင်းပြလှစွာ၏။ စည်းနှောင်ထားသည် ဖြေလျှင်ကောင်းမည်။ ဖြေလော့ အာနန္ဒာ"

အရှင်အာနန္ဒာသည် မည်သို့မျှ ပြန်လည်လျှောက်ထားရန် မဝံ့သဖြင့် အမိန့်တော်အတိုင်း (ပတ်တီး)ဖြေပေးရလေ၏။ ထိုအခါ အာနန္ဒာမှာ "သစ်ပင်များ အပွေးတက်သကဲ့သို့" အသားနုများတက်လျက် ရှိနေသည်ကို အံ့ဩစွာတွေ့ရလေ၏။

အချိန်မှာ အရုဏ်တက်ခါနီးပြီ ဖြစ်သောကြောင့် တောကြက်များသည် မိုးသောက်တေးကို တစ်ကျော့စီ သီလျက်ရှိနေကုန်၏။

ထိုအချိန်တွင် ဘုရားသခင့်ထံတော်သို့ အူယားဖားယား ပျာယီးပျာယာနှင့် ပြေးဝင်လာသူကား ဆရာဇီဝကဖြစ်၏။ အနာကိုဖြေထားပြီး တွေ့ရသောအခါ အံ့အားသင့်သွားလေသည်။

"အရှင်ဘုရား၊ ကိုယ်ပူတော်မူပါသလား"ဟူ စိုးရိမ်သံဖြင့် မေးလျှောက်လေ၏။

"ဓိဝက၊ ငါ့အား အပူပဟူသည်မရှိ။ အပူပဟူသမျှ ငါ့အားဗောဓိပလ္လင်ကပင် ငြိမ်းအေးခဲ့ပြီးဖြစ်၏"ဟူ၍ မိန့်တော်မူပြီးလျှင် အောက်ပါဂါထာကို ရွတ်တော်မူ၏။

(၉၀) သံသရာခရီးလမ်းဆုံးသို့ ရောက်သည်အထိ လျှောက်သွားပြီးသူ မည်သူမဆို ပုဂ္ဂိုလ်သတ္တဝါအား ပူပန်ခြင်းမည်သည်မရှိ။ ခန္ဓာစသော ခပ်သိမ်းသောတရားတို့ ကင်းလွတ်ပြီးသူအား ပူပန်ခြင်းမည်သည် မရှိ။ ဂန္ထလေးပါးကို[၁] ပယ်ပြီးသူအား ပူပန်ခြင်းမည်သည် မရှိ။

ဤစကားအဆုံး၌ နေရုံးနီနီကြီးသည် နောက်တစ်နေ့အလင်းရောင်ပေးရန် အတွက် အရှေ့စကြဝဠာ၏ နှုတ်ခမ်းရေးတွင် မေးတင်စပြုလာလေပြီတည်း။

(ဓမ္မပဒ အဋ္ဌကထာ၊ ၁၊ အရဟန္တဝဂ်၊ ဓိဝကပဥှာဝတ္ထု၊ ၇၇၊ ဇမ္ဗူမှ။ သဂါထာဝဂ္ဂသံယုတ် ပါဠိတော်၊ မာရသံယုတ်၊ သကလိကသုတ်၊ ၁၁၁၊ ဆဋ္ဌမှ။)

---

၁။ (၁) အဘိဇ္ဈာကာယဂန္ထ=လိုချင်မှုလောဘတရား၊ (၂) ဗျာပါဒကာယဂန္ထ=ပြစ်မှားမှုဒေါသ တရား၊ (၃) သီလဗ္ဗတ ပရာမာသ=မှားယွင်းမှုကိုပင် ကိုယ့်အယူ ကိုယ်မှန်၊ သူ့အယူ သူမှန်ဟု မှတ်ထင်စွဲယူ သုံးသပ်မှု ဒိဋ္ဌိတရား၊ (၄)ဣဒံသစ္စာဘိနိဝေသ ကာယဂန္ထ=မိမိ၏ မှားသောအယူကို "ငါ့အယူသာမှန်သည်၊ သူ့အယူအားလုံးမှားသည်"ဟု စွဲယူသုံးသပ်မှု မိစ္ဆာဒိဋ္ဌိတရား။

စပယ်ဦးစာပေ

( ၃၃ )

# တောမီးပမာ ရှုစရာ

ကောသလတိုင်းသည် သမိုင်းအဆင့်ဆင့်၊ ကဏ္ဍသီးခြားဖွင့်ကာ ဝင့်လာခဲ့သော တိုင်းကြီးဖြစ်၏။ တကယ့်ပုဂ္ဂိုလ်ကျော်တို့ ပေါ်ထွန်းရာ ဘူမိနက်သံလည်း မှန်လှ၏။

တစ်ခါသ၌ ဘုရားသခင်သည် ရဟန်းများခြံရံလျက် ထိုကောသလတိုင်း၌ ဒေသစာရီကြွချီတော်မူလေသောအခါ နွေရာသီဖြစ်သည့်အလျောက် တောမီးတို့သည် တဟုန်းဟုန်းတောက်လျက်ရှိကုန်၏။ တောလမ်းခရီး၏ ဝဲယာတစ်ခိုတွင် မီးခိုးတို့ဖြင့် ညှိုမည်းနေ၏။ တစ်ခါတစ်ခါ မီးလောင်ဒဏ်ချက်ကြောင့် ပေါက်ကွဲ၍ ထွက်လာသော အသံကြီးများသည် စုံမြိုင်တစ်ခွင်ကို ပဲ့တင်ထပ်သွားစေလေ၏။

မီးလောင်ကွင်းဘေးရှိ တောလမ်းအတိုင်း ဖြတ်လျှောက်လာသော ဘုရားသခင်သည် နေရှိန်တောက်သည်နှင့် သစ်တစ်ပင်ရင်းသို့ကပ်၍ တစ်ထောက်တစ်နားဝင်ရောက် အပန်းဖြေတော်မူလျှင် ရဟန်းတို့လည်း နီးရာသစ်ပင်ရိပ်ကို အလျှိုအလျှိုဝင်၍ တည်းခိုကြလေကုန်၏။

အလျှံနှင့်ရဲရဲ၊ တရှဲရှဲ စွဲလောင်နေသော တောမီးသည် ဘုရားသခင်အားပူဇော်လေသည့်အလား၊ လေအဝှေ့တွင် အငွေ့တလူလူနှင့် ဘုရားသခင်ရှိရာသို့ မျက်နှာမူလာလေသည်။ မီးညွန့်တို့သည် ဘုရားသခင်အား မဖူးဝံ့ဝံ့၊ ရွံ့နေရှာကြသည့်ပမာ လေထဲတွင် တနွဲ့နွဲ့နှင့်ရှိနေကြသည်။

ဗုဒ္ဓသည် တဖြိုက်ဖြိုက် လောင်မြိုက်နေသော တောမီးကို အမှတ်မထားနေခဲ့သော်လည်း မီးသည် ကိုယ်တော်၏ ရှေ့တူရူတွင် အခိုးအလျှံတလူလူနှင့် ရှိနေသောကြောင့် တမင်ရှုစားတော်မမူရဘဲလျက် အထင်းသားမြင်တော်မူနေရ၏။

ထိုအခါ ဗုဒ္ဓသည် သစ်ရိပ်အောက်တွင် ထိုင်တော်မူလျက်မှ ရဟန်းတို့ဘက်သို့ မျက်နှာတိမ်းငဲ့၍ ရှုစားတော်မူလိုက်ပြီး ရဟန်းတို့အား မီးပုံကို လက်ညှိုးညွှန်ပြတော်မူလျက်—

"ချစ်သားတို့၊ အလျှံတပြောင်ပြောင်နှင့် တောလုံးကျွတ်မခန်း လောင်ကျွမ်းနေသော ဤမီးပုံကြီးကို သင်တို့မြင်ကြသည် မဟုတ်တုံလော"

ဤသို့ မေးတော်မူလိုက်ရာ ရဟန်းတို့လည်း အံ့အားသင့်သော အမူအရာဖြင့် "မြင်ပါသည် ဘုရား" ဟူ၍ လျှောက်ထားကြပြီးနောက် ဘုရားသခင် နောက်ထပ်မိန့်မြွက်တော်မူမည့်စကားကို စောင့်ကြိုလျက်ရှိနေကြကုန်၏။ ထိုအချိန်တွင် မိုးတိမ်များကို ပြိုင်လေသည့်ပမာ မီးညွန့်တို့သည် လဟာပြင်ထဲတွင် တလွန့်လွန့်နှင့် ရှိနေကြကုန်၏။

"အို–ချစ်သားတို့၊ ငါပြောမည့်စကားကို သင်တို့ မည်သို့ထင်ကုန်သနည်း။ မီးညွန့်တလူလူ၊ မီးခိုးလုံးတွေ တအူအူနှင့်ရှိနေသော ဤမီးပုံကြီးကို သင်တို့ရင်ခွင်ထဲပွေ့ပိုက်ထားခြင်း၊ ဤမီးပုံကြီးကို ပွေ့ဖက်၍ အိပ်စက်ခြင်းနှင့် နတ်သမီးကဲ့သို့ အလွန်လှပသော ဘုရင့်သမီးတော်စသည်ကို ပွေ့ပိုက်ထားခြင်း၊ ၎င်းဘုရင့်သမီးတော်နှင့်အတူတကွ ပွေ့ဖက်၍ အိပ်စက်ရခြင်း၊ ယင်းနှစ်မျိုးအနက်တွင် ဘယ်သင်းက မြတ်လေသနည်း။

ဤသို့သောစကားမျိုးကို မမြွက်စဖူးမိန့်မြွက်ပုံ ထူးလှသောကြောင့် ရဟန်းတို့သည် ခေတ္တမျှ ကြောင်ငေးငေးဖြစ်နေကြပြီး အချင်းချင်းကြည့်ကာ ကြည့်ကာနှင့် မည်သို့ လျှောက်ရမည်မသိ ဖြစ်နေကြသည်။ သို့သော် ရဟန်းအချို့ကမူ အမေးတော်ကို လေးစားသည့် သရုပ်ပေါ်အောင် တုံ့ပြန် အဖြေပေးခြင်းအားဖြင့် ဖော်လိုက်ကြလေကုန်၏။

"ဘုန်းတော်ကြီးလှသော အရှင်သူမြတ်ကြီးဘုရား၊ ဘုရင့်သမီးတော်စသော မိန်းမချော၊ မိန်းမလှ၊ ဣတ္ထိယများနှင့် ပွေ့ကာဖက်ကာနေရခြင်း၊ သူကလေးတွေကို ပွေ့ဖက်၍ အိပ်စက်ရခြင်းက မြတ်ပါသည်။ မီးပုံကြီးကိုဖက်၍ ၎င်းနှင့်အတူတကွ အိပ်စက်ရခြင်းကား မမြတ်လေရုံမက လွန်စွာဆင်းရဲဘိစွ ဘုရား" ဟူ၍ လျှောက်ကုန်၏။

ဗုဒ္ဓသည် ယင်းအဖြေစကားကို ကြားလိုဟန်မတူ၊ ရှေ့တူရူသို့သာ မျက်နှာမူလျက်ရှိနေစဉ် မီးခိုးလုံးကြီးများသည် မိုးပေါ်သို့ ထိုးတက်လျက်ရှိနေကုန်၏။ ဤမီးပုံမြင်ကွင်းကား ရဟန်းတို့အား တရားဟောရန်အတွက် အကွက်ဆင်ပေးလိုက်သည်နှင့်တူ၏။ မှန်၏။ ထိုခဏအတွင်းမှာပင် ဗုဒ္ဓ၏ နှုတ်ဖျားတော်မှ ဝင့်ကြွားကာ စကားများထွက်လာလေပြီကော။

"အို–ရဟန်းတို့၊ အယုတ်နှင့်အမြတ် ယင်းနှစ်ရပ်နှင့် ပတ်သက်၍ သင်တို့အား သဘောပေါက်အောင် ငါပြောပြအံ့။ ဉာဏ်မျက်စိပွင့်အောင် ငါဖွင့်ပေးအံ့။ ယုတ်မာသောသဘော၊ မစင်မကြယ် စက်ဆုပ်ဖွယ်အကျင့်၊ ဖုံးထားသောပြစ်မှု၊ ရဟန်းမဟုတ်ပါဘဲလျက် ရဟန်းဟု ဝန်ခံ၊ မြတ်သောအကျင့်ကို ကျင့်သူမဟုတ်ပါဘဲလျက် ကျင့်သူဟု ပြောကာ ကိလေသာ အတွင်းပုပ်နှင့် ဒုဿီလ ရဟန်းဆိုးအား မီးကိုဖက်ပွေ့၍နေခြင်း၊ မီးကိုဖက်၍ အိပ်ခြင်းသည်ရှိ၏။ ဤသို့ မီးကိုဖက်၍နေခြင်း၊ အိပ်ခြင်းသည် သူ့အဖို့ မြတ်သေး၏။

"အဘယ်ကြောင့်ဆိုသော် အို–ရဟန်းတို့၊ မီးပုံကြီးကို ပွေ့ဖက်ခြင်းဟူသော အကြောင်းကြောင့် ဒုဿီလရဟန်းကား သေသော်လည်းသေရာ၏၊ မသေသည့် တိုင်အောင် သေလောက်သော ဆင်းရဲသို့သော်လည်း ရောက်လေရာ၏။ အပါယ် လေးပါးသို့ကား မလားရောက်လေရာ။

"အို–ရဟန်းတို့၊ ထိုသို့သော အကျင့်ဆိုး၊ ဉာဉ်ဆိုးရှိသော ဒုဿီလရဟန်းသည် မင်း၊ ပုဏ္ဏား၊ သူဌေး၊ သူကြွယ်တို့၏ သမီးကညာများကို ပွေ့ဖက်၍ အတူတကွ နေမှုလည်း နေအံ့။ ပွေ့ဖက်၍ အိပ်မှုလည်း အိပ်အံ့။ ယင်းသို့ပြုမူခဲ့လျှင်မူကား ထိုဒုဿီလ ရဟန်းသည် သေသည်၏အခြားမဲ့၌ မုချအပါယ်သို့ လားမည်ဖြစ်၏။

"အို–ရဟန်းတို့၊ ငါဆိုဦးအံ့။ သင်တို့မည်သို့ထင်ကြကုန်သနည်း။ အလွန် ခွန်အားဗလနှင့် ပြည့်စုံသော အားကောင်းမောင်းသန် ယောကျ်ားတစ်ဦးသည် ရှိလေ၏။ ထိုယောကျ်ားသည် သားမြီးဖြင့် ကျစ်ထားသည်ဖြစ်၍ အလွန်ခိုင်ခံ့သော ကြိုးဖြင့် မိမိခြေသလုံးနှစ်ဘက်ကို ရစ်ပတ်၍ လွှဆွဲသကဲ့သို့ ခေါက်တုံ့ခေါက်ပြန် ဆွဲကာဆွဲကာ ပွတ်ရာ၏။ ဤသို့ ပွတ်ဖန်များလတ်သော် ထိုသားမြီးကြိုးသည် ခြေသလုံးသား၏အပေါ်ယံ အရေပါးကို စား၍ဖြတ်လေ၏။ အရေပါးကိုဖြတ်ပြီးသော် အရေထူကို ဖြတ်လေ၏။ အရေထူကိုဖြတ်ပြီးသော် အသား၊ အသားကိုဖြတ်ပြီးသော် အကြော၊ အကြောကို ဖြတ်ပြီးသော်အရိုး၊ အရိုးကိုဖြတ်ပြီးသော် ရိုးတွင်းခြင်ဆီကို ထိလျက် တည်ရာ၏။ ဤသည်လည်းတစ်မျိုး။

နောက်တစ်မျိုးကား ထိုယောကျ်ားသည် မင်းမျိုး၊ ပုဏ္ဏားမျိုး၊ သူကြွယ် မျိုးတို့၏ ရှိခိုးကော်ရော် ဖူးမြော်ခြင်းကို ခံလျက် သာယာ၏။ ဤသည်လည်း တစ်မျိုး။ ယင်းနှစ်မျိုးအနက်တွင် မည်သည့်အရာက မြတ်လေမည်နည်း။ ခြေသလုံးသားကို သားမြီးကြိုးဖြင့် အပြန်ပြန်အလှန်လှန် လွှဆွဲသကဲ့သို့ ပွတ်ဆွဲခြင်းက မြတ်သလော။ သို့မဟုတ် ပုဏ္ဏား၊ သူကြွယ်တို့၏ ရှိခိုးကော်ရော်မှုကို သာယာခြင်းက မြတ်သလော။ အသို့ပါနည်း" ဟု မေးတော်မူ၏။

"အရှင်ဘုရား၊ မင်း၊ ပုဏ္ဏား၊ သူဌေး၊ သူကြွယ်တို့ ပူဇော်အထူးကို ခံယူ၍ သာယာခြင်းက မြတ်ပါသည်။ ခြေသလုံးကို သားမြီးကြိုးဖြင့် ပွတ်ဆွဲ၍ တိုက်ခြင်းကား မမြတ်ရုံမက လွန်စွာပင် ဆင်းရဲဒုက္ခကြီးလှပါသည် ဘုရား" ဟု လျှောက်ကုန်၏။

"အို–ရဟန်းတို့၊ သင်တို့အား ငါပြောပြဦးအံ့။ အိုချစ်သားတို့၊ သင်တို့အား ငါရှင်းပြဦးအံ့၊ ထိုဒုဿီလရဟန်းသည် ခြေသလုံးကို သားမြီးကြိုးဖြင့် ပွတ်ဆွဲခြင်း ခံရသောကြောင့် သေလျှင်လေ၊ မသေလျှင် သေလုမြောပါး ခံရရုံသာရှိမည်။ အပါယ်သို့ကား မလားရချေ။ အို–ရဟန်းတို့၊ ထိုဒုဿီလ ရဟန်းသည် မင်း၊ ပုဏ္ဏား၊ သူဌေး၊ သူကြွယ်တို့၏ ပူဇော်အထူးကို ခံလျက် သာယာခြင်းကိုပြုဘိ၏။ ဤသို့ပြုခြင်းသည်ကား သေသည်မှ နောက်ကာလ၌ အပါယ်သို့လားရမည်သာ ဖြစ်သတည်း။

"အို–ရဟန်းတို့၊ ငါဆိုမည့်စကားကို မည်သို့ ထင်မြင်ကုန်သနည်း။ အားကောင်းမောင်းသန် ယောကျ်ားသည် ဆီဖြင့်သွေးအပ်သည်ဖြစ်၍ ထက်လှစွာသော လှံမြဖြင့် ရင်ဝကို တစွတ်စွတ်ထိုးဆွရာ၏။ ဤသည်ကားတစ်ချက်။ နောက်တစ်ချက်ကား ထိုယောကျ်ားသည် မင်းမျိုး၊ ပုဏ္ဏားမျိုး၊ သူဌေး၊ သူကြွယ်မျိုးတို့၏ ရှိခိုးကော်ရော် ပူဇော်မှုကိုခံလျက် သာယာ၏။ ဤသည်လည်း တစ်ချက်။ ယင်းနှစ်ချက်တွင် မည်သည့်အရာက မြတ်လေသနည်း"ဟု မေးတော်မူပြန်လျှင် ရဟန်းတို့က ဤသို့လျှောက်ပေကုန်၏။

"အရှင်ဘုရား၊ ထိုယောကျ်ားသည် မင်းမျိုး၊ ပုဏ္ဏားမျိုး၊ သူဌေး၊ သူကြွယ်မျိုးတို့၏ ရှိခိုးပူဇော်ခြင်းကို ခံယူလျက် သာယာ၏။ ဤသို့သာယာခြင်းသာ မြတ်ပါသည်။ ဘုန်းတော်သခင် အရှင်မြတ်ကြီးဘုရား၊ ရင်ဝကို လှံမြဖြင့် တစွတ်စွတ်ထိုးဆွခြင်းကား လွန်စွာ ဆင်းရဲဘိစွ ဘုရား" ဟူ၍ လျှောက်ပေကုန်၏။

တဖြိုက်ဖြိုက် လောင်မြိုက်လျက် ရှိနေသော တောမီးသည် လေအဝှေ့တွင် ဘုရားသခင်နှင့် ရဟန်းများ တည်းခိုနားနေရာဘက်သို့ မီးခိုးလုံးကြီးများ ဝေ့ဝေ့ လာလေရာ မျက်စိထဲ မီးခိုးများဝင်လေသဖြင့် အချို့ရဟန်းများ မျက်စိကျိန်းစပ်စပ် ပေကလပ် ပေကလပ်နှင့် ရှိကုန်၏၊ ရဟန်းတို့၏ စကားအဆုံးတွင် ယင်းအကြောင်း နှင့် ပတ်သက်၍ ဗုဒ္ဓသည် ဆက်၍ မိန့်မြွက်တော်မူလေသည်ကား–

"အို–ရဟန်းတို့၊ သဘောအချက် အနက်ထင်မြင်သာအောင် သင်တို့အား ငါပြအံ့။ အားကောင်းမောင်းသန် ယောကျ်ားသည် အကျင့်ယုတ်ဒုဿီလရဟန်းအား ထက်လှစွာသော လှံမြဖြင့် ရင်ဝကို တစွတ်စွတ်ထိုးဆွရာ၏။ ဒုဿီလရဟန်းအဖို့ ဤသို့ ရင်ဝကိုလှံဖြင့် အထိုးခံလိုက်ရခြင်းက မြတ်သေးသည်။ အဘယ့်ကြောင့်

ဆိုသော် ဤလှံထိုးခံရသော ဒဏ်ချက်ကြောင့် ထိုရဟန်းသည် သေလျှင်သေ၊ မသေလျှင် သေလုမြောပါးဝေဒနာကို ပြင်းပြစွာ ခံရရုံသာရှိမည်။ အပါယ်သို့ကား မလားနိုင်ရာ။

"အို–ရဟန်းတို့၊ အကျင့်ယုတ် ထိုဒုဿီလရဟန်းသည် မင်း၊ ပုဏ္ဏား၊ သူဌေး၊ သူကြွယ်မျိုးတို့၏ ရှိခိုးပူဇော်မှုကို ခံလျက် သာယာ၏။ ဤအပြုအမူသည်ကား ကြာမြင့်စွာသောနေ့ ညဥ့်တို့ ကာလပတ်လုံး အကျိုးမဲ့ခြင်း၊ ဆင်းရဲခြင်းငှာ ဖြစ်ချေ၏။ ခန္ဓာကိုယ်ကောင်ကြီးပျက်စီး ကွယ်လွန်သွားသည့် နောက်ကာလ၌လည်း ဒုဂ္ဂတိရိပ်မြုံ အပါယ်ဘုံသို့ လားရောက်ရချေ၏။

"အို–ရဟန်းတို့၊ ငါ့စကားကို သင်တို့မည်သို့ ထင်မြင်ကြကုန်သနည်း။ ခွန်အားဗလနှင့် ပြည့်စုံသော သန်မာထွားကျိုင်းလှသည့် ယောကျ်ားသည် အခိုးအလျှံတလူလူ မီးရဲနေသော သံပြားပူကြီးဖြင့် ကိုယ်ကိုကပ်ရာ၏။ ဤသည်ကား တစ်ချက်။ နောက်တစ်ချက်ကား မင်း၊ ပုဏ္ဏား၊ သူဌေး၊ သူကြွယ်မျိုးတို့ လှူဒါန်းသော သင်္ကန်းကို ဝတ်ရုံသုံးဆောင်ခြင်းပြုရာ၏။ ဤသည်လည်းတစ်ချက်။ ယင်းနှစ်မျိုးအနက်တွင် မည်သည်က မြတ်လေမည်နည်း"ဟု မေးလျှင် ဤသို့ လျှောက်ပေကုန်၏။

"ရွှေဘုန်းတော်သခင် အရှင်မြတ်ကြီးဘုရား၊ မင်း၊ ပုဏ္ဏား၊ သူဌေး၊ သူကြွယ်မျိုးတို့ လှူဒါန်းသော သင်္ကန်းကို ဝတ်ရုံသုံးဆောင်မှုပြုခြင်းသည်သာ မြတ်ပါသည်။ အခိုးအလျှံ တလူလူ မီးရဲနေသော သံပြားပူကြီးဖြင့် ကိုယ်ကို ကပ်ခြင်းကား လွန်စွာဆင်းရဲဘိစွဘုရား"ဟု လျှောက်ပေကုန်၏။

"အို–ရဟန်းတို့၊ သင်တို့ သဘောပေါက်အောင် ငါရှင်းပြအံ့။ သန်မာထွားကျိုင်းလှသော ယောကျ်ားသည် ထိုအကျင့်ယုတ် ဒုဿီလ ရဟန်းအား ရဲရဲလောင်နေသော သံပြားပူကြီးဖြင့် ကိုယ်ကိုကပ်လေရာ၏။ ဤသို့ သံပြားပူဖြင့် အကပ်ခံရခြင်းသည် ထိုရဟန်းယုတ်အဖို့ မြတ်သေး၏။ အဘယ့်ကြောင့်ဆိုသော် သံပြားဖြင့် အကပ်ခံရသည့် ဒဏ်ချက်ကြောင့် ထိုရဟန်းယုတ်သည် သေသော်သေ၊ မသေသော် သေလုနီးနီး ဆင်းရဲဒုက္ခ ခံရရုံသာရှိမည်။ အပါယ်လေးပါးသို့ကား မလားနိုင်ရာ။

"အို–ရဟန်းတို့၊ အကျင့်ယုတ် ထိုဒုဿီလရဟန်းသည် မင်း၊ ပုဏ္ဏား၊ သူဌေးသူကြွယ်တို့ သဒ္ဓါဖြင့် လှူဒါန်းသော သင်္ကန်းကို ဝတ်ရုံခြင်းပြု၏။ ဤအပြုအမူမျိုးကား ကြာမြင့်စွာသော နေ့ညဥ့်တို့ ကာလပတ်လုံး အကျိုးမဲ့ရန်အတွက်၊ ဆင်းရဲရန်အတွက် ဖြစ်ချေ၏။ ဤခန္ဓာဟောင်းကိုစွန့်၍ ခန္ဓာသစ် လဲသောအခါ၌လည်း အပါယ်လေးပါးအစာ ငရဲရွာသို့ ရောက်လေမည်သာတည်း။

"အို–ရဟန်းတို့၊ ငါဆိုပေသည်ကို သင်တို့ အသို့ထင်မြင်ကုန်သနည်း။ အားကောင်းမောင်းသန် ယောကျ်ားသည် မီးဖုတ်ထားသော သံကောက်ဖြင့် ပါးစပ်ကို ကလန့်၍ဖြဲလျက် မီးရဲရဲသံတွေခဲကို ပါးစပ်ထဲသွင်းရာ၏။ ထိုသံတွေခဲသည် ခံရသူ၏ နှုတ်ခမ်းကိုလည်းကောင်း၊ ခံတွင်း၊ လျှာ၊ လည်ချောင်း၊ ရင်ကိုလည်းကောင်း လောင်ရာ၏။ အူမကိုလည်းကောင်း၊ အူသိမ်ကိုလည်းကောင်း ဆွဲလျက် မိုက်ထဲက ထွက်လေရာ၏။ ဤသည်ကား တစ်ချက်။

နောက်တစ်ချက်ကား အကျင့်ပျက်ဒုဿီလရဟန်းသည် ဒါယကာတို့ သဒ္ဓါ ဒေယျဖြင့် ဒါယကာတို့လှူဒါန်းသော ဆွမ်းကို မြိန်ရေရှက်ရေ စားသောက်ရာ၏။ ဤသည်လည်း တစ်ချက်။ ယင်းနှစ်ချက်တွင် မည်သည့်အရာက မြတ်လေသနည်း။

"အို–ရဟန်းတို့၊ အနီးအလျှံထ၍ ရဲရဲလောင်နေသော သံညောင်စောင်း၊ သံခုတင်၊ သံအင်းပျဉ်ထက်၌ အိပ်ရ၊ နေရခြင်းနှင့် သဒ္ဓါဒေယျဖြင့် ဒါယကာတို့ လှူဒါန်းသော ညောင်စောင်း၊ ခုတင်၊ အင်းပျဉ်ထက်၌ အိပ်ရ၊ နေရခြင်း နှစ်မျိုးတွင် မည်သည်က မြတ်လေသနည်း။

"အို–ရဟန်းတို့၊ ဗလကောင်းကောင်း သန်မာထွားကျိုင်းသော ယောကျ်ားသည် ခြေနှစ်ချောင်းကိုကိုင်၍ ဦးခေါင်းဇောက်ထိုး ကျိုက်ကျိုက်ဆူပွက်နေသော သံဒယ်အိုးကြီးထဲ ပစ်ချရာ၏။ ထိုပစ်ချခြင်းခံရသောသူသည် ထိုဒယ်အိုးကြီးထဲ၌ ကြေမွပြီး အမြုပ်ဖြစ်လျက် ကျက်သည်ရှိသော် ပေါ်လိုက်၊ မြုပ်လိုက်၊ ကန့်လန့်ကြီး ခံနေလိုက် ဖြစ်ရာ၏။ ဤသည်ကားတစ်ချက်။ နောက်တစ်ချက်ကား ဒါယကာတို့ သဒ္ဓါဒေယျဖြင့် လှူဒါန်းသော ကျောင်း၌ နေရာ၏။ ယင်းနှစ်မျိုးအနက်တွင် မည်သည်က မြတ်လေမည်နည်း" ဟု မေးတော်မူလျှင်–

"ကျောင်းပေါ်၌ နေရခြင်းက မြတ်ပါသည်။ ခြေနှစ်ချောင်းကို ကိုင်၍ ဦးခေါင်းဇောက်ထိုး လောလောပူသော သံဒယ်အိုးကြီးထဲသို့ ပစ်ချခြင်းခံရသည်မှာ လွန်စွာမှ စိတ်ဆင်းရဲလှပါသည် ဘုရား" ဟု ရဟန်းတို့က လျှောက်လေကုန်၏။

"အို–ချစ်သားတို့၊ နားလည်သဘောပေါက်အောင် သင်တို့အား ငါရှင်းပြအံ့၊ အကျင့်ယုတ် ဒုဿီလရဟန်းအား ခြေနှစ်ချောင်းကိုင်၍ ဇောက်ထိုးမိုးမျှော် သံဒယ်အိုးကြီးထဲသို့ ပစ်ချခြင်းခံရသည်က မြတ်၏။ အဘယ့်ကြောင့်ဆိုသော် အို–ချစ်သားတို့၊ ထိုဒုဿီလရဟန်းသည် လောလောပူသော သံဒယ်အိုးကြီးထဲသို့ ဦးခေါင်းထိုး ပစ်ချခြင်းခံရခြင်းဟူသော အကြောင်းကြောင့် သေလျှင်သေ၊ မသေလျှင် သေလု မျှပါး ဆင်းရဲဒုက္ခကြီးစွာ ခံရရုံသာရှိမည်။ သေသည်၏အခြားမဲ့၌ အပါယ် လေးပါးသို့ကား လားရောက်ရန် အကြောင်းမရှိ။ ထိုအကျင့်ယုတ်ဒုဿီလရဟန်းသည် ဒါယကာတို့ သဒ္ဓါဒေယျဖြင့် ဆောက်လုပ်အပ်သော ကျောင်း၌နေလျှင်မူကား အသက်ရှည်နေသမျှ ကာလပတ်လုံး အကျိုးဆုတ်ယုတ်ပျက်စီးခြင်း၊ ပြင်းစွာ

ဆင်းရဲခြင်းသည် ဖြစ်လေ၏။ သေသည့်၏အခြားမဲ့တွင်လည်း ငရဲ တိရစ္ဆာန် ပြိတ္တာ၊ အသူရကာယ် တည်းဟူသော အပါယ်လေးပါးသို့ မုချစင်းစင်း လားရောက်ရလေ၏။

“အို–ချစ်သားတို့၊ သို့ဖြစ်လေသောကြောင့် သင်တို့အား ငါညွှန်ကြားအံ့။ ငါညွှန်ကြားသောအတိုင်း သင်တို့ကျင့်ရမည်။ ငါတို့သည် သဒ္ဓါဒေယျဖြင့် ဒါယကာတို့ လှူဒါန်းအပ်သော ကျောင်း၊ သင်္ကန်း၊ ဆွမ်း၊ ဆေး လေးပါးသော ပစ္စည်းတို့ကို သုံးဆောင်ကြရကုန်သည်။ ထိုဒါယကာတို့ ပြုအပ်သော ကုသိုလ်ဒါနတို့သည် သူတို့အတွက် အကျိုးသက်ရောက်မှု ရှိကုန်သည်။ များစွာအကျိုးခံစားခွင့် ရှိကုန်သည် ဖြစ်လတ္တံ့။ ငါတို့အားထုတ်နေသော ရှင်ရဟန်းအဖြစ်သည်လည်း အကျိုးမပေးလေဘဲ မြုံနေလိမ့်မည်မဟုတ်။ မုချအကျိုးရှိသည် ဖြစ်လတ္တံ့။ တိုးပွားခြင်း အဟုန်နှင့် ပြည့်စုံဖွံ့ထွားသည် ဖြစ်လတ္တံ့။ ဤသို့နှလုံးသွင်း၍ သင်တို့ ကျင့်ရမည်။

“အို–ချစ်သားတို့၊ မိမိအကျိုးစီးပွား ဖြစ်ထွန်းမှု၊ မိမိတက်လမ်းကို ကောင်းစွာမြင်ထားသူသည် မမေ့မလျော့သော သတိတရားနှင့် ပြည့်စုံထိုက်၏။ သူတစ်ပါး အကျိုးဖြစ်ထွန်းမှုကို ကောင်းစွာမြင်ထားသူအဖို့ မမေ့မလျော့သော သတိတရားနှင့် ပြည့်စုံထိုက်၏၊ မိမိအကျိုး၊ သူတစ်ပါးအကျိုး၊ အကျိုးနှစ်ပါးကို ကောင်းစွာမြင်ထားသူအဖို့ မမေ့မလျော့သော သတိတရားနှင့် ပြည့်စုံထိုက်၏”

ဤသို့အားဖြင့် ဗုဒ္ဓမြတ်ဘုရားသည် ရဟန်းတို့အား ဤစကားကို ဆိုတော်မူ၏။ ဤအဂ္ဂိခန္ဓောပမသုတ်ကို ဟောတော်မူသည်ရှိသော် ခြောက်ကျိပ်အရေအတွက်ရှိသော ရဟန်းတို့၏ ခံတွင်းမှ လောလောပူသော သွေးများ အန်ထွက်လာလေ၏။ ထိုခြောက်ကျိပ်သော ရဟန်းတို့သည် “မြတ်စွာဘုရား ပြုနိုင်ခဲဘိစွ၊ မြတ်စွာဘုရား ပြုနိုင်ခဲဘိစွ”ဟူ၍ မိမိတို့၏ အနေအထိုင် အမူအကျင့်ဖြင့် သာသနာ့ဘောင်၌ နေနိုင်ရန် ခဲယဉ်းကြောင်း၊ သာသနာနှင့် မထိုက်တန်ပါကြောင်း လျှောက်ပြီးလျှင် သိက္ခာချ၍ လူထွက်ကြကုန်လေ၏။ ခြောက်ကျိပ်သော ရဟန်းတို့အား (ဝါ) ခြောက်ကျိပ်သော ရဟန်းတို့၏ စိတ်တို့သည် တဏှာဒိဋ္ဌိအားဖြင့် တစ်စုံတစ်ရာကို အာရုံတမ်းမှန်း စွဲလမ်းခြင်းမရှိလေဘဲ အာသဝေါတရားမှ လွတ်မြောက်သွားကုန်လေပြီတည်း။

တောမီးကား လောင်ကျွမ်းနေဆဲ။ မီးညွှန့်တွေက တလူလူ၊ မီးခိုးလုံးတွေက တအူအူနှင့်ရှိနေဆဲအချိန်တွင် အပန်းဖြေ သစ်ရိပ်အောက်မှ ထ၍ ဘုရားသခင် ကြွတော်မူလျှင် ရဟန်းတို့လည်း နောက်တော်ပါးမှ မြောင်း၍ လိုက်ပါသွားကြလေသတည်း။

**(အင်္ဂုတ္တိုရ်ပါဠိတော်၊ သတ္တကနိပါတ်၊ မဟာဝဂ်၊ အဂ္ဂိခန္ဓောပမသုတ်၊ ၄၉၅–၈၆ မှ)**

စပယ်ဦးစာပေ

( ၃၄ )

# မပြီးပြတ်သော အစွန်းနှစ်ဘက် ဆွေးနွေးပွဲ

မိဂဒါဝုန်တောသည် အလွန်မြေခံရေခံကောင်းလှသော ဘူမိနက်သန်ဖြစ်၏။ ပဉ္စဝဂ္ဂီငါးဦးတို့သည် ဓမ္မစကြာတရားဦးကို ဤတောမှာပင် ရှေးဦးစွာ ကြားနာခဲ့ကြရကုန်သည်။ ရဟန်းတို့အား သင့်လျော်သော အရိပ်အာဝါသနှင့်လည်း ပြည့်စုံ၏။

သို့ကြောင့်လည်း ဗုဒ္ဓမြတ်ဘုရားသည် ရံခါရံခါ ထိုမိဂဒါဝုန်တောသို့ ချဉ်းကပ်တော်မူ၍ အပန်းဖြေတော်မူလေ့ရှိပေသည်။

ထိုမိဂဒါဝုန်တော၏ တစ်နေရာတွင် စည်မျက်နှာအပြင်ကဲ့သို့ ညီညာပြန့်ပြူးသောနေရာတစ်ခုရှိလေရာ ထိုနေရာ၌ ဘုရားသခင် ကြွတော်မူလေတိုင်း သီတင်းသုံးတော်မူလေ့ရှိပြီး ရဟန်းတို့အနေအားဖြင့်လည်း တရားဓမ္မ ဆွေးနွေးဖွယ်ရှိလာလျှင် ထိုနေရာ၌ပင် ဆွေးနွေးလေ့ရှိကြကုန်၏။ ထိုနေရာကား တစ်တောလုံးတွင် အထင်ရှားဆုံးသော "ဓမ္မာသန"နေရာ ဖြစ်လေသည်။

တစ်ခါသ၌ မြတ်စွာဘုရားသည် ရဟန်းများစွာခြံရံလျက် ထိုမိဂဒါဝုန်တောသို့ ကြွရောက်တော်မူစဉ် ရဟန်းတို့သည် ဆွမ်းစားပြီးကြသောအခါ ထိုဓမ္မာသနနေရာ၌ စုရုံးစည်းဝေးကြပြီးလျှင် တရားဓမ္မဆွေးနွေးကြရာ ဘုရားသခင် ဟောကြားတော်မူခဲ့သော ဂါထာတစ်ပုဒ်နှင့်ပတ်သက်၍ သူတစ်မျိုး ငါတစ်ဖုံဆိုသကဲ့သို့ မိမိတို့၏ အယူအဆကို တင်ပြကာ ဆွေးနွေးကြကုန်လေ၏။

တင်ပြကြသော ဂါထာကား ပါရာယန အစည်းအဝေးတွင် ဗုဒ္ဓမြတ်ဘုရားက မေတ္တေယျ လုလင်အား ဟောကြားတော်မူခဲ့သည့် ဂါထာဖြစ်လေသည်။ ထိုဂါထာကား—

ဉဘော အန္တေ ဝိဒိတွာန၊
မဇ္ဈေ မန္တာ နလိမ္ပတိ။
တံ ဗြူမိ မဟာ ပုရိသောတိ၊
သောဓ သိဗ္ဗိနိ မစ္စဂါ။ ။

ဟူ၍ဖြစ်၏။ ယင်းဂါထာ၏ မြန်မာပြန်ကား—

"အကြင်သူသည် ပညာဖြင့် အစွန်းနှစ်ပါးတို့ကိုသိ၍ အလယ်၌ မလိမ်းကျံ၊ မငြိကပ်။ ထိုသူကို 'ယောကျ်ားမြတ်' ဟူ၍ ငါဆို၏။ ထိုယောကျ်ားမြတ်သည် ဤပစ္စုပ္ပန်ဘဝ၌ပင် ဘဝတစ်ခုနှင့်တစ်ခု၊ တစ်လွှာနှင့်တစ်လွှာ အဆက်မပြတ် စပ်နှောမိအောင် ချုပ်စပ်တတ်သော တရားကို လွန်မြောက်လေ၏"

ဤဂါထာကို တင်ပြကာ ရဟန်းတို့ ဆွေးနွေးကြပုံမှာ—

"အို–အရှင်မြတ်တို့၊ ဘုရားသခင်က အစွန်းနှစ်မျိုးဟု ဟောတော်မူခဲ့ပါသည်။ ထိုအစွန်းနှစ်မျိုးဆိုသည်မှာ အဘယ်ဟာပါနည်း။ အဘယ်ကို အစွန်းနှစ်မျိုးဟု ဆိုပါသနည်း။ ထို့မှတစ်ပါး အလယ်ဟူ၍လည်း မြွက်ကြားချက်ရှိပါသည်။ ထို အလယ်ကား အဘယ်ပါနည်း။ ချုပ်စပ်တတ်သူ ဟူ၍လည်း ဆိုပြန်ပါသည်။ ထိုချုပ်စပ်တတ်သူ ဆိုသော စကားအရ မည်သို့ အဓိပ္ပာယ် ကောက်ယူရပါမည်နည်း"

သံဃာများအလယ်မှ ထ၍ တစ်ဦးသော ရဟန်းက ဤသို့အကြံဉာဏ် တောင်းခံလေလျှင် ရဟန်းတစ်ဦးက ထ၍ သူ၏ထင်မြင်ယူဆချက်ကို အောက်ပါ အတိုင်း တင်ပြအစီရင်ခံလေ၏။

"ငါ့အရှင်တို့၊ ယင်းဂါထာ၏ ဆိုလိုချက်ကို တပည့်တော်အနက်ဖော် ခံယူချက်ကို အစီရင်ခံပါရစေ ဘုရား။ ထိတွေ့မှုကို ဖဿဟု ဆိုပါသည်။ အရှင် ဘုရားများကလည်း သဘောပေါက်ပြီးသား ဖြစ်ပါလိမ့်မည်။ ထိုဖဿသည် ပထမ အစွန်းပါဘုရား။ ဖဿ၏ဖြစ်ကြောင်း (ဝါ)ထိတွေ့မှုတစ်ခု ဖြစ်လာအောင် တွန်းကန် ဖန်တီးသော အသိုင်းအဝိုင်းကို သမုဒယဟုဆိုပါသည်။ ထိုသမုဒယကား ဒုတိယ အစွန်းပါဘုရား၊ ဤသို့အားဖြင့် အစွန်းနှစ်ခုပါ ဘုရား။

"အလယ်ဆိုသည်ကား ဖဿချုပ်ငြိမ်းရာ နိဗ္ဗာန်ကိုဆိုပါသည်။ ချုပ်စပ်တတ် သူ ဆိုသည်ကား တဏှာကို ဆိုခြင်းဖြစ်ပါသည်။ အဘယ့်ကြောင့် တဏှာကို ချုပ်စပ်တတ်သူအဖြစ် ကောက်ယူရပါသနည်းဆိုသော် ထိုဖဿနှင့် သမုဒယ (ဝါ) ထိတွေ့မှုနှင့် ထိတွေ့မှု ဖြစ်ကြောင်းတရားဟူသော ယင်းအစွန်းနှစ်မျိုးကို

ဘဝအလွှာလွှာဝယ် အခါခါဖြစ်လာအောင် တဏှာက ချုပ်စပ်ပေးတတ်သောကြောင့် ဖြစ်ပါသည်။

"အရှင်သူမြတ်တို့ဘုရား၊ ဤမျှသော အတိုင်းအတာပမာဏဖြင့် ရဟန်းသည် ထူးသောဉာဏ်ဖြင့် သိအပ်သော သစ္စာလေးပါးကို ထူးသောဉာဏ်ဖြင့် သိလေ၏။ ပိုင်းခြား၍သိအပ်သော ဒုက္ခသစ္စာကိုလည်း ပိုင်းပိုင်းခြားခြားသိလေ၏။ ထိုသို့ သိလာသောအခါ ဤမျက်မှောက်ဘဝမှာပင် ဆင်းရဲခမ်းသိမ်းကို ချုပ်ငြိမ်းအောင် ပြုသည်မည်ပါသည် ဘုရား"

ဤသို့ တင်ပြလိုက်သောအခါ သံဃာထုသည် ခပ်မဆိတ်ရှိနေ၏။ အချို့က တရားအချက်ကို အလေးအနက် စဉ်းစားနေကြ၏။ အတန်ကြာလတ်သော် ရဟန်း တစ်ပါးက ထ၍ ပထမရဟန်း၏ အယူအဆတင်ပြချက်ကို ကန့်ကွက်ရင်း သူ၏ အယူအဆကို တင်ပြဆွေးနွေးခြင်း ပြုလေသတည်း။

"အရှင်သူမြတ်တို့ဘုရား၊ ခုနက ကိုယ်တော် တင်ပြသွားသလို ဖဿဟာ ပထမအစွန်း၊ သမုဒယဟာ ဒုတိယအစွန်း၊ တဏှာဟာ ချုပ်စပ်တတ်သူ ဆိုတာ ဟာ မဟုတ်နိုင်ပါ။ အားလုံးသော အရှင်ကောင်း အရှင်မြတ်များ ဆင်ခြင်သုံးသပ် ဝေဖန်တော်မူနိုင်ကြရန်အတွက် တပည့်တော်၏ အယူအဆ၊ တပည့်တော်၏ ခံယူချက်ကို တင်ပြပါရစေ ဘုရား။

"အရှင်သူမြတ်တို့ဘုရား၊ တပည့်တော်၏ အယူအဆမှာ ပထမအစွန်းဟာ အတိတ်၊ ဒုတိယအစွန်းဟာ အနာဂတ်၊ အလယ်ဟာ ပစ္စုပ္ပန်ဖြစ်ပါသည်။ တဏှာသည်ကား ဘဝတစ်ခုနှင့်တစ်ခု၊ တစ်လွှာနှင့်တစ်လွှာ စပ်မိ ဟပ်မိ ထပ်မိအောင် ချုပ်စပ်ပေးတတ်သည့် စပ်သမား၊ အပ်ချုပ်သမားပါဘုရား။ အရှင်ဘုရားများ စဉ်းစားတော်မူကြပါ။ အတိတ်နှင့်အနာဂတ် အလွှာနှစ်ချပ်ကို ထိုထိုဤဤ အလီလီသော ဘဝတွေဖြစ်လာအောင် ဘယ်သူက ချုပ်စပ်ပေးပါသနည်း။ ချုပ်စပ်သူ တရားခံကို ရှာတဲ့အခါမှာ တဏှာကိုတွေ့ပါသည်။ တဏှာမှတစ်ပါး ယင်းနှစ်လွှာ နှစ်ချပ်ကို စပ်ပေးနိုင်သူမရှိပါ။ တဏှာသာစပ်ဆရာ၊ စပ်သမား အစစ်ဖြစ်ပါသည်။

"အို–အရှင်သူမြတ်တို့ဘုရား၊ ဤရွေ့ ဤမျှသော အတိုင်းအတာပမာဏဖြင့် ရဟန်းသည် သိအပ် သိသင့် သိထိုက်သည့်တို့ကို ထူးသောဉာဏ်ဖြင့် သိပြီးလျှင် ပိုင်းပိုင်းခြားခြား သိအပ်ရာရာများကိုလည်း ကောင်းစွာပိုင်ပိုင် သိနိုင်ရာပါပြီ။ ထိုသို့သိလျှင် မျက်မှောက်ဘဝမှာပင် ဒုက္ခခပ်သိမ်း ငြိမ်းအောင်ပြုနိုင်မည်ဖြစ်ကြောင်းပါ ဘုရား"

စပယ်ဦးစာပေ

ထိုရဟန်းက သူ၏အယူအဆကို တင်ပြသွားပြီးနောက် ဆွေးနွေးလိုသူများ ရှိပါသေးသလားဟူ၍ မဖိတ်ခေါ်ရဘဲ ရဟန်းတစ်ပါးကထ၍ ဆွေးနွေးပြန်လေသည်။

"အို-သမုတိနွယ်ဝင် အရှင်သူမြတ်တို့ဘုရား၊ အရှင်ကိုယ်တော်မြတ် နှစ်ပါး စလုံး တင်ပြသွားချက်မှာ တပည့်တော်၏ အယူအဆနှင့် လုံးဝဆန့်ကျင်နေသည်ကို တွေ့ရပါသည်။ ဘုရားသခင်၏ အာဘော်မှာ ထိုအရှင်နှစ်ပါးတို့ ယူဆသွားသလို ဟုတ်မည်မထင်ပါ။ အမှန်စင်စစ် ဖြစ်သင့်သည်မှာ ဤသို့ပါ ဘုရား။

"အို-အရှင်ဘုရားတို့၊ အစွန်းနှစ်ဘက်အနက် ပထမအစွန်းဟာ သုခဝေဒနာ၊ ဒုတိယအစွန်းဟာ ဒုက္ခဝေဒနာ ဖြစ်ပါသည်။ အလယ်သည်ကား ဥပေက္ခာဝေဒနာပါ ဘုရား။ တဏှာသည်ကား ဘဝများစွာကို အလွှာလွှာ အထပ်ထပ်ဖြစ်အောင် ချုပ်စပ်တတ်သူပါ ဘုရား။ သုခနှင့်(ဝါ)ချမ်းသာနှင့် ဆင်းရဲမှုများကို တဏှာက တစ်လွှာချင်းထပ် စပ်ဟပ်ချုပ်လုပ်ပေးလိုက်သည့်အတွက် ဘဝမျိုးစုံ ဖြစ်လာရ ပါသည်"ဟူ၍ ဆွေးနွေးသွားလေသည်။

ရှိသေး၏။ အခြားရဟန်းတစ်ပါး၏ ဆွေးနွေးချက်ကလည်း လေးနက်လှ၏။ ထိုရဟန်း ဆွေးနွေးသွားပြီးနောက် ငေါက်ခနဲ ထ၍ သံဃာကို လက်အုပ်ချီကာ ဤသို့ လျှောက်ထားလေသည်။

"အာယသ္မန္တော၊ ရှည်သောအသက်တော်ရှိသော အရှင်ကောင်း အရှင်မြတ်တို့ ဘုရား၊ အစွန်းနှစ်ဘက်နှင့် ပတ်သက်၍ ဤမျှအတွေးခေါင်ရန်မလိုဟု တပည့်တော် ထင်ပါသည်။ ပညာရှင်များအလယ်တွင် ခရုကို ခါးတောင်းကျိုက်၍ ဖမ်းသော အသွင်မျိုး မဖြစ်သင့်ပါ။

"အို-အရှင်သူမြတ်တို့ဘုရား၊ အမှန်စင်စစ်အားဖြင့် ရှေ့အစွန်း(ပထမအစွန်း) ဆိုသည်ကား နာမ်၊ နောက်အစွန်း (ဒုတိယအစွန်း) ဆိုသည်ကား ရုပ်ဖြစ်ပါသည်။ အလယ်ကား ဝိညာဉ်ပါဘုရား"ဟူ၍ သူ့အယူအဆကို တင်ပြသွားလေသည့်နည်းတူ နောက်ထပ် ရဟန်းတစ်ပါးကလည်း-

"အို-အရှင်သူမြတ်တို့ဘုရား၊ အစွန်းနှစ်ဘက်နှင့်ပတ်သက်၍ တပည့် တော်၏ ထင်မြင်ချက်ကို တင်ပြရမည်ဆိုပါလျှင် 'အဇ္ဈတ္တိကာယတန' (အတွင်း တည်ရာ မှီရာ) ခြောက်ပါး၊ 'ဗာဟိရာယတန' (အပြင်တည်ရာမှီရာ) ခြောက်ပါးဟူ၍ နှစ်မျိုးရှိလေသည့်အနက်တွင် အတွင်းအဇ္ဈတ္တိကာယတန ခြောက်ပါးသည် ပထမ အစွန်း၊ အပြင် ဗာဟိရာယတန ခြောက်ပါးကား ဒုတိယအစွန်း၊ ဝိညာဉ်ကား အလယ် ဖြစ်ပါသည် ဘုရား"ဟူ၍ ဆွေးနွေးသွားလေသည်။

ရှိသေး၏။ ရဟန်းတစ်ပါးကလည်း ဤသို့ ထ၍ ဆွေးနွေးလေ၏။

"အို–အရှင်သူမြတ်တို့ ဘုရား၊ တိုတိုတုတ်တုတ် အချုပ်ကို လျှောက်ထားပါမည်။ အစွန်းနှစ်ပါးအနက် သက္ကာယဟာ ပထမအစွန်း၊ သက္ကာယဖြစ်ကြောင်း (ဝါ)၊ သက္ကာယဖြစ်အောင် ဖန်တီးမှုအားလုံးကား ဒုတိယအစွန်း၊ သက္ကာယချုပ်ငြိမ်းရာ နိဗ္ဗာန်ကား အလယ်ဖြစ်ပါသည်။ ဒါပါပဲ ဘုရား"

ဤသို့ အသီးသီးထ၍ ဆွေးနွေးကြလေရာ သူတစ်မျိုး ငါတစ်ဖုံ အယူအဆတွေသာ မျိုးစုံပြွမ်းနေသည်။ ပြဿနာကားဆုံးခန်းမရောက်နိုင်ဘဲ ဖြစ်နေ၏။ ထိုအခါ မထေရ်ကြီးတစ်ပါးအံ့ထ၍ အကြံပေးစကား မြွက်ကြားလေ၏။

"ငါ့ရှင်တို့၊ ငါတို့အနေဖြင့် မိမိတို့၏ အယူအဆ၊ မိမိတို့၏ဆန္ဒကို အသီးသီး အသက အသက ထုတ်ဖော်တင်ပြ၍ ပြီးကြလေပြီ။ သို့သော် အပြီးသတ်နိုင်ခြင်းမရှိသေး၊ ပန်းတိုင်မရှိသော ခရီးကိုပြေးနေသည်နှင့်သာ တူနေချေ၏။ သို့ကြောင့် ငါ့ရှင်တို့၊ လာသွားကြကုန်စို့၊ ဘုရားသခင်ထံတော်သို့ ချဉ်းကပ်လျှောက်ထားချေကြကုန်စို့၊ ဘုရားသခင်၏ အဆုံးအဖြတ်ကို ခံယူကြပါကုန်စို့"

ဤသို့ အကြံပေးချက်ကို သံဃာများက သဘောတူလက်ခံလိုက်ကြပြီး ဘုရားသခင်ထံတော်သို့ သွားကြလေကုန်၏။ မိမိတို့၏ အယူအဆများကိုလည်း အသီးသီး လျှောက်ထားကြလေကုန်၏။ ထိုအခါ ဗုဒ္ဓမြတ်ဘုရားက မြွက်ကြားတော်မူလေသည်ကား–

"အို– ချစ်သားရဟန်းတို့၊ အကြောင်းပရိယာယ် အသွယ်သွယ်တို့ဖြင့် တင်ပြသွားကြသော သင်တို့၏စကားသည် သင့်မြတ်လျော်ကန်သည်သာ ဖြစ်ပေ၏။ ပါရာယန အစည်းအဝေးတုန်းက ငါဟောကြားခဲ့သော အစွန်းနှစ်ဘက်စကား၏ ဆိုလိုချက်အနက်ကို ဤသို့ မှတ်ကြကုန်လော့။

"အို– ချစ်သားတို့၊ ထိတွေ့မှုတည်းဟူသော ဖဿ၏အစွမ်းအားဖြင့် ဖြစ်ပေါ်လာသော ပစ္စုပ္ပန်အတ္တဘောသည် တစ်ခုသော အစွန်းမည်၏။ ဖဿလျှင် အကြောင်းရှိသော (ဖဿကို အခြေခံ၍ ဖြစ်ပေါ်လာလတ္တံ့သော) အနာဂတ် အတ္တဘောသည် နှစ်ခုမြောက် ဒုတိယအစွန်းမည်၏။ ဖဿ ချုပ်ငြိမ်းရာ နိဗ္ဗာန်ကား အလယ်အလတ်မည်၏။ တဏှာသည်ကား ချုပ်စပ်တတ်သော တရားမည်၏။ ထိုစကားမှန်၏။ ထိုတဏှာသည် ဖဿနှင့်ဖဿ သမုဒယကို ထိုထို ဘဝသစ်များ ဖြစ်ပေါ်လာရန်အတွက် ချုပ်စပ်ပေးတတ်သည် တကား။

"အို ချစ်သားတို့၊ ဤမျှသော အတိုင်းအတာပမာဏဖြင့် ရဟန်းသည် ထူးသောဉာဏ်ဖြင့် သိအပ်သော သစ္စာလေးပါးကိုသိလေ၏။ ပိုင်းပိုင်းခြားခြား သိအပ်ရာရာတို့ကိုလည်း သိလေ၏။ ဤသို့ သိလေသော် မျက်မှောက် ဘဝ၌ပင် ဒုက္ခခပ်သိမ်း ငြိမ်းအောင်ပြုနိုင်စွမ်းလေပြီ"ဟု မိန့်တော်မူ၏။

မိဂဒါဝုန်တော်သည် သာမောဖွယ်အတိဖြစ်၏။ တိတ်ဆိတ်၏။ တော၏ တိတ်ဆိတ်ခြင်းကို ထွင်းဖောက်လျက် ထွက်ပေါ်လာသော မြတ်ဘုရား၏ စကားတော်က ဖြေရှင်းပေးလိုက်သဖြင့် သံဃာထု၌ ဖြစ်ပေါ်နေသော အစွန်းနှစ်ဘက် ပြဿနာ၊ အလယ်အလတ်ပြဿနာ၊ တဏှာပြဿနာရပ်တို့ကား ထိုအရပ်မှာပင် ပြီးပြတ်သွားလေပြီတည်း။

(အင်္ဂုတ္တိုရ် ပါဠိတော်၊ ဆက္ကနိပါတ်၊ မဟာဝဂ်၊ မဇ္ဈေသုတ်၊ ၃၄၉၊ ဆ၃၈မှ)

( ၃၅ )

# ရဟန်းအဖြစ်ကို စူးစမ်းသော မင်းအဇာတသတ်

အတင်းပြောနေခြင်းကား မဟုတ်။

သို့သော် အတင်းဆန်သည်။

သူ၏ မျက်ကွယ်၌ သူ့အကြောင်းပြောသည်ကို အတင်းဟုဆိုသည်။ အဇာတသတ်မင်းသည် ပူရဏကဿပ စသော တိတ္ထိဘုရားကြီးများအကြောင်း မကောင်းသတင်းကို ဘုရားသခင်အား လျှောက်ထားနေ၏။

သို့သော် သူ့အကြောင်းပြောတိုင်းကိုလည်း အတင်းပြောသည်ဟုဆိုရန် ခက်ချိမ့်မည်။ ယင်းကို ခြွင်းချက်ထား၍ စဉ်းစားသင့်သေးသည်။

အတင်းပြောခြင်း အင်္ဂါရပ်တွင် "သူ့အကျိုးကိုပျက်စီးစေလိုမှု၊ ကဲ့ရဲ့ရှုတ်ချလိုမှု၊ သိက္ခာကျဆင်းကာ ဂုဏ်ကိုထိခိုက်စေလိုမှု၊ အရှက်တကွဲအကျိုးနည်းဖြစ်စေလိုမှု"များသည် အဓိကအားဖြင့် ပါဝင်သည်ကို သတိပြုသင့်၏။

အဇာတသတ်မင်းက တိတ္ထိတို့၏ မကောင်းကြောင်းကို ဘုရားသခင်ထံ လျှောက်ထားနေခြင်း၌ကား အထက်ပါ အတင်းပြောခြင်း အင်္ဂါရပ်များပါရှိသည်ကို လုံးဝပင် မတွေ့ရ။

အဇာတသတ်မင်း၏ သန္တာန်၌ အရာရာကို ဥပေက္ခာပြု၍မထားဘဲ၊ အမှုမဲ့ အမှတ်မဲ့ မနေလေဘဲ သုတေသနပြုလိုစိတ်၊ အကြောင်းအရာတစ်ခုခုကို အတွင်း ကျကျ မြေ့ခြေမြစ်မြစ် သိအောင် စူးစမ်းလိုစိတ်များ ပင်ရှိသန္တေကပင် ပါလာခဲ့ပုံရသည်။

သူ့သမိုင်းကြောင်းတွင် လူပေါင်းမှားခဲ့၍ အဖကိုသတ်သောမင်း၊ ပဉ္စာနန္တရိယကံကြီးထိုက်သော ဘုရင်ဟု အမည်းစက်ထင်ခဲ့သော်လည်း ပင်ကိုဇာတ်ခံအားဖြင့်

အဇာတသတ်မင်းသည် ဘာသာရေးနှင့်သွေးဝေးဟန်မတူ။ သူ့မျက်စိအောက်တွင် ရဟန်းများကိုလည်းကောင်း၊ ပုဏ္ဏားများကိုလည်းကောင်း၊ တိတ္ထိ၊ တက္ကတွန်း၊ ပရိဗိုဇ်များကိုလည်းကောင်း နေ့စဉ်နှင့်အမျှ တွေ့မြင်နေရသောအခါ ထိုသမဏ၊ ဗြာဟ္မဏစသူတို့၏ အဖြစ်သနစ်နှင့် ဤသို့ပြုမူကျင့်ကြံခြင်း၏ ရလာဒ်၊ အမြတ်၊ အကျိုးအာနိသင်များကို ခြေခြေမြစ်မြစ် သိချင်စိတ်များ ဖြစ်ပေါ်လာလေသည်။

ထိုအချိန်သည် ဘုရား အခေါ်ခံသူတွေ အလွန်များသောအချိန်ဖြစ်၏။ ပူရဏ ကဿပ၊ မက္ခလိ ဂေါသာလ စသော တိတ္ထိဆရာကြီး ခြောက်ဦးတို့သည် ဗုဒ္ဓအေင်လံထူ၍ တလူလူဝင့်ကြွားလျက်ရှိနေသည်ဖြစ်ရာ ယင်းတိတ္ထိဆရာ ဘုရားကြီးများကို ယုံမှတ် ကိုးကွယ်နေကြသူ မှူးမတ်များစွာတို့ အဇာတသတ်မင်း၏အပါးတွင် ခစားလျက် ရှိနေကြကုန်၏။

တိတ္ထိတို့၏ တပည့်ဖြစ်သော ထိုမှူးမတ်များ၏ ဆွယ်ပိုးတိုက်တွန်းချက်အရ အဇာတသတ်မင်းသည် ထိုတိတ္ထိထိပ်သီးဘုရားကြီးများနှင့် တွေ့ဆုံရဖူးခြင်းဖြစ်ခဲ့၏။ ထိုအခါ အဇာတသတ်မင်းသည် မိမိစိတ်ထဲတွင် ခိုးလိုးခုလု၊ အဖုအထစ်ဖြစ်ရှိသော ပြဿနာရပ်ကို ဖော်ထုတ်၍ ထိုတိတ္ထိများအား မေးလျှောက်ကြည့်လေသောအခါ "မှန်းချက်နှင့် နှမ်းထွက်" မကိုက်လေဘဲ အထင်နှင့်အမြင် ကွာဟပုံများနှင့် ကြုံနေရပြီး တိတ္ထိတို့အပေါ်၌ အားမလို အားမရဖြစ်ပြီး ဤသို့နှင့်သာ အချိန်ကုန်လွန်လာခဲ့ရသည်။

တစ်ချိန်သောအခါတွင်မူ ဇီဝက၏ အဆွယ်အပိုး ကောင်းမှုကြောင့် အဇာတသတ်မင်းသည် ဘုရားသခင်နှင့်လည်း တွေ့ခွင့်ရသွား၏။ တိတ္ထိတို့၏ တပည့်မှူးမတ်များက သူတို့ဆရာ ဘုရားကြီးများထံသို့ ရောက်အောင် အဇာတသတ်မင်းအား ဆွဲဆောင်သိမ်းသွင်းကြလေသည့်နည်းတူ သမားတော်ကြီး ဆရာဇီဝကကလည်း ဗုဒ္ဓ၏ဂုဏ်သတင်းများကို ဖော်ကျူးလျက် အဇာတဝတ်မင်းအား ဘုရားသခင်နှင့် ဖူးတွေ့ချင်စိတ် ပေါက်လာအောင် ဆွဲဆောင်ခေါ်ငင်ချက်အရ ဗုဒ္ဓနှင့်ရှေးဦးစွာသော တွေ့ခြင်းဖြင့် တွေ့ဆုံရခြင်းဖြစ်၏။

တွေ့ဆုံခွင့်ရသော နေရာကား ဆရာဇီဝက ပိုင်သော အမ္ဗဝနဉယျာဉ် (သရက်ခြံကြီး) အတွင်း၌ဖြစ်၏။ ဇီဝကသည် မယုံမရဲနှင့် လိုက်ပါလာသော အဇာတသတ်မင်း ဉယျာဉ်ထဲသို့ ရောက်လေသောအခါ–

"မင်းကြီး၊ အလယ်တိုင်ကိုမှီလျက် အရှေ့ဘက်ကို မျက်နှာမူ၍ ရဟန်းတော်များ၏ ရှေ့၌ထိုင်နေသော ဤပုဂ္ဂိုလ်သည် မြတ်စွာဘုရားပါတည်း"

ဇီဝကက လက်ညှိုးညွှန်ပြလျှင် အဇာတသတ်မင်းသည် ဘုရားသခင်ထံ ချဉ်းကပ်ပြီးလျှင် အာလာပ သလ္လာပစကားပြောကြပြီးသည့်နောက် ပြဿနာတစ်ခုကို မေးမြန်းခွင့်ပြုပါရန် တောင်းပန်လေ၏။ ဗုဒ္ဓကလည်း "မေးလော့"ဟု ခွင့်ပြုတော်မူလျှင် ဤသို့မေးလျှောက်ခြင်း ပြုလေသတည်း။

"အရှင်ဘုရား၊ 'အသက်မွေးမှု တစ်ခုပညာ ကိုယ်စီပါ' ဆိုသောအတိုင်း လူတို့သည် အသက်မွေးဝမ်းကျောင်းမှုအတွက် အတတ်ပညာများကို သင်ကြားကြရပါ၏။ တတ်မြောက်လာသောအခါ ထိုပညာကို အမှီပြု၍ အသက်မွေးခြင်း ပြုကြရပါသည်။

"ဥပမာ–ဆင်စီး၊ မြင်းစီးအတတ်ကိုတတ်ကျွမ်းသူကလည်း ထိုအတတ်ဖြင့်ပင် အသက်မွေးဝမ်းကျောင်းလျက် ရှိကြပါသည်။ ထို့အတူ ပန်းချီတတ်ကျွမ်းသူကလည်း ပန်းချီပညာဖြင့်လည်းကောင်း၊ ဂဏန်းသင်္ချာအတတ် တတ်ကျွမ်းသူကလည်း ထိုဂဏန်းသင်္ချာ အတတ်ဖြင့်လည်းကောင်း၊ လယ်ယာကိုင်းကျွန်းကို အမှီပြု၍ လုပ်ကိုင်နေကြသော တောင်သူလယ်သမားများကလည်း လယ်ယာလုပ်ခြင်းဖြင့် လည်းကောင်း၊ ရက်ကန်းအတတ်ပညာရှင်များကလည်း ရက်ကန်းဖြင့်လည်းကောင်း အသက်မွေးခြင်းပြုလျက် ရှိနေကြပါကုန်သည်။

"ဤသို့ မိမိတို့၏ အခြေအနေအလိုက် အသက်မွေးမြူနိုင်ကြခြင်းမှာ သင်ကြားတတ်မြောက်ထားသော အတတ်ပညာများ၏ အကျိုးကျေးဇူးကြောင့်ပင် ဖြစ်ပါ၏။ သင်ယူလာခဲ့သော အတတ်ပညာ၏အကျိုးကို သင်ရကျိုးနပ်စွာဖြင့် ခံစားကြရခြင်း ဖြစ်သည်ဟု တပည့်တော်ခံယူထားပါသည်။

"အရှင်ဘုရား၊ ထိုထိုသော အတတ်ပညာများနှင့် ပုံဟပ်၍ သမဏ၊ ဗြာဟ္မဏတို့၏ဖြစ်ရပ်ကို တပည့်တော် တွေးမိလာပါသည်။ လူတို့အဖို့၌ ပညာသင်ကြသည်။ သင်သောပညာ၏ အကျိုးကျေးဇူးကို ဒိဋ္ဌမျက်မြင်လက်တွေ့ ခံစားကြရသည်။ ရဟန်းတော်များအနေဖြင့် သင်္ကန်းဝတ်၍ အကျင့်သိက္ခာကို ကျင့်ခြင်းသည်လည်း အတတ်ပညာတစ်ရပ်ကို ချဉ်းကပ်ခြင်း မည်ပေသောကြောင့် လူတို့အတတ်ပညာများ ကဲ့သို့ပင် ဒိဋ္ဌိမျက်မြင်လက်တွေ့ အကျိုးခံစားဖွယ် ရှိတန်ရာသည်ဟု တပည့်တော် ထင်ပါသည်။

"အရှင်ဘုရား၊ ဤသို့အတွေး၌ ထင်သော်လည်း ရဟန်းတို့၏ ဒိဋ္ဌမျက်မြင်လက်တွေ့ အကျိုးဆိုသည်ကို တပည့်တော်အနေဖြင့် မြင်နိုင်စွမ်း သိနိုင်စွမ်းမရှိပါသောကြောင့် အရှင်ဘုရားအား မေးလျှောက်ရခြင်းဖြစ်ပါသည်။ ရဟန်းပြုခြင်း၏ ဒိဋ္ဌဓမ္မ ကိုယ်တိုင်သိမြင်ရသော အကျိုးကား အဘယ်ပါနည်းဘုရား"ဟု မေးလျှောက်လေ၏။

ဤလျှောက်ချက်ကို ထောက်သောအားဖြင့် အဇာတသတ်မင်း၏ သန္တာန်၌ တစ်စုံတစ်ရာကို ခြေခြေမြစ်မြစ်သိအောင် ရင်းမြစ်ကိုလိုက်လေ့ရှိသော ဝါသနာဓာတ်ခံ ရှိကြောင်း ထင်ရှားလေသည်။

ထိုအခါ ဗုဒ္ဓသည် အဇာတသတ်မင်းအား ဤသို့ မေးမြန်းတော်မူလေ၏။

"မြတ်သောမင်းကြီး၊ ဤပြဿနာကို ငါ့အား မေးသကဲ့သို့ အခြားသမဏ၊ ဗြာဟ္မဏတို့အား မေးကြည့်ခဲ့ဖူးသလော"

"မှန်ပါ၊ မေးခဲ့ဖူးပါသည် ဘုရား"

"မြတ်သောမင်းကြီး၊ သင်မေးသော ပြဿနာကို ထိုသမဏ၊ ဗြာဟ္မဏတို့က မည်သို့ ဖြေကြကုန်သနည်း။ သင် မင်းကြီးအား ဝန်မလေးခဲ့မူ ငါ့အား ပြောပြစေချင်၏"

ထိုအခါတွင် အဇာတသတ်မင်း၏ နှုတ်ဖျားမှ (အတင်းစကားမဟုတ်သော်လည်း) အတင်းဆန်ဆန် စကားများထွက်လာကုန်တော့၏။ ပူရဏကဿပစသော တိတ္ထိဆရာကြီးများထံ မေးလျှောက်ခဲ့ပုံများ၊ ထိုဆရာကြီးတို့က ဖြေဆိုပုံများကို ခရေစေ့တွင်းကျ လျှောက်ထားလေ၏။

"အရှင်ဘုရား၊ ယင်းပြဿနာကို ပူရဏကဿပအား တပည့်တော် ရှေးဦးစွာ မေးကြည့်ခဲ့ဖူးပါသည်။ သူ၏အဖြေကို တပည့်တော် မကျေနပ်ပါ။ တပည့်တော် မေးသည်ကတခြား၊ သူဖြေသည်ကတခြား ဖြစ်နေပါသည်။ တပည့်တော်က 'ကိုယ်တိုင်သိမြင်ရသော ရဟန်းဖြစ်ကျိုး'ကို မေးပါလျက် သူက သူ့ဝါဒဘက်ဆွဲ၍ သူက သူ၏ 'ကံမဲ့ဝါဒ'ကို ဟောပြောလွှတ်လိုက်ပါသည်။ ပမာအားဖြင့် သရက်ပင်ကို မေးပါလျက် ပိန္နဲပင်ကိုဖြေသည်နှင့် တူလှပါသည်။ ယင်းပြဿနာနှင့်ပတ်သက်၍ အခြားပုဂ္ဂိုလ်များထံမှလည်း ကျေနပ်လက်ခံနိုင်လောက်သော အဖြေကို တပည့်တော် မရနိုင်ခဲ့ပါ ဘုရား"

"အရှင်ဘုရား၊ သူတို့လုပ်ပုံကို ရှုတော်မူပါဘုရား။ မက္ခလိဂေါသာလဆိုလျှင်လည်း နာမည်ကျော် ဇောမ ကိုယ်တော်ကြီးဖြစ်ပါသည်။ သူ့အဖြေကလည်း ကိုးရိုးကားရား နိုင်လှသည်။ အမေးတခြား၊ အဖြေတစ်မျိုး ဖြစ်နေပြန်ပါသည်။

"သတ္တဝါတို့ စိတ်ညစ်ညူးရန် အကြောင်းသည်မရှိ။ အထောက်အပံ့သည် မရှိ။ အကြောင်းမရှိ၊ အထောက်အပံ့မရှိဘဲ သတ္တဝါတို့သည် စိတ်ညစ်ညူးကုန်၏၊ ဤသို့ စသည်ဖြင့် သူ၏ 'အဟေတုကဝါဒ' ကိုသာ တပည့်တော်အား ဟောလွှတ်လိုက်ပါသည်။ တပည့်တော်၏မေးခွန်းကိုကား ဖြေကြားခြင်းမရှိပါ ဘုရား။

"အရှင်ဘုရား၊ ဆရာကြီးပကုဓကစ္စာယနသည်လည်း ထိုနည်းလည်းကောင်းပင် ဖြစ်ပါသည်။ တောင်ကိုမေးပါလျက် မြောက်ကိုဖြေသူနှင့်တူပါသည်။ တပည့်

တော်မေးသည်က တခြား၊ သူဖြေပုံကတလွဲ ဖြစ်နေရုံမက သူကလည်း သူ့ဝါဒ ကိုသာ တပည့်တော်အား ဟောလွှတ်ပါသည်ဘုရား။ အရှင်ဘုရား၊ ဤသို့လျှင် တပည့်တော်သည် ကိုယ်တိုင်သိမြင်ရသော ရဟန်းဖြစ်ကျိုး ပြဿနာကို ပူရဏ ကဿပအစ သဉ္စယဗေလဋ္ဌပုတ္တအဆုံး တိတ္ထိဆရာကြီး ခြောက်ဦးထံ ချဉ်းကပ်၍ မေးလျှောက်ခဲ့ဖူးသော်လည်း အချီးနှီးသာဖြစ်ခဲ့ပါသည်။ သူတို့၏ ဝါဒရေးရာ တရားကိုသာ တပည့်တော်အား ဟောလွှတ်လိုက်ကြပါသည်။ သို့ကြောင့် တပည့် တော်မှာ ယင်းပြဿနာနှင့်ပတ်သက်၍ သိလည်းသိချင်၊ သိလည်းမသိရနှင့် ကသိကအောက် ဖြစ်လာခဲ့သည်မှာလည်း ကြာပါပြီ။ ယခု အရှင်ဘုရားနှင့် တွေ့သောအခါတွင် တပည့်တော်၏ ပြဿနာမှာ ပြေလည်သွားလိမ့်မည်ဟူ၍ ယုံကြည်အားထားပါသည့်အလျောက် မေးလျှောက်အပ်ပါသည်။ တပည့်တော်အား ငဲ့ညှာတော်မူသောအားဖြင့် ဖြေကြားတော်မူပါ ဘုရား။ ရဟန်းဖြစ်ကျိုးကို သိထင်မြင် လာအောင် တပည့်တော်အား ပြတော်မူပါ ဘုရား"ဟူ၍ ရှည်လျားစွာ စုံစုံစေ့စေ့ လျှောက်လေ၏။

ထိုအခါ ဗုဒ္ဓသည် မင်းကြီးအား ဤသို့မြွက်ကြားတော်မူလေသတည်း။

"မြတ်သော မင်းကြီး၊ သင်၏ မေးခွန်း၊ သင်သိလိုသောအချက်ကို ငါဖြေအံ့။ မဖြေမီ သင့်အား ငါတစ်ခုမေးလို၏။ သင်ချမ်းသာသလိုသာ ဖြေပါလေ။

"မြတ်သောမင်းကြီး၊ ငါဆိုမည့်စကားကို သင်မည်သို့ ထင်သနည်း။ မြတ်သောမင်းကြီး၊ သင်မင်းကြီးအပါးတွင် သင့်အား ရေပူရေချမ်း ကမ်းလှမ်းပြုစုသူ ကျေးကျွန်၊ မင်းချင်းယောကျ်ားတစ်ဦးရှိသည် ဆိုကြပါစို့။ ထိုသူသည် တစ်နေ့သော အခါတွင် လူ့အဖြစ်၊ လူ့ဘောင်ကို ငြီးငွေ့သဖြင့် ရဟန်းပြုပြီးလျှင် ရဟန်းကျင့်ဝတ် မချွတ်စေရအောင် စောင့်ထိန်းကာ ရဟန်းတရားကို အားထုတ်၍ နေလေ၏။

"မြတ်သောမင်းကြီး၊ သင်၏ ထိုကျေးကျွန် ယောကျ်ားရဟန်းပြုသွားကြောင်း သတင်းကို မင်းချင်းယောကျ်ားများက သင့်ထံလာ၍ လျှောက်ထားကြသောအခါ သင့်စိတ်တွင် မည်သို့ရှိမည်နည်း။ ထိုရဟန်းဝတ် ယောကျ်ားကို အမြန်ပြန်၍ ခေါ်စေပြီးလျှင် ရှေးကနည်းတူ ထိုသူအား သင် မင်းကြီးအပါးတွင် ခိုင်းစေခြင်း ပြုမည်လော"ဟု မေးတော်မူလေ၏။

"အရှင်ဘုရား၊ ဤသို့မဆိုသင့်ပါ။ စင်စစ်အားဖြင့် ထိုသူအား တပည့်တော်တို့ ကပင် ရှိခိုးမှု၊ ပူဇော်မှု၊ ခရီးဦးကြိုဆိုမှုများကို ပြုကုန်ရာပါသည်။ ကျောင်း သင်္ကန်း၊ ဆွမ်း၊ ဆေး၊ ပစ္စည်းလေးပါးတို့ဖြင့် လှူကုန်ရာပါသည် ဘုရား"ဟူ၍ လျှောက်လေ၏။

"မြတ်သောမင်းကြီး၊ သင်မည်သို့ထင်သနည်း။ သင်၏ကျေးကျွန်ဖြစ်လျက် ထိုယောကျ်ားအား အဘယ့်ကြောင့် ရှိခိုးခြင်းပြုရာဘိသနည်း"

"အရှင်ဘုရား၊ ထိုသူကား ရှေးကလို မင်းချင်းယောကျ်ား မဟုတ်လေတော့ဘဲ ရဟန်းဖြစ်သောကြောင့်ပါ ဘုရား"

"မြတ်သောမင်းကြီး၊ သို့ဖြစ်တပြီကား၊ ကိုယ်တိုင်သိမြင်ရသော ရဟန်း ဖြစ်ရကျိုးသည် ရှိသလော၊ မရှိသလော"

ဤသို့ မေးလိုက်သောအခါ၌ကား မင်းကြီး၏ အသွင်သည် ရုတ်ချည်း ကြည်လင်သွားသကဲ့သို့ ထင်ရ၏။ သွက်လက်စွာပင် လျှောက်ထားလေ၏။

"အရှင်ဘုရား၊ ရဟန်းဖြစ်ရကျိုးသည် ဧကန်ရှိပါသည်။ ဧကန်ရှိကြောင်းကို တပည့်တော် ကောင်းစွာသဘောပေါက်လာပါပြီ ဘုရား"

"မြတ်သောမင်းကြီး၊ သင့်အား ငါရှေးဦးစွာ ပြအပ်သော သာမညဖလ= ကိုယ်တိုင်သိမြင်ရသော ရဟန်းဖြစ်ရကျိုးကား ဤသည်ပင်တည်း။ မြတ်သော မင်းကြီး၊ ဆင်းရဲသူဖြစ်စေ၊ ချမ်းသာသူဖြစ်စေ၊ မုဆိုးဖြစ်စေ၊ တံငါဖြစ်စေ၊ လယ်သမား ဖြစ်စေ၊ ကုန်သည်ဖြစ်စေ၊ စာရေးစာချီဖြစ်စေ၊ မည်သူမဆို အကြင်သူသည် လူ့အဖြစ်ကိုစွန့်လျက် သာသနာဘောင်ဝင်၍ သက်န်းဆီးကာ ရဟန်းကျင့်ဝတ်ကို ကျင့်လေသည်ဖြစ်အံ့။ ထိုသူသည် ပြည်ပိုင်ရှင်မင်း စသူတို့၏ အပူဇော်ခံပုဂ္ဂိုလ်မြတ် ဖြစ်လာသတည်း"ဟု မိန့်တော်မူ၏။

ထိုနောက် ဗုဒ္ဓသည် မင်းကြီးအား စူဠသီလ၊ မဇ္ဈိမသီလ၊ မဟာသီလ အကြောင်းတို့ကို ခွဲခွဲခြားခြား သန့်၍သန့်၍ ဟောကြားတော်မူလေရာ အဇာတသတ် မင်းအဖို့ သူ၏စိတ်သန္တာန်၌ တသွင်သွင်စီးလာခဲ့သော ပြဿနာရေစီးကြောင်းမှာ ကောသွားလေပြီတည်း။ သံသယဥြော်ခလုတ်ဟူသမျှ အကြွင်းမဲ့ ပြုတ်ကုန်လေပြီ တည်း။ လူတို့တတ်မြောက်ထားသော အတတ်ပညာရပ်များ၏ အကျိုးကို အသက် မွေးမြူရခြင်းအားဖြင့် ထင်ထင်ရှားရှား ကိုယ်တိုင်သိမြင်ရသကဲ့သို့ ရဟန်းအဖြစ်၏ အကျိုးအာနိသင်ကိုလည်း ဗြဟ္မာ၊ နတ်၊ လူ သုံးဘုံသူတို့၏ ပူဇော်အထူးကို ခံယူခြင်းအားဖြင့် ကိုယ်တိုင်သိမြင်ရပါတကားဟူ၍ အကြွင်းမဲ့ သိရှိရလေပြီတည်း။

"မြတ်သောမင်းကြီး၊ စင်စစ်မူကား သီလနှင့် ပြည့်စုံသော ထိုရဟန်းသည် ယင်းသို့ သီလစောင့်ထိန်းခြင်းနှင့်စပ်၍ မည်သည့်အကြောင်းကြောင့်မျှ ဘေးကို မတွေ့မြင်ရ။ ဘိသိက်သွန်းပြီးသော၊ ရန်သူကို ပယ်ပြီးသော မင်းသည် ရန်သူနှင့်စပ်၍ မည်သည့်အကြောင်းကြောင့်မျှ ဘေးကို မတွေ့မြင်ရသကဲ့သို့ ဤအတူ သီလနှင့်

ပြည့်စုံသော ရဟန်းသည် သီလစောင့်ထိန်းခြင်းနှင့်စပ်၍ မည်သည့်အကြောင်းကြောင့်မျှ ဘေးကို မတွေ့ရ။ ထိုရဟန်းသည် ဤမြတ်သော သီလအစုနှင့် ပြည့်စုံသည်ဖြစ်၍ မိမိသန္တာန်၌ အပြစ်ကင်းသော ချမ်းသာကိုခံစားရ၏။ မင်းကြီး၊ ဤရဟန်းသည် ဤသို့လျှင် သီလနှင့်ပြည့်စုံပေ၏"ဟူ၍ သမဏသီလ၏ အကျိုးကို အကျယ်အားဖြင့် ဟောကြားတော်မူ၏။ ထိုအခါ အဇာတသတ်မင်းသည် အလွန်ဝမ်းမြောက်လှစွာသော အမူအရာဖြင့် မြတ်ဘုရားအား ဤသို့လျှောက်လေ၏။

"အရှင်ဘုရား၊ ဟောကြားအပ်သည့် တရားတော်ကား အလွန်နှစ်သက်ဖွယ် ရှိလှပါပေသည်။ တပည့်တော်အဖို့ အသိဉာဏ် ရှင်းရှင်းနှင့် အလင်းရောင် ရရှိပါတော့သည်။ အရှင်ဘုရား၊ ဤနေ့မှစ၍ အသက်ထက်ဆုံး ရတနာသုံးပါးကို ဆည်းကပ်မြတ်နိုး ကိုးကွယ်စရာဟူ၍ ဆည်းကပ်ပါ၏။ တပည့်တော်အား ရတနာသုံးပါးနှင့် ရင်းချာသော ဥပါသကာဟူ၍ မှတ်တော်မူပါ အရှင်ဘုရား။ တပည့်တော်သည် မိုက်မဲတွေဝေ မလိမ္မာသည့်အလျောက် ကြောက်မက်ဖွယ် ကောင်းလှသော ပြစ်မှုကြီးကို ကျူးလွန်မိခဲ့ပါသည်။ ထိုအပြစ်သည် တပည့်တော်အား လွှမ်းမိုးလျက်ရှိနေပါ၏။ တပည့်တော်သည် တရားစောင့်သော၊ တရားသဖြင့် မင်းပြုသော ခမည်းတော် (ဗိမ္ဗိသာရမင်းကြီး)ကို မင်းစည်းစိမ်ဟူသော အကြောင်းကြောင့် သတ်မှားမိခဲ့ပါ၏၊ မြတ်စွာဘုရားသည် တပည့်တော် ကျူးလွန်မှားခဲ့မိသည့် ထိုအပြစ်ကို နောင်သောအခါ စောင့်စည်းခြင်းငှာ 'အပြစ်'ဟု လက်ခံတော်မူပါ ဘုရား"

အဇာတသတ်မင်းသည် မြတ်ဘုရားနှင့် တရား၊ သံဃာတော်ကို ကြည်ညိုရ၍ ဥပါသကာအဖြစ် ဘုရားထံတော်၌ ခံယူပြီးနောက် မိမိ၏အပြစ်များကို ဖော်ထုတ်ဝန်ခံ လျှောက်ထားခြင်းပြုလေသော်—

"မြတ်သောမင်းကြီး၊ မိုက်မဲ၊ တွေဝေ၊ မလိမ္မာသည့်အလျောက် အပြစ်သည် သင့်အားလွှမ်းမိုးသွားခဲ့၏။ မိမိ၏ ခမည်းတော်ရင်းကိုပင်လျှင် သတ်မှားမိခဲ့၏။ ထိုအပြစ်ကို အပြစ်မှန်းသိစွာဖြင့် ကုစားပေသောကြောင့် သင်၏အပြစ်ကို 'အပြစ်'ဟု ငါတို့ လက်ခံကုန်၏။ အပြစ်ကို အပြစ်ဟုမြင်၍ (အပြစ်မှန်းသိရ၍) ကုစား၏။ စောင့်စည်း၏။ ဤအပြုအမူသည် ကောင်းသောပြုမူခြင်း၊ ကြီးပွားခြင်းပေတည်း"ဟူ၍ မိန့်တော်မူ၏။ ထိုနောက်တွင်မူ အဇာတသတ်မင်းသည် အချိန်လင့်သည်နှင့် ဘုရားအမှူးရှိသော သံဃာတော်တို့အား ရှိသေစွာကန်တော့ပြီးလျှင် ဘုရားသခင်၏ ရှေ့တော်မှောက် အမ္ဗဝနဥယျာဉ်ကြီးအတွင်းမှ ကွယ်ပျောက်သွားလေသတည်း။

စပယ်ဦးစာပေ

ထိုအခါ မြတ်ဗုဒ္ဓသည် အဇာတသတ်မင်း၏ အကြောင်းနှင့်စပ်၍ ရဟန်းတို့အား မြွက်ကြားတော်မူလေသည်ကား—

"အို–ရဟန်းတို့၊ ဤမင်းသည် မိမိတည်ရာ၊ မိမိဘ၀ကို မိမိပင်တူးဖြိုခဲ့၏။ မိမိကိုယ်ကိုပင် မိမိဖျက်ဆီးခဲ့၏။ ဤမင်းသည် ၎င်း၏ ခမည်းတော်ကိုသာ မသတ်မိခဲ့လျှင်မူကား ဤမင်းအား ဤနေရာ၌ပင်လျှင် ကိလေသာမြူအမှေးတို့မှ ကင်းဝေးသန့်စင်သောမျက်စိ (သောတာပတ္တိမဂ်ဉာဏ်)သည် ဧကန်ပင် ဖြစ်ပေါ်လေရာ၏" ဟု မိန့်တော်မူ၏။

ထိုသို့ မြွက်ကြားလေသည့်အချိန်တွင် အဇာတသတ်မင်းကား အမ္ဗဝန ဥယျာဉ်ကြီး၏ အပြင်ဘက်သို့ ရောက်ရှိနေပြီး ဆင်ဖြူတော်ကြီး၏ ကျောကုန်းထက်တွင် တရွေ့ရွေ့နှင့် ပါသွားလေသတည်း။

(သုတ်သီလက္ခန်ပါဠိတော်၊ သာမညဖလသုတ်၊ ဆဋ္ဌမူ)

( ၃၆ )

# နွားကျောင်းသား ဥပုသ်

ဗုဒ္ဓခေတ်က သာသနာပြုသူများကို သန်းခေါင်းစာရင်းကောက်သော် ဝိသာခါ မပါလျှင်ပြည့်စုံပြီဟုမဆိုနိုင်။ သာသနာပြုသူတို့အနက်တွင် ဝိသာခါသည် ထင်ရှားသော အမျိုးသမီးကြီး ဖြစ်သောကြောင့်တည်း။

ဝိသာခါသည် သာဝတ္ထိမြို့တော်၏ အရှေ့ဘက်မျက်နှာ၌ ပုဗ္ဗာရုံအမည်တွင်သော ကျောင်းတော်ကြီးကို ဆောက်လုပ်ခဲ့၏။ ကျောင်းအမကြီး ဝိသာခါဟု ဟိုလေးတကျော်ကျော် ဖြစ်လာ၏။

အရှုရေစက် လက်နှင့်မကွာဆိုသော ဆောင်ပုဒ်သည် ဝိသာခါအတွက် ထုတ်ထားသည့် ဆောင်ပုဒ်ဟူ၍ပင် ဆိုထိုက်၏။ လှူသည်၊ တန်းသည်၊ ပေးသည်၊ ကမ်းသည်၊ စွန့်ကြဲသည်၊ ဥပုသ်ဆောက်တည်သည်။ အလွန်ကောင်းသော ဤအလုပ်၊ ထိုအလုပ်များကား ဝိသာခါ၏ အလုပ်များဖြစ်၏။

ထိုနေ့ကား ဥပုသ်နေ့ဖြစ်လေသည်။

ကျောင်းအစ်မကြီး ဝိသာခါတစ်ယောက် ဘယ်ကိုများရောက်နေလေဘိဟု မေးစရာမလို။ ကျောင်းတော်သို့သွား၍ ဥပုသ်စောင့်နေကြောင်းကို ခေတ်ကလေးများက အစ သိနားလည်နေကြ၏။

"ဝိသာခါ၊ နေမွန်းတည့်အချိန်ကြီးမှာ ဘယ်ကလာသနည်း"

"သည်ကနေ့ ဥပုသ်နေ့မှာ တပည့်တော်မ ဥပုသ်စောင့်ပါသည် ဘုရား"

မေးသူကား ဗုဒ္ဓ၊ ဖြေသူကား သိသာခါဖြစ်၏။ ဝိသာခါနှင့် ဥပုသ်၊ ဥပုသ်နှင့် ဝိသာခါမှာ လုံးထွေးနေ၏။ ဝိသာခါအဖို့ ဥပုသ်မစောင့်သောနေ့ဟူ၍ မရှိသလောက်ပင်။

ဗုဒ္ဓသည် ဥပုသ်သည် ကျောင်းအစ်မကြီး ဝိသာခါကို အကြောင်းပြု၍ ဥပုသ်တရား ဟောကြားတော်မူ၏။ ဥပုသ်စောင့်ကြသည်ဆိုသော်လည်း စောင့်ရကျိုးမနပ်၊ အဖတ်မတင်သော ဥပုသ်များရှိတတ်ကြောင်း၊ ယင်းဥပုသ်မျိုးမဖြစ်ရအောင် ကြပ်ကြပ်သတိထားဖို့ လိုအပ်ကြောင်းကို အခြေခံလျက် ထိုနေ့ ဥပုသ်နေ့တွင် ဝိသာခါအား ဥပုသ်ဋီကာကို အကျယ်တဝင့် ဖွင့်ဖော် မြွက်ကြားတော်မူ၏။

"ဝိသာခါ၊ ဥပုသ်သုံးမျိုးရှိ၏။ သင် မှတ်ဘိလော့"

(၁) ဂေါပါလ ဥပုသ်တစ်မျိုး၊

(၂) နိဂဏ္ဌဥပုသ်တစ်မျိုး၊

(၃) အရိယ ဥပုသ်တစ်မျိုး၊

ဤသုံးမျိုးဟူ၍ မှတ်။

(၁) ဂေါပါလဥပုသ်။ ။ဝိသာခါ၊ ဂေါပါလဥပုသ်ဆိုသည်ကား နွားကျောင်းသားဥပုသ်ဟု ငါဆို၏။ ဝိသာခါ၊ နွားကျောင်းသားအကြောင်းကို သင်အဘယ်သို့ သိဖူး၊ ကြားဖူးသနည်း။

သည်လို ဝိသာခါ၊ နွားကျောင်းသားသည် နေ့လယ်တွင် နွားများကို ကျောင်း၏။ ညနေစောင်းသောအခါ နွားများကို အိမ်ပြန်၍သွင်းလာပြီး နွားရှင်များထံအပ်ရ၏။ အပ်ပြီးသောအခါ ထိုနွားကျောင်းသားသည် နေ့လယ်က အဖြစ်အပျက်များကို ပြန်၍ စမြုံ့ပြန်လေ၏။

"ငါသည် ကနေ့ ဘယ်နေရာမှာ နွားကျောင်းခဲ့သည်။ ဘယ်ကန်ထဲ၊ ဘယ်ချောင်းထဲမှာ နွားများကို ရေတိုက်ခဲ့သည်။ နက်ဖြန်ခါ ဘယ်နေရာ၊ ဘယ်ဒေသ၊ ဘယ်တောမှာ ငါ နွားကျောင်းမည်။ ဘယ်ရေကန်၊ ဘယ်ချောင်းမှာ နွားရေချမည်။ နွားကျောင်းရင်း ဘာတွေ၊ ဘာတွေကို ငါလုပ်ဦးမည်။"ဟူ၍ ဤသို့ နောက်ကြောင်းကိုလည်း စမြုံ့ပြန်သည်။ ရှေ့အကြောင်းကိုလည်း တစ်မျှော်တစ်ခေါ်ကြီး တွေး၍ အစီအစဉ်ပြုလုပ်သည်။ ဤသည်ကား နွားကျောင်းသား၏ ဖြစ်ရပ်တည်း။

ဝိသာခါ၊ အချို့အချို့သော ဥပုသ်သည်များသည် ဤနွားကျောင်းသားနှင့် အလားတူ၏။ နွားကျောင်းသား တွေးသကဲ့သို့ တောင်တွေး၊ မြောက်တွေးနှင့် အတွေးညွှန်အိုင်ကြီးထဲတွင် ကျွဲရိုင်းကြီးလူးသကဲ့သို့ လူးနေ၏။

ငါသည်ကနေ့ ဘာဟင်းနှင့်ထမင်းစားသည်။ ဟင်းကောင်းချင်လျက် ဆားအတန်မြက်သည်။ ထမင်းစားပြီးသောအခါ ငှက်ပျော သီးစားသေးသည်။ သည်ကနေ့တော့ ဟုတ်ပါစေတော့၊ နက်ဖြန်အတွက် ဘာဟင်းချက်စားရလျှင်

ကောင်းမည်လဲ၊ ဘာအသီးစားရလျှင် ကောင်းလေမည်လဲဟူ၍ ထိုသူသည် ဤသို့ စိတ်ကူးယဉ်ကာ မက်မောခြင်း အဘိဇ္ဈာစိတ်ဖြင့် တစ်နေကုန်လေ၏။

ဝိသာခါ၊ ဤဥပုသ်မျိုးကား နွားကျောင်းသား ဥပုသ်တည်း။ ဤနွားကျောင်းသား ဥပုသ်မျိုးကို ကျင့်သုံးဆောက်တည်ခြင်းကား အကျိုးလည်းမများ၊ အာနိသင်လည်း မရှိ၊ အသွေးအရောင်လည်းမပြောင်း၊ ပျံ့နှံ့ခြင်းလည်း မရှိချေ။

(၂) နိဂဏ္ဌဥပုသ်။ ။နိဂဏ္ဌဥပုသ်ကို မှတ်ဦးလော့။ ရဟန်းဇာတ်နွယ်ဝင် နိဂဏ္ဌဆိုသော ပုဂ္ဂိုလ်တို့သည် ရှိကုန်၏။ ယင်းတို့၏ ကျင့်သုံးနည်းကား တစ်မူထူးခြားချေ၏။ သူတို့သည် သူတို့၏ တပည့်တပန်းကို ဤသို့ ဆောက်တည်ကျင့်သုံးစေကုန်၏။

ချစ်တပည့် အမောင်ယောကျ်ား၊ သည်ကိုလာလော့။ အရှေ့၊ အနောက်၊ တောင်၊ မြောက် ဤအရပ်လေးမျက်နှာ ယူဇနာတစ်ရာထက်ဝန်းကျင်၏ အပြင်ဘက်တွင် ရှိနေကုန်သော သတ္တဝါတို့၌ ဘေးဥပါဒ်ကျရောက်စေမည့် လက်နက်များကို ချထားလေလော့။ ယင်းသတ္တဝါတို့အား တစ်စုံတစ်ရာ ညှဉ်းဆဲခြင်း၊ သတ်ဖြတ်ခြင်း မပြုလေနှင့်ဟူ၍ ဆောက်တည်စေကုန်၏။ ဤသို့အားဖြင့် အချို့သော သတ္တဝါတို့အား သာစေ၊ ချမ်းသာစေ၊ တချို့သော သတ္တဝါတို့အား နာစေ၊ ဆင်းရဲစေရန် ဆောက်တည်စေကုန်၏။ (သတ္တဝါ ခပ်သိမ်းတို့အပေါ်၌ မေတ္တာပျံ့နှံ့ခြင်းမရှိ၊ မိုးကွက်ကျား ရှာသည်နှင့်တူ၏။)

ဝိသာခါ၊ နာဦးလော့။ ထိုသူတို့သည် ဥပုသ်နေ့များတွင် တပည့်တပန်းတို့အား ဤသို့ ဆောက်တည်ခိုင်းကုန်၏။ "ချစ်တပည့် အမောင်ယောကျ်ား၊ လာလော့။ သင်၏ အဝတ်အစားအားလုံးကို ချွတ်လိုက်ဘိလော့။ ငါဆိုသလို လိုက်၍ဆိုလော့။ "ငါသည်တစ်စုံတစ်ခုသော အရပ်ဒေသ၊ တစ်ခုခုသောအချိန်အခါဝယ် တစ်စုံတစ်ယောက်သောသူအတွက် မည်သည့်ကြောင့်ကြမှုမျှမဖြစ်။ ငါ၏အတွင်းအပသန္တာန်ဝယ် တစ်ခုခုသော ပရိက္ခရာ၌သော်လည်း ကြောင့်ကြမှုမရှိ" ဤသို့ဆိုလော့ ဟူ၍ ဆောက်တည်စေကုန်၏။ (အားလုံးအပေါ်၌ သံယောဇဉ်ပြတ် ဖြတ်တောက်ဆောက်တည်စေခြင်းပင်တည်း။)

ဝိသာခါ၊ ဤသို့ပင် သံယောဇဉ်ပြတ် ဖြတ်တောက်ဆောက်တည်စေငြားသော်လည်း ပြတ်ခြင်းကားမထင်။ ထိုဆောက်တည်သူ၏ မိဘတို့ကလည်း သည်ဟာ ငါ့သားဟူ၍ ကိုယ့်သားမှန်း သိနေကြကုန်သည်။ ထိုဆောက်တည်သူကိုယ်၌ကလည်း သည်ဟာ ငါ့မိဘ၊ သည်ဟာ ငါ့သား၊ ငါ့သမီး၊ သည်ဟာ ငါ့မယားဟူ၍ မိဘမှန်း၊ သားသမီးမှန်း၊ မယားမှန်း သိနေသည်ပင်တည်း။ အားလုံး

အပေါ် ပြတ်သည်။ ကြောင့်ကြမှု၊ တွယ်တာမှု ဘာမျှမရှိသော်လည်း မပြတ်သည်မှာ ထင်ရှား၏။

ဝိသာခါ၊ ဤသို့လျှင် သည်နေရာမှာ သစ္စာ၊ ထိုနေရာကျသော် မုသား စကားဆိုခြင်းကို ဆောက်တည်စေသည်မည်၏။ ဤဆောက်တည်နည်းကို မှုမမှန်သော ဆောက်တည်ခြင်းဟု ငါဆို၏။ ဘာမျှ ကြောင့်ကြမှုမရှိဆိုသော ထိုဆောက်တည်သူသည် တစ်ညဥ့်လွန်မြောက်၍ နံနက်မိုးသောက်ပြီဆိုလျှင်ပင် မည်သူကမျှ မပေးဘဲလျက် အစားအစာကို ကိုယ်တိုင်ယူ၍ စားလေတော့သည်။ နိဂဏ္ဌဥပုသ်ကား ဤသို့ဖြစ်သတည်း။ ဤနိဂဏ္ဌဥပုသ်မျိုးကို ဆောက်တည်ခြင်းကား အကျိုးလည်းမများ၊ အာနိသင်လည်းမရှိ၊ အသွေးအရောင်လည်းမပြောင်၊ ပျံ့နှံ့ခြင်း လည်း မရှိချေ။

(၃) အရိယာဥပုသ်။ ။ညစ်နွမ်းနေသောစိတ်ကို မညစ်နွမ်းအောင် လုံ့လပြုခြင်း၊ ဖြူစင်စေခြင်း၊ ဖြူစင်အောင်ပြုခြင်းသည် အရိယာဥပုသ် ဖြစ်ပေ၏။

ဝိသာခါ၊ ညစ်နွမ်းနေသောစိတ်ကို ဖြူစင်အောင် ဆေးကြောနည်းကား ဤသို့တည်း။ ဝိသာခါ၊ ဥပမာအားဖြင့် ညစ်နွမ်းနေသော ဦးခေါင်းကို သန့်ပြန့် စေလိုသော် တရော်၊ ကင်ပွန်းစသည်တို့ဖြင့် ဆေးကြောလျှင် သန့်ပြန့်လာသကဲ့သို့ ထို့အတူ ညစ်နွမ်းစိတ်ကို ပြောပျောက်အောင် ဖျောက်လိုသော် ဖြူစင်သန့်ပြန့်သော စိတ်၊ ညစ်ကြေးကင်းစင်၍ ဖြူဆွတ်သောစိတ် ဖြစ်လာစေလိုသော် ဘုရားအာရုံ၊ ဂုဏ်တော်ကိုးပါးကို အောက်မေ့ခြင်းဖြင့် ဆေးကြောရာ၏။ ဂုဏ်တော်ကို အဖန်ဖန် အောက်မေ့သည်ရှိသော် စိတ်သည် ကြည်လင်လာ၏။ ဝမ်းမြောက်ခြင်းဖြစ်လာ၏။ စိတ်၏ ညစ်နွမ်းကြောင်းမှန်သမျှ လွင့်စဥ်ပပျောက်ကုန်၏။ ငါးပါး၊ ရှစ်ပါး၊ ဆယ်ပါးသီလများကို မကျိုးမပေါက်အောင် ဆောက်တည်ထိန်းစောင့်ခြင်းပြု၏။

ထိုသူကို ဗြဟ္မာဥပုသ် ကျင့်သုံးသူ၊ ဘုရားသခင်နှင့် အတူနေရသူ၊ ဘုရားကိုအာရုံပြု၍ စိတ်ကြည်လင်နေသူ၊ ဝမ်းမြောက်သူဟု ဆိုအပ်၏။ ညစ်နွမ်း သောစိတ်သည် ဤသို့ လုံ့လပြု ကုစားခြင်းအားဖြင့် ဖြူစင်စေနိုင်၏။ ဤအရိယာ ဥပုသ်ကို စောင့်ထိန်းခြင်းကား အကျိုးလည်းများ၏။ အာနိသင်လည်းရှိ၏။ အသွေးအရောင်လည်း ပြောင်၏။ ပျံ့နှံ့ခြင်းလည်း ရှိပေ၏။

**(မှတ်ချက်။** ။ဤအရိယာ ဥပုသ်နှင့်ပတ်သက်၍ အကျယ်များစွာဆို၏။ ဤတွင် အချုပ်မျှသာ ဖော်ပြထားပါသည်။)

(အင်္ဂုတ္တိုရ်ပါဠိတော်၊ တိကနိပါတ်၊ မဟာဝဂ်၊ ဥပေါသထသုတ်၊ ၂၀၆၊ ဆဋ္ဌမူ)

စပယ်ဦးစာပေ

( ၃၇ )

# ဗုဒ္ဓနှင့် တွေ့ဆုံသည့်တိုင်အောင်

အိမ်သာသော် ဧည့်လာ၏။ အိုးထိန်းသည် ဘဂ္ဂဝ၏အိမ်သည် အတော်ကလေး သာသာယာယာရှိပုံရသည်။ သူ့အိမ်သည် ဧည့်နှင့်ပြတ်သည်ဟူ၍ မရှိသလောက်ပင်။ လူဧည့်သည်သာမက ရံခါရံခါ ရဟန်းဧည့်သည်များပင် သူ့အိမ်၌ တွေ့ရတတ်သေးသည်။

ယခု သူ့အိမ်တွင် ရဟန်းဧည့်သည်တစ်ပါး တည်းခိုးလျက် ရှိနေဆဲတွင် သူ့အိမ်ရှေ့မှာ ရဟန်းတစ်ပါး ရောက်လာပြန်လေပြီကော။ ထိုရဟန်းကား အခြား မဟုတ်၊ ဂေါတမ ရှင်တော်မြတ်ဘုရား ဖြစ်ချေ၏။ ဘုရားသခင်သည် မဂဓတိုင်း တစ်ခွင် ဒေသစာရီလှည့်ရာမှ ဘဂ္ဂဝနေထိုင်သော ရာဇဂြိုဟ်သို့ တမင်တကာ ဝင်ရောက်တော်မူလာခြင်း ဖြစ်၏။

ထိုအချိန်တွင် အိုးလုပ်စားသူ ဘဂ္ဂဝသည် အိမ်ရှေ့တွင် အိုးလုပ်နေ၏။ ဗုဒ္ဓသည် သူ့အိမ်ရှေ့သို့ ရပ်လာသောအခါ ဘဂ္ဂဝသည် နေရာမှထ၍ ရိုသေစွာ ရှိခိုးခြင်း ပြုလေ၏။

ဗုဒ္ဓ။ ။ဘဂ္ဂဝ၊ သင့်အား ဝန်မလေးခဲ့သော် သင့်အိမ်မှာ တစ်ညတာမျှ ငါ တည်းခိုလိုပေ၏။

ဘဂ္ဂဝ။ ။အရှင်ဘုရား၊ တပည့်တော်အဖို့ ဝန်မလေးပါဘုရား။ သို့ရာတွင် ဧည့်သည်ရဟန်းတစ်ပါး ရောက်နှင့်လျက် ရှိနေပါသည်။ ဧည့်သည် ထိုရဟန်းက ခွင့်ပြုခဲ့ပါသော် တပည့်တော်အိမ်မှာ ချမ်းသာတော်မူသလို သီတင်းသုံးနိုင်ပါသည် ဘုရား။

ဘဂ္ဂဝက ဧည့်သည်ရဟန်း ထံ ကျေနပ်မှုရယူရန် လွှဲလိုက်သည်။ ဗုဒ္ဓသည် ထိုဧည့်သည်ရဟန်း တည်းခိုနေသော အခန်းဆီသို့ သွားလေသည်။

ရောက်နှင့်နေသော ရဟန်းကား ဘုရားထက်ပင် အသက်ကြီးသူ ရဟန်းအိုကြီးဖြစ်၏။ အမည်ကား ပက္ကုသာတိဟု တွင်၏။ တက္ကသိုလ်မြို့တော်နှင့် ထီးနန်းစည်းစိမ်ကိုစွန့်၍ ရဟန်းပြုပြီး ဘုရားသခင်ကို ဖူးမြော်ရန်အလို့ငှာ လာရင်း ဘဂ္ဂဝအိမ်၌ ခေတ္တတည်းခိုနေခြင်း ဖြစ်၏။

ဗုဒ္ဓ။ ။ရဟန်း၊ သင့်အား အကယ်၍ ဝန်မလေးခဲ့သော် သည်အခန်းမှာ တစ်ညတာမျှ ငါတည်းခိုပါရစေ။

ပက္ကုသာတိ။ ။ငါ့ရှင်၊ တည်းခိုနိုင်ပေ၏။ ဤအခန်းသည် ကျယ်ကျယ်ပြန့်ပြန့်ရှိလှ၏။ နေလောက်ပါသည် ငါ့ရှင်၊ အလိုရှိသလို နေတော်မူပါ။

ဤသို့ ခွင့်ပြုချက်အရလျှင် ဗုဒ္ဓသည် အခန်းတွင်းဝင်၊ မြက်ဖျာကိုခင်းကာ ၎င်း၏အထက်၌ ထက်ဝယ်ဖွဲ့ခွေနေတော်မူ၏။ ထိုညအဖို့ ညလုံးပေါက် ဗုဒ္ဓသည် ဤသို့ တင်ပျဉ်ခွေထိုင်နေတော်မူခြင်းဖြင့် အချိန်ကုန်လွန်စေ၏။ တစ်ခန်းတည်း အတူနေ ပက္ကုသာတိရဟန်းကြီးလည်း ဗုဒ္ဓကဲ့သို့ပင် ညလုံးပေါက် ထိုက်လျက်သား အချိန်ကုန်စေလေသည်။

ဗုဒ္ဓသည် ထိုင်လျက်မှ တစ်ချက်တစ်ချက် ပက္ကုသာတိရဟန်းကြီးဘက်သို့ ကြည့်ကာ မသိမသာ အကဲခတ်တော်မူ၏။ ထို့အတူပင် ပက္ကုသာတိကလည်း တစ်ခါတစ်ခါ လှည့်၍ မြတ်ဗုဒ္ဓကို အကဲခတ်၍ကြည့်ကြည့်နေ၏။

ဗုဒ္ဓသည် ပက္ကုသာတိရဟန်းကြီး၏ ဥပဓိရုပ်ကိုကြည့်၍ အကဲခတ်ရင်းမှ ဤသို့ အကြံဖြစ်လာ၏။ "ဤရဟန်းသည် ရည်ရည်မွန်မွန်ရှိလှ၏။ လူရည်လည်း သန့်သည်။ အနေအထိုင်လည်း ကျစ်လျစ်သိမ်မွေ့သည်။ ဘယ်အမျိုး ဘယ်အနွယ် ဖြစ်လေသနည်း။ သူ့ကို အကျိုးအကြောင်း မေးမြန်းကြည့်လျှင် ကောင်းမည်။ မေးမြန်းကြည့်ဦးမည်"ဟု အကြံဖြစ်လာသည်။

ထိုနောက် ဗုဒ္ဓကပင် စတင်လှုပ်ရှားလိုက်၏။ ထိုအခါ တိတ်ဆိတ်နေသော အခန်းအတွင်းမှ အသံနှစ်သံ လွင့်ပျံ၍ထွက်လာ၏။

ဗုဒ္ဓ။ ။ရဟန်း၊ သင် မည်သည့်ပုဂ္ဂိုလ်ကိုရည်၍ ရဟန်းပြုလာသနည်း။ သင်၏ဆရာကား မည်သူနည်း။ သင်သည် မည်သူ၏တရားကို နှစ်သက်ပါသနည်းဟု မေးတော်မူ၏။

ဗုဒ္ဓသည် မသိ၍ မေးခြင်းမဟုတ်။ ဤဘဂ္ဂဝအိမ်သို့ မရောက်မီကပင် ပက္ကုသာတိသည် မည်သူဖြစ်ကြောင်း ကောင်းစွာသိတော်မူပြီးဖြစ်၏။ သို့ပါလျက် မေးထိုက်သောအကြောင်းရှိသဖြင့် (ဝါ) ဤသို့မေးမြန်းခြင်းပြုလေမှသာ ပက္ကုသာတိ၌ လွတ်မြောက်ခြင်းအကျိုးထိတွေ့ခံစားရမည်ဖြစ်သောကြောင့် မေးတော်မြန်းတော်မူခြင်း ဖြစ်လေသည်။ ထိုအမေးကို ပက္ကုသာတိလည်း ကောင်းစွာဖြေပေ၏။

ပက္ကုသာတိ။ ။ငါ့ရှင်၊ သကျပုတ္တသာကီဝင်မျိုးမှထွက်၍ ရဟန်းပြုသော ရဟန်းဂေါတမဟူ၍ ရှိပေ၏။ ထိုရဟန်းဂေါတမ၏ ကျော်စောသတင်းကား အရပ်ထက်ဝန်းကျင်တို့၌ ပြန့်လျက်ရှိနေပါ၏။ ဗြဟ္မာ၊ နတ်၊ လူ သုံးဘုံသူတို့၏ ပူဇော်အထူးကို ခံတော်မူထိုက်သော အရဟံဂုဏ်တော်၊ သာမန်ပုဂ္ဂိုလ်တို့ သိရန် မလွယ်သော သစ္စာလေးပါးတရားကို ဆရာမရှိ၊ မိမိအလိုလိုသိတော်မူပေသောကြောင့် သမ္မာသမ္ဗုဒ္ဓဂုဏ်တော်၊ ဤသို့ စသည်ဖြင့် ကိုးပါးသောဂုဏ်တော်တို့၏ သခင်ဟု အရပ်ထက်ဝန်းကျင်၌ထင်ရှားကျော်စောလျက်ရှိပါသည်။ ငါ့ရှင်၊ အကျွန်ုပ်သည် ထိုကိုးဂုဏ်သခင် ရဟန်းဂေါတမကို ရည်ရွယ်၍ ရဟန်းပြုခဲ့ပါ၏။ ထိုရဟန်းဂေါတမ ကား ကျွန်ုပ်၏ ဆရာပါတည်း။ ကျွန်ုပ်သည် ကျွန်ုပ်၏ဆရာ ရဟန်းဂေါတမ၏ တရားတော်ကို အလွန်နှစ်သက်ပါသည်။

ပက္ကုသာတိရဟန်းကြီးကား သူ့ခမျာ ဘုရားသခင်ကို မျက်ဝါးထင်ထင် ဖူးမြင်နေရပါတုံလျက်လည်း ဘုရားမှန်းကား မသိရှာသေး။ သို့သော် သူ့တစ်ကိုယ် လုံးကိုကား မြတ်ဗုဒ္ဓထံ ပုံ၍အပ်နှံထားပြီးဖြစ်၏။ ဗုဒ္ဓသည် သူ့အား ဆက်၍မေးတော်မူပြန်၏။

ဗုဒ္ဓ။ ။ရဟန်း၊ ယခုအခါ သင်၏ဆရာဖြစ်သော ရဟန်းဂေါတမသည် အဘယ်မှာပါနည်း။

ပက္ကု။ ။ငါ့ရှင်၊ ဥတ္တရဇနပုဒ်တို့၌ သာဝတ္ထိမည်သော မြို့တစ်မြို့ရှိ၏။ ထိုမြို့သည် အလွန်သာယာ စည်ကားသောမြို့ဟု ထင်ရှား၏။ ကျွန်ုပ်၏ဆရာ ရဟန်းဂေါတမသည် ထိုသာဝတ္ထိမြို့မှာ ရှိပါသည်။

ဗုဒ္ဓ။ ။ရဟန်း၊ သင့်ဆရာဖြစ်သော ရဟန်းဂေါတမကို သင်မြင်ဖူးပါ သလား။ မြင်လျှင်ကော သင်သိပါမည်လား။

ပက္ကု။ ။ငါ့ရှင်၊ ကျွန်ုပ်သည် ရဟန်းဂေါတမကို ယခုအချိန်ထိ တစ်ကြိမ် တစ်ခါမျှ မြင်ဖူးခြင်းမရှိသေးပါ။ မြင်လျှင်လည်း ကျွန်ုပ်သိမည်မဟုတ်ပါ။ ကျွန်ုပ်၏ဆရာကို ဖူးတွေ့လိုသောဆန္ဒဖြင့် ကျွန်ုပ်လာခဲ့ရင်း ဤဂေဟာတွင် ခေတ္တ ဝင်ရောက်တည်းခိုခြင်း ဖြစ်ပါသည် ငါ့ရှင်။

ရိုးသားစွာ ဖြေဆိုနေသော ပက္ကုသာတိနှုတ်ဖျားမှစကားကို ကြားရသောအခါ ဤအမျိုးကောင်းသားကား ငါ့ကို တစ်ကြိမ်တစ်ခါမျှ ဖူးတွေ့ရခြင်း မရှိဘဲလျက်ပင် ငါ့ကို ဆရာတင်လျက် သူရဟန်းပြုလာချေသည်။ ငါ သူ့ကို ချီးမြှောက်ထိုက်သည်၊ သူ့ကို တရားဟောရလျှင်ကောင်းမည်ဟူ၍ ဗုဒ္ဓအား အကြံဖြစ်လာသည်။ ဗုဒ္ဓသည် ထိုအကြံကို လက်တွေ့အားဖြင့် အကောင်အထည်ဖော်လေတော့သည်။

ဗုဒ္ဓ။ ။ရဟာန်း၊ ငါ့တရားကို နာလိုဘိမူကား သင့်အား ငါတရား ဟောအံ့။

ပက္ကု။ ။ကောင်းပါ၏ ငါ့ရှင်၊ ကျွန်ုပ် နာပါအံ့။

ဗုဒ္ဓ။ ။သို့ဖြစ်ဘိသော် ရဟာန်း၊ ဂရုစိုက်၍နာလော့။ ကောင်းစွာ နှလုံး သွင်းလော့။

ဤသို့ ညွှန်ကြားပြီးနောက် ဗုဒ္ဓသည် ပက္ကုသာတိ ရဟာန်းနှင့်လိုက်ဖက်မည့် ဓာတ်တရားကို ရွေးချယ်၍ ဟောကြားတော်မူလေ၏။ ဓာတ်တို့၏ သဘာဝအချက်အလက်များကို တစ်ဆင့်ထက်တစ်ဆင့် တဖြည်းဖြည်း အသေး စိတ်၍ စိတ်၌၊ နှလုံးထဲ၌ စွဲထင်လာအောင် ပြတော်မူ၏။

"ရဟာန်း၊ ပုဂ္ဂိုလ်သတ္တဝါဟူသမျှသည် ဓာတ်ခြောက်ပါး၏ အစုအဝေးမျှသာ ဖြစ်၏။ ပုဂ္ဂိုလ်သတ္တဝါတိုင်း ဓာတ်ခွဲကြည့်သော် မြေဓာတ် (ပထဝီ)၊ ရေဓာတ် **(အာပေါ)၊ လေဓာတ် (ဝါယော)၊ မီးဓာတ် (တေဇော)၊ ဟင်းလင်းပွင့်ဓာတ်** (အာကာသ)၊ အသိဓာတ် (ဝိညာဏ)ဟူသော ဤဓာတ်ခြောက်ပါးကိုသာ တွေ့ရ၏။ သင့်မှာလည်း ဤဓာတ်ခြောက်ပါး၊ ငါ့မှာလည်း ဤခြောက်ပါးရှိ၏။ သင်သည် လည်း ဤဓာတ်ခြောက်ပါးနှင့်လူ၊ ငါသည်လည်း ဤဓာတ်ခြောက်ပါးနှင့် လူသာ ဖြစ်၏။

## (၁) ပထဝီ မြေဓာတ်

ရဟာန်း၊ မြေဓာတ်ဆိုသည်မှာ အဘယ်နည်း။ ယင်းမြေဓာတ်၏ သဘောကား မည်သို့ ဖြစ်လေသနည်း။

ရဟာန်း၊ အချို့မြေဓာတ်သည် ကိုယ်တွင်းမှာဖြစ်၏။ အချို့မြေဓာတ်ကား ကိုယ်ပမှာဖြစ်၏။ သို့ဖြစ်လေရာ သင့်ကိုယ်တွင်းမှာ မည်သည့် မြေဓာတ်တွေ တည်ရှိနေလေသနည်း။ သင့်ကိုယ်တွင်း၌ ဖြစ်တည်နေသော မြေဓာတ်များကို ရှာကြည့်ကြရအောင်။

ရဟာန်း၊ မြေဓာတ်ကို ရှေးဦးစွာ ဤသို့မှတ်ထားဘိလော့။ အကြင်ရုပ်သည် ကြမ်းတမ်း၏။ ခက်မာ၏။ ကိုယ်ကိုစွဲ၍ဖြစ်၏။ တဏှာကစွဲအောင် ဆွဲဆောင်ထား ၏။ ထိုရုပ်သည် မြေဓာတ်မည်၏။ ၃၂-ကောဋ္ဌာသ အစုအဝေးဖြစ်သော ပုဂ္ဂိုလ် သတ္တဝါတို့၏ ကိုယ်၌ မြေဓာတ်ဖြစ်သော ထိုရုပ်ကြမ်း၊ ရုပ်မာများကို ရှာသော်—

ဆံပင်ရုပ်၊ မွေးညင်းရုပ်၊ ခြေသည်း လက်သည်းရုပ်၊ သွားရုပ်၊ အရေထူ အရေပါးရုပ်၊ အကြောရုပ်၊ အရိုးရုပ်၊ ရိုးတွင်းခြင်ဆီရုပ်၊ အညှို့ရုပ်၊ နှလုံးရုပ်၊ အသည်းရုပ်၊ အမြှေးရုပ်၊ အဖျဉ်းရုပ်၊ အဆုတ်ရုပ်၊ အူသိမ်ရုပ်၊ အူမရုပ်၊ အစာသစ် ရုပ်၊ အစာဟောင်းရုပ်၊ ဤသည်တို့ကို တွေ့ရမည် ဖြစ်ပေသည်။

ဗုဒ္ဓ॥ ॥ရဟာန်း၊ ဆံပင်စသော ထိုရုပ်၊ ဤရုပ်၊ အနီးရုပ်တို့သည် ကိုယ်တွင်းမှာ ဖြစ်ကြသလော။ ကိုယ်ပမှာ ဖြစ်ကြသလော။ အဘယ်၌ဖြစ်ကုန်သနည်း။

ပက္ကု॥ ॥ကိုယ်တွင်းမှာ ဖြစ်ကြပါသည် ငါ့ရှင်။

ဗုဒ္ဓ॥ ॥မှန်၏။ ခန္ဓာကိုယ်ကောင်ကိုစွဲမှီ၍ ခန္ဓာကိုယ်၏ အတွင်းသန္တာန်၌ ဖြစ်သောကြောင့် ယင်းဆံပင်စသော ရုပ်တို့ကို အဇ္ဈတ္တိကရုပ်အတွင်းမြေဓာတ်ဟူ၍ ဆိုအပ်လေသည်။ ဤမြေဓာတ်သည် သင့်ဥစ္စာလော၊ သင့်ပစ္စည်းလော။

ပက္ကု॥ ॥မဟုတ်ပါ ငါ့ရှင်။

ဗုဒ္ဓ॥ ॥ဤမြေဓာတ်သည် သင်ဖြစ်သလော။ သင်မဟုတ်သလော။

ပက္ကု॥ ॥မဟုတ်ပါ ငါ့ရှင်။

ဗုဒ္ဓ॥ ॥ဤမြေဓာတ်သည် သင်၏ အတ္တလော။

ပက္ကု॥ ॥မဟုတ်ပါ ငါ့ရှင်။

**ဗုဒ္ဓ॥ ॥ရဟာန်း၊ ကောင်းဘိစွ။ ဤနည်းအားဖြင့် မြေဓာတ်တို့ကို** ယထာဘူတဉာဏ်ဖြင့် အမှန်အတိုင်းမြင်အောင် ရှုအပ်၏။ ဤမြေဓာတ်သည် ငါ့ဥစ္စာမဟုတ်၊ ငါမဟုတ်၊ ငါ့အတ္တမဟုတ်ဟူ၍ ဤသို့ သဘောပေါက်ကာပေါက်ကာ ထိရောက်စွာ ရှုမြင်လေသည့်ရှိသော် မြေဓာတ်ပေါ်၌ ငြီးငွေ့လာ၏။ ယင်းမြေဓာတ်နှင့် ပတ်သက်၍ စိတ်ကို တပ်မက်ခြင်းကင်းစေ၏။

## (၂) အာပေါ ရေဓာတ်

ရဟာန်း၊ ထိုမှတစ်ပါး ဓာတ်ခြောက်မျိုးတွင် ရေဓာတ်ဟူသည် အဘယ်နည်း။ ရေဓာတ်ကား အဘယ်သို့ သဘောရှိလေသနည်းဆိုသော အချက်ကိုလည်း သင်မှတ်သားလေဦး။

ရဟာန်း၊ အာပေါဓာတ်ဟု ဆိုအပ်သော ရေဓာတ်အချို့သည် ကိုယ်တွင်းမှာ ဖြစ်၏။ အချို့ကား ကိုယ်ပမှာဖြစ်ပေ၏။ ထိုရေဓာတ်၏ တန်ခိုးသတ္တိကား ဖွဲ့စည်းတတ်၏။ အရာဝတ္ထုများကို တစ်မျိုးနှင့်တစ်မျိုး ပူးကပ်စပ်နှော၊ ယှဉ်တွဲမိအောင် ဖွဲ့စပ်ပေးတတ်သော သဘောရှိ၏။

ရဟာန်း၊ သည်းခြေ၊ သလိပ်၊ ပြည်၊ သွေး၊ ချွေး၊ အဆီခဲ၊ မျက်ရည်၊ ဆီကြည်၊ တံတွေး၊ နှပ်၊ အစေး၊ ကျင်ငယ်၊ ဤသို့သော ရုပ်များကို ပုဂ္ဂိုလ်၊ သတ္တဝါ၏ ခန္ဓာကိုယ်တိုင်းတွင် တွေ့ရမည် ဖြစ်ပေသည်။

ဗုဒ္ဓ॥ ॥ရဟာန်း၊ သည်းခြေ၊ သလိပ် စသော ထိုရုပ်၊ ဤရုပ်၊ အနီးရုပ်တို့သည် အဘယ်၌ ဖြစ်ကုန်သနည်း။ ကိုယ်တွင်းမှာ ဖြစ်သလော။ ကိုယ်ပမှာ ဖြစ်သလော။

ပက္ကု॥ ॥ကိုယ်တွင်းမှာ ဖြစ်ပါသည် ငါ့ရှင်။

ဗုဒ္ဓ။ ။ကိုယ်တွင်း၌ဖြစ်ခဲ့သော် ထိုရုပ်တို့ကို မည်သို့ခေါ်သင့်လေမည်နည်း။ မည်သည့်ဓာတ်ဟု ပညတ်သင့်မည်နည်း။

ပက္ကု။ ။အတွင်းရုပ်၊ အတွင်းဓာတ်ဟု ပညတ်သင့်ကြောင်းပါ ငါ့ရှင်။

ဗုဒ္ဓ။ ။ရဟာန်း၊ ထိုသွေး စသော ရေဓာတ်တို့သည် မည်သည်ကိုမှီ၍ဖြစ်ကုန်သနည်း။

ပက္ကု။ ။ခန္ဓာကိုယ်ကိုမှီ၍ ဖြစ်ကုန်ပါသည် ငါ့ရှင်။

ဗုဒ္ဓ။ ။ထိုရေဓာတ်သည် သင့်ပစ္စည်း၊ သင့်ဥစ္စာလော။

ပက္ကု။ ။မဟုတ်ပါ ငါ့ရှင်။

ဗုဒ္ဓ။ ။ရဟာန်း၊ သည်လိုဆိုလျှင် ဤရေဓာတ်သည် သင်ဖြစ်သလော၊ သင်ဟုတ်သလော။

ပက္ကု။ ။မဟုတ်ကြောင်းပါ ငါ့ရှင်။

ဗုဒ္ဓ။ ။ဤရေဓာတ်သည် သင်၏ အတ္တလော။

ပက္ကု။ ။မဟုတ်ကြောင်းပါ ငါ့ရှင်။

ဗုဒ္ဓ။ ။ရဟာန်း၊ ကောင်းဘိစွ။ ဤနည်းအားဖြင့် ရေဓာတ်ကို ထယာဘူတ ဉာဏ်ဖြင့် အမှန်ကိုအမှန်အတိုင်း မြင်အောင်ရှုအပ်၏၊ ရှုဖန်များလတ်သော် ဤရေဓာတ်ကား ငါ့ဥစ္စာမဟုတ်၊ ငါလည်းမဟုတ်၊ ငါ့အတ္တလည်း မဟုတ်ဟူ၍ ဤသို့ ထိထိရောက်ရောက် သဘောပေါက်လာလိမ့်မည်။ ထိုအခါ သလိပ်၊ သည်းခြေစသော ရေဓာတ်တို့အပေါ်၌ ငြီးငွေ့ခြင်း ဖြစ်လာမည်။ ရေဓာတ်နှင့် ပတ်သက်၍ စိတ်ကိုတပ်မက်ခြင်း ကင်းစေ၏။

## (၃) တေဇော မီးဓာတ်

ရဟာန်း၊ ဓာတ်ခြောက်ပါးအနက် မီးဓာတ်၏အကြောင်းကို ဤသို့ သင်မှတ်လေဦး။ မီးဓာတ်ဟူသည် အဘယ်နည်း။ မီးဓာတ်၌ မည်သို့သောစွမ်းအားသတ္တိများပါရှိ၍ ထိုစွမ်းအားဖြင့် မည်သို့ ဆောင်ရွက်ရလေသနည်း။

ရဟာန်း၊ မီးဓာတ်ကို အခြားသို့သွား၍ ရှာရန်မလို။ မိမိကိုယ်မှာရှာလျှင် လွယ်လွယ်နှင့်ပင် တွေ့နိုင်၏။ ရဟာန်း၊ မီးဓာတ်၏ လက္ခဏာကို ဤသို့မှတ်နိုင်၏။ အကြင်ရုပ်သည် ကိုယ်တွင်းမှာဖြစ်၏။ ခန္ဓာကိုယ်ကိုစွဲ၍ဖြစ်၏။ လောင်ကျွမ်းခြင်း သဘောရှိ၏။ အကယ်ပင်လည်း လောင်ကျွမ်းခြင်းသို့ရောက်၏။ ထိုရုပ်မျိုးကား အဘယ်နည်း။

စပယ်ဦးစာပေ

ရဟာန်း၊ ပုဂ္ဂိုလ်သတ္တဝါတို့၏ ကိုယ်ကောင်သည် အကြင် မီးဓာတ်ဖြင့် ပူလောင်၏။ ဆွေးမြည့်၏။ လောင်ကျွမ်း၏။ စားဖွယ်၊ သောက်ဖွယ်၊ ခဲဖွယ်၊ လျက်ဖွယ်ဟူသမျှကို ကောင်းစွာ ကြေညက်ခြင်းသို့ ရောက်စေ၏။ ဤရုပ်၊ ထိုရုပ်၊ အနီးရုပ်တို့ကို အတွင်းရုပ်၊ အတွင်းဓာတ်ဟူ၍ ဆိုအပ်ပေသည်။

ဗုဒ္ဓ။ ။ရဟာန်း၊ ထိုအလောင်ဓာတ်၊ အဆွေးဓာတ်တို့ အဘယ်၌ ဖြစ်ကုန်သနည်း။ ထိုဓာတ်တို့၏ စွဲမှီ၊ ဖြစ်တည်ရာကား အဘယ်ပါနည်း။

ပက္ကု။ ။**ခန္ဓာကိုယ် ဖြစ်ပါသည် ငါ့ရှင်။**

ဗုဒ္ဓ။ ။ထိုမီးဓာတ်သည် သင့်ဥစ္စာ၊ သင့်ပစ္စည်း ဖြစ်သလော။

ပက္ကု။ ။မဟုတ်ကြောင်းပါ ငါ့ရှင်။

ဗုဒ္ဓ။ ။ထိုမီးဓာတ်သည် သင်ဖြစ်သလော၊ သင်ဟုတ်သလော။

ပက္ကု။ ။မဟုတ်ကြောင်းပါ ငါ့ရှင်။

ဗုဒ္ဓ။ ။ထိုမီးဓာတ်သည် သင်၏ အတ္တလော။

ပက္ကု။ ။မဟုတ်ကြောင်းပါ ငါ့ရှင်။

ဗုဒ္ဓ။ ။ရဟာန်း၊ ကောင်းဘိစွ။ ဤနည်းဖြင့် မီးဓာတ်ကို ယထာဘူတ ဉာဏ်ဖြင့် အမှန်ကို အမှန်အတိုင်း မြင်အောင်ရှုအပ်၏။ ရှုဖန်များလတ်သော် ဤမီးဓာတ်ကား ငါ့ဥစ္စာလည်းမဟုတ်၊ ငါလည်းမဟုတ်၊ ငါ၏အတ္တလည်း မဟုတ်ဟူ၍ ဤသို့ ထိထိရောက်ရောက် သဘောပေါက်လာလိမ့်မည်။ ထိုအခါ အလောင်ဓာတ်၊ အဆွေးဓာတ်တို့အပေါ် ငြီးငွေ့ခြင်းဖြစ်လာမည်။ ယင်းဓာတ်များနှင့် ပတ်သက်၍ စိတ်ကို တပ်မက်ခြင်းမှ ကင်းစေလိမ့်မည် ဖြစ်သတည်း။

## (၄) ဝါယော လေဓာတ်

ရဟာန်း၊ လေဓာတ်ဟူ၍ ရှိသေး၏။ ယင်းလေဓာတ်၏ သဘောကို ဤသို့ မှတ်ရာ၏။ အချို့လေဓာတ်သည် ကိုယ်တွင်းမှာဖြစ်၏။ အချို့လေဓာတ်ကား ကိုယ်ပမှာဖြစ်၏။ အချုပ်အားဖြင့် လေဓာတ်၏ သဘောကား လှုပ်ရှား ထောက်ကန် တတ်ခြင်း၊ ထောက်ကန် လှုပ်ရှားခြင်းသို့ ရောက်ခြင်းပင်တည်း။

အထက်သို့ ဆန်တက်သောလေ၊ အောက်သို့စုန်ဆင်းသောလေ၊ ဝမ်း၌ တည်သောလေ၊ အအူ၌တည်သောလေ၊ အင်္ဂါကြီးငယ်တို့သို့ ကူးချည်သန်းချည် လျှောက်သောလေ၊ ဝင်သက်လေ၊ ထွက်သက်လေ။

ဤလေ၊ ထိုလေ၊ အနီးလေတို့ကို ကိုယ်တွင်းမှာဖြစ်သောကြောင့် အဇ္ဈတ္တိက ဓာတ်၊ အတွင်းဓာတ်တို့ဟူ၍ ဆိုအပ်ကုန်၏။

ဗုဒ္ဓ။ ။ရဟန်း၊ ထိုလှုပ်ရှားဓာတ်သည် အဘယ်၌ ဖြစ်သနည်း။ အတွင်းမှာ ဖြစ်သလော၊ အပြင်မှာဖြစ်သလော။

ပက္က။ ။ကိုယ်တွင်းမှာ ဖြစ်ကြောင်းပါ ငါ့ရှင်။

ဗုဒ္ဓ။ ။ထိုလေဓာတ်သည် သင့်ဥစ္စာလော၊ သင့်ပစ္စည်းလော။

ပက္က။ ။မဟုတ်ပါ ငါ့ရှင်။

ဗုဒ္ဓ။ ။ထိုလေဓာတ်သည် သင်ဖြစ်သလော၊ သင်ဟုတ်သလော။

ပက္က။ ။မဟုတ်ကြောင်းပါ ငါ့ရှင်။

ဗုဒ္ဓ။ ။ထိုလေဓာတ်သည် သင်၏ အတ္တလော။

ပက္က။ ။မဟုတ်ကြောင်းပါ ငါ့ရှင်။

ဗုဒ္ဓ။ ။ရဟန်း၊ ကောင်းဘိစွ၊ ကောင်းဘိစွ။ ဤသို့အားဖြင့် လေဓာတ်ကို ယထာဘူတဉာဏ်ဖြင့် အမှန်ကို အမှန်အတိုင်းမြင်အောင် ရှုပ်အပ်၏။ ဤသို့ရှုဖန်များလတ်သော် "ဤလေဓာတ်ကား ငါ့ပစ္စည်းလည်းမဟုတ်၊ ငါလည်းမဟုတ်၊ ငါ၏အတ္တလည်းမဟုတ်"ဟူ၍ ထိထိရောက်ရောက် သဘောပေါက်လာလိမ့်မည်။ ထိုအခါ ရှန်းကန်လှုပ်ရှားခြင်း လေဓာတ်အပေါ်၌ ငြီးငွေ့ခြင်း ဖြစ်လာမည်။ ယင်းလေဓာတ်နှင့် ပတ်သက်၍ စိတ်ကို တပ်မက်ခြင်းမှ ကင်းစေလိမ့်မည် ဖြစ်သတည်း။

## (၅) အာကာသဓာတ်

ရဟန်း၊ ဓာတ်ခြောက်ပါးအနက် တစ်ခုနှင့်တစ်ခု ထိစပ်မိခြင်းမရှိ။ ဟင်းလင်း ပွင့်နေသောဓာတ်ကို အာကာသဓာတ်ဟုခေါ်၏။ ယင်းအာကာသဓာတ်သည် ပုဂ္ဂိုလ် သတ္တဝါတို့ သန္တာန်၌ရှိလေသည်သာဖြစ်၏။ ယင်းအာကာသဓာတ်တို့ကား—

နားပေါက်၊ နှာခေါင်းပေါက်၊ ပါးစပ်ပေါက်၊ အစာသစ်ဝင်ပေါက်၊ အစာဟောင်းများ ထွက်ပေါက်။

ဤသည်တို့ကား ရေးခြစ်မထင်၊ ဟင်းလင်းပြင် အာကာသဓာတ်များ ဖြစ်ကုန်၏။ တစ်ခုနှင့်တစ်ခု ထိစပ်ခြင်းမရှိ၊ ဟင်းလင်းပွင့်နေသော သဘောရှိ၏။ ဤအာကာသဓာတ်ကိုလည်း "ငါ့ဟာ၊ ငါ၊ ငါ့အတ္တ"ဟူ၍ အယူအစွဲမရှိစေအပ်။ ငါ့ပစ္စည်းလည်းမဟုတ်၊ ငါလည်းမဟုတ်၊ ငါ၏အတ္တလည်း မဟုတ်ဟူ၍ ဤသို့ ထိထိရောက်ရောက် သဘောပေါက်အောင် ရှုအပ်၏။ ဤသို့ရှုဖန်များလတ်သော် အာကာသဓာတ်များ၌ ငြီးငွေ့လာ၏။ ယင်းအာကာသဓာတ်များအပေါ်၌ စိတ်ကို တပ်ခြင်း ကင်းလေ၏။

## (၆) ဝိညာဏစာတ်

ရဟာန်း၊ ဓာတ်ခြောက်ပါးအနက် ဝိညာဏဓာတ် (အသိဓာတ်) ကျန်သေး၏။ ထိုအသိဓာတ်သည် စင်ကြယ်၏။ ဖြူစွတ်၏။ ထိုအသိဓာတ်ဖြင့် အဘယ်ကို အဘယ်သို့ သိလေသနည်းဆိုသော် ချမ်းသာကို ချမ်းသာဟူ၍ သိ၏။ (ဝါ) ချမ်းသာမှန်း သိ၏။ ဆင်းရဲကို ဆင်းရဲ၏ဟူ၍ သိ၏။ (ဝါ) ဆင်းရဲမှန်း သိ၏။ ဆင်းရဲချမ်းသာ မဟုတ်သည်ကို ဆင်းရဲချမ်းသာ မဟုတ်ဟူ၍ သိ၏။ (ဝါ) မဟုတ်မှန်း သိ၏။

ရဟာန်း၊ ကောင်းစွာ ခံစားခြင်း၏အကြောင်းဖြစ်သော ဖဿကိုစွဲ၍ သုခဝေဒနာ (ချမ်းသာစွာခံစားရခြင်း)သည်ဖြစ်၏။ ထိုပုဂ္ဂိုလ်၊ သတ္တဝါသည် သုခဝေဒနာကို ခံစားအပ်သည်ရှိသော် ငါ သုခဝေဒနာကို ခံစားသည်ဟုသိ၏။ သုခဝေဒနာကို ခံစားအပ်သော ထိုဖဿ၏ ချုပ်ပျောက်ခြင်းကြောင့်၊ ထိုထိုအကြောင်းတို့ကြောင့် ဖြစ်ပေါ်လာသော ဝေဒနာကို ဖြစ်စေတတ်သော သုခဝေဒနာ၏ အကြောင်းဖြစ်သော ဖဿကိုစွဲမှီ၍ ဖြစ်ပေါ်လာသော အကြင်သုခဝေဒနာသည်ရှိ၏။ ထိုသုခဝေဒနာသည် ချုပ်၏။ ငြိမ်းအေး၏ဟူ၍ ကောင်းစွာသိ၏။

ရဟာန်း၊ ထိတွေ့မှု ဖဿသည် ဒုက္ခဝေဒနာ၏အကြောင်းဖြစ်၏။ ယင်းအကြောင်းကိုအစွဲပြု၍ ဒုက္ခဝေဒနာဖြစ်လာ၏။ ထိတွေ့မှု ဖဿသည် ဆင်းရဲလည်း မဟုတ်၊ ချမ်းသာလည်းမဟုတ်သော ဥပေက္ခာ ဝေဒနာ၏အကြောင်းဖြစ်၏။ ယင်းအကြောင်းကို အစွဲပြု၍ ဥပေက္ခာဝေဒနာဖြစ်၏။

ထိုသူသည် ဥပေက္ခာဝေဒနာကို ခံစားလေသည်ရှိသော် ဥပေက္ခာဝေဒနာကို ငါခံစားသည်ဟု ကောင်းစွာသိ၏။ ဖဿချုပ်ခဲ့သော် ဥပေက္ခာဝေဒနာ ချုပ်သွားပြီ၊ ငြိမ်းသွားပြီဟူ၍ သိ၏။

ရဟာန်း၊ ဥပမာအားဖြင့် သစ်သားချောင်းနှစ်ခု=တုတ်တုတ်ချင်းထိပွတ်ဖန်များလတ်သော် အခိုး၊ အလျှံ၊ အငွေ့များထွက်လာ၏။ နောက် မီးပွင့်လေ၏။ တုတ်ချောင်းနှစ်ခု အချင်းချင်း ထိပွတ်ရာမှ ထွက်ပေါ်လာသော အခိုး၊ အလျှံ၊ အငွေ့များနှင့် မီးပွင့်သည် ထိုတုတ်ချောင်းနှစ်ခုအောက်တွင် ချုပ်ပျောက်၊ ငြိမ်းအေးသွားသည်နှင့် အလားတူပေ၏။

ရဟာန်း၊ ထိုမှတစ်ပါး ဥပေက္ခာသဘောကိုပြောရန် ကျန်သေး၏။ ဥပေက္ခာသည် သန့်၏။ ဖြူစွတ်၏။ နူးညံ့၏။ အမှုခံခန့်၏။ ပြိုးပြိုးပြက်ပြက် တစ်ခဲနက် အရောင်ထွက်နေ၏။

ရဟာန်း၊ ဥပမာအားဖြင့်သော်ကား ပန်းထိမ်အတတ်၌ ကျွမ်းကျင်သော ပန်းထိမ်ဆရာသည်သော်လည်းကောင်း၊ သို့မဟုတ် ယင်း၏တပည့်သည်သော်

လည်းကောင်း မိုက်ခွက်ကိုဖွဲ့ရာ၏။ ဖွဲ့ပြီးသော် မိုက်ခွက်ဝကို လိမ်းကျံရာ၏။ လိမ်းကျံပြီးသော် ညှပ်ဖြင့် ရွှေကိုယူ၍ မိုက်ခွက်ဝ၌ ထည့်ရာ၏။ [illegible] ကို ရံခါ ရံခါ ရှေးရှုမှုတ်ရာ၏။ ရံခါရံခါ ရေဖြင့်ဖျန်းရာ၏။ ရံခါ လျစ်လျူရှုထားရာ၏။ ထိုရွှေသည် ကောင်းစွာလျှော်အပ်ပြီးသော ရွှေ၊ အညစ်အကြေးထုတ်ပြီးသော ရွှေကောင်း၊ ရွှေသန့်ဖြစ်လာသဖြင့် လက်ကောက်၊ နားတောင်းစသော လက်ဝတ်လက်စား၊ အဆင်တန်ဆာများ ပြုလိုခဲ့သော်လည်းကောင်း၊ ရွှေပြားခတ်လိုခဲ့သော်လည်းကောင်း၊ ဆွဲကြိုး၊ ဘယက် စသည်ပြုလိုခဲ့သော်လည်းကောင်း ထိုရွှေပန်းထိမ်သည် သို့မဟုတ် ယင်း၏ တပည့်ဖြစ်သူအား အလိုရှိသလို အသုံးပြုနိုင်ခြင်း အကျိုးရှိသကဲ့သို့—

ဤအတူသာလျှင် နောက်ဆုံး၌ သန့်စင်၊ ဖြူဆွတ်သော ဥပေက္ခာ၊ နူးညံ့၍ အမှု၌ခန့်သော ဥပေက္ခာသာ ကြွင်းကျန်လေတော့၏။

ရဟန်း၊ ထိုအခါ ထိုသူသည် ဤသို့သိလေ၏။ "ငါသည် သို့စင်မျှ သန့်စင်၊ ဖြူဆွတ်သော ဥပေက္ခာကို အာကာသာနဉ္စာယတနစျာန်သို့၊ ဝိညာဏဉ္စာယတန စျာန်သို့၊ အာကိဉ္စညာယတနစျာန်သို့ အကယ်၍ ကပ်ဆောင်ငြားအံ့၊ စျာန်စိတ်ကိုလည်း ဖြစ်စေငြားအံ့။ ဤအရူပါဝါစာရစျာန်ကား သင်္ခတပြုပြင်အပ်သော သဘောပင်တည်း။ ငါသည် ဤမျှ သန့်စင်ဖြူဆွတ်သော ဥပေက္ခာကို နေဝသညာနာသညာစျာန်သို့ အကယ်၍ ကပ်ဆောင်ငြားအံ့၊ စျာန်စိတ်ကိုလည်း ဖြစ်စေငြားအံ့၊ ဤစျာန်သည်ကား သင်္ခတ ပြုပြင်အပ်သော သဘောပင်တည်း"ဟု ဤသို့ သိလေ၏။

ရဟန်း၊ ထိုအခါ ထိုသူသည် ရူပါဝစရစျာန်၊ အရူပါဝစရစျာန်ကို ကြီးပွားခြင်းငှာလည်းကောင်း၊ ဆုတ်ယုတ်ခြင်းငှာလည်းကောင်း ပြုလည်းမပြုပြင်၊ အားလည်း မထုတ်၊ စေ့ဆော်တိုက်တွန်းမှုကိုလည်း သူမပြု။ ဤသို့ ပြုပြင်အားထုတ်ခြင်း၊ စေ့ဆော်တိုက်တွန်းခြင်းမရှိခဲ့သော် တစ်စုံတစ်ခုသော အာရုံကို မစွဲလမ်းတော့ချေ။ မစွဲလမ်းခဲ့သော် မတပ်မက်တော့။ မတပ်မက်သည်ရှိသော် တသီးတခြားသာ ငြိမ်းအေးသွား၏။ ပရိနိဗ္ဗာန်ပြုသွား၏။ "ဇာတိ=ပဋိသန္ဓေနေမှု ကိစ္စအားလုံးကုန်ပြီ၊ ပြတ်ပြီ။ မြတ်သောအကျင့် မဂ္ဂဗြဟ္မစရိယကို ကျင့်အပ်ပြီ။ ပြုသင့်၊ ပြုထိုက်သမျှ မဂ်ကိစ္စများကို ပြုအပ်ပြီ။ ဤမဂ်ကိစ္စနှင့်ပတ်သက်၍ အခြားပြုဖွယ်ကိစ္စ ဘာမျှ မရှိတော့ချေ"ဟူ၍ ဤသို့ သိလေ၏။

ရဟန်း၊ ထိုအခါ ထိုသူသည် အကယ်၍ သုခဝေဒနာကို ခံစားလျှင်လည်း သည်ဝေဒနာ အမြဲမရှိပါတကားဟူ၍ သိ၏။ မျိုချရလောက်အောင်သော စွဲလမ်းဖွယ် မရှိဟူ၍သိ၏။ မပစ်ရက်လောက်အောင် နှစ်သက်ဖွယ်မရှိဟူ၍ သိ၏။ ဒုက္ခဝေဒနာ၊

ဥပေက္ခာဝေဒနာများကို ခံစားရာ၌လည်း ဤနည်းတူပင်ဖြစ်၏။ မြဲသောသဘော မရှိ။ မျိုချရလောက်အောင် စွဲလမ်းဖွယ်မရှိ။ မပစ်ရက်လောက်အောင် စွဲနှစ်သက်ဖွယ် မရှိဟူ၍ သိ၏။

ထိုသူသည် သုခဝေဒနာကို ခံစားအံ့၊ သံယောဇဉ်ကင်းကင်း ခံစား၏။ ဒုက္ခဝေဒနာ၊ ဥပေက္ခာဝေဒနာကို ခံစားရာ၌လည်း ထိုနည်းပင်ဖြစ်၏။

ထိုသူသည် ကိုယ်လျှင် အပိုင်းအခြားရှိသော ဝေဒနာကို ခံစားသည်ရှိသော် ကိုယ်လျှင် အပိုင်းအခြားရှိသော ဝေဒနာကို ငါခံစားသည်ဟူ၍သိ၏။ အသက်အပိုင်း အခြားရှိသော ဝေဒနာကို ခံစားရှိသည်သော်လည်း ထို့အတူပင် သိ၏။ ခန္ဓာကိုယ် ပျက်စီး၍ သေသည်၏ အခြားမဲ့ကာလမှ အထက်၌၊ အသက်ကုန်ဆုံးသည်မှ အထက်၌ ဤတစ်ဆယ့်နှစ်ပါးသော အာယတနတို့၌သာလျှင် အလုံးစုံသော ဝေဒနာတို့သည် နှစ်သက်ဖွယ် မရှိကုန်သည်ဖြစ်၍ ငြိမ်းပျောက်ကုန်လတ္တံ့ဟူ၍ သိ၏။

ရဟန်း၊ ဥပမာပုံဆောင်၍ သိထင်မြင်လွယ်အောင် သင့်အား ငါပြအံ့။ ထိုဆီ၊ ထိုမီးစာကုန်သွားခဲ့သော်လည်းကောင်း၊ အခြားလောင်းစာများ ဖြည့်တင်းခြင်း မရှိခဲ့သော်လည်းကောင်း၊ ငြိမ်းလေ၏။ ရဟန်း၊ သတ္တဝါတို့ အသက်တည်မှု၊ မတည်မှုနှင့် ... သက်၍ ဤဥပမာအတိုင်း သင်မှတ်နိုင်ပေသည်။

ရဟန်း၊ ထို့ကြောင့် ဤသို့မြတ်သော အရဟတ္တဖိုလ်ပညာနှင့် ပြည့်စုံသော သူသည် မြတ်သောတည်ရာဖြစ်သော ဤအရဟတ္တဖိုလ် ပညာနှင့်ပြည့်စုံသူ ဖြစ်လေသည်။ မှန်၏။ အလုံးစုံသောဒုက္ခ၏ ကုန်ခြင်းကြောင့်ဖြစ်သော အရဟတ္တဖိုလ် ဉာဏ်ဟူ၍ရှိ၏။ ထိုဉာဏ်သည် မြတ်သော၊ ဖြူစင်သော ပညာဖြစ်သတည်း။

ရဟန်း၊ ထိုရဟန္တာပုဂ္ဂိုလ်၏ ထိုအရဟတ္တဖိုလ်ဉာဏ်သည် နိရောဓသစ္စာ၌ တည်၏။ ပျက်စီးခြင်းမရှိဖြစ်၏။ မှန်၏။ အကြင်သဘောသည် ပျက်စီးခြင်းသဘော ရှိ၏။ ထိုသဘောကား မှားယွင်း၏။ အကြင်သဘောသည်ကား ပျက်စီးခြင်း သဘောမရှိ။ ရာဂမီး၊ ဒေါသမီး စသည်ငြိမ်း၏။ ထိုသဘောသည်သာ မှန်၏။

ရဟန်း၊ ထို့ကြောင့် ဤသို့မြတ်သော အရဟတ္တဖိုလ်ပညာနှင့် ပြည့်စုံသော သူသည် မြတ်သောတည်ရာဖြစ်သော အရဟတ္တဖိုလ်ပညာနှင့် ပြည့်စုံသူဖြစ်လေသည်။ ရဟန်း၊ အပြင်သဘောသည် ပျက်စီးခြင်းမရှိ။ ရာဂစသော မီးအားလုံးငြိမ်း၏။ ဤပျက်စီးခြင်းသဘောမရှိသော၊ ရာဂစသော ငြိမ်းသော နိဗ္ဗာန်သည် မွန်မြတ်သော အရိယာသစ္စာ မည်ပေသည်။

ရှေးပုထုဇဉ်ဘဝ၌ မဂ်ဖိုလ်ပညာမရှိသော ထိုပုဂ္ဂိုလ်၏သန္တာန်၌ ဆင်းရဲ သို့လှောင်ရာ ကိုယ်ခန္ဓာကောင်သည် တဏှာတင်းကြမ်း၊ ဒိဋ္ဌိဖြင့် အယူအစွဲ၊ အစွဲအလမ်း တင်းကြမ်းနှင့် ဖြစ်နေခဲ့၏။

ထိုပုဂ္ဂိုလ်သည် ထိုပုထုဇဉ်ဘဝ၌ ရှိနေသရွေ့ ကိလေသာအားလုံးတို့ကို ပယ်အပ်ကုန်ပြီ။ အမြစ်ပြတ်အောင် ဖြတ်တောက်အပ်ကုန်ပြီ။ နောက်တစ်ဖန် ရှင်သန်မလာနိုင်အောင် မြှုအပ်ကုန်ပြီ။ နောင်အခါ ဖြစ်ခြင်းသဘော မရှိတော့ကုန်။

ထို့ကြောင့် ဤသို့သော ပယ်ခြင်းမျိုးနှင့် ပြည့်စုံသော် ရဟန်းသည် မြတ်သော ဤတည်ရာဖြစ်သော အရဟတ္တမဂ်ဖြင့် ကိလေသာကို ပယ်ခြင်းနှင့် ပြည့်စုံသူ ဖြစ်လေသည်။ မှန်၏။ အကြောင်းစုနှင့်၊ ကာမဂုဏ်၊ ကိလေသာ သင်္ခါရတို့ကို ပယ်စွန့်ခြင်းဟူ၍ရှိ၏။ ဤပယ်စွန့်ခြင်းကား မြတ်သော ပယ်စွန့်ခြင်း မြတ်စွာသော ပယ်စွန့်ခြင်း ဖြစ်သတည်း။

ရှေးပုထုဇဉ်ဘဝ၌ မဂ်ဖိုလ်ပညာမရှိသော ထိုပုဂ္ဂိုလ်၏ သန္တာန်၌ အဘိဇ္ဈာ= ရှေးရှုကြံတတ်သော လောဘ၊ ဆန္ဒ=အလို၊ သာရာဂ=ဖြင်းစွာ တပ်မက်ခြင်းသည် ဖြစ်၏။ ထိုပုဂ္ဂိုလ်သည် ဖြစ်လာသော ထိုအရာအားလုံးကို အကြွင်းမဲ့ ပယ်အပ်၊ ဖြတ်တောက်အပ်ပြီ။

ဤရွေ့ဤမျှအထိ ဟောကြားလာခဲ့သော်လည်း ပက္ကုသာတိ ရဟန်းကြီးကား ဘုရားကိုဘုရားမှန်း သိရှာသေးဟန်မတူ။ သို့သော် ဘုရားသခင်၏ ကိုယ်တော်ပွား၊ တပည့်သားကောင်းတစ်ယောက်ဟူ၍ကား အမှတ်ထားဟန်တူ၏။ တရားတော်၌ အာရုံပြု၍ ခံယူခြင်းဟူသော သူ၏အမူအရာများ ထိုသဘောကို ပြနေဘိသကဲ့သို့ ထင်ရ၏။

ဓာတ်ခြောက်ပါးအနက် ဝိညာဏဓာတ်အကြောင်းကို ဗုဒ္ဓသည် ပက္ကုသာတိ ရဟန်းအား ဆက်၍ ဟောကြားတော်မူ၏။

ရဟန်း၊ ငါဖြစ်၏ဟူသော မှတ်ထင်ခြင်း၊ ဤကိုယ်သည် ငါဟူသော မှတ်ထင်ခြင်း၊ ငါဖြစ်အံ့ဟူသော မှတ်ထင်ခြင်း၊ ငါမဖြစ်အံ့ဟူသော မှတ်ထင်ခြင်း၊ ရုပ်ရှိသည်ဖြစ်လတ္တံ့သော မှတ်ထင်ခြင်း၊ ရုပ်မရှိသည်ဖြစ်လတ္တံ့ဟူသော မှတ်ထင်ခြင်း၊ သညာရှိလတ္တံ့ဟူသော မှတ်ထင်ခြင်း၊ သညာမရှိလတ္တံ့ဟူသော မှတ်ထင်ခြင်း၊ သညာမရှိမဟုတ်၊ ရှိမဟုတ်ဖြစ်လတ္တံ့ဟူသော မှတ်ထင်ခြင်း၊ မှတ်ထင်ခြင်းဟူသော အနာရောဂါ၊ မှတ်ထင်ခြင်းဟူသော အိုင်းအမာ၊ မှတ်ထင်ခြင်းဟူသောငြောင့်၊ ဤလုံးစုံကုန်သော မှတ်ထင်ခြင်းတို့ကို လွန်မြောက်ခြင်းကြောင့် ရဟန္တာဖြစ်သော ရဟန်းကို ငြိမ်းသူ ဟူ၍ ဆိုအပ်၏။

ရဟန်း၊ ငြိမ်းလေပြီးသော ရဟန္တာပုဂ္ဂိုလ်သည် ဖြစ်လည်းမဖြစ်၊ အိုလည်း မအို၊ သေလည်းမသေ၊ ပျက်လည်းမပျက်၊ နှစ်လည်းမနှစ်သက်။

မှန်၏။ အကြင်အကြောင်းကြောင့်ဖြစ်ရာ၏။ ထိုအကြောင်းသည် ထိုရဟန္တာ ပုဂ္ဂိုလ်အားမရှိလေ။ ပဋိသန္ဓေနေမှု၊ ဇာတိမဖြစ်ခဲ့သော် အဘယ်မှာလျှင် အိုနိုင်မည်

နည်း။ မအိုသည်ရှိသော် အဘယ်မှာ သေရိုးမည်နည်း။ မသေသည်ရှိသော် အဘယ်မှာ ပျက်ပရိုးမည်နည်း။ မပျက်သည်ရှိသော် ဘောက်မဲ့ကြောင့် နှစ်သက်ပရိုးမည်နည်း။

ရဟန်း၊ အကျဉ်းအားဖြင့် ငါ ဟောကြားအပ်ပြီးသော ဆဓာတုဝိဘင်၊ ဓာတ်ခြောက်ပါး ဝေဖန်သုံးသပ်ချက်ကို မှတ်သားလော့ဟု မိန့်တော်မူပြီးလျှင် ဗုဒ္ဓသည် တုဏှိဘာဝေ ဆိတ်ဆိတ်နေတော်မူလေ၏။

ထိုအခါတွင်မှ ပက္ကုသာတိရဟန်းသည် မိမိအား တရားဟောနေသူမှာ ဘုရားသခင်ဖြစ်ကြောင်းကို ကောင်းစွာ ရိပ်စားမိသွားလေ၏။ ဘုရားသခင်နှင့် တန်းတူနေထိုင်၊ ဆိုပြော၊ ဆက်ဆံခြင်း ပြုမိသည်များကို အားတုံ့အားနာကြီး ဖြစ်နေလေ၏။ လွန်ပြီးသွားကိစ္စကို မည်သို့မျှ မတတ်နိုင်တော့သည်အဆုံးတွင်—

"သတ္ထာ ဘုရားသခင် ငါ့ရှေ့မှောက် ရောက်တော်မူနေပြီကော"

"သုဂတမြတ်စွာ ငါ့ရှေ့မှောက် ရောက်တော်မူနေပြီကော"

"သမ္မာသမ္ဗုဒ္ဓဘုရား ငါ့ရှေ့မှောက် ရောက်တော်မူနေပြီကော" ဟူ၍ နေရာမှ ရုတ်တရက်ထ၊ သင်္ကန်းကို လက်ကနက်တော့ထိုး၍ ဘုရားသခင်၏ ခြေတော်အစုံကို ဦးတိုက်၍ ဤသို့တောင်းပန်လျှောက်ထားခြင်း ပြုလေသတည်း။

ပက္ကု။ ။အရှင်ဘုရား၊ မိုက်သည့်အလျောက်၊ တွေဝေထိုင်းမှိုင်းသည့်အလျောက်၊ မလိမ္မာသည့်အလျောက် အပြစ်သည် အကျွန်ုပ်အား လွှမ်းမိုးခဲ့ပါပြီ။ ဘုရားတပည့်တော်သည် ရှင်တော်မြတ်ဘုရားကြီးကို 'ငါ့ရှင်၊ ငါ့ရှင်'ဟု အသုံးအနှုန်း၊ ဝေါဟာရ စကားလုံးများဖြင့် ခေါ်ဝေါ်သုံးစွဲမှားခဲ့မိပါပြီ။ အရှင်ဘုရား၊ အကျွန်ုပ်၏အပြစ်ကို နောင် စောင့်စည်းခြင်းငှာ အပြစ်ဟူ၍ လက်ခံတော်မူပါ ဘုရား။

ဗုဒ္ဓ။ ။ပက္ကုသာတိ၊ သင်၏အပြစ်များကို ငါတို့ လက်ခံပေကုန်၏။ ဤငါဘုရား သာသနာ၌ အပြစ်ရှိသည်ကို ရှိမှန်းသိလျှင် ဝိနည်းဓမ္မကံအားလျော်စွာ ကုစား၏။ နောင်အခါ၌ ဤသို့ မဖြစ်ရလေအောင် စောင့်စည်းခြင်းသို့ရောက်၏။ ဤအပြုအမူကား ကြီးပွားခြင်း၏ အကြောင်းဖြစ်သတည်းဟု မိန့်တော်မူလျှင် ပက္ကုသာတိသည် များစွာဝမ်းသာသွားလေ၏။

ပက္ကု။ ။မြတ်စွာဘုရား၊ ဘုရားတပည့်တော်သည် မြတ်ဘုရားထံ၌ ပဉ္စင်းအဖြစ်ကို ရလိုပါသည် ဘုရား။

ဗုဒ္ဓ။ ။ပက္ကုသာတိ၊ သင့်အား သင်္ကန်း၊ သပိတ် ပြည့်စုံပြီလော။

ပက္ကု။ ။မပြည့်စုံသေးပါ ဘုရား။

ဗုဒ္ဓ။ ။ပဏ္ဍုသာတိ၊ မြတ်စွာဘုရားတို့သည် သက်န်း၊ သပိတ်မပြည့်စုံသူတို့ကို ပဥ္စင်းပြုပေးရိုး မရှိကုန်။

ဤသို့ မိန့်တော်မူလိုက်သော စကား၏အဆုံးတွင် ပဏ္ဍုသာတိရဟန်းသည် အလွန်နှစ်သက်ဝမ်းမြောက်သော အမူအရာဖြင့် နေရာမှထ၍ ဘုရားသခင်အား ရှိခိုးပြီးလျှင် သက်န်း၊ သပိတ်ရှာဖွေရန်အတွက် ဘုရားသခင်၏ အပါးတော်မှ ဖဲထွက်ခဲ့လေသတည်း။

အချိန်သည် ညနေစောင်း၊ နွားရိုင်းသွင်းချိန် ဖြစ်လေသည်။ ပဏ္ဍုသာတိရဟန်းသည် တမတ်စောက်စောက် လမ်းပေါ်၌ နွားအုပ်တစ်အုပ်နှင့် ရင်ဆိုင်လျှောက်လာနေသည်။

ထိုနွားအုပ်ထဲ၌ နွားမကြီးတစ်ကောင်သည် သားပျောက်သဖြင့် စိတ်နောက်သလိုဖြစ်နေသည်။ နွားအချင်းချင်းပင် ဝှေ့လား၊ ကန်လားလုပ်နေသဖြင့် သူ့အနားသို့ အခြားနွားများ မကပ်ဝံ့ကြ။ ထိုနွားမကြီးသည် ရှေ့ ၊ နွားအုပ်ကြားတွင် ရှိပြီး ရှေ့ ၊ နွားအုပ်ရှေ့သို့ရောက်နေတတ်သည်။ နေရာမမှန်သည့်ကို ထောက်သဖြင့် သူ၏စိတ်များလည်း မမှန်ကြောင်းကို ရိပ်စားမိနိုင်သည်။

ပဏ္ဍုသာတိရဟန်း၏ ဦးနှောက်ထဲ၌ကား နွားအုပ်လည်းမရှိ။ နွားလည်းမရှိ။ ရှိလေသည်ကား သပိတ်နှင့်သက်န်းသာတည်း။ "သပိတ်နှင့်သက်န်းသာ ပြည့်စုံမည်ဆိုလျှင် ငါရဟန်း ကောင်းကောင်းဖြစ်ပြီ" ဤအတွေးများသာ သူ့မှာ ရှိနေသည်။

သို့ကြောင့်ပင် နွား၏ချိုကြား၌ ကားခနဲပါသွားသည်ကိုပင် ပဏ္ဍုသာတိရဟန်းခမျာ ရိပ်စားမိဟန်မတူ။ သားစိတ်မွှန်နေသော နွားမကြီးသည် နွားအုပ်ရှေ့လာနေသော ပဏ္ဍုသာတိရဟန်းကိုမြင်လျှင် ရုတ်တရက် နွားအုပ်ထဲမှပြေးထွက်ပြီး တအားဝှေ့ချက်ကြောင့် နွားမ၏ချိုဖျားတွင် အသက်ပါသွားရှာလေ၏။

ထိုသတင်းကို ရဟန်းတို့ကြားလေသော် ဘုရားသခင်ထံသွား၍ အကျိုးအကြောင်း လျှောက်ထားကြလေကုန်၏။

"အရှင်ဘုရား၊ ပဏ္ဍုသာတိရဟန်းကြီး ကွယ်လွန်သွားရှာပါပြီ ဘုရား။ ထိုပဏ္ဍုသာတိ၏ လားရာဂတိကား အဘယ်ပါနည်း။ သူ၏တမလွန်ဘဝသည် အဘယ်နည်း"ဟူ၍ မေးလျှောက်ကုန်၏။

"အို–ရဟန်းတို့၊ ပဏ္ဍုသာတိ ရဟန်းကား ပညာရှိဘိစွ။ အရဟတ္တမဂ်တရားအားလျော်သော အောက်မဂ်၊ အောက်ဖိုလ် တရားအကျင့်ကိုကျင့်ပြီး ရရှိလေပြီ ဖြစ်သည်။

"အို–ရဟန်းတို့၊ ပဏ္ဍုသာတိရဟန်းသည် တရားဟူသောအကြောင်းကြောင့် ငါဘုရားကို ညှဉ်းဆဲတော့မည်မဟုတ်။ ငါးပါးသော ဩရမ္ဘာဂိယ သံယောဇဉ် တရားတို့၏ ကုန်ခြင်းကြောင့် သုဒ္ဓါဝါသဗြဟ္မာ့ဘုံ၌ ဥပပတ် ပဋိသန္ဓေနေ၏။ ထိုသုဒ္ဓါဝါသဘုံမှ ဆုတ်နစ်ခြင်း သဘောမရှိ"ဟု မိန့်တော်မူ၏။

(ဥပရိပဏ္ဏာသပါဠိတော်၊ ဝိဘင်္ဂဝဂ်၊ ဓာတု ဝိဘင်္ဂသုတ် ၂၈၁၊ ဆဋ္ဌမူ)

( ၃၈ )

# လောကအဆုံးသို့ ခြေကျင်လျှောက်လေသူ

လောကဓာတ် သိပ္ပံပညာရပ်များ ထွန်းကားလာသော ယနေ့ခေတ်၌ အရာရာတွင် "လျင်မြန်နှုန်း"သည် အဘက်ဘက်၌ တရှိန်ရှိန် တိုးတက်လျက် ရှိနေသည် ဖြစ်၏။

လကမ္ဘာရောက် ဒုံးပျံများ၏ လျင်မြန်နှုန်းသည် ယခုအချိန်အထိ အမြင့်ဆုံးဟု ဆိုသည်။ ယင်းဒုံးပျံများ၏ အမြန်နှုန်းမှာ တစ်စက္ကန့်လျှင် မိုင်ပေါင်း သုံးလေးရာဟု တွက်ဆကြသည်။ ယနေ့အထိ ဤစံချိန်သည် အမြင့်ဆုံးဟု ဆိုရမည်ပင်။

သက်ရှိလူသားတစ်ဦးတစ်ယောက်၏ အပြေးသန်လျင်မြန်နှုန်းသည် အဆိုပါ လကမ္ဘာသွား ဒုံးပျံကြီးများ၏ လျင်မြန်နှုန်းကိုပင် စံချိန်ချိုးလိုက်သည်ဟု ပြောချေသော် "ယုံတမ်းစကားလား"ဟု ဆိုကောင်းဆိုပေမည်။ ဆိုလည်း ဆိုသင့်ပါ၏။

သို့သော် ဤသို့ အပြေးသန်လျင်မြန်လွန်းသော အပြေးချန်ပီယံတစ်ယောက် ထူးထူးဆန်းဆန်း ပေါ်ပေါက်ခဲ့ဖူးကြောင်းကို အထောက်အထားနှင့်တကွ တိတိကျကျ ဖော်ပြထားသော မှတ်တမ်းတစ်ခုကို တွေ့ရှိရပေသည်။ ထိုသူကား လူဝတ်ကြောင် မဟုတ်။ ရသေ့ဟုဆိုသည်။

ထိုဖြစ်ရပ်ကား ကာယကံရှင်ကိုယ်တိုင် မှတ်တမ်းတင်ချက်ဖြစ်သဖြင့် ကိုယ်တိုင်ရေး အတ္ထုပ္ပတ္တိမျိုးဟု ဆိုနိုင်သည်။ ကိုယ့်ဘဝဖြစ်စဉ်ကိုယ်တိုင် မှတ်တမ်းတင်ထားခဲ့သော စိတ်ဝင်စားဖွယ်ရာ ဓာတ်လမ်းကောင်းတစ်ပုဒ်ဟူ၍လည်း ဆိုသင့်ပါ၏။

ထိုဓာတ်လမ်း၏ နိဒါန်းကို ဇေတဝန်ကျောင်းတော်မှ အစပျိုးထား၏။ ဓာတ်လမ်းစတင်ဖြစ်ပေါ်လာချိန်ကိုလည်း ညဉ့်သန်းခေါင်ယံဟု ညွှန်းသွား၏။

တစ်ခုသော ညတစ်ည၏ သန်းခေါင်ယံလူခြေတိတ်ချိန်တွင် ဤဇာတ်အိမ်ကို ပန္နက်စွဲခဲ့လေသည်။ ဇာတ်လိုက် ကာယကံရှင်ကား နတ်သား။ သူ့အမည်ကား ရောဟိတဟု ဆိုလေသတတ်။

ရောဟိတနတ်သားသည် မှောင်အတိကျနေသော သန်းခေါင်ယံအချိန်တွင် မိမိ၏ကိုယ်ရောင်အလင်းကို မီးရှူးတိုင်သဖွယ်ပြု၍ ဘုရားသခင် သီတင်းသုံးတော်မူရာ ဇေတဝန်ကျောင်းတော်အတွင်းသို့ ဝင်လာပြီး ဘုရားသခင့်ထံတော်သို့ချဉ်းကပ် ခြေကိုစုံရပ်ကာ လက်အုပ်ချီ၍ ဘုရားသခင်အား အရိုအသေပြုပြီးနောက် ဤသို့ မေးလျှောက်ခြင်းပြုလေသတည်း။

"အရှင်ဘုရား၊ ပဋိသန္ဓေမနေရသောနေရာ ရှိပါသလား။ မအိုသောနေရာ၊ မသေွးမြည့်သောနေရာ၊ မသေသောနေရာ၊ တစ်ဖန်ပြန်၍ မဖြစ်သောနေရာများ ရှိပါသလား ဘုရား။ အကယ်၍ရှိခဲ့ပါသော် ထိုနေရာသို့ ခြေဖြင့်သွား၍ ရောက်နိုင်ပါသလား။ လောက၏အဆုံး-ထိုနေရာကို သိနိုင်မြင်နိုင်စွမ်းကော ရှိပါသလားဘုရား။

ရောဟိတ နတ်သားသည် ခြေကိုစုံရပ်လျက်မှ လက်အုပ်ချီကိုမဖြုတ်ဘဲ ဘုရားသခင်အား မေးလျှောက်ကြည့်လေသည်။ သူ့မှာ ခံစားချက်ရှိလေသောကြောင့် လည်း ထူးဆန်းစွာသော ဤမေးခွန်းမျိုးကို အ,ကာလ ညအခါတွင် တကူးတက လာရောက်၍ မေးလျှောက်ခြင်း ဖြစ်တန်ရာသည်။ ထိုအခါ ဘုရားမြတ်စွာက သူ့အမေးကို ဤသို့ အဖြေပေးတော်မူခဲ့လေသည်။

"အချင်း ဒါယကာနတ်သား၊ သင်မေးသောနေရာ၊ လောက၏အဆုံးသို့ ခြေဖြင့်သွား၍ ရောက်အပ်၏ဟူ၍ ငါမဆို၊ သိအပ်စကောင်းသည်ဟူ၍လည်း ငါမပြော၊ မြင်အပ်စကောင်းသည်ဟူ၍လည်း ငါမမြွက်"

ဤသို့ ဖြေလိုက်ရာ ရောဟိတနတ်သားသည် ထိုအဖြေကို များစွာနှစ်ခြိုက် သွားလေသည်။

"အရှင်ဘုရား၊ အံ့ဖွယ်ကောင်းပါဘိစွ၊ မဖြစ်စဖူး ထူးကဲစွာ ဖြစ်ပါပေစွ။ ရှင်တော်မြတ်ဘုရား၏ ဖြေဆိုချက်မှာ အလွန်လေးနက် ထိရောက်လှပါသည်ဘုရား။ လောက၏အဆုံးသို့ ခြေဖြင့်သွား၍ မရောက်နိုင်ကြောင်း၊ သိလည်းမသိနိုင်၊ မြင်လည်းမမြင်နိုင်ကြောင်းကို ဆိုလိုရိပ်ရှိကြောင်း တပည့်တော် ရိပ်စားမိပါသည် ဘုရား။

"အရှင်ဘုရား၊ ဤကိစ္စနှင့်ပတ်သက်၍ တပည့်တော်၏ ဖြစ်ရပ်တစ်ခုကို လျှောက်ထားခဲ့ပါရစေ၊ ခွင့်ပြုတော်မူပါဘုရား"ဟု ဘုရားသခင့်ထံ ခွင့်ပန်ပြီးနောက် အတိတ်တစ်ခေတ်ဆီက သူ၏တကယ့်ဖြစ်ရပ်ဇာတ်လမ်းတိုကလေး တစ်ပုဒ်ကို ဖွင့်ထုတ်လျှောက်ထားသွားလေသည်။

"အရှင်ဘုရား၊ တပည့်တော်သည် ရှေးအခါက ဘဝတစ်ခုတွင် တန်ခိုးဣဒ္ဓိပါဒ်နှင့် ပြည့်စုံသော မြေလျှိုးမိုးပျံ ဈာန်ရ ရသေ့တစ်ဦးဖြစ်ခဲ့ဖူးပါသည်။ ရောဟိတရသေ့ဟု အမည်တွင်ခဲ့ပါသည် ဘုရား။

"တပည့်တော်၏ လျင်မြန်ပုံမှာ ပြော၍ ယုံကြည်နိုင်စရာမရှိအောင်ပင် လွန်စွာ ထူးဆန်းလှပါသည်။ တပည့်တော်၏ခြေလှမ်းသည် အဘယ်မျှ လျင်မြန်သနည်းဆိုပါသော် အလွန်ကျင်လည်လှစွာသော လေးသည်တော်တစ်ဦး၏ ဝိုးခနဲ ပစ်လွှတ်လိုက်သောမြားသည် ထန်းပင်လုံး၏အရိပ်ကို ကန့်လန့်ဖြတ်ကျော်သွားသည့် ပမာဏရှိသော အခိုက်အတန့်ကာလအတွင်း၌ တစ်ဖက်သော စကြဝဠာတစ်ခုသို့ အရောက်သွားနိုင်စွမ်းရှိခဲ့ဖူးပါသည်။ အရှေ့စကြဝဠာနှင့် အနောက်စကြဝဠာ၊ စကြာဝဠာတစ်ခုနှင့်တစ်ခုကို မျက်စိတစ်မှိတ် လျှပ်တစ်ပြက် ကာလကလေးအတွင်း၌ ကူးလူးဖြတ်သန်း သွားလာခြင်းပြုနိုင်သော 'ခြေမြန်တော်တစ်ဦး' ဖြစ်ခဲ့ဖူးပါသည်။

"အရှင်ဘုရား၊ သူတစ်ထူးတို့အနေဖြင့် စိတ်ကူးထဲမျှပင် ထည့်၍ကူးမိမည် မဟုတ်သော ထိုလျင်မြန်မှုကို ကိုယ်တိုင်လှုပ်ရှားသွားလာခြင်းပြုနိုင်သော တပည့်တော်သည် ယင်းလျင်မြန်မှုကို အကြောင်းပြု၍ ဤသို့ စိတ်ကူးမိလာပါသည်။ 'ငါ ခြေဖြင့်သွားလျှင် လောက၏အဆုံးသို့ရောက်လိမ့်အံ့။ ငါသွားမည်၊ လောကအဆုံးသို့ မရောက်လျှင် ရောက်အောင် ငါ ခြေကျင်လျှောက်သွားမည်' ဤသို့ သန္နိဋ္ဌာန်ချ ဆုံးဖြတ်လိုက်ပြီးလျှင် တပည့်တော် သွားခဲ့ဖူးပါသည်။

"အရှင်ဘုရား၊ အဘယ်မျှ အပတ်တကုတ် ကြိုးစားအားထုတ်၍ ဇွဲနပဲ ကြီးစွာဖြင့် သွားခဲ့သနည်းဆိုသော် ထိုအချိန်တွင် တပည့်တော်၏အသက်မှာ နောင်လာမည့် နှစ်ပေါင်းတစ်ရာတိုင်တိုင် နေနိုင်သေးသည့်အရွယ် ဖြစ်ပါသည်။ တပည့်တော်သည် ထိုအနှစ်တစ်ရာတို့ ကာလပတ်လုံး လောကအဆုံးသို့ ရောက်စေမည်ဟူသောဇွဲဖြင့် ထိုမျှလျင်မြန်သော နှုန်းထားအတိုင်း စားချိန် သောက်ချိန်မှ အပ၊ ကျင်ကြီးကျင်ငယ် စွန့်ချိန်မှအပ၊ အိပ်မှု၊ တစ်ထောက်တစ်နား အပန်းဖြေမှုမှအပ ကြိုးစားမင်းစား တမတ်စောက်စောက် ခြေကျင်လျှောက်၍ သွားခဲ့ပါသည် ဘုရား။

"အရှင်ဘုရား၊ သို့ရာတွင် မျက်စိတစ်မှိတ်အတွင်း တစ်မုဟုတ်ချင်း စကြဝဠာများအကြားတွင် တပည့်တော်၏ အသက်သာဆုံးပါးကွယ်လွန်သွားသည်။ လောက၏ အဆုံးသို့ကား မရောက်ရှိခဲ့ပါ။

"အရှင်ဘုရား၊ လောက၏အဆုံးသို့ ခြေဖြင့်သွား၍ ရောက်အပ်၏ဟု ငါမဆိုဟု မြွက်ကြားတော်မူအပ်သော အရှင်ဘုရား၏ စကားတော်သည် လွန်စွာ

မှတ်သားထိုက်သော စကားဖြစ်ပါသည်။ အံ့ဖွယ်လိလိ ဖြစ်ဘိစွ ဘုရား"ဟု လျှောက်၏။ ထိုနတ်သားအား ဘုရားသခင် မြွက်ကြားလေသည်ကား—

"အချင်းနတ်သား၊ လောက၏အဆုံးသို့ ခြေဖြင့်သွား၍ ရောက်အပ်သည်၊ သိအပ်သည်၊ မြင်အပ်သည်ဟူ၍ကား ငါမဆို။ ဒါယကာနတ်သား၊ လောကဟူသည် နိဗ္ဗာန်ရောက်မှသာ ဆုံးချေ၏။ လောက၏ အဆုံးဖြစ်သော ထိုနိဗ္ဗာန်သို့ မရောက်သေးဘဲလျက် ဆင်းရဲဆုံးသို့ ရောက်ပြီဟူ၍လည်း ငါမဆို။

"အချင်းနတ်သား၊ စင်စစ်အားဖြင့်ဆိုသော်ကား တစ်လံမျှပမာဏရှိသော ဤခန္ဓာကိုယ်ကောင်၌ သညာလည်းရှိ၏။ စိတ်လည်းရှိ၏။ ထိုသညာ၊ စိတ်ရှိသော ခန္ဓာကိုယ်၌သာလျှင် လောကကိုလည်းကောင်း၊ လောကဖြစ်ကြောင်းကိုလည်း ကောင်း၊ လောက၏ချုပ်ငြိမ်းရာ နိဗ္ဗာန်ကိုလည်းကောင်း၊ နိဗ္ဗာန်သို့ရောက်ကြောင်း အကျင့်ကိုလည်းကောင်း၊ ငါပညတ်ပေသည်"ဟု မိန့်တော်မူပြီးသည်၏ အဆုံးတွင် ရောဟိတနတ်သားသည် ဘုရားသခင်၏ အပါးတော်မှ ဖဲခွာ၍ မိမိနေရာသို့ ပြန်သွားလေသတည်း။

၁။ လောက၏အဆုံးသို့ (နိဗ္ဗာန်သို့) ခြေကျင်လျှောက်သွားခြင်းဖြင့် တစ်ခေါက်တလေမျှပင် မရောက်နိုင်။ လောက၏ အဆုံးသို့ (နိဗ္ဗာန်သို့) မရောက်သေးလေဘဲ ဒုက္ခမှလွတ်မြောက်ခြင်း မည်သည်လည်း မရှိစဖူး။ မရှိစကောင်းချေ။

၂။ ထို့ကြောင့် စင်စစ် လောကကို သိပြီးသူ၊ လောက၏အဆုံးသို့ (နိဗ္ဗာန်သို့) ရောက်သူ၊ ကျင့်အပ်ပြီး အကျင့်မြတ်ရှိသူ ပညာရှိပုဂ္ဂိုလ်သည် လောက၏အဆုံးကို သိလတ်သော် ဤလောကကိုလည်းကောင်း၊ တမလွန်လောကကိုလည်းကောင်း၊ မတောင့်တတော့ချေ။ (ဝါ) တောင့်တတော့မည်မဟုတ်။

(အင်္ဂုတ္တိုရ်ပါဠိတော်၊ စတုက္ကနိပါတ်၊ ရောဟိတဿဝဂ်၊ ရောဟိတဿသုတ်။ ၃၅၆၊ ဆဋ္ဌမူ)

( ၃၉ )

# ဝါဒစွဲ ပြင်းထန်သော်

သာဝတ္ထိမြို့သည် ဝါဒမျိုးစုံ စုပြုံရာ အဆောက်အအုံကြီးသဖွယ်ဖြစ်နေသည်။ မိမိနှစ်သက်ရာဝါဒကို လက်ခံ၍ အယူအစွဲသန်သူများ နေရာမလပ်ရှိနေ၏။ အချင်းချင်းဆုံမိလေသောအခါ ငြင်းကြ ခုံကြသည်။ သူမှန်၊ ငါမှန် အကြောက် အကန် ပြောကြ ဆိုကြသည်။

ထိုအခါ သူတို့ ပြောပုံ၊ ဆိုပုံများမှာ စကားရည်လုပွဲမျိုး ဆန်လာသည်။ အရှုံး၊ အနိုင် ဝါဒချင်းပြိုင်သည့်အခြေမျိုး ဆိုက်လာတော့သည်။ မိမိဝါဒ တည်မြဲရေး၊ အခြေခိုင်ရေးအတွက် "တောင့်ထားနိုင်မှ" တန်ကာကျမည် ဖြစ်သောကြောင့် ဝါဒတစ်ခုကို ခံယူမိလျှင် မလွှတ်တော့ဘဲ နွားကုပ်လက်ကိုင် ဆုပ်ကိုင်ထားချိန်လည်း ဖြစ်သဖြင့် ဝါဒရေးရာ ငြင်းပွဲ၊ ရှင်းပွဲများမှာ နေရာအနှံ့အပြားမှာပင် ရှိနေချေ၏။

အငြင်းအခုံပွဲများ အဘယ်မျှ များပြားသနည်းဆိုသော် ရဟန်းတော်များ အနေဖြင့် ဆွမ်းခံရင်းမှာပင် မကြားချင်အဆုံး ဖြစ်တော့သည်။ ဟိုနေရာတွေ့၊ သည်နေရာတွေ့၊ ဟိုနေရာကြား၊ သည်နေရာကြား ငြင်းခုံသံများကို ကြားကြားနေကြရကုန်၏။

## ဝါဒအဖုံဖုံ

ထိုခေတ်သည် ဝါဒတစ်ခုမရှိလျှင် နေ၍မဖြစ်သော ခေတ်ဖြစ်ဟန်တူ၏။ လူ၊ ရှင်၊ ရဟန်း၊ ပုဏ္ဏား၊ တိတ္ထိ၊ တက္ကတွန်း၊ နိဂဏ္ဌ၊ ပရိဗ္ဗာဇကဆိုသူတိုင်းလိုလိုပင် ဝါဒကိုယ်စီနှင့် ရှိနေကြသည်ကများ၏။ ထိုခေတ်တွင် ရှေ့တန်းရောက် တံခွန်ဆောက်ဝါဒများကို သန်းခေါင်စာရင်းကောက်ပြသော်—

(၁) လောကသည်မြဲ၏။ ဤဝါဒသာအမှန်။ အခြားဝါဒများ အချည်းနှီး။

(၂) လောကသည် မြဲသောသဘောမရှိ၊ ဤဝါဒသာ အမှန်။ အခြားဝါဒများ အချည်းနှီး။

(၃) လောကသည် အဆုံးရှိ၏။ ဤဝါဒသာအမှန်။ အခြားဝါဒများ အချည်းနှီး။

(၄) လောကသည် အဆုံးမရှိ။ ဤဝါဒသာအမှန်။ အခြားဝါဒများ အလကား။

(၅) အသက်သည်ကိုယ်။ ကိုယ်သည်အသက်။[၁] ဤဝါဒသာအမှန်။ အခြားဝါဒများ အလကား။

(၆) အသက်တခြား၊ ကိုယ်တခြား။ ဤဝါဒသာအမှန်။ အခြားဝါဒများ အလကား။

(၇) သတ္တဝါသည် သေလျှင်ပြန်၍ဖြစ်၏။ ဤဝါဒသာအမှန်။ အခြားဝါဒများ အလကား။

(၈) သတ္တဝါသေလျှင် ပြန်၍မဖြစ်။ ဤဝါဒသာအမှန်။ အခြားဝါဒများ အလကား။

(၉) သတ္တဝါသေလျှင် ပြန်၍ဖြစ်တာဖြစ်၊ မဖြစ်တာမဖြစ်။ ဤဝါဒသာအမှန်။ အခြားဝါဒများ အလကား။

(၁၀) သတ္တဝါသေလျှင် ပြန်၍ဖြစ်သည်လည်းမဟုတ်။ မဖြစ်သည်လည်း မဟုတ်။ ဤဟာအမှန်။ အခြားဟာ အလကား။

ဤသို့လျှင် မိမိတို့၏ဝါဒကို တင်ပြကြပြီး အခြားဝါဒများကို ထိပါးပုတ်ခတ်လျက် ဖြောကြ၊ ဆိုကြကုန်လေ၏။ ငြင်းကြ၊ ခုံကြလေကုန်၏။ နှုတ်၊ ခံတွင်း၊ ပါးစပ်တည်းဟူသော လှံဖြင့် ထိုးနှက်တိုက်ခိုက်ကြကုန်လေ၏။

ထိုအချိန်တွင် တစ်မြို့လုံး သက်န်းရောင်တို့ဖြင့် ဝါထိန်နေ၏။ ရဟန်းသံဃာတော်များ ဆွမ်းခံတော်မူကြသတည်း။ ထိုနေ့အဖို့ ရဟန်းတော်များမှာ ဆွမ်းသာမက ဝါဒရေးရာ အငြင်းပွားစကားများကိုပါ ဆွမ်းခံရာမှ ရရှိခဲ့ကြကုန်၏၊ ဇေတဝန်ကျောင်းတော်သို့ ပြန်ရောက်ကြလေသောအခါ ရဟန်းတို့သည် တိတ္ထိတို့၏ အငြင်းပွားပုံများကို ဘုရားသခင်အား လျှောက်ထားကြလေကုန်၏။

၁။ ဗိဝဋ္ဋ သုံးရီရဋ္ဌ အဋ္ဌယံ သမနုဿတိ။ ဥဒါန်း အဋ္ဌကထာ၊ ၃၀၉၊ ဆဋ္ဌမှ။

ထိုအခါ မြတ်ဘုရားသည် ရဟန်းတို့အား ဤသို့ မြွက်ကြားတော်မူလေသတည်း။

"ရဟန်းတို့၊ ထိုတိတ္ထိ၊ ပရိဗိုဇ်တို့ကား အကန်းတို့သာတည်း။ ပညာမျက်စိ မရှိကုန်။ အကျိုးဟုတ်၏။ မဟုတ်၏ကို မသိကုန်။ သဘောသဘာဝ ယုတ္တိတန်၏၊ မတန်၏ကိုလည်းမသိကုန်။ ယင်းသို့ မသိရှာလေသောကြောင့် အနိုင်၊ အရှုံး၊ လုံးထွေးရစ်ပတ် ငြင်းခုံ၍ အတောမသတ်နိုင်ဘဲ ဖြစ်နေကြသည်။ နောင်တွင်လည်း ဤနည်းနှင်နှင်ပင် ငြင်းခုံ၍မဆုံး ဖြစ်နေကုန်လိမ့်ဦးမည်သာတည်း။

"ရဟန်းတို့၊ သူကန်းနှင့်ပတ်သက်၍ ရှေးကဖြစ်ရပ်တစ်ခုကို သင်တို့အား ငါပြောပြအံ့။ ရဟန်းတို့၊ ရှေးအခါက ဤသာဝတ္ထိမြို့၌ ဘုရင်တစ်ပါး စိုးစံခဲ့ဖူး၏။ ထိုဘုရင်သည် တစ်နေ့သောအခါ ဆင်ကိုလည်းကောင်း၊ သူကန်းတစ်ဦးလျှောက်သွားနေသည်ကိုလည်းကောင်း၊ အမှတ်မထင် မြင်လတ်သော် ဤသို့ အကြံဖြစ်လာ၏။ ဤသူကန်းတို့ကား လူဖြစ်ရှုံးကုန်စွ။ အလှအပများကို မမြင်ကြရရှာကုန်။ တစ်မြို့လုံးရှိ သူကန်းတွေကိုစု၍ တစ်စုံတစ်ရာကို သူတို့လက်ဖြင့် အစမ်းခိုင်းပြီးလျှင် 'သည်ဟာ ဘာ' ဟု မှတ်သားရသော် ကောင်းလေစွ။ ဤသို့ ဤသို့လျှင် အကြံဖြစ်လာသည့်အလျောက် မင်းချင်းတစ်ယောက်အား သူကန်းတွေကိုစု၍ အခေါ်ခိုင်းလေ၏။ ထိုမင်းချင်း ယောကျ်ားသည် မင်းမိန့်အတိုင်း သူကန်းများကို ဘုရင်ရှေ့တော်သို့ ခေါ်ဆောင်လာ၏။

"ရဟန်းတို့၊ ထိုအခါ မင်းချင်းယောကျ်ားအား ဘုရင်က ဤသို့စေခိုင်း၏။ 'အမောင်၊ ဆင်ကို အိမ်စေလျက် သူကန်းတို့အား ပြလော့' ဟုဆို၏။ မင်းချင်းယောကျ်ားလည်း မင်းမိန့်အတိုင်း ဆောင်ရွက်လေ၏။ အချို့သူကန်းတို့အား ဆင်၏ ဦးခေါင်းကိုပြ၍ 'သည်ဟာ ဆင်' ဟု ပြောထား၏။ ထို့အတူ အချို့သူကန်းတို့အား ဆင်နားရွက်၊ အချို့တို့အား ဆင်စွယ်၊ အချို့တို့အား ဆင်ကိုယ်လုံး၊ အချို့တို့အား ဆင်ခြေထောက်၊ အချို့တို့အား အမြီးကိုပြကာ 'သည်ဟာ ဆင်' ဟု ပြောထား၏။

"ရဟန်းတို့၊ ဤသို့ သူကန်းတို့အား သင်ကြားထားပြီးသောအခါ 'အရှင်မင်းကြီး၊ သူကန်းတို့အား မေးလိုက မေးနိုင်ပြီဖြစ်ကြောင်း' လျှောက်လျှင် မင်းကြီးသည် သူကန်းတို့ရှိရာသို့ ထွက်တော်မူလာပြီးလျှင် သူကန်းတို့အား မေးမြန်းခြင်း ပြုလေသတည်း။

"အချင်းတို့၊ သင်တို့ ဆင်ကို တွေ့ဖူးကြပြီလော"

"တွေ့ဖူးကြောင်းပါ အရှင်မင်းကြီး"

"ကောင်းပြီ၊ သို့ဖြစ်ဘိသော် ဆင်သည် ဘာနှင့်တူလေသနည်း"

"ရဟန်းတို့၊ ထိုသို့မေးလေသောအခါ ဦးခေါင်းကိုစမ်းမိသူက 'အိုးနှင့်တူသည်'ဟု လျှောက်လေ၏။ နားရွက်ကို စမ်းမိသူက 'ဇန်းနှင့်တူပါသည်'ဟု လျှောက်လေ၏။ အစွယ်ကိုစမ်းမိသူက 'တံခါးတိုင်နှင့်တူသည်'ဟု လျှောက်လေ၏။ နှာမောင်းကို စမ်းမိသူက 'ထွန်သွန်နှင့်တူသည်'ဟု လျှောက်၏။ ခြေကိုစမ်းမိသူက 'တိုင်နှင့်တူသည်'ဟု လျှောက်လေ၏။

"ရဟန်းတို့၊ ထိုသူကန်းတို့သည် ဆင်တစ်ကိုယ်လုံးကို ထိတွေ့၊ သုံးသပ်ရခြင်းမရှိဘဲ မိမိထိတွေ့ရသမျှ တစ်စိတ်တစ်ဒေသကလေးကိုကွက်၍ ဆင်သည် အိုးနှင့်တူသည်ဟု ဆိုသူကဆို၊ ဇန်းနှင့်တူသည်ဟု ငြင်းသူကငြင်းနှင့် ငြင်းခုံမဆုံး ဖြစ်ကုန်လေ၏။

**"ရဟန်းတို့၊ ဤဥပမာနှင့်အလားတူသာလျှင် တိတ္ထိ၊ ပရိဗိုဇ်တို့သည်လည်း မိမိမြင်သမျှ တစ်စိတ်တစ်ဒေသကို** ဆုပ်ကိုင်ထားပြီးလျှင် သူ့ဟာအမှန်၊ ငါ့ဟာအမှန် သူကန်းတို့ကဲ့သို့ ဗြောင်းဆန်အောင် ငြင်းမဆုံး ဖြစ်နေကြကုန်၏"ဟု မိန့်တော်မူ၏။

ထိုအချိန်တွင် ဗုဒ္ဓမြတ်ဘုရားသည် ဤသို့ ဥဒါန်းကျူးတော်မူလေသတည်း။

"အချို့သော ဗြာဟ္မဏတို့သည် မမြဲသော၊ ဒုက္ခစင်စစ်ဖြစ်သော၊ ဖောက်ပြန်တတ်သော သဘောရှိသောတရားတို့၌ နှစ်နှစ်ကာကာ စွဲရင်နေကြသည်တမုံ့။ စက္ခုနှစ်ကွင်း အလင်းမရသော သူကန်းတို့ကဲ့သို့ မိမိတို့မြင်ရာမြင်ရာ ကွက်ကွက်ကလေးကို ဆုပ်ကိုင်လျက် မိမိအယူဝါဒကို ရှေ့တန်းတင်၊ အခြားသူတို့၏ဝါဒကို ချိုးနှိမ်ကာ နှုတ်လှံထိုးနေကြကုန်သတည်း။ ငြင်းခုံမဆုံး ဖြစ်နေကုန်သတည်း။

(ဥဒါန်းပါဠိတော်၊ ပထမနာနာတိတ္ထိယသုတ်၊ ဇစ္စန္ဓဝဂ်။ ၁၅၈။ ဆဋ္ဌမှ)

( ၄၀ )

# မဟာကဿပ၏ မဟာကဿပ

ဝေဠုဝန်ကျောင်းတိုက်သည် အုံ့ဆိုင်း ညိုမှိုင်းလျက်ရှိနေသော ဝါးရုံတောကြီး အတွင်း၌ တည်ရှိနေ၏။ ထိုဝါးရုံတောဝယ် ရှဉ့်နက်တွေ အလွန်ပေါသည်ဟူ၍လည်း အရပ်ထက်ဝန်းကျင်၌ ထင်ရှား၏။ ရှဉ့်နက်သံတို့ဖြင့် ကြွက်စီညံနေသော ဝါး တောကြီး ဖြစ်လေသည်။

ကျောင်းပေါ်ကို ထိုးထွက်နေသော ဝါးရုံပင်များသည် လေဟာပြင် ဇာတ်ခုံ ပေါ်ဝယ် ယိမ်းက,လေသည့်နှယ် လေအနွဲ့တွင် တယိမ်းယိမ်းနှင့် ရှိနေကုန်၏။

ဝေဠုဝန်ကျောင်းတိုက်ကြီးအတွင်းရှိ အရံကျောင်းဆောင်တစ်ခုမှ ငေါက်သံ လိုလို အသံကြီးတစ်သံထွက်လာသည်။ ဆရာဘုန်းတော်ကြီးက တပည့်ကျောင်းသား ကလေးအား ငေါက်ငမ်းနေရော့သလားဟု ထင်ရ၏။

တော်တော် အမှန်းမသိတတ်တဲ့ ကောင်ကလေးပဲ။[၁] ထောင့်မကျိုးတဲ့ အကောင်တွေနဲ့ ဆောက်မဲ့ကြောင့် အတူသွားဘိသနည်း။ နယ်လှည့်ပြီး သဒ္ဓါတရားကို ဖျက်ဆီးနေကြတာနဲ့ အတူတူပဲ။ သင်နှင့်အတူ ပါသွားတဲ့အကောင်တွေ တစ်ကောင်မှ အသုံးမကျ၊ အားလုံး ကပျက်ကချော်တွေချည်းပဲ။ သင် လူပေါင်းမှားချေပြီကော ကောင်ကလေး။

ဤသို့ ပေါက်ရောက်သော အသံဝါကြီးဖြင့် ငေါက်လေသူကား အရှင် မဟာကဿပ ဖြစ်လေ၏။ ဤငေါက်သံ၏ အောက်ဝယ် ရှို့ကြောက်မှုရာအသွင်ဖြင့် ရှိနေသူကား ဆံပင်ဖြူတွေအဖွေးသားနှင့် ရဟန်းအိုကြီးတစ်ပါး။ ထိုရဟန်းအိုကြီးကား အသူနည်း။ အရှင်အာနန္ဒာ ကိုယ်တော်ကြီး ဖြစ်လေသတည်း။

---

၁။ နဝါ ယံကုမာရကော မတ္တ မညာသိ၊ နိဒါနဝဂ္ဂ သံယုတ်ပါဠိ။ ၄၁၈။

အရှင်အာနန္ဒာသည် နောက်ပါရဟန်း အခြွေအရံဖြင့် ဒက္ခိဏဂိရိအရပ်သို့ ခရီးထွက်ခဲ့ရာမှ ဝေဠုဝန်ကျောင်းတော်သို့ ပြန်လည်ဆိုက်ရောက်သောနေ့ကဖြစ်၏။ ခရီးရောက်မဆိုက်ဆိုသလိုပင် အရှင်အာနန္ဒာသည် အရှင်မဟာကဿပ ကိုယ်တော်ကြီးထံ ဝင်ရောက်ဖူးမြော်လေသောအခါ အရှင်မဟာကဿပသည် မရောက်မီကပင် ရဟန်းတို့၏ သတင်းဆိုးကို ကြားသိထားပြီး ဖြစ်သောကြောင့် တာဝန်ရှိသူ အရှင်အာနန္ဒာ ရောက်လာသောအခါ အထက်ပါအတိုင်း အမှန်း မသိတတ်တဲ့ ကောင်ကလေးဟူသော အသုံးအနှုန်း စကားလုံးဖြင့် ဆီး၍ ဆုံးမတော်မူ၏။

ကဿပ။ ။အာနန္ဒာ သင့်ကို ငါမေးပါရစေ။ အဘယ်သို့သော အကျိုးထူးကိုစွဲ၍ မြင်တော်မူလေ၍ တိကဘောဇဉ်ကို ဘုရားသခင် ပညတ်တော်မူပါသနည်း။ သင် သတိထားမိပါစ။ မေးတော်မူ၏။ မေးထိုက်သော အကြောင်းရှိ၍ မေးလိုက်ခြင်းဖြစ်၏။ အရှင်အာနန္ဒာလည်း ရိုးသားစွာ ပြန်၍ဖြေ၏။

အာနန္ဒာ။ ။တပည့်တော် သတိထားမိပါသည် အရှင်မဟာကဿပ။ တိကဘောဇဉ်ကို ဘုရားသခင် ပညတ်တော်မူခြင်း၏ ရည်ရွယ်ချက်မှာ—
(၁) သီလကြောင်၊ အကျင့်ပျက်၊ သိက္ခာပျက် ရဟန်းဆိုးတို့အား နှိပ်ကွပ်ခြင်းငှာလည်းကောင်း၊ (၂) ဝိနည်းသိက္ခာပုဒ်နှင့်အညီ နေထိုင်ကြကုန်သော ရဟန်းကောင်းတို့ ချမ်းချမ်းသာသာ နေကြရပါစေခြင်းအကျိုးငှာလည်းကောင်း၊ (၃) အလိုဆိုးရှိသူ ရဟန်းယုတ်တို့သည် အသင်းအပင်း ပက္ခကို ကျောထောက်နောက်ခံပြု၍ သံဃာကို မဖျက်ဆီးကြပါစေကုန်လင့်။ ဒါယကာတို့၏ သဒ္ဓါတရားကို ချိုးမြှောက်ခြင်းငှာလည်းကောင်း၊ ဤအကျိုးထူး သုံးမျိုးကို အစွဲပြု၍ ပညတ်တော်မူခြင်း ဖြစ်ပါသည် ဘုရားဟူ၍ လျှောက်လျှင် အရှင်မဟာကဿပသည် အာနန္ဒာ၏ မျက်နှာကို ဆတ်ခနဲ မော်ကြည့်လိုက်သည်။

ကဿပ။ ။ကောင်းပြီ အာနန္ဒာ၊ ယင်းသို့ပညတ်ချက်ကြီး အထင်အရှား ရှိပါလျက်နှင့် သင်သည် ဘောက်မဲ့ကြောင့် ဣန္ဒြေသိက္ခာမဲ့သောရဟန်း၊ စားသောက်ရာ၌ အတိုင်းအဆမရှိ၊ ဗရုတ်ကျလှသောရဟန်း၊ တက်ကြွနိုးကြားခြင်းမရှိ၊ အကြံတုံး ဉာဏ်တုံး ရဟန်းများနှင့်အတူ ရပ်တကာ နယ်တကာ လှည့်လည် တုံဘိသနည်း။ လူတို့ စိုက်ပျိုးထားသော စပါးခင်း၊ ကောက်ပဲသီးနှံများကို လှည့်လည် ဖျက်ဆီးနေယောင်ပါတကား။ ကြည်ညိုသဒ္ဓါရှိပြီးသူ လူဒါယကာတို့ကိုလိုက်၍ ဖျက်ဆီးနေယောင်ပါတကား။ အာနန္ဒာ၊ သင်ခေါ်ဆောင်သွားသော သင့်ပရိသတ်ကား မရှမ်းပတာ ပရိသတ်၊ စည်းမဲ့ကမ်းမဲ့ ပျက်စီးနေသော ပရိသတ် ဖြစ်ဘိ၏။ အာနန္ဒာ၊ မလောက်လေးမလောက်စား သင့်ပဋ္ဌင်းသစ်ကလေးတွေကား ရဟန်းပျက်ကလေးတွေသာတကား။ သည့်ကောင်လေးနယ်၊ ဟယ် အမှန်း မသိချက်သားကောင်းရန်ကော။

အရှင်မဟာကဿပသည် ရဟန်းမဆန်သူများ၊ အကျင့်သိက္ခာပျက်စီးနေသူများကို ခေါ်သွားရမည်လားဟု အရှင်အာနန္ဒာအား ပြစ်တင်ဆိုပြောရာ၌ ကုမာရ (ကောင်ကလေး)ဟူသော အသုံးအနှုန်းပါလာသည်။ ထိုစကားမှာ အရှင်မဟာကဿပအဖို့ အဆန်းတော့ မဟုတ်ချေ။ ဆိုပြောနေကျ ဝေါဟာရဖြစ်ပေ၏။ ထိုကုမာရ (ကောင်ကလေး)ဟူသော စကားလုံးက ထိုစရာမအဓိပတိ ပုဂ္ဂိုလ်ကြီးနှစ်ဦးတို့၏ ရင်းနှီးမှုကိုလည်းကောင်း၊ အရှင်မဟာကဿပက အရှင်အာနန္ဒာအပေါ်၌ ချစ်စရာကောင်းသော သူငယ်ကလေးတစ်ယောက်ဟု သဘောထားရှိပုံလည်းကောင်း ပေါ်လွင်စေလေသည်။

ဤသို့ သူ့အား ကောင်ကလေး၊ ကောင်ကလေး ဟူသော အာလုတ် စကားလုံးဖြင့် သုံးနှုန်းပြောဆိုခြင်းခံရသည်ကိုပင် အရှင်အာနန္ဒာကလည်း ဂုဏ်ယူသာယာလျက်ရှိနေပေသည်။ သို့ကြောင့်ပင် မဟုတ်ပါလော။

အာနန္ဒာ။ ။အရှင်မဟာကဿပဘုရား၊ ရှုတော်မူပါ။ တပည့်တော်တို့၏ ဦးခေါင်းမှာ ဆံပင်ဖြူများပေါက်လာကုန်ပါပြီ။[၁] ယင်းသို့ ဆံပင်ဖြူများပင် ပေါက်လာကုန်လင့်ကစား တပည့်တော်မှာကား ယနေ့အထိ ကောင်ကလေး၊ ကောင်ကလေးဟု ခေါ်ဝေါ်ပြောဆိုခြင်း ပိုင်နက်တွင်းမှ မလွတ်ကင်းနိုင်သေးပါမဲလား ဘုရား။

ကဿပ။ ။ဩ–အာနန္ဒာ၊ သင့်အလုပ်ကကော ဟုတ်ပါ၏လား၊ လျော်ကန်ပါ၏လား။ အနေမတတ် အထိုင်မတတ်၊ အပြောမတတ် အဆိုမတတ်၊ အစားမတတ် လူ့တုံးပေကတ်သတ်တွေကို ရပ်တကာ နယ်တကာခေါ်ပြီး ကိုယ့်အရှက်ကို ကိုယ်ခွဲရာ မကျပေဘူးလား။ သခင်မြတ်ဘုရားရဲ့ မျက်နှာတော်ကို အိုးမည်းသုတ်ရာ မကျပေဘူးလား။ သင်ကား တော်တော် အမှန်းမသိတတ်တဲ့ အကောင်ကလေး။

အရှင်မဟာကဿပက ကောင်ကလေး ဟူသော စကားလုံးကိုသုံးကာ ကြွေးကြော်လိုက်ပြန်လေသည်။

ဤကောင်ကလေးဟူသော အသုံးအနှုန်း စကားလုံးသည် ဤနေရာတွင် ပြီးပြီးပျောက်ပျောက် ရပ်မသွားလေဘဲ ဘိက္ခုနီမ လောကထဲသို့ ဖုံးကျသလို ကျရောက်သွားလေ၏။

ထိုကောင်ကလေးဟူသော အသုံးအနှုန်းကြောင့် အရှင်မဟာကဿပ ကိုယ်တော်ကြီးအပေါ် နာလုံးပေါက်သွားသူ ဘိက္ခုနီမတစ်ဦး ထူးထူးချွန်ချွန် ပေါ်လာ၏။ သူ၏အမည်ကား ထုလ္လနန္ဒာဟု တွင်သတည်း။

---

၁။ အပိစမေ ဘန္တေကဿပ သိရသ္မိံ ပလိတာနိ ဇာတာနိ။ နိဒါနဝဂ္ဂသံယုတ်ပါဠိ၊ ကဿပသံယုတ်၊ ၄၁၈၊ ဆဋ္ဌမူ)

ထုလ္လနန္ဒာ ဘိက္ခုနီမကား အရှင်အာနန္ဒာအား ပုဂ္ဂိုလ်စွဲအားဖြင့် အလွန်ကြည်ညိုသူဖြစ်ရာ အရှင်အာနန္ဒာအား "ကောင်ကလေး၊ ကောင်ကလေး" ဟူသော စကားလုံးဖြင့် ခေါ်ဝေါ်သုံးစွဲခြင်းကို မနှစ်မြို့ချေ။ သို့ကြောင့် ယင်းစကားလုံးကြောင့် အရှင်မဟာကဿပ ကိုယ်တော်ကြီးအပေါ်တွင် အတော်ကလေး မျက်မာန်ရှလာသည်။ "ဝေဒေဟမုနိတစ်ဆူ" ဖြစ်တော်မူသော အရှင်အာနန္ဒာ ကဲ့သို့သော ပုဂ္ဂိုလ်မြတ်အား အရှင်မဟာကဿပက ကောင်ကလေး၊ ကောင်ကလေး သူ ဆိုစရာတဲ့လား။ စင်စစ် သမိုင်းကြောင်းကို ပြန်ကြည့်သော် အရှင်မဟာကဿပ သည် မည်သို့သောပုဂ္ဂိုလ်နည်း။ တိတ္ထိဘောင်မှ ကူးပြောင်းလာသော တိတ္ထိလူထွက် ဖြစ်ချေ၏။ သို့ပါလျက် သူကများ အရှင်အာနန္ဒာကဲ့သို့ ဝေဒေဟမုနိကိုယ်တော်ကြီးကို ကောင်ကလေး၊ ကောင်ကလေးဟူသောအသုံးစကားဖြင့် ဘောက်မဲ့ကြောင့် ကြိမ်းလား မောင်းလား လုပ်တုံဘိသနည်း။

ဤဖြစ်ရပ်သည် ထုလ္လနန္ဒာ၏ အဖို့ ရင်တွင်းခံစားချက်မျှသာ မဟုတ်လေ တော့ဘဲ နှုတ်အားဖြင့် ဖွင့်ဖော်၍ အရှင်မဟာကဿပ ကိုယ်တော်ကြီးအား အ,မနာပ စကားများ မြွက်ကြားဆိုပြောခြင်း ပြုသည်အထိ ဖြစ်လာလေသည်။

ထိုသတင်းကိုကြားလတ်သော် အရှင်မဟာကဿပသည် အရှင်အာနန္ဒာကို ခေါ်၍ ဤသို့ ပြောပြလေသည်။

"ငါ့ရှင် အာနန္ဒာ၊ သင်၏တပည့်မတစ်ဦးဖြစ်သူ ထုလ္လနန္ဒာဘိက္ခုနီသည် စကားကို မဆင်ခြင်၊ အလျှင်စလိုပြောဘိချေ၏။ နှုတ်လွယ်လွယ်နှင့် ဆိုတုံဘိ၏။ ငါ့အား တိတ္ထိဖြစ်ဖူးသူ၊ တိတ္ထိလူထွက် ဟူသော ရင့်ရင့်သီးသီးစကားများဖြင့် နှုတ်လုံချက်ဖြင့် ထိုးနှက်နေ၏။ ငါ့ရှင်အာနန္ဒာ၊ ငါ့အကြောင်း သင်ကောင်းကောင်း သိသူဖြစ်သည်။ ငါသည် ဆံ၊ မုတ်ဆိတ်၊ ကျင်စွယ်များကိုပယ်ပြီး သင်္ကန်းဆီးလျက် လူ့ဘောင်ဝတ်ကြောင် ဘဝမှထွက်၍ သာသနာဘောင်ဝင်ကာ ရဟန်းပြုခဲ့၏။ ငါ ရဟန်းဖြစ်လာသည့်အချိန်ကစ၍ ဘုရားသခင်မှတစ်ပါး ငါ့ဆရာဟူ၍ ညွှန်ပြ ရမည့်သူကို ငါမသိခဲ့။ ငါ့မှာ မရှိခဲ့။

"ငါ့ရှင် အာနန္ဒာ၊ ရှေးလူ့ဘဝ ဝတ်ကြောင်နှင့်နေခဲ့စဉ်တုန်းက ငါ့မှာ သည်လိုအကြံတစ်ခု ဖြစ်ပေါ်လာဖူးသည် အာနန္ဒာ။ ထိုအကြံကား ဤသို့ဖြစ်ချေ၏။ 'လူ့အဖြစ်၊ လူ့ဘဝကား ကျဉ်းမြောင်းလှဘိစွ။ ဖုန်ထနေသောလမ်းနှင့် အလားတူ၏။ ရဟန်းအဖြစ်၊ ရဟန်းဘဝကား လွင်တီးခေါင်နှင့်အလားတူ၏။ ကျယ်ကျယ် ပြန့်ပြန့်နှင့် ရှင်း၏။ အိမ်ကို စိုးမိုးအုပ်ချုပ်နေရသူ (ဝါ) အိမ်သံယောဇဉ် အမျှင် တန်းလန်းဖြင့်ရှိနေသူ လူသားတစ်ယောက်ဖြစ်နေသဖြင့် ဤရွေ့၊ ဤမျှ မွန်မြတ်လှစွာ သော ဗြဟ္မစရိယ အကျင့်ကို စင်စစ် ရာနှုန်းပြည့် ပြည့်စုံအောင်၊ စင်ကြယ်အောင်

ပွတ်သစ်စ ခရုသင်းအလား ဖွေးနေအောင် ကျင့်ဖို့ ဆိုသည်မှာ မလွယ်လှပါတကား။ ငါရဟန်းပြုရသော် ကောင်းလေစွ'ဟု ဤသို့ အကြံဖြစ်ခဲ့၏။

"အာနန္ဒာ၊ ဤသို့ အကြံဖြစ်ပြီးနောက် ထိုငါသည် အခါတစ်ပါး၌ ပုဆိုးကြမ်းစများကို ဒုကုဋ်သင်္ကန်းကြီး ချုပ်လိုက်ပြီးလျှင် ငါဘာလုပ်သည် ထင် သနည်း အာနန္ဒာ။ လောက၌ ပွင့်ထွန်းလျက် ရှိနေကုန်သော ဘုရား၊ ရဟန္တာ ပုဂ္ဂိုလ်များအား ရွယ်စူးဦးထိပ်ထားလျက် ဆံ၊ မုတ်ဆိတ်များကိုပယ်ပြီး ငါ့ဟာငါ သင်္ကန်းဆီးလိုက်သည်။ ငါ့ဟာငါ ရဟန်းပြုလိုက်သည်။

"အာနန္ဒာ၊ ဤသို့ ငါ့ဟာငါ ရဟန်းပြုလိုက်ပြီးနောက် ရဟန်းဖြစ်ခါစ ငါသည် တမတ်စောက်စောက်နှင့် ခရီးရှည်ကြီးလျှောက်သွားနေစဉ် ရာဇဂြိုဟ်ပြည်နှင့် နာဠန္ဒမြို့ အကြား ရောက်သွားလေသောအခါ ဗဟုပုတ္တမည်သော စေတီအနီး၌ ထိုင်နေတော်မူသော မြတ်ဘုရားကို မလှမ်းမကမ်းမှ ငါမြင်ရ၏။ ထိုအခါ ငါ့အား ဤသို့ အကြံဖြစ်၏။ ငါသည် ငါ့ကို သွန်သင်ဆုံးမမည့် ဆရာသမား ကောင်းထံ ချဉ်းကပ်ဖူးတွေ့လိုသူ ဖြစ်ဘိလျှင်မူလည်း ဤမြတ်စွာဘုရားကိုသာ ဖူးမြင်ရာ၏။ ဖူးမြင်ထိုက်ပေသည်။ ငါသည် ကောင်းသော်စကားကို ဆိုတော် မူတတ်သူကို ဖူးမြင်လိုသူ ဖြစ်ဘိလျှင်မူလည်း ဤသခင်ဘုရားကိုသာ ဖူးမြင်ရာသည်၊ ဖူးမြင်ထိုက်ပေသည်။ ငါသည် သစ္စာလေးချက် အနက်ထင်ထင် ကိုယ်ပိုင်ဉာဏ်ဖြင့် ထိုးထွင်း၍ သိမြင်တော်မူသော ဗုဒ္ဓကို ဖူးမြင်လိုသူ ဖြစ်ဘိလျှင်မူလည်း ဤ သခင်ဘုရားကိုသာ ဖူးမြင်ရာသည်၊ ဖူးမြင်ထိုက်ပေသည်ဟူ၍ အကြံဖြစ်ပေါ် လာပြီးနောက် ငါသည် ထိုဗဟုပုတ္တစေတီ၌ ထိုင်နေတော်မူသော ဘုရားသခင်၏ ခြေတော်စုံကို ငါ့ဦးခေါင်းဖြင့် ဦးတိုက်၍ ဘုရားသခင်အား ငါ ဤသို့ လျှောက် ထားမိပေသည် အာနန္ဒာ။

ကဿပ။ ။ရွှေဘုန်းတော်သခင် အရှင်မြတ်ဘုရား၊ အရှင်ဘုရားသည် တပည့်တော်၏ ဆရာပါ ဘုရား။ တပည့်တော်ကား အရှင်ဘုရား၏ တပည့်သာဝက ပါ ဘုရားဟူ၍ နှစ်ကြိမ်တိုင်တိုင် ငါလျှောက်ခဲ့သည်။ ဤသို့ လျှောက်သော် မြတ်ဘုရားက ငါ့အား အသို့မိန့်တော်မူလေသည် ထင်သနည်း။

ဗုဒ္ဓ။ ။ကဿပ၊ အကြင်သူသည် ဤသို့ အလုံးစုံသဘောထားပြည့်ဝ လှသော သာဝကကို အမှန်အတိုင်း မသိပါဘဲလျက် 'ငါသိသည်'ဟူ၍လည်းကောင်း၊ အမှန်အတိုင်း မမြင်ပါဘဲလျက် 'ငါမြင်သည်'ဟူ၍လည်းကောင်း ပြောငြားမိအံ့၊ ထိုသူ၏ ဦးခေါင်းသည် ဖုတ်ခနဲ ပြုတ်ကျသွားလေရာ၏။ ကဿပ၊ ငါသည်မူကား အမှန်ကို အမှန်အတိုင်းသိ၍သာလျှင် 'ငါသိ၏'ဟူ၍ ငါဆို၏။ အမှန်ကို အမှန် အတိုင်း မြင်၍သာလျှင် 'ငါမြင်၏'ဟူ၍ ငါဆို၏။

ကဿပ၊ ထို့ကြောင့်ရကား သင်သည် ဤသို့ကျင့်ရာ၏။ ကျင့်ပါလေ။ "ငါ၏ အရှက်နှင့်အကြောက်၊ ငါ့သန္တာန်၌ ထင်ရှားပေါ်လွင်နေသော အရှက်နှင့် အကြောက်သည် အံ့ဖွယ်ကောင်းလောက်အောင် ထက်လှစွာ၏။ ထိုအရှက်နှင့် အကြောက်သည် မဟာထေရ်ကြီးတို့၌လည်းကောင်း၊ သီတင်းငယ်တို့၌လည်းကောင်း၊ သီတင်းလတ်တို့၌လည်းကောင်း၊ (ရှေးရှုတည်သည် ဖြစ်လတ္တံ့.) ရှေးရှုတည်သည် ဖြစ်စေသောဝ်ဟူ၍ ဤသို့ကျင့်လေ။

ကဿပ၊ သင်သည် ဤသို့လည်း ကျင့်လေဘိဦး။ ကုသိုလ်နှင့်ပတ်သက်သော တရားကို ငါနာအံ့။ နာကြားရသမျှ တရားအားလုံးကို အရိုအသေပြု၍ နှလုံးသွင်း၍ အလုံးစုံသောစိတ်ဖြင့် ကောင်းစွာဆောင်၍ အာရုံစူးစိုက်စွာ နားကိုစွင့်ထားလျက် ငါနာအံ့ဟူ၍ ဤသို့လည်း ကျင့်လေ။

ငါ့ရှင် အာနန္ဒာ၊ ထိုသို့ ဘုရားသခင်၏ ခြေတော်ကို ဦးတိုက်၊ ခ,ညောင်း တောင်းပန်လေသောအခါ၌ မြတ်ဘုရားသည် ငါ့ကို ဤဩဝါဒစကားဖြင့် ဆုံးမတော်မူပြီးလျှင် ထိုင်ရာမှထတော်မူပြီး၍ ဖဲသွားပါလေတော့သည်။ ငါ့ရှင် အာနန္ဒာ၊ ရဟန်းဖြစ်သည်မှစ၍ ခုနစ်ရက်သာလျှင် ကိလေသာ မကုန်ခန်းသေးသော ပုထုဇဉ် ရဟန်းအဖြစ်ဖြင့် ပြည်သူတို့ဆွမ်းကို ငါစား၏။ ရှစ်ရက်မြောက်သော နေ့တွင် အရဟတ္တဖိုလ်သည် ငါ့အား ထင်ရှားဖြစ်လာပြီ။

ငါ့ရှင် အာနန္ဒာ၊ ဗဟုပုတ္တစေတီအပါးမှ မြတ်ဘုရား ဖဲခွာသွားတော်မူသော အခါ ငါသည် မမိုတ်မသုန် မြတ်ဘုရားကို ဖူးမြော်ရင်း ကျန်ခဲ့သည်။ ငါ့မျက်စိ အောက်မှာပင် မြတ်ဘုရားသည် လမ်းဆောင်ဘက်သို့ ခြေစကြာလှည့်လိုက်သည်ကို ငါသတိထားလိုက်မိ၏။ ငါ နောက်ကလိုက်သွားမိတော့သည်။ ငါရောက်သွားသော အခါ၌မူကား မြတ်ဘုရားကို သစ်တစ်ပင်အောက်တွင် ထိုင်နေသည်ကို တွေ့ရ၏။ ထိုအခါ ငါသည် ငါ့ဒုကုဋ်သင်္ကန်းကြီးကို ထူထဲအောင် လေးခေါက်ခေါက်၍ ခင်းပေးပြီး ဤစကားကို မြတ်ဘုရားထံ ငါပန်ကြားခဲ့ပေသည်။ ဘုန်းတော်ကြီးသော မြတ်ဘုရား၊ တပည့်တော်၏ ဤသင်္ကန်းအခင်း၌ ထိုင်တော်မူပါ ဘုရား။

ဤသို့ တောင်းပန်သော် မြတ်ဘုရားသည် ငါ့ကို ချီးမြှင့်သည့်အနေဖြင့် ငါခင်းပေးသည့် နေရာထက်၌ ချမ်းမြေ့စွာ စံတော်မူလျက်မှ မြတ်ဗုဒ္ဓသည် ငါ့အား ဤသို့မိန့်ပါသတည်း။

ဗုဒ္ဓ။ ။ကဿပ၊ သင်၏ အခင်းကား နူးညံ့ဘိစွ။

ကဿပ။ ။အရှင်ဘုရား၊ တပည့်တော်ကို သနားစောင့်ရှောက် ချီးမြှောက် သောအားဖြင့် ဤသင်္ကန်းကြီးကို အလှူခံတော်မူပါ ဘုရား။

ဗုဒ္ဓ။ ။ကဿပ၊ ဤငါ၏သင်္ကန်းကား ပိုက်ဆံလျှော်ဖြင့် ပြုလုပ်ထားသော ပံ့သုကူသင်္ကန်းဖြစ်ပေသည်။ ထိုသင်္ကန်းကို သင်ဆောင်နိုင်ပါအံ့လော။

ကဿပ။ ။ဆောင်နိုင်ကြောင်းပါ ဘုရား။

ငါ့ရှင် အာနန္ဒာ၊ ဤသို့အားဖြင့် ငါ၏ပုဆိုးကြမ်း ဒုကုဋ်သင်္ကန်းကို ဘုရားသခင်အား ငါလှူလိုက်ပြီး ဘုရားသခင် ချီးမြှင့်တော်မူသော ပိုက်ဆံလျှော် ပံ့သကူသင်္ကန်းကို ငါဆောင်သည် အာနန္ဒာ။

ငါ့ရှင်အာနန္ဒာ၊ တစ်စုံတစ်ယောက် အမှတ်မထင် အကြင်သူကို ကောင်းစွာ ပြောလိုသော် ဤသို့ပြောရာသည်။ ပြောနိုင်ပေသည်။ ပြောရမည့်စကားမှာ 'ဘုရားမြတ်စွာ၏သား၊ ဘုရားမြတ်စွာ ရင်၌ဖြစ်၍ ခံတွင်းတော်မှ ဖွားမြင်လာသော သား၊ တရားမှဖြစ်ပေါ်လာသော သား၊ တရားက ဖန်ဆင်းသော သား၊ တရား တော်၏ အမွေစား အမွေခံသား၊ ဘုရားသခင် ဝတ်ရုံသုံးစွဲတော်မူသော ပိုက်ဆံ လျှော်ဖြင့် ရက်လုပ်သည့် ပံ့သုကူသင်္ကန်းကိုသော်မှပင် ခံယူနိုင်စွမ်းရှိသောသူ' ဟူ၍ ပြောရာသည်၊ ပြောနိုင်ပေသည်။

ငါ့ရှင် အာနန္ဒာ၊ ငါကား အာသဝေါတရားတို့ ကုန်လေပြီဖြစ်သောကြောင့် အာသဝေါဟူ၍ မြူမျှပင်မရှိသော လွတ်မြောက်ပြီး အရဟတ္တဖိုလ်ပညာကို ယခု မျက်မှောက်ဘဝ၌ပင် ကိုယ်တိုင် ထူးသောဉာဏ်ဖြင့် မျက်မှောက်ပြုကာ ရောက်လျက် နေနိုင်၏။ ငါ့ရှင်အာနန္ဒာ၊ အကြင်သူသည် ငါ၏ အဘိညာဉ်ခြောက်ပါးကို ဖုံးလွှမ်းအပ်၏။ ဖုံးလွှမ်း၍ရစကောင်းသည်ဟု ထင်မှတ်လေသည် ဖြစ်အံ့။ ထိုသူ သည် ခုနစ်တောင်ရှိသော ဆင်ပြောင်ကြီးကိုသော်လည်းကောင်း၊ ခုနစ်တောင့်ထွာ ရှိသော ဆင်ပြောင်ကြီးကိုသော်လည်းကောင်း လုံအောင်ထန်းလက်ဖြင့် ဖုံးဖိနေ သည်နှင့် တူယောင်ပါတကားဟူ၍ ထုလ္လနန္ဒာဘိက္ခုနီမ၏ စွပ်စွဲပြောဆိုချက် စကားနှင့်ပတ်သက်၍ အရှင်မဟာကဿပသည် အရှင်အာနန္ဒာအား ဤသို့ မိမိ၏ ဘဝမှန်ကို ဖွင့်ဟ၍ ပြောပြလေ၏။

ဤသို့ အရှင်မဟာကဿပအား စွပ်စွဲဆိုပြောမိလေသော ထုလ္လနန္ဒာ ဘိက္ခုနီမကား မြတ်သောအကျင့်မှ လျှောကျသွားရာလေပြီကော။

(နိဒါနာဝဂ္ဂသံယုတ်ပါဠိတော်၊ ကဿပသံယုတ်၊ စီဝရသုတ်။ ၄၁၈။ ဆဋ္ဌမူ)

( ၄၁ )

# အတွေးသစ် အမြင်သစ်

'လိုလျှင်ကြံဆ နည်းလမ်းရ'ဟု အဆိုရှိ၏။ အတွေးသစ်အမြင်သစ်ကို အုတ်မြစ်ချပေးသော ဆောင်ပုဒ်စကားဖြစ်လေသည်။

ဗုဒ္ဓမြတ်ဘုရားသည် ရောက်လေရာရာ နေရာများစွာတို့၌ ရဟန်း၊ ရှင်၊ လူခပ်သိမ်းတို့ သိ၊ ထင်၊ မြင်သာစိမ့်သောငှာလည်းကောင်း၊ အမှတ်ပြု၍ ကျင့်ဝတ်တစ်ခုအဖြစ်ဖြင့် ကျင့်ကြံစိမ့်သောငှာလည်းကောင်း တရားဟောတော်မူလေ့ရှိ၏။ ဤတရားတော်ကို ဟောချိန်၌ မြတ်ဗုဒ္ဓသည် သာဝတ္ထိပြည်သို့ ရောက်ရှိတော်မူနေ၏။ ဇေတဝန်ကျောင်း၌ နေတော်မူခိုက် ဤသည့်တရားကို ရဟန်းတို့အား ဟောကြားတော်မူခဲ့ပေသည်။

ဤတရားတော်၏ ဦးတည်ချက်မှာ တွေးခေါ်မှုကို ရှေးရှုစေလိုကြောင်း ပေါ်လွင်၏။ သူများပြောဟောတိုင်းကို ကြားနာရုံမျှဖြင့် ကျေနပ်၍မနေသင့်၊ (တရားနာဘက်ကချည်း မနေသင့်) တရား၏ သဘောအချက်ကို အဓိပ္ပာယ် သက်ရောက်သည်အထိ ကိုယ်ပိုင်ဉာဏ်ဖြင့် ချင့်တွေးသင့်ကြသေးသည်ဟု ရဟန်းတို့အား သတိပေးတော်မူခြင်းဟူ၍လည်း ဆိုနိုင်ပေသည်။

တွေးခေါ်ကြံဆမှုအရာ၌ ရဟန်းတို့ အားတက်စိမ့်သောငှာ ကိုယ်တော်ကို သာဓကပြု၍ ဗုဒ္ဓဟောကြားသွားတော်မူ၏။ "ငါ့ကိုကြည့်ကြ၊ နုစဉ်ဘဝကပင် သဘောအချက်ကို ပြက်ပြက်သိထင်အောင် ငါတွေးခေါ်လာခဲ့ဖူးသည်"ဟု ရဟန်းတို့အား ပြယုဂ်ထုတ်ပြတော်မူ၏။

ရဟန်းတို့၊ သစ္စာလေးပါးကို မသိမီ ရှေးနုစဉ်အခါကပင် ငါသည် ဤသို့ တွေးခေါ် ကြံဆခဲ့ဖူး၏။ ဤလောကကား ဆင်းရဲဘိစွ။ ပဋိသန္ဓေလည်းနေရ၏။ အိုလည်းအိုရ၏။ ရင့်လည်းရင့်ရ၏။ သေလည်းသေရ၏။ သေပြီးသည့်နောက်

တစ်ဖန် ပဋိသန္ဓေလည်း နေရပြန်သေး၏။ ထိုသို့ဖြစ်ပါလျက်လည်း အိုခြင်း၊ သေခြင်း၊ ဆင်းရဲမှ လွတ်မြောက်ရာကို မသိ။ ဘယ်သောအခါမှ လွတ်မြောက်ရာ လမ်းစပေါ်လေမည်နည်းဟု ဤသို့ တွေးခေါ် ကြံဆခဲ့ဖူး၏။

ရဟန်းတို့၊ ထို့နောက်တစ်ဖန် ထိုငါ့အား "အဘယ်အရာရှိခဲ့သော် အိုခြင်း၊ သေခြင်း ဖြစ်လေသည်။ အိုခြင်း၊ သေခြင်းကား အဘယ်အကြောင်းခံကြောင့် ဖြစ်လေသနည်း"ဟု ဤသို့ တစ်ဆင့်တက်၍ တွေးခေါ်လာမိပြန်သည်။

ရဟန်းတို့၊ တွေးခေါ်ကြံဆသော ထိုငါ့အား အသင့်အားဖြင့် နှလုံးသွင်းခြင်းကြောင့် ပညာဖြင့် ထိုးထွင်း၍သိလာ၏။ "ဇာတိရှိခဲ့သော် အိုခြင်း၊ သေခြင်း သည်ဖြစ်၏။ အိုရခြင်း၊ သေရခြင်းကား ဇာတိဟူသော ပဋိသန္ဓေနေခြင်း အကြောင်းခံကြောင့် ဖြစ်လေသည်တကား"ဟူ၍ ဤအသိဉာဏ် ပေါ်လာသည်။

ရဟန်းတို့၊ ဤမျှသာလည်း မဟုတ်သေး။ ဘုရားလောင်းဖြစ်သော ထိုငါ့အား ဤသို့သော အတွေးအခေါ်များ တသီကြီးဖြစ်လာပြန်၏။

အဘယ်အရာ ရှိနေခဲ့သော် ပဋိသန္ဓေနေမှု (ဇာတိ) ဖြစ်လေသနည်း။

အဘယ်အရာ ရှိနေခဲ့သော် အိုမှု (ဇရာ) ဖြစ်လေသနည်း။

အဘယ်အရာ ရှိနေခဲ့သော် သေမှု (မရဏ) ဖြစ်လေသနည်း။

အဘယ်အရာ ရှိနေခဲ့သော် (ဘဝ) ဖြစ်လေသနည်း။

အဘယ်အရာ ရှိနေခဲ့သော် ပြင်းစွာစွဲလမ်းမှု (ဥပါဒါန်) ဖြစ်လေသနည်း။

အဘယ်အရာ ရှိနေခဲ့သော် တပ်မက်မှု (တဏှာ) ဖြစ်လေသနည်း။

အဘယ်အရာ ရှိနေခဲ့သော် ခံစားမှု (ဝေဒနာ) ဖြစ်လေသနည်း။

အဘယ်အရာ ရှိနေခဲ့သော် ထိတွေ့မှု (ဖဿ) ဖြစ်လေသနည်း။

အဘယ်အရာ ရှိနေခဲ့သော် တည်ရာ (အာယတန) ဖြစ်လေသနည်း။

အဘယ်အရာ ရှိနေခဲ့သော် (နာမ်၊ ရုပ်) ဖြစ်လေသနည်း။

ထိုနာမ်၊ ရုပ်သည် အဘယ်အကြောင်းခံကြောင့် ဖြစ်လေသနည်း။

ရဟန်းတို့၊ ထိုသို့ တွေးခေါ်ကြံဆသော ငါ့အား အသင့်အားဖြင့် နှလုံးသွင်းခြင်းကြောင့် ပညာဖြင့် ထိုးထွင်း၍ သိလာ၏။ "ဝိညာဉ်ရှိပေ၍သာ နာမ်၊ ရုပ်၊ ဖြစ်တာပါကလား။ နာမ်၊ ရုပ်သည် ဝိညာဉ်ဟူသော အကြောင်းခံကြောင့် ဖြစ်တာပါကလား"ဟူ၍ ဤအသိဉာဏ်ပေါ်လာလေသည်။

ရဟန်းတို့၊ ထိုငါ့အား "အဘယ်အရာရှိခဲ့သော် ဝိညာဉ်ဖြစ်လေသနည်း။ ဝိညာဉ်သည် အဘယ်ကို အခြေခံ၍ ဖြစ်လေသနည်း"ဟူ၍ အကြံဖြစ်လာပြန်သည်။ ရဟန်းတို့၊ မသိလျှင် မနေဟူသော စွဲဖြင့် ကြံတွေးခြင်းကြောင့် ဝိညာဉ်သည် နာမ်၊ ရုပ်၊ အခြေခံကြောင့် ဖြစ်တာပါကလားဟူ၍ အသိဉာဏ် ဖြစ်ပေါ် လာသည်။

ရဟန်းတို့၊ ထိုငါ့အား ဤသို့သော အတွေးအခေါ်ဖြစ်လာပြန်၏။ ဤဝိညာဉ်သည် တစ်ဖန်နစ်၏။ (နာမ်၊ ရုပ်တည်းဟူသော ပင်မနေရာသို့ ပြန်ပြန်လာ၏။) နာမ်၊ ရုပ်မှတစ်ပါး အခြားတစ်နေရာသို့ ရောက်သွားခြင်းမရှိ။ ဤမျှဖြင့်ပင် ပဋိသန္ဓေလည်းနေရ၏။ အိုလည်းအိုရ၏။ သေလည်းသေရ၏။ တစ်ဖန် ပဋိသန္ဓေနေမှုလည်းနေရ၏။ နာမ်၊ ရုပ်ကြောင့် ဝိညာဉ်၊ ဝိညာဉ်ကြောင့် နာမ်၊ ရုပ်ဖြစ်ရ၏။

နာမ်၊ ရုပ်ကြောင့် တည်ရာ (အာယတန) ဖြစ်ရ၏။

တည်ရာ (အာယတန)ကြောင့် ထိတွေ့မှု (ဖဿ) ဖြစ်ရ၏။

ထိတွေ့မှု (ဖဿ)ကြောင့် ခံစားမှု (ဝေဒနာ) ဖြစ်ရ၏။

ခံစားမှု (ဝေဒနာ)ကြောင့် တပ်မက်မှု (တဏှာ) ဖြစ်ရ၏။

တပ်မက်မှု (တဏှာ)ကြောင့် ပြင်းစွာစွဲလမ်းမှု (ဥပါဒါန်) ဖြစ်ရ၏။

ပြင်းစွာစွဲလမ်းမှု (ဥပါဒါန်)ကြောင့် ဘဝ ဖြစ်ရ၏။

ဘဝအကြောင်းခံကြောင့် ပဋိသန္ဓေနေမှု (ဇာတိ) ဖြစ်ရ၏။

ပဋိသန္ဓေနေမှု (ဇာတိ)ကြောင့်–

အိုမှု (ဇရာ) ဖြစ်ရ၏။

သေမှု (မရဏ) ဖြစ်ရ၏။

စိုးရိမ်မှု (သောက) ဖြစ်ရ၏။

ငိုကြွေးမှု (ပရိဒေဝ) ဖြစ်ရ၏။

ဆင်းရဲမှု (ဒုက္ခ) ဖြစ်ရ၏။

စိတ်ပင်ပန်းမှု (ဒေါမနဿ) ဖြစ်ရ၏။

ပြည်းစွာပူပန်မှု (ဥပါယာသ) ဖြစ်ရ၏။

ဤသို့လျှင် အလုံးစုံသော ဆင်းရဲအစုဖြစ်၏။ ရဟန်းတို့၊ ငါ့အား "သမုဒယ၊ သမုဒယ"ဟူ၍ ရှေးက မကြားဖူးသော တရားတို့၌ ပညာမျက်စိ ပွင့်လာ၏။ အသိဉာဏ်လင်းလာ၏။ ပညာထင်ရှားလာ၏။ ဝိဇ္ဇာထွန်းပလာ၏။ အလင်းရောင် လက်လာ၏။

ရဟန်းတို့၊ တစ်ဖန်ဆက်၍ တွေးခေါ်ကြံဆပြန်သောအခါ ငါ့အား ဤအသိဉာဏ် ဖြစ်ပေါ်လာပြန်သည်။

ပဋိသန္ဓေနေခြင်း မရှိခဲ့သော် အိုခြင်း၊ သေခြင်းမဖြစ်။ ပဋိသန္ဓေနေခြင်း (ဇာတိ)ချုပ်သော် အိုခြင်း၊ နာခြင်း၊ သေခြင်း၊ (ဇရာ၊ မရဏ)လည်း ချုပ်လေ၏။

ရဟန်းတို့၊ ငါ့အား ဤအကြံ ဖြစ်လာပြန်၏။

အဘယ်အရာ မရှိခဲ့သော် ဇာတိ မဖြစ်သနည်း။

အဘယ်အရာ မရှိခဲ့သော် ဇရာ မဖြစ်သနည်း။

အဘယ်အရာ မရှိခဲ့သော် မရဏ မဖြစ်သနည်း။
အဘယ်အရာ မရှိခဲ့သော် ဘဝ မဖြစ်သနည်း။
အဘယ်အရာ မရှိခဲ့သော် ဥပါဒါန် မဖြစ်သနည်း။
အဘယ်အရာ မရှိခဲ့သော် တဏှာ မဖြစ်သနည်း။
အဘယ်အရာ မရှိခဲ့သော် ဝေဒနာ မဖြစ်သနည်း။
အဘယ်အရာ မရှိခဲ့သော် ဖဿ မဖြစ်သနည်း။
အဘယ်အရာ မရှိခဲ့သော် အာယတန မဖြစ်သနည်း။
အဘယ်အရာ မရှိခဲ့သော် နာမ်၊ ရုပ် မဖြစ်သနည်း။
အဘယ်အရာ ချုပ်သည်ရှိသော် နာမ်၊ ရုပ် ချုပ်လေသနည်း။

ဤသို့ တွေးခေါ်ကြံဆလေသောအခါ "ဝိညာဉ်မရှိခဲ့သော် နာမ်၊ ရုပ်မဖြစ်။ ဝိညာဉ်ချုပ်သော် နာမ်၊ ရုပ်လည်းချုပ်လေ၏။ နာမ်၊ ရုပ်မရှိသော် ဝိညာဉ်မဖြစ်။ နာမ်၊ ရုပ် ချုပ်သော် ဝိညာဉ်လည်း ချုပ်လေ၏" ဟူ၍ အသိဉာဏ် ဖြစ်လာသည်။

ရဟန်းတို့၊ ဤမျှသာလည်း မဟုတ်တုံသေး။ ဆက်၍တွေးခေါ်ပြန်သောအခါ "နာမ်၊ ရုပ် ချုပ်သော် ဝိညာဉ်ချုပ်၏။ ဝိညာဉ်ချုပ်သော် နာမ်၊ ရုပ်ချုပ်၏။ နာမ်၊ ရုပ်ချုပ်သော် သဠာယတန (စက္ခု၊ သောတ စသော တည်ရာခြောက်မျိုး)ချုပ်၏။ သဠာယတနချုပ်သော် ဖဿချုပ်၏။ ဖဿချုပ်၏သော် ဝေဒနာချုပ်၏။ ဝေဒနာချုပ်သော် တဏှာချုပ်၏။ တဏှာချုပ်သော် ဥပါဒါန်ချုပ်၏။ ဥပါဒါန်ချုပ်သော် ဘဝချုပ်၏။ ဘဝချုပ်သော် ဇာတိချုပ်၏။ ဇာတိချုပ်သော် ဇရာ၊ မရဏ၊ သောက၊ ပရိဒေဝ၊ ဒုက္ခ၊ ဒေါမနဿ၊ ဥပါယာသချုပ်၏" ဤသို့လျှင် အလုံးစုံသော ဆင်းရဲအစု ချုပ်၏။

ရဟန်းတို့ "နိရောဓ၊ နိရောဓ" ဟူ၍ ရှေးက မကြားဖူးသေးသော တရားတို့၌ ပညာမျက်စိပွင့်လာပြီ။ အသိဉာဏ်လင်းလာပြီ။ ပညာထင်ရှားလာပြီ။ ဝိဇ္ဇာထွန်းပလာပြီ။ အလင်းရောင် ထက်လာပြီ။

ရဟန်းတို့၊ ဥပမာအားဖြင့် တောလမ်းခရီး၌ ဖြတ်သန်းသွားသော ခရီးသည်ယောက်ျားသည် ဖုံးနေသော လမ်းဟောင်းကိုတွေ့ရာ၏။ ထိုယောက်ျားသည် ထိုလမ်းအိုအတိုင်း သွားလေရာ၏။ ထိုသို့သွားလေသည်ရှိသော် ရှေးဟောင်းမြို့တော်မင်းနေပြည်ကြီးကို မြင်ရာ၏။ ထိုအခါ ထိုယောက်ျားသည် မင်းအားလည်းကောင်း၊ အမတ်တို့အားလည်းကောင်း မိမိတွေ့မြင်ခဲ့ရသော တောလမ်းခရီးအကြောင်းကို အသေးစိတ်ပြောပြပြီးလျှင် ထိုမြို့ဟောင်းကို မြို့သစ်ဖြစ်အောင် တည်ဆောက်တော်မူပါရန် တိုက်တွန်းပါ၏ ဆိုရာ၏။

ရဟန်းတို့၊ ထိုအခါ ထိုမင်းသည်လည်းကောင်း၊ အမတ်တို့သည်လည်းကောင်း ထိုမြို့ဟောင်းကို မြို့သစ်ဖန်ဆင်းရာ၏။ ထိုမင်း၏ မြို့တော်သည်

နောင်သောအခါ စည်ပင်စပြောလာ၏။ အရပ်ထက်ဝန်းကျင်၌ အကျော်တာစော ဖြစ်လာ၏။ လူနေစည်ကားပြီး ကြီးကျယ်ပြန့်ပြောခြင်းသို့ ရောက်လာ၏။

ရဟန်းတို့၊ ဤအတူသာလျှင် ငါသည် ရှေးဘုရားဟောင်းတို့ ကြွသွားတော်မူရာ လမ်းဟောင်းကိုမြင်ပြီ။ တွေ့ရပြီ။

ရဟန်းတို့၊ ရှေးဘုရားတို့သွားရာ လမ်းဟောင်းကား အခြားမဟုတ်၊ မဂ္ဂင်ရှစ်ပါးပင် ဖြစ်ပေ၏။ ထိုမဂ္ဂင်ရှစ်ပါး လမ်းစဉ်အတိုင်း လိုက်၍သွား၏။ ငါသည် ဇရာမရဏ–အိုခြင်း၊ သေခြင်းကိုသိရပြီ။ အိုရခြင်း၊ သေရခြင်း၏ ဖြစ်ကြောင်း သမုဒယကို သိရပြီ။ အိုရခြင်း၊ သေရခြင်း၏ ချုပ်ရာကို သိရပြီ။ အိုခြင်း၊ သေခြင်းချုပ်ရာ နိဗ္ဗာန်ရောက်ကြောင်း ကျင့်စဉ်ကိုသိရပြီ။ ထိုလမ်းစဉ် အတိုင်း ငါလိုက်သွားသည်ရှိသော် ဇာတိကို ငါသိရပြီ။ ဇရာ မရဏ စသည်ကို ငါသိရပြီ။

ရဟန်းတို့၊ ထိုမဂ္ဂင်ရှစ်ပါး လမ်းစဉ်အတိုင်း လိုက်သွားသော ငါသည် သင်္ခါရတို့ကိုလည်းကောင်း၊ သင်္ခါရ အကြောင်းကိုလည်းကောင်း၊ သင်္ခါရချုပ်ရာကို လည်းကောင်း၊ သင်္ခါရချုပ်ရာ နိဗ္ဗာန်သို့သွားကြောင်း ကျင့်စဉ်ကိုလည်းကောင်း ငါ သိရပြီ။

ရဟန်းတို့၊ အကြင်မျှလောက်သော ကာလပတ်လုံး ထိုအကျင့်မြတ်သည် စည်ပင်၏။ ကျယ်ဝန်း၏။ သိရှိသူ များ၏။ ပြန့်ပြော၏။ နတ်လူတို့အား ထင်စွာပြအပ်၏။ ထိုမျှလောက်သော ကာလပတ်လုံး မဂ္ဂင်ရှစ်ပါး အကျင့်မြတ်ကို ကျင့်စိမ့်သောငှာ ဘိက္ခု၊ ဘိက္ခုနီ၊ ဥပါသကာ၊ ဥပါသိကာတို့အား ငါဟောခဲ့ပြီဟူ၍ တွေးခေါ်ခြင်းမှ ရလဒ်ကို ရဟန်းတို့အား ပြယုဂ်ထုတ်ပြတော်မူသတည်း။

(နိဒါနဝဂ္ဂသံယုတ် ပါဠိတော်၊ မဟာဝဂ်၊ နဂရသုတ်၊ ၃၂၇၊ ဆဌမှ)

( ၄၂ )

# ပြဿနာပိုက်၍ ဆရာရှာလေ့သူ

ရာဇဂြိုဟ်မြို့မှအထွက် မြို့တံခါးနှင့် မလှမ်းမကမ်း အရပ်တွင် သပ်သပ်ရပ်ရပ် နေချင့်စဖွယ် တည်ဆောက်ထားသော ကျောင်းကြီးကို အဝေးကပင် မြင်နိုင်၏။ ကျောင်းအဆောက်အအုံ၏ ထည်ဝါခံ့ညားပုံကို ထောက်ခြင်းအားဖြင့် ထိုကျောင်းနေ ပုဂ္ဂိုလ်၏ အရှိန်အဝါ၊ ဩဇာအာဏာမှာ မသေးလှကြောင်း အကြမ်းဖျင်းအားဖြင့် ရိပ်စားမိနိုင်ပေသည်။

သို့သော် ထိုကျောင်းကား ရဟန်းများနေထိုင်ရာကျောင်းမဟုတ်၊ ပရိဗိုဇ်ကျောင်း ဖြစ်ချေ၏။ ဝါဒကို အဓိက ဘာသာရပ်အဖြစ်ဖြင့် သင်ကြားပို့ချနေသော ကျောင်းဖြစ်၏။ ကျောင်းကို အုပ်ချုပ်သူ ကျောင်းအုပ်ဆရာကြီးကား **'သဘိယ'** ပရိဗိုဇ် ဖြစ်သတည်း။

သဘိယပရိဗိုဇ်သည် စာတတ်၊ ပေတတ်၊ ဗဟုသုတနှံ့စပ်သူဖြစ်၏။ ဝါဒရေးရာနှင့် ပတ်သက်သော အတတ်ကို အဓိက သင်ကြားတတ်မြောက်လာသူ ဖြစ်သည့်အလျောက် မဟာဝါဒီ ဖြစ်လာသည်။ ဇမ္ဗူဒိပ်ကျွန်းအလုံးကို လှည့်လည်၍ ဝါဒဖြင့် ပစ်ခတ် တိုက်ခိုက်လာခဲ့သည်။ "ဝါဒချင်းပြိုင်လိုသူရှိက ထွက်ခဲ့"ဟု နယ်လှည့်၍ စိန်ခေါ်သူဖြစ်လေသည်။

သို့သော် သူနှင့် မယှဉ်လိုကြ၍ပေလော၊ သို့မဟုတ် သူ့ကို မတုဝံ့ကြ၍ပေလော မပြောတတ်။ သူနှင့် တွေ့တွေ့ဆိုင်ဆိုင် ပြိုင်လာသူ မရှိသလောက်ပင် ဖြစ်ချေ၏။ ထိုအခါ သူသည် မာန်ဝံ့သည်ထက်ဝင့်၊ ရင့်သည်ထက်ရင့်လာသည်။ "ဇမ္ဗူတလူ၊ ငါဆိုမှငါ"ဖြစ်လာသည်။ ငါ့ဝါဒနှင့်တူသော ဝါဒမရှိ။ ငါ့ဝါဒကို တုနိုင်သော ဝါဒမရှိဟူ၍ နယ်လှည့် ဝါဒပြိုင်ခြင်း အလုပ်ကို ဖြုတ်လိုက်ပြီး ရာဇဂြိုဟ်မြို့မှအထွက် မြို့တံခါး၏ အနီးအရပ်တွင် ဝါဒသင်တန်းကျောင်း

ဆောက်လျက် တပည့်မွေးလေ၏။ သူ့တပည့်များသည် အထက်တန်းလွှာမှ မျက်နှာကြီးတပည့်က များလေသည်။ မင်းညီမင်းသား၊ သူဌေး၊ သူကြွယ်သား များစွာတို့ သူ့ထံတပည့်ခံ၍ ဝါဒသင်တန်းတက်ကြသည်။

သဘိယပရိဗိုဇ်သည် ဇာတိမည့်လှသော်လည်း သူ့နောက်ခံသမိုင်းကား သန့်သည်ဟု မဆိုနိုင်။ ဗလုံးဗထွေးနှင့် ပြေးရင်းလွှားရင်း သူ့အမေက သူ့ကို မွေးလာခဲ့ရသည်။

သူ့သမိုင်းက သည်လိုဟုဆိုသည်။ သူ့မိခင်သည်[၁] မထင်မရှားသော အညတရ မင်းတစ်ပါး၏ သမီးတော်ဖြစ်၏။ ထိုသမီးတော်ကို အယူဝါဒနှင့် ပတ်သက်၍ တီးမိခေါက်မိ ရှိပါစေတော့ဟူ၍ သူ့မိဘနှစ်ပါးက ပရိဗိုဇ်ကျောင်းသို့ ပို့ထားကြ၏။ ထိုသမီးတော်သည် ပရိဗိုဇ်ဆရာကြီး၏ တပည့်တစ်ယောက်နှင့် ဖောက်ပြားမှားယွင်းရာက ကိုယ်စန့်ရှိလာသောအခါ ကျောင်းနှင့်မတန်ဟူ၍ ထိုအမျိုးသမီးအား ကျောင်းမှ နှင်ချလိုက်ကြကုန်၏။

ထိုအခါ သဘိယ၏မိခင်မှာ ဗိုက်တစ်လုံးနှင့်လွင့်ရရှာလေ၏။ သူ့အဖို့ ခြေသလုံးကို အိမ်ဇကိုင်ပြု၍သောဘဝ ရောက်နေရရှာ၏။

သူ့ကိုယ်ဝန်သည် တစ်နေ့ထက်တစ်နေ့ ရင့်မာလာသော်လည်း သူ့မှာ သားဖွားရန် မီးနေခန်းလည်းမရှိ။ ဘယ်နေရာမှာ ဘယ်လိုမွေးရမည်ကို သူ့ကိုယ် သူပင် မခန့်မှန်းနိုင်။ ခန့်မှန်းနိုင်ရန် အလားအလာလည်း သူ့မှာမရှိ ဖြစ်ဘိ၏။

တမတ်စောက်စောက် ရှောင်နေရခြင်းသည်ပင် သူ့အဖို့ ဘဝ၏ အရသာ ဟု ထင်စရာဖြစ်နေ၏။ သို့ကြောင့် သူသည် ဗိုက်တစ်လုံးနှင့် ဟိုရောက် သည်ရောက် ဦးတည်ရာ လျှောက်ရာက နက္ခတ်ပွဲတစ်ခုသို့ ရောက်သွား လေသည်။

စည်ကားလှစွာသော ပွဲထဲသို့ မဝံ့ရဲနှင့် သူ ဝင်သွားလေသည်။ ထိုအခါ ကမ္ဘဇလေက သူ့ကို သတိပေးလာ၏။ ဗိုက်နာလာသည်။ ပွဲခင်းထဲတွင် အသာ ကျိတ်၍ လက်ဖြင့် နှိပ်ထားသေး၏။ သို့သော် နှိပ်လေ နာလေ၊ နာလေ နှိပ်လေ။ နောက်ဆုံးတွင် အောင့်၍ မရတော့သည့်အဆုံး၌ ပွဲထဲမှာပင် ပရိတ်သတ် ဗလုံး ဗထွေးကြားမှာ မွေးရလေ၏။

မိခင်ရော ကလေးပါ ချမ်းသာပါသည်။ ကလေးမှာ ယောက်ျားကလေး ဖြစ်သည်။ သဘင်၌ မွေးဖွားသော သားဖြစ်သည်ကို အကြောင်းပြု၍ **"သဘိယ"** ဟု သညာဒိန္န မင်္ဂလာပြုကာ ကင်ပွန်းတပ်ထား၏။

---

၁။ သာ ကီရ အညတရဿ ခတ္တိယဿဓီတာ။ သုတ္တနိပါတ် အဋ္ဌကထာ၊ ၁၄၆။

ထိုသားငယ် သဘိယဆိုသူကား ယခုအခါ မဟာဝါဒီဆရာကြီးသဘိယ ဖြစ်လာသည်။ ဝါဒရေးရာနှင့် ပက်သက်၍ ထိုခေတ် ထိုအချိန်က သစ္စက ပရိဗိုဇ် ကျော်ခဲ့သလို သဘိယပရိဗိုဇ်သည်လည်း သစ္စကနှင့် ရင်ဘောင်တန်း တစ်တောတစ်ကြက်ဖ တွန်ကျူးလျက်ရှိလေသည်။ ရာဇဂြိုဟ်မြို့ကို ခြေကုပ်ပြု၍ သူ့ဝါဒကို တွင်ကျယ်အောင် ထုတ်လုပ်နေသူဖြစ်သတည်း။

သဘိယသည် ဝါဒ၌ ယစ်မူးနေသောကြောင့် သူ့ထက်တတ်သူရှိသည်ဟု မထင်။ ဂေါတမ ရှင်တော်ဘုရား ပွင့်တော်မူလာသည်ကိုပင် သူ မသိ။

သို့သော် သူ့အား နှိုးဆော်မည့်သူ သူငယ်ချင်းကောင်း တစ်ယောက်ပေါ်လာသည်။ ထိုသူငယ်ချင်းကား လူမဟုတ်။ ရဟန်းမဟုတ်။ ပရိဗိုဇ်မဟုတ်။ သုဒ္ဓါဝါသ ဗြဟ္မာဖြစ်၏။ ကဿပဘုရားသခင် လက်ထက်တော်က အတူတကွ တရားကျင့်ဖက် သူငယ်ချင်းသုံးယောက် ရှိသည်တွင် တစ်ယောက်က ကျွတ်တန်းဝင်သွားပြီး တစ်ဦးက ဗြဟ္မာ၊တစ်ဦးက လူ ပရိဗိုဇ် ဖြစ်နေ၏။

ထိုသူငယ်ချင်းဗြဟ္မာက "ယခုအခါ ငါ့သူငယ်ချင်း အဘယ်ဘဝသို့ ရောက်ရှိနေလေသနည်း" ဟု ကြည့်သောအခါ သဘိယ၏ လက်ရှိဘဝကို အထင်းသားမြင်ရလေသော် သူ့သူငယ်ချင်းအတွက် စိတ်မကောင်းဖြစ်လာသည်။ "ငါ့ သူငယ်ချင်း၊ ဘုရားနှင့် နီးစပ်အောင် ကြိုးမှပဲ"ဟူ၍ ရှေးဦးစွာ ပြဿနာပေါင်း နှစ်ဆယ်ကို စီရင်လေ၏။

ပြီးလျှင် ညခါ သဘိယ၏ ကျောင်းသို့သွားပြီး ကျောင်း၏အထက် မိုးကောင်းကင်၌ ရပ်လျက်မှ "သဘိယ၊ သဘိယ" ဟူ၍ အသံပြုသည်။ ခေါ်သည်။ သုံးကြိမ်ခေါ်လျှင် သဘိယသည် အိပ်ရာမှ နိုးလာသည်။ သူ့ကျောင်း၏ ထက်ဝန်းကျင်၌ ပြိုးပြိုးပြက်ပြက် အရောင်တွေ ယှက်သမ်းနေသည်ကို မြင်လျှင် တအံ့တဩနှင့် ကောင်းကင်ပေါ် မော့ကြည့်လိုက်သောအခါ ဗြဟ္မာမင်းကိုမြင်လျှင် လက်အုပ်ချီလိုက်သည်။ ထိုအခါ ဗြဟ္မာမင်းသည် သဘိယအား ဤသို့ဆို၏။

"အချင်း သဘိယ၊ သင့်အတွက်၊ သင့်ဖို့ ပြဿနာ နှစ်ဆယ် ငါယူလာခဲ့သည်။ သည်ပြဿနာ နှစ်ဆယ်ကို သင်သည် တတ်မြောက်အောင် ငါ့ထံမှ သင်ယူလော့။ ရဟန်းဖြစ်စေ၊ ပုဏ္ဏားဖြစ်စေ၊ မည်သူပင်ဖြစ်စေ သင် မေးလိုက်သော ဤပြဿနာများကို ဖြေဆိုနိုင်ခဲ့သော် ထိုသူ၏ထံတွင် တပည့်ခံလျက် မြတ်သော အကျင့်ကို သင် ကျင့်ပါလေ"

ဤသို့ ဆိုပြီးနောက် ဗြဟ္မာမင်းသည် သဘိယအား ပြဿနာ နှစ်ဆယ်တို့ကို ဌာန်ကရိုဏ်းကျကျ သင်ပေးလေ၏။ သဘိယလည်း စိတ်ဝင်စားခြင်း ပြင်းစွာဖြင့် သင်ယူလေ၏။

တပည့်မွေးလာခဲ့သော၊ (ဝါ) တပည့်ရှာလာခဲ့သော သဘိယသည် ယခုအခါ ဆရာရှာဖို့ အလှည့်ရောက်လာ၏။ ထိုအခါ သူသည် ဆရာကို ရှာကြည့်လေသည်။ "ငါ ဘယ်သူ့ကို ဆရာတင်ရမည်နည်း"

ဆရာအဖြစ်ဖြင့် သူ ကိုးကွယ် ဆည်းကပ်ရမည့် သူမှာ ဗြဟ္မာမင်း သင်ကြားပေးသည့် ပြဿနာနှစ်ဆယ်အပေါ်၌ တည်သဖြင့် အဘယ်ဆရာသည် သည်ပြဿနာကို ဖြေနိုင်မည်နည်း။

ဤသို့ တွေးကာ တွေးကာနှင့် သဘိယသည် ထိုခေတ်ကို သုံးသပ်ကြည့်လေ၏။ သည်ခေတ်တွင် အဘယ်သူတို့သည် ကျော်ကုန်သနည်း။ တော်ကုန်သနည်း။

ဆရာလိုက်ရှာနေသော သဘိယအား ဆရာရောင်ခြည် သမ်းလေပြီလော။ ထိုခေတ်တွင် တဟုန်းဟုန်းတောက်လောင်နေသော မီးပုံကြီးများအလား အလွန်ထင်ရှားလှသည့် ခြောက်ဆူသော ဘုရားကြီးတို့ကို သူတွေ့ရလေပြီကော။ ထိုဘုရားကြီးခြောက်ဆူတို့ကား–

(၁) ပူရဏကဿပ။
(၂) မက္ခလိဂေါသာလ။
(၃) အဇိတကေသကမ္ဗလ။
(၄) ပကုဓကစ္စာယန။
(၅) ဗေလဋ္ဌပုတ္တသဉ္စယ။
(၆) နိဂဏ္ဌနာဋပုတ္တ။

ဤခြောက်ဆူတို့ ဖြစ်ကုန်၏။ သူတို့သည် "ငါတို့ ဘုရားဖြစ်ကုန်၏"[၁] ဟု မိမိကိုယ်မိမိ ဘုရားဟု ဝန်ခံ သမုတ်ကြသူများ ဖြစ်လေသည်။

သဘိယသည် ထိုခြောက်ဆူသော ဘုရားတို့အား အတော်အထင်ကြီးသွားသည့်အားလျော်စွာ အလွန်အားကိုးလိုစိတ်များလည်း တဖွားဖွား ဖြစ်ပေါ်လာသည်။

ထို့ကြောင့် သူသည် ထိုဘုရားခြောက်ဆူတို့၏ ကျောထောက်နောက်ခံခြေရံသင်းပင်းများကို အကဲခတ်ပြန်သောအခါ သာ၍ သာ၍ပင် အထင်ကြီးစရာများ တွေ့လာသည်။ တစ်ဦး တစ်ဦးလျှင် တပည့် လက်သား အခြွေအရံငါးရာစီရှိကြောင်း သိရရုံမက ထိုဘုရားကြီးများသည် ဂဏ အဖွဲ့အစည်းသိခြားရှိသူများ ဖြစ်ကြသည်။ ဘုရားဟု ရဲဝံ့စွာအမည်ခံနေသူများ ဖြစ်ကြသည်။

---

၁။ သမ္ဗုဒ္ဓ နော မယန္တိ ဓဝံ ပဋိညာတာရော။ သုတ္တနိပါတ် အဋ္ဌကထာ၊ သဘိယ သုတ္တဝဏ္ဏနာ၊ ၁၄၇၊ ဆဋ္ဌမူ။

ဂိုဏ်းအုပ်၊ ဂိုဏ်းချုပ်၊ ဥက္ကဋ္ဌကြီးများဖြစ်ကြသည်။ အခြွေအရံ ကိုးကွယ်ဆည်းကပ်သူများ၍ လာဘ်လာဘရှင်သူများဖြစ်ကြသည်။ နေလို လလိုလင်းသော ပုဂ္ဂိုလ်ကြီးများဖြစ်ကြသည်။ အယူဝါဒနှင့် ပတ်သက်၍ ကူးပြောင်းရန် ကူးတို့ဆိပ်ကြီးများသဖွယ် ဖြစ်ကြသည်။ သူခပ်သိမ်းတို့က "သူတော်ကောင်း"ဟု သမုတ်ခြင်းကို ခံယူသူများ ဖြစ်ကြသည်။ သူတို့သည် ငါ မေးအပ်သော ပြဿနာများကို ဖြေဆိုနိုင်ကုန်လတ္တံ့။ ငါ သူတို့ထံ ချဉ်းကပ်၍ မေးကြည့်လျှင် ကောင်းမည်။ ဖြေနိုင်လျှင် သူတို့ထံ ငါတပည့်ခံမည်။

ဤသို့တွေးကာ သဘိယသည် အတော်ဝမ်းသာသွားလေသည်။ ချက်ချင်းဆိုသလိုပင် သဘိယသည် ထိုခြောက်ဆူကုန်သော ဘုရားကြီးတို့ထံ ရှိသေစွာ ချဉ်းကပ်လျက် သူ့ပြဿနာများကို တင်ပြပြီး အဖြေတောင်းခံခြင်း ပြုလေသတည်း။

ထိုအခါ သဘိယအဖို့ နှမ်းထွက်နှင့်မှန်းချက်မကိုက်ဘဲ ဖြစ်နေသည်ကို တွေ့ရသောအခါ စိတ်ပျက်လာသည်။ ဘိက္ခု၊ သမဏ၊ ဗြာဟ္မဏ၊ ဗုဒ္ဓ စသည်တို့၏ သမိုင်းကြောင်းကို လှိုက်လှဲစွာ တင်ပြ၊ ဆွေးနွေး၊ မေးမြန်းလေသောအခါ ထိုဘုရားအခေါ်ခံ ပူရဏကဿပ စသူတို့သည် သူမေးသောပြဿနာကို အဖြေမပေးကြကုန်သည်သာမက သူ့ကိုပင် ပြန်၍ မေးလားမြန်းလား လုပ်ကြသောကြောင့် သဘိယမှာ ပုထုဇဉ်သဘာဝအလျောက် စိတ်ဆိုးခြင်း၊ အမျက်ထွက်ခြင်းများအထိ မဖြစ်တန်ဘဲလျက် ဖြစ်လာရ၏။ ဤအချက် ထိုအချက်များကြောင့် သဘိယသည် ထိုဘုရားကြီးများအပေါ်တွင် စိတ်အပျက်ကြီး ပျက်လာလေတော့သည်။

ထို့ကြောင့် သဘိယသည် မိမိတင်ပြသော ပြဿနာများ အဖြေမရသည့်အတွက် စိတ်ခုတ်အကြီးအကျယ် ကျဆင်းလာလေ၏။ လောကဌ် ဘုရားအခေါ်ခံနေသူများပင် ငါမေးအပ်သော ပြဿနာများကို ပြေလည်အောင် ဖြေဆိုနိုင်သူမပေါ်ခဲ့။ ငါ ဘယ်သူ့ကို ဆရာတင်ရမည်နည်း။

ဘယ်သူ့ထံ တပည့်ခံ၍ ငါကျင့်ကြံတော့မည်နည်း။ ငါဘဝဆုံးပြီ။ မြတ်သောအကျင့်ကို ကျင့်နိုင်ရန်အတွက် ငါ့အဖို့ တံခါးပိတ်ချေပြီ။ ဤအဝတ်ဖြင့် မနေထိုက်တော့ပြီ။ နေ၍ ငါ့အဖို့ အဘယ်အကျိုးထူးတော့မည်နည်း။ ကျင့်လိုသော အကျင့်မြတ်ကို ကျင့်ခွင့်မရသည့်အတူတူ လူထွက်ပြီး ကာမစည်းစိမ်ကို ခံစားရသည်ကမှ အကျိုးရှိဦးမည်။ ပျော်ရွှင်စွာ နေရဦးမည်။ ငါလူထွက်တော့အံ့။

သဘိယသည် ပရိဗိုဇ်ဘဝကိုစွန့်၍ လူထွက်ရန် စိတ်ကူးသည်အထိ စိတ်ပျက်လာသည်။ ဤသို့ လူထွက်ရကောင်းနိုးနိုး စိတ်လွင့်နေစဉ်အခွင်းသူသည် ဂေါတမဘုရားကို တွေးမိလာလေသည်။

"ဩ–ရဟန်းဂေါတမဆိုတာ ရှိပါသေးကလား။ သူသည်လည်း ဘုရားဆိုပဲ။ ဂဏအဖွဲ့အစည်းရှိသတဲ့။ ဂိုဏ်းအုပ်၊ ဂိုဏ်းချုပ်၊ ဥက္ကဋ္ဌကြီးဆိုပဲ။ နေလို လလို လင်းတဲ့ပုဂ္ဂိုလ်၊ အခြွေအရံများ တဲ့ပုဂ္ဂိုလ်၊ အများက သူတော်ကောင်းဟု သမုတ်ခြင်းခံရတဲ့ ပုဂ္ဂိုလ်ဆိုပါလား။ ငါ့ပြဿနာများကို ရဟန်းဂေါတမထံ တင်ပြရလျှင် ကောင်းမည်။ သူ့ကိုမေးရလျှင် ကောင်းမည်။ အို–ရဟန်းဂေါတမထံ ချဉ်းကပ်၍ ငါ မေးကို မေးကြည့်ဦးမည်"

ဤသို့ ဆုံးဖြတ်ပြီးကာမှ သဘိယအား အတွေးတစ်မျိုးက ဝင်နှောက်လိုက်သဖြင့် ဦးဖောက်ပြောင်းပြန်၊ကျွမ်းပြန်၍ ကျသွားလေ၏။ "ရဟန်းဂေါတမကို မေးလို့ဖြစ်မထင်ပါဘူး။ ဖြေနိုင်မယ်မထင်ပါဘူး။ အဘယ်ကြောင့်ဆိုသော် သူ့အဘိုးအေလောက် ရှိတဲ့ ဧရာမဘုရားကြီးတွေတောင်မှ ငါ့ပြဿနာကို အဖြေမပေးနိုင်ကြပါပဲလျက် မနေ့တစ်နေ့ကမှ ရဟန်းဖြစ်လာတဲ့ ဂေါတမသည် ငယ်လှပါသေးသည်။ ဝါနုလှပါသေးသည်။ အလွန်ကြီးလေးလှသည့် ပြဿနာရပ်ကို သူကိုင်တွယ်နိုင်မှာမဟုတ်။ ဟုတ်တိ ပတ်တိ သူ ဖြေနိုင်ရာမည်မဟုတ်"

ဤအတွေးကြောင့် နှောင့်နှေးသွားပြန်လေ၏။ သို့သော် သူ့အသိဉာဏ်က သူ့အား အချိန်မီ ဖမ်းအုပ်ထားလိုက်လေသည်။ "ရဟန်းဂေါတမသည် ဝါနုသေးသည်ကား မှန်၏။ သို့သော် သူ့ကို အထင်မသေးအပ်။ သူ့ကို လျှော့၍ မတွက်အပ်။ ရဟန်းဂေါတမကား အရွယ်နှင့်မမျှအောင်ပင် တန်ခိုးကြီးသူ၊ ထင်ပေါ်ကျော်ကြားသူ၊ သူခပ်သိမ်းတို့ယုံကြည်၊ ကိုးစားခြင်းကို ခံရသူဖြစ်လေသည်။ ငါမေးအပ်သော ပြဿနာများကို သူ မဖြေသည့်တိုင်အောင် ငါ့အဖို့ အရှုံးမရှိနိုင်။ မေးမည်။ ငါ ရဟန်းဂေါတမကို မေးစမ်းကြည့်ဦးမည်" ဟူ၍ ယတိပြတ်ဆုံးဖြတ်လိုက်သတည်း။

ထိုအချိန်တွင် ဂေါတမရှင်တော်မြတ်ဘုရားသည် ရာဇဂြိုဟ်ပြည်သို့ရောက်ရှိလာပြီး ဝေဠုဝန်ကျောင်း၌ သီတင်းသုံးလျက်ရှိနေ၏။ သဘိယသည် ဘုရားသခင်ရှိရာ ဝေဠုဝန်ကျောင်းတော်သို့ လိုက်သွားလေသည်။ ဘုရားသခင်ထံတော်သို့ ဝင်ရောက်ဖူးမြော်မိလျှင် ဝမ်းမြောက်ဖွယ်စကား၊ မှတ်လောက်သားလောက်စကားကို မြတ်စွာဘုရားနှင့် အတူတကွ ပြောဆိုသည်။

သဘိယသည် ဘုရားသခင်၏ သာယာလှစွာသော အသံတော်နှင့် ကြည်လင်သော မျက်နှာတော်ကို ကြားရ၊ ဖူးတွေ့ရလေသောအခါ သူ၏စိတ်အာရုံများသည် ဘေးသို့ ပျံ့လွင့်ခြင်း အလျှင်းမရှိတော့ဘဲ အလွန်ကြည်လင်သော အခြေ၌ ရပ်တည်လျက်ရှိနေ၏။ ထိုအခါ သဘိယသည် ဂါထာတွတ်တွတ်ရွတ်ကာ ဤသို့ လျှောက်လေသတည်း။

စပယ်ဦးစာပေ

သဘိယ။ အရှင်ဂေါတမ၊ အကျွန်ုပ် ပွင့်လင်းစွာ လျှောက်ပါအံ့။ ငါမေးအံ့သော ပြဿနာများကို ဖြေဆိုနိုင်သူ ပေါ်မှပေါ်ပါဦးမလားဟူ၍ အကျွန်ုပ် ယုံမှားစိတ်ဖြစ်ရှိနေခဲ့ပါသည်။ ဤပြဿနာများ၏ ဆိုလိုချက်၊ အနက် အဓိပ္ပါယ်ကား မည်သို့ဖြစ်လေမည်နည်းဟူ၍ စိတ်၌ စနိုးစနောင့်နှင့် နေလာရပါသည်။ ယင်း ပြဿနာတို့ကို မေးလျှောက်ခြင်းငှာ အလွန် ထက်သန်လှသော မျှော်လင့်ချက်ဖြင့် အကျွန်ုပ် ရောက်ရှိလာခဲ့ခြင်း ဖြစ်ပါသည်။ အရှင်ဂေါတမသည် ထိုပြဿနာတို့ကို ဆုံးခန်းတိုင်မြောက် အပြီးသို့ရောက်အောင် ပြုတော်မူပါ။ ပြဿနာများကို အရှင်ဂေါတမအား ကျွန်ုပ် တင်ပြပါအံ့။ အရှင်ဂေါတမသည် ကျွန်ုပ်၏ ပြဿနာများကို ပြဿနာစဉ်အတိုင်း တရားနည်းလမ်းကျကျ အကျွန်ုပ်အား အဖြေပေးတော်မူပါလော့။ ကျွန်ုပ်၏ အားကိုးရာ ဖြစ်တော်မူပါလော့။

ဗုဒ္ဓ။ ။အချင်းသဘိယ၊ သင်သည် ပြဿနာတို့ကို ထွေးပိုက်လျက် ဝေးသော အရပ်မှ ငါ့ထံ ရောက်လာသူဖြစ်၏။ ငါသည် သင်၏ ပြဿနာများကို ဖြေရှင်းပေးရန် တတ်နိုင်၏။ ပြဿနာများကို အစဉ်အတိုင်း အကာန့်လိုက် အကာန့်လိုက်၊ တစ်သန့်စီ စနစ်တကျ ငါဖြေအံ့။ သင်မေးလိုသော ပြဿနာကို ငါ့အားမေးလော့။ သင်၏ပြဿနာများပြီးဆုံးသည့်တိုင်အောင် ငါ ပို့ဆောင်ပေးပေအံ့။

ထိုသို့ ဗုဒ္ဓထံမှ ပဋိညာဉ်စကား ကြားရသောအခါ သဘိယသည် သူ့ တစ်ကိုယ်လုံး ကြွတက်သွားတော့မလောက် ဝမ်းမြောက်သွားလေသည်။ ပညာရှိ သို့မဟုတ် ဘုရားဆိုသူတို့၏အကြောင်းကို ကောင်းကောင်းသဘောပေါက်လာသည်။

"အို–အချင်းတို့၊ အံ့ဖွယ်ကောင်းဘိခြင်း။ မဖြစ်စဖူး ထူးဆန်းပါဘိခြင်း။ ငါသည် အခြားတစ်ပါးသော ရဟန်း၊ ပုဏ္ဏားတို့ထံမှ 'ဖြေအံ့'ဟူသော ပဋိညာဉ် စကားမျိုးကို အရိပ်အမြွက်မျှကိုပင် မကြားခဲ့ရစဖူးပေ။ ထိုစကားမျိုးကို ရဟန်း ဂေါတမထံကျခါမှ ငါကြားရတော့သည်။ ရဟန်းဂေါတမသည် 'ငါဖြေအံ့' ဟူသော စကားကို ပြတ်သားစွာ မိန့်မြွက်၍ ငါ့အား ဖြေမည့်ဟု ကတိပေးလိုက်ပါပကော"

သဘိယသည် ဤသို့တွေးကာ ဝမ်းမြောက်သောစိတ်၊ တက်ကြွသော စိတ်၊ နှစ်သက်ခြင်းပီတိဖြင့် ရွှန်းရွှန်းအီသော စိတ်ရှိသည်ဖြစ်၍ သူထွေးပိုက် သယ်ဆောင်လာခဲ့သော ပြဿနာဝန်ထုပ်ကြီးကို ဖြေဖွင့်၍ ဘုရားသခင်အား ဂါထာတစ်ပုဒ်လျှင် ပြဿနာလေးခုပြု၍ ဂါထာငါးခုဖြင့် ပြဿနာနှစ်ဆယ်ကို မေးလျှောက်ခြင်းပြုလေ၏။

သဘိယ။ ။အရှင်ဂေါတမ၊ (၁) ရဟန်း၊ ရဟန်းဟူ၍ ဆိုပါကုန်၏။ အဘယ်အရာမျိုးကို ရအပ်၊ ရောက်အပ်သူကို ရဟန်းဟု ဆိုပါကုန်သနည်း။ (၂) အဘယ်သို့သောသူကို မွေ့လျော်သူဟု ဆိုပါကုန်သနည်း။ (၃) ဘယ်သူမျိုးကို

ဆုံးမအပ်ပြီး သူဟု ဆိုပါကုန်သနည်း။ (၄) အဘယ်ပုဂ္ဂိုလ်မျိုးကို ဗုဒ္ဓဟူ၍ ဆိုအပ်ကုန်ပါသနည်း။

မြတ်စွာဘုရားသည် သဘိယမေးလျှောက်အပ်သော ပြဿနာများကို ပြဿနာတစ်ခုကို ဂါထာတစ်ခုပြုလျက် အရဟတ္တဖိုလ်တည်းဟူသော အထွတ်တပ်တော်မူလျက် ဂါထာနှစ်ဆယ်တို့ဖြင့် ဖြေဆိုတော်မူလေ၏။

(၁) အချင်းသဘိယ၊ အဘယ်အရာမျိုးကို ရအပ်၊ ရောက်အပ်သူကို ရဟန်းဟု ဆိုပါကုန်သနည်း ဟူသော ပထမပြဿနာ၌ အဖြေသော်ကား-

အချင်းသဘိယ၊ အကြင်သူသည် မိမိပွားများအပ်၊ ကျင့်သုံးဆောက်တည်အပ်၊ အားထုတ်အပ်သော မဂ်တရားဖြင့် ကိလေသာခပ်သိမ်းမှ ငြိမ်းခြင်းသို့ ရောက်၏။ ယင်းသို့ ငြိမ်းသည့်အဖြစ်ကြောင့်လည်း ယုံမှားခြင်းကိုလွန်မြောက်၏။ ပျက်စီးခြင်းအဖုံဖုံ၊ ပြည့်စုံခြင်းအသွယ်သွယ်၊ ဆုတ်ယုတ်ခြင်းအခြားခြား၊ ကြီးပွားခြင်း အဝဝနှင့်တကွ ဉစ္ဆေဒဝါဒ၊ သဿတဝါဒ၊ ကောင်းမှု၊ မကောင်းမှုအားဖြင့် ပြားသော ဘဝစည်းစိမ်ကိုလည်းကောင်း၊ ဘဝကိုလည်းကောင်း၊ ဖြတ်တောက်ခြင်း အကျိုးငှာ မဂ်ဖြင့် နေခြင်းကိုပြု၏။ ကျင့်သုံးအပ်ပြီးသော မဂ်ကိစ္စ၊ ဖိုလ်ကိစ္စလည်း ရှိ၏။ ဘဝသစ်၌ တစ်ဖန်ဖြစ်ခြင်းလည်း မရှိတော့ပြီ။ ဤသို့ ဤသို့သောဂုဏ်ပုဒ်တို့ဖြင့် ထုတ်ဖော်ချီးကျူးခြင်းကို ခံထိုက်၏။ ထိုသူကို ရဟန်းဟု ဆိုကုန်၏။

(၂) အချင်းသဘိယ၊ အဘယ်သို့သောသူကို မွေ့လျော်သူဟု ဆိုပါကုန်သနည်းဟူသော ဒုတိယပြဿနာ၌ အဖြေသော်ကား-

အချင်း သဘိယ၊ အကြင်သူသည် ရူပါရုံ အစရှိသော အာရုံတို့၌ "ရူပါရုံ၊ ရုပ်ဆင်းသဏ္ဌာန်တစ်ခုကို မျက်စိဖြင့်မြင်သည်ရှိသော် ဝမ်းသာခြင်းလည်း မဖြစ်။ စိတ်ဆိုးခြင်း၊ အမျက်ထွက်ခြင်းလည်း မရှိ"။ ဤသို့ဖြစ်သော ဥပေက္ခာစိတ်ဖြင့် လျစ်လျူရှု၏။ ပြန့်ပြောသည်၏အဖြစ်သို့ ရောက်သောသတိဖြင့် သတိရှိသူ ဖြစ်၏။ သတ္တဝါခပ်သိမ်းတို့အပေါ်၌ နိုင်လိုမင်းထက် နှိပ်စက်ခြင်းကို သူ မပြု။ ဩဃ လေးပါးမှ လွတ်ထွက်ကူးမြောက်ပြီးဖြစ်၏။ မကောင်းမှုခပ်သိမ်းကို ငြိမ်းသတ်ပြီးဖြစ်၏။ နှလုံးမူးနောက်၊ ဦးနောက်ခြောက်ဖွယ်ဟူသမျှ ဖြတ်တောက်ပယ်ရှားပြီးဖြစ်၏။ ကြမ်းကုန်၊ နကုန်သော ရာဂ၊ ဒေါသ၊ မောဟ၊ ဒိဋ္ဌိ ကိလေသာ ဒုစရိုက်ဟု ဆိုအပ်ကုန်သော တရားတို့သည် အကြင်သူအား မရှိကုန်။ ထိုသူသည် ဤဥပေက္ခာမှု လျစ်လျူရှု၍ နေသည်၏အဖြစ်ဖြင့်လည်းကောင်း၊ သတိ၏ ပြန့်ပြောသည်၏ အဖြစ်ဖြင့်လည်းကောင်း၊ ဤညှဉ်းဆဲခြင်းကင်းသည်၏ အဖြစ်ဖြင့်လည်းကောင်း၊ အကျင့်ပျက်ခြင်းမှ ကောင်းစွာပြတ်ကင်းသည်၏အဖြစ် ဖြင့်လည်းကောင်း၊ ဤဩဃ အစရှိသော အထူးထူးသော ကိလေသာတို့မှ ငြိမ်းအေးခြင်းဖြင့်လည်း

ကောင်း မွေ့လျော်၏။ အချင်းသဘိယ၊ ဤသို့သော ပုဂ္ဂိုလ်မျိုးကို မွေ့လျော်သူဟု ဆိုကုန်၏။

(၃) အချင်းသဘိယ၊ အဘယ်သို့သောသူမျိုးကို ဆုံးမအပ်ပြီးသူဟု ဆိုပါကုန်သနည်းဟူသော တတိယပြဿနာ၌ အဖြေသော်ကား–

အချင်းသဘိယ၊ အကြင်သူ၏ အတွင်းအဇ္ဈတ္တသန္တာန်၌လည်းကောင်း၊ အပြင်ဗဟိဒ္ဓသန္တာန်၌လည်းကောင်း အလုံးစုံသော ကိုယ်ယာကလောက၌ စက္ခုစသော ဣန္ဒြေတို့ကို ဤကား အနိစ္စ၊ ဤကား ဒုက္ခ၊ ဤကား အနတ္တဟု လက္ခဏာရေး သုံးပါး၌ တင်၍ ပွားများ အပ်ကုန်၏။ ဤ မိမိ၏ သန္တတိ ခန္ဓာလောကကိုလည်း ကောင်း၊ သူတစ်ပါး၏ သန္တာတိ ခန္ဓာလောကကိုလည်းကောင်း ထူးသောဉာဏ်ဖြင့် ထွင်းဖောက်သိ၍ သေရမည့်ကာလကို မျှော်လင့်၏။ သေရမည်ကို သူ မကြောက်။ ထိုသူသည် ပွားများအပ်သော ဣန္ဒြေရှိသည်ဖြစ်၍ ဆုံးမအပ်ပြီးသူဟု ဆိုကုန်၏။

(၄) အချင်း သဘိယ၊ အဘယ်သို့သော ပုဂ္ဂိုလ်မျိုးကို ဘုရားဟု ဆိုအပ်သနည်းဟူသော စတုတ္ထပြဿနာ၌ အဖြေသော်ကား–

အချင်း သဘိယ၊ အကြင်သူသည် အလုံးစုံသော ကပ်၊ ကမ္ဘာတို့ကိုလည်း ဤမည်သောကပ်၌ ငါသည် ထိုအမည်ရှိသူဖြစ်ခဲ့ဖူးပြီ စသည်ဖြင့် သုံးသပ် ဝေဖန် နိုင်ရာ၏။ သံသရာကိုလည်း သုံးသပ် ဝေဖန်နိုင်ရာ၏။ သတ္တဝါတို့၏ စုတေ၊ ကွယ်လွန်ပုံနှင့် သတ္တဝါတစ်ခု ပြန်၍ဖြစ်လာပုံ ဤနှစ်ပါးစုံကိုလည်း သုံးသပ် ဝေဖန်နိုင်ရာ၏။ ရာဂ အစရှိသော မြူလည်း မရှိ။ မရှိသောကြောင့် အထူးသဖြင့် စင်ကြယ်၏။ ဇာတိ၏ ကုန်ဆုံးရာဖြစ်သော နိဗ္ဗာန်သို့ရောက်၏။ ဤလောကုတ္တရာ ဝိပဿနာအားဖြင့် စတုပပါတဉာဏ် အသိနှင့်ပြည့်စုံသောကြောင့်လည်းကောင်း၊ ရာဂ စသော မြူတို့မှ ကင်းသောအားဖြင့် ကိလေသာတည်းဟူသော အိပ်ပျော်ခြင်းမှ နိုးသည်၏ အဖြစ်ကြောင့်လည်းကောင်း ထိုအကျင့်တရားဖြင့် ဇာတိကုန်ဆုံးရာ နိဗ္ဗာန်သို့ရောက်သော ထိုသူကို ဗုဒ္ဓ ဟူ၍ ဆိုအပ်၏။

ဗုဒ္ဓသည် သဘိယ၏ ပြဿနာကို ဂါထာလေးပုဒ်တို့ဖြင့် တစ်သန့်စီ ခွဲ၍ ဖြေဆိုတော်မူလျှင် သဘိယသည် များစွာ နှစ်ထောင်းအားရ ရှိလှလွန်းသော အမှုအရာဖြင့် ကျန်ပြဿနာများအတွက် ဆက်၍ အဖြေတောင်းခံပြန်လေ၏။

သဘိယ။ ။အရှင်ဂေါတမ၊ (၁) ဗြာဟ္မဏ၊ ဗြာဟ္မဏ ဟူ၍ ဆိုပါကုန်၏။ အဘယ်သို့ ရောက်အပ်၊ ရအပ်သူကို ဗြာဟ္မဏဟု ဆိုပါကုန်သနည်း။ (၂) အဘယ်သို့သော ပုဂ္ဂိုလ်မျိုးကို သမဏဟူ၍ ဆိုပါကုန်သနည်း။ (၃) အဘယ်သို့သော ပုဂ္ဂိုလ်မျိုးကို ကိလေသာတို့မှ စင်ကြယ်သည်ဟု ဆိုပါကုန်သနည်း။ (၄) အဘယ်သို့သော ပုဂ္ဂိုလ်မျိုးကို ရဟန္တာဟု ဆိုပါကုန်သနည်း။

(၁) အချင်း သဘိယ၊ အဘယ်သို့ ရောက်အပ်၊ ရအပ်သူကို ဗြာဟ္မဏဟု ဆိုပါကုန်သနည်း ဟူသော ပထမပြဿနာ၌ အဖြေသော်ကား–

အချင်း သဘိယ၊ အကြင်သူသည် ပါပညစ်ကျု မကောင်းမှုဟူသမျှတို့ကို စတုတ္ထမဂ်ဖြင့် ပယ်၍တည်၏။ မကောင်းမှုမှအပ ပြုအပ်ပြီးသည်၏ အဖြစ်ကြောင့် သန့်စင်၏။ ကင်းသော အညစ်အကြေးရှိ၏။ သူတော်ကောင်းတရားတို့၌ ဆောက်တည်လျက် တည်၏။ သံသရာပင်လယ်ရပ်ကို ကူးခတ်လွန်မြောက်ပြီး ဖြစ်၏။ မဂ်ကိစ္စ၊ ဖိုလ်ကိစ္စ အားလုံးကို အပြီးအစီး ဆောင်ရွက်ပြီးဖြစ်၏။ တဏှာဒိဋ္ဌိ စသော အမှီအတွယ်မှ ကင်း၏။ မည်သည့်လောကဓံ တရားမျိုးနှင့် ရင်ဆိုင်ရစေကာမူ အနည်းငယ်မျှပင် တုန်လှုပ်ချောက်ချားခြင်း မရှိ။ ဤသို့ ဤသို့သော ဂုဏ်ထူး ဝိသေသတို့ဖြင့် ချီးကျူးထိုက်သော၊ ကိလေသာအညစ်အကြေး လူးလဲပေကျံခြင်း မရှိသဖြင့် မြတ်သည်၏ အဖြစ်သို့ရောက်သော၊ အမြတ်စာရင်း တွင် အကျုံးဝင်သော ပုဂ္ဂိုလ်မျိုးကို 'ဗြာဟ္မဏ' ဟူ၍ ခေါ်ဆိုကြကုန်၏။ ဤသို့ မှတ်လော့ သဘိယ။

(၂) အချင်း သဘိယ၊ အဘယ်သို့သော ပုဂ္ဂိုလ်မျိုးကို သမဏဟု ဆိုပါကုန်သနည်း ဟူသော ဒုတိယပြဿနာ၌ အဖြေသော်ကား–

အချင်း သဘိယ၊ အကြင် ပုဂ္ဂိုလ်သည် ကိလေသာတို့ကို ငြိမ်းစေလျက် တည်၏။ ကောင်းမှု မကောင်းမှု၊ ကုသိုလ် အကုသိုလ်ကို ပယ်ပြီးဖြစ်၏။ ကင်းသော ကိလေသာမြူလည်း ရှိ၏။ ဤမိမိ သန္တတိ ခန္ဓာလောကကိုလည်း ကောင်း၊ သူတစ်ပါး၏ သန္တတိ ခန္ဓာ လောကကိုလည်းကောင်း ထူးသောဉာဏ်ဖြင့် ထိုးထွင်း သိ၍ ဇာတိ=ပဋိသန္ဓေနေခြင်း၊ မရဏ=သေခြင်းကို လွန်မြောက်၏။ ထိုသို့သဘောရှိသော ပုဂ္ဂိုလ်မျိုးကို သမဏဟူ၍ ဤသို့မှတ်လေလော့ သဘိယ။

(၃) အချင်း သဘိယ၊ အဘယ်သို့သော ပုဂ္ဂိုလ်မျိုးကို ကိလေသာမှ စင်ကြယ်သူဟု ဆိုပါကုန်သနည်း ဟူသော တတိယပြဿနာ၌ အဖြေသော်ကား–

အချင်း သဘိယ၊ အကြင်သူသည် အဇ္ဈတ္တ ဗဟိဒ္ဓ=အတွင်း အပြင်ဟုဆိုအပ်သော အာယတန လောကအားလုံး၌ အဇ္ဈတ္တအာရုံ၊ဗဟိဒ္ဓအာရုံ၏ အစွမ်းအားဖြင့် ဖြစ်ထိုက်ကုန်သော မကောင်းမှု ဟူသမျှတို့ကို မဂ်ဉာဏ်တည်းဟူသော ရေစင်ဖြင့် စင်ကြယ်အောင် ဆေးကြောခြင်းပြု၏။ ထိုသို့ စင်ကြယ်စွာ ဆေးကြောအပ်ပြီးဖြစ်သောကြောင့် နတ်လူတို့သည် တဏှာဒိဋ္ဌိ အမှုန်းအခြယ် အစီအရင်တို့ဖြင့် မှုန်းခြယ်စီရင်ကြကုန်သော်လည်း မှုန်းခြယ်ရာသို့မရောက်ဘဲရှိလေ၏။ ထိုကဲ့သို့သော ပုဂ္ဂိုလ်မျိုးကို ကိလေသာမှ စင်ကြယ်သူဟုဆိုကုန်၏ဟူ၍ မှတ်လေလော့ သဘိယ။

(၄) အချင်း သဘိယ၊အဘယ်သို့သော ပုဂ္ဂိုလ်မျိုးကို ရဟန္တာဟု ဆိုပါ ကုန်သနည်း ဟူသော စတုတ္ထပြဿနာ၌ အဖြေသော်ကား-

အချင်း သဘိယ၊ အကြင်သူသည် အနည်းငယ်မျှ ဖြစ်သော မကောင်းမှုဟု ဆိုအပ်သော အပြစ်ကိုမပြု။ကာမ သံယောဂ စသော သံယောဂအားလုံးကိုလည်း ကောင်း၊သံယောဇဉ်ကြိုး ဆယ်မျိုးသောအနှောင်အဖွဲ့ တို့ကိုလည်း ကောင်းစွာစွန့်လျက် ခပ်သိမ်းသော ခန္ဓာစသည်တို့၌ တစ်စုံတစ်ခုသော ငြိကပ်ခြင်းဖြင့် စီရင်ခြင်းကို သူ မပြု။ သံယောဂနှင့် သံယောဇန နှစ်ပါးတို့မှလွတ်၏။ ထိုကဲ့သို့သော ပုဂ္ဂိုလ် မျိုးကို ရဟန္တာဟု ဆိုကုန်၏ဟူ၍ မှတ်လေလော့ သဘိယ။

ဤသို့လျှင် ဒုတိယ ဂါထာဖြင့် မေးလျှောက်သော သဘိယ၏ ပြဿနာ လေးချက်ကို ဂါထာလေးခုတို့ဖြင့် တစ်ခုစီကန့်၍ကန့်၍ ဖြေဆိုတော်မူလိုက်သော အခါ သဘိယသည် အလွန်အကျူး အထူးဝမ်းမြောက်ခြင်းဖြစ်လာသည်။ နှစ်သိမ့် ကျေနပ်မှုအပြည့်ဖြင့် ကျန်ရှိနေသေးသော ပြဿနာများအတွက် ဗုဒ္ဓထံတော်၌ အဖြေများကို ဆက်၍တောင်းခံပြန်လေ၏။

သဘိယ။ ။အို-အရှင်ဂေါတမ၊ (၁) အဘယ်သို့သော ပုဂ္ဂိုလ်မျိုးကို ခေတ်ကို အောင်နိုင်သူဟု ဘုရားသခင်တို့ ဟောတော်မူပါကုန်သနည်း။ (၂) အဘယ်ကို ကုသိုလ်ဟု ဆိုပါကုန်သနည်း။ (၃) အဘယ်ကို ပဏ္ဍိတဟု ဆိုပါကုန်သနည်း။ (၄) အဘယ်ကို မုနိဟု ဆိုပါကုန်သနည်း။

(၁) အချင်း သဘိယ၊ အဘယ်သို့သော ပုဂ္ဂိုလ်မျိုးကို ခေတ်ကိုအောင်နိုင် သူဟု ဘုရားသခင်တို့ဟောပါကုန်သနည်းဟူသော ပဌမပြဿနာ၌ အဖြေသော်ကား အကြင်သူသည် နတ်၌ဖြစ်သောတည်ရာ ဘဝ၊ ကံ[၁]၊ လူ၌ ဖြစ်သော တည်ရာဘဝ၊ ကံ၊ ဗြဟ္မာ၌ ဖြစ်သော တည်ရာ ဘဝ၊ကံ၊ဟုဆိုအပ်သော အကြွင်းမဲ့ အလုံးစုံသောကံဟု ဆိုအပ်သော ခေတ်တို့ကို လွှမ်းမိုးအောင်နိုင်၏။ နတ်ခေတ်၊ လူခေတ်၊ ဗြဟ္မာခေတ် (နတ်ကံ၊ လူကံ၊ ဗြဟ္မာကံ) ကို နှောင်ဖွဲ့တတ်သော နှောင်ကြိုး အမျိုးမျိုးမှ အောင်မြင်စွာလွတ်မြောက်ပြီးဖြစ်၏။ ထိုကဲ့သို့သော ပုဂ္ဂိုလ်မျိုးကို ခေတ်ကို အောင်နိုင်သူဟု ဘုရားသခင်တို့ ဟောတော်မူကုန်၏ဟူ၍ မှတ်လေလော့ သဘိယ။

(၂) အချင်းသဘိယ၊ အဘယ်ကို ကုသိုလ်ဟုဆိုပါကုန်သနည်း ဟူသော ဒုတိယပြဿနာအဖြေသော်ကား-

---

၁။ ခေတ္တာနီတိ အာယတနာနိ ဝုစ္စန္တိ။ ။ဒေဝမနုဿဗြဟ္မကမ္မံ ဒိဗ္ဗံ၊ (သုတ္တနိပါတ် အဋ္ဌကထာ၊ သဘိယ သုတ္တ ဝဏ္ဏနာ။ ၁၅၃၊ ဆဋ္ဌမူ။)

အချင်း သဘိယ၊ ဘဏ္ဍာဟူ၍ရှိ၏၊ ဘဏ္ဍာတိုက်ဟူ၍ရှိ၏။ ဘဏ္ဍာတိုက်သည် ဘဏ္ဍာများထားသိုရာ အဆောက်အအုံဖြစ်၏။ ၎င်းဘဏ္ဍာတိုက်ကို ကောသ[၁]ဟူ၍ ခေါ်၏။

အချင်း သဘိယ၊ လူ၊ နတ်၊ ဗြဟ္မာဟုဆိုအပ်သော သတ္တဝါသည် ဘဏ္ဍာနှင့် အလားတူ၏။ ကုသိုလ်ကံ၊ အကုသိုလ်ကံတို့သည် ဘဏ္ဍာတိုက်နှင့် အလားတူကုန်၏။ ဘဏ္ဍာသည် ဘဏ္ဍာတိုက်၌ တည်သကဲ့သို့ လူ၊ နတ်၊ ဗြဟ္မာဟုဆိုအပ်သော သတ္တဝါတို့သည် ကုသိုလ်ကံ၊ အကုသိုလ်ကံ၌ တည်ကုန်၏။

အချင်းသဘိယ၊ အကြင်သဘောတရားသည် လူ၊ နတ်၊ ဗြဟ္မာတို့၌ ဖြစ်ထိုက်သော ကုသိုလ်၊ အကုသိုလ်[၂]အားလုံးကို အမြစ်မှ ပြုတ်အောင်ဖြုတ်ပယ်တတ်၏။ အလုံးစုံသော ကောသ=ကုသိုလ်၊ အကုသိုလ်အနှောင်အဖွဲ့မှ လွတ်မြောက်၏။ ထိုသဘောတရားကို ကုသိုလ်ဟု ဆိုကုန်၏ဟူ၍ မှတ်လေလော့။

(၃) အချင်း သဘိယ၊ အဘယ်ကို ပဏ္ဍိတဟု ဆိုကုန်ပါသနည်း ဟူသော တတိယပြဿနာ၌ အဖြေသော်ကား–

အချင်း သဘိယ၊ အကြင်သူသည် အညစ်အကြေးမထင် စင်ကြယ်သော ပညာရှိသည်ဖြစ်၍ အဇ္ဈတ္တဗဟိဒ္ဓ၊ အတွင်းအပြင် နှစ်ပါး၌ဖြစ်ကုန်သော အာယတနတို့ကို အနိစ္စ၊ ဒုက္ခ၊ အနတ္တ၏ အစွမ်းအားဖြင့် ခွဲခွဲခြားခြား စိစစ်နိုင်စွမ်းရှိ၏။ မကောင်းမှု=ကဏှ၊ ကောင်းမှု=သုက္ကကို လွန်၍ဖြစ်၏။ ထိုသူကို ပဏ္ဍိတဟု ဆိုကုန်၏ဟူ၍ မှတ်လေလော့။

(၄) အချင်း သဘိယ၊ အဘယ်ကို မုနိဟု ဆိုပါကုန်သနည်းဟူသော စတုတ္ထ ပြဿနာ၌ အဖြေသော်ကား–

အချင်း သဘိယ၊ အကြင်သူသည် အတွင်း၌လည်းကောင်း၊ အပြင်၌လည်းကောင်း အားလုံး၌ဖြစ်သော မြဲသောသဘော၊ မမြဲသောသဘောကို သိ၏။ ထိုသို့ သိလေသောကြောင့် နတ်၊ လူတို့၏ ပူဇော်ခြင်းကို ခံထိုက်၏ ။တဏှာဒိဋ္ဌိတည်း ဟူသော ပိုက်ကွန်မှ လွတ်မြောက်ပြီးဖြစ်၏။ ထိုသူကို မုနိဟု ဆိုကုန်၏ ဟူ၍ မှတ်လေလော့။

သဘိယ ပရိဗိုဇ်သည် ဤတတိယဂါထာဖြင့် ဘုရားသခင်အား ပြဿနာလေးခုကို မေး၏။ သူမေးအပ်သော ပြဿနာအတွက် ဘုရားသခင်ထံတော်မှ အဖြေများထွက်လာသောအခါများစွာ နှစ်ထောင်းအားရဖြစ်လာသည့်အလျောက် ကျန်ပြဿနာများကို ဆက်၍ မေးလျှောက်ပြန်လေ၏။

---

၁။ ကောသော ဝုစ္စတိ ဘဏ္ဍာရံ။ အင်္ဂုတ္တိုရ် အဋ္ဌကထာ။

၂။ ကောသာနီတိ ကမ္မာနိ ဝုစ္စန္တိ၊ သုတ္တနိပါတ် အဋ္ဌကထာ ၁၅၃။

သဘိယ။ ။အို–အရှင်ဂေါတမ၊ (၁) အဘယ်ပုဂ္ဂိုလ်မျိုးကို ဝေဒဂူဟု ဆိုကုန်ပါသနည်း။ (၂) အဘယ်ပုဂ္ဂိုလ်မျိုးကို အနုဗုဒ္ဓ[၁] (သစ္စာလေးပါးကို သိသော အရိယာ) ဟု ဆိုပါကုန်သနည်း။ (၃) အဘယ်ပုဂ္ဂိုလ်မျိုးကို ခွဲ၊ လုံ့လ၊ ဝီရိယ ရှိသူ၊ အားထုတ်သူဟု ဆိုပါကုန်သနည်း။ (၄) အဘယ်ပုဂ္ဂိုလ်မျိုးကို အာဇာနည်ဟု ဆိုပါကုန်သနည်း။

(၁) အချင်း သဘိယ၊ အဘယ်ပုဂ္ဂိုလ်မျိုးကို ဝေဒဂူဟု ဆိုပါကုန်သနည်း ဟူသော ပထမပြဿနာ၌ အဖြေသော်ကား–

အချင်း သဘိယ၊ ဤလောက၌ ကျမ်းဟု သတ်မှတ်ထားအပ်ကုန်သော ဝေဒကျမ်းတို့သည် ရှိကုန်၏။ အကြင်သူသည် ထိုဝေဒကျမ်းအားလုံးတို့ကို ချောက်ချားနိုင်စွမ်းရှိ၏။ ကျွမ်းကျင်လိမ္မာခြင်းနှင့် ပြည့်စုံ၏။ ဝေဒနာခပ်သိမ်းတို့၌ ကင်းသော ရာဂရှိ၏။ ဝေဒကျမ်းအားလုံးကို လွတ်မြောက်ပြီးဖြစ်၏။ ထိုသူကို ဝေဒဂူဟု ဆိုကုန်၏ဟူ၍ မှတ်လေလော့။

(၂) အချင်း သဘိယ၊ အဘယ်ပုဂ္ဂိုလ်မျိုးကို အနုဗုဒ္ဓဟု ဆိုပါကုန်သနည်း ဟူသော ပြဿနာ၌ အဖြေသော်ကား–

အချင်း သဘိယ၊ အကြင်သူသည် သံသရာကို ချဲ့ထွင်တတ်သော ပပဉ္စ တရားတို့၏ အကြောင်းကိုလည်းကောင်း၊ ရုပ်၊ နာမ်တို့၏ အကြောင်းကိုလည်းကောင်း၊ အဇ္ဈတ္တဗဟိဒ္ဓအတွင်းအပြင်၌ဖြစ်သော နာမ်ရောဂါ၏ ရင်းမြစ်၊ ရုပ်ရောဂါ၏ ရင်းမြစ် လည်းကောင်း၊ ထိုးထွင်းဉာဏ်ဖြင့် သိ၏။ အလုံးစုံသော နာမ်ရောဂါ၊ ရုပ်ရောဂါ တို့၏ ဖြစ်ပွားရာ မူလဘူတ ပင်မအနှောင်အဖွဲ့တို့မှ လွတ်မြောက်ပြီးဖြစ်၏။ ထိုကဲ့သို့သော ပုဂ္ဂိုလ်မျိုးကို "အနုဗုဒ္ဓ"ဟု ဆိုကုန်၏ဟူ၍ မှတ်ရာ၏။

(၃) အချင်း သဘိယ၊ အဘယ်ပုဂ္ဂိုလ်မျိုးကို ခွဲ၊ လုံ့လ၊ ဝီရိယရှိသူ၊ အားထုတ်သူဟု ဆိုပါကုန်သနည်းဟူသော တတိယပြဿနာ၌ အဖြေသော်ကား–

အချင်း သဘိယ၊ အကြင်သူသည် ခပ်သိမ်းသောမကောင်းမှုဟူဟူသမျှ တို့မှ ရှောင်ကြဉ်၏။ ဤသို့ရှောင်ကြဉ်သောကြောင့် နောက်ထပ်တစ်ဖန် ပဋိသန္ဓေ နေဖွယ်မရှိတော့သဖြင့် နိရယဒုက္ခဟု ဆိုအပ်သော ငရဲ၌ ကျခံရခြင်း ဆင်းရဲကို လွန်မြောက်၍ အရိယာတို့၏ နေခြင်းဖြင့် နေရ၏။ အာသဝေါကုန်ခန်း ရဟန္တာဟု ခေါ်ထိုက်၏။ ကိလေသာရန်သူကို နာလန်မထူ ခေါင်းမပြူနိုင်အောင် အကြွင်းမဲ့ ဖျက်ဆီးနိုင်စွမ်းရှိသောကြောင့် ဝီရိယဉာဏ်နှင့်ပြည့်စုံ၏။ ထိုကဲ့သို့သော ပုဂ္ဂိုလ်မျိုးကို ခွဲ၊ လုံ့လ၊ ဝီရိယရှိသူ၊ အားထုတ်သူဟု ဆိုကုန်၏ဟူ၍ မှတ်ရာ၏။

---

၁။ အနုဝိဒိတောတိ အနုဗုဒ္ဓေါ ဝုစ္စတိ၊ သုတ္တနိပါတ် အဋ္ဌကထာ ၁၅၅။

(၄) အချင်း သဘိယ၊ အကြင်ပုဂ္ဂိုလ်မျိုးကို အာဇာနည်ဟု ဆိုပါကုန်သနည်း ဟူသော စတုတ္ထပြဿနာ၌ အဖြေသော်ကား-

အချင်း သဘိယ၊ အကြင်ပုဂ္ဂိုလ်အား သံယောဇဉ်အနှောင်အဖွဲ့ ရာဂ စသော အနှောင်အဖွဲ့တို့သည် ပြတ်ကုန်ပြီဖြစ်၏။ အဇ္ဈတ္တဗဟိဒ္ဓ အတွင်းအပြင်၌ နှောင်ကြိုးအားလုံးတို့ကို ပညာတည်းဟူသော ဓားဖြင့် ဖြတ်အပ်ကုန်၏။ အလုံးစုံသော အနှောင်အဖွဲ့အမျိုးမျိုးတို့မှ လွတ်လွတ်ကျွတ်ကျွတ် လွတ်မြောက်ပြီးဖြစ်၏။ ထိုကဲ့သို့သော ပုဂ္ဂိုလ်မျိုးကို အာဇာနည်ဟု ဆိုကုန်၏ဟူ၍ မှတ်ရာ၏။

ထိုအခါ သဘိယသည် ငါးခုမြောက်ဖြစ်သော ဂါထာဖြင့် ပြဿနာလေးပုဒ်ကို နောက်ဆုံးလျှောက်လေ၏။

သဘိယ॥ ॥အို-အရှင်ဂေါတမ၊ (၁) အဘယ်သို့သောပုဂ္ဂိုလ်မျိုးကို နှာကြားပြီးသူဟု ဆိုပါကုန်သနည်း။ (၂) အဘယ်သို့သောပုဂ္ဂိုလ်မျိုးကို အရိယာဟု ဆိုပါကုန်သနည်း။ (၃) အဘယ်သို့သောပုဂ္ဂိုလ်မျိုးကို စရဏဟု ဆိုပါကုန်သနည်း။ (၄) အဘယ်သို့သော ပုဂ္ဂိုလ်မျိုးကို ပရိဗိုဇ်ဟု ဆိုပါကုန်သနည်း။

ဗုဒ္ဓ॥ ॥အချင်း သဘိယ၊ (၁) အဘယ်သို့သော ပုဂ္ဂိုလ်မျိုးကို နှာကြားပြီးသူဟု ဆိုပါကုန်သနည်းဟူသော ပထမပြဿနာ၌ အဖြေသော်ကား-

အချင်း သဘိယ၊ ဤလောက၌ အကြင်သူသည် သုတမယ ပညာကိစ္စ၏ အစွမ်းအားဖြင့် နှာကြား၏။ ဝိပဿနာ၏ အခြေခံဖြစ်သော တရားအားလုံးကို အနိစ္စ စသည်တို့၏ အစွမ်းအားဖြင့် ထူးသောဉာဏ်ဖြင့် သိ၏။ အလုံးစုံသော ခန္ဓာ၊ အာယတန စသော တရားတို့၌ ဆေးရန်မရှိ ဖြစ်၏။ ကိလေသာ အနှောင်အဖွဲ့ အားလုံးတို့မှ လွတ်မြောက်ပြီး ဖြစ်၏။ ထိုကဲ့သို့သော ပုဂ္ဂိုလ်မျိုးကို နှာကြားပြီးသူဟု ဆိုကုန်၏ဟူ၍ မှတ်ရာ၏။

(၂) အချင်း သဘိယ၊ အဘယ်သို့သော ပုဂ္ဂိုလ်မျိုးကို အရိယာဟု ဆိုပါကုန်သနည်းဟူသော ဒုတိယပြဿနာ၌ အဖြေသော်ကား-

အချင်း သဘိယ၊ လေးပါးသော အာသဝေါတရားတို့ကိုလည်းကောင်း၊ နှစ်ပါးသော ဘဝတဏှာ၊ ဝိဘဝတဏှာတို့ကိုလည်းကောင်း ပညာတည်းဟူသော သန်လျက်ဓားဖြင့် ဖြတ်၍ အသိဉာဏ်ရှိသော ပုဂ္ဂိုလ်သည် တစ်ဖန် ဘဝသစ်၌ ဖြစ်ခြင်း အစွမ်းအားဖြင့် အမိဝမ်း၌ ပဋိသန္ဓေနေခြင်းသို့ မကပ်မရောက်၊ ကာမဂုဏ်ဟု ဆိုအပ်သော ညွန်ဗွက်ထဲ၌ နစ်မြုပ်ခြင်းမရှိ၊ အာသဝေါတရားတို့ကြောင့် တုန်လှုပ်ခြင်း အလျှဉ်းမရှိ၊ အကုသိုလ်တို့မှ ဝေး၏။ ထိုပုဂ္ဂိုလ်မျိုးကို အရိယာဟု ဆိုကုန်၏ဟူ၍ မှတ်ရာ၏။

(၃) အချင်း သဘိယ၊ အဘယ်ပုဂ္ဂိုလ်မျိုးကို စရဏဟု ဆိုပါကုန်သနည်း ဟူသော တတိယပြဿနာ၌ အဖြေသော်ကား–

အချင်း သဘိယ၊ ဤငါဘုရား သာသနာတော်၌ အကြင်သူသည် သီလ စသည်တို့ကို ကျင့်သုံးခြင်းဟူသော အကြောင်းကြောင့် ရောက်အပ်သော အရဟတ္တ ဖိုလ်သို့ရောက်၏။ ထိုထို ဓမ္မကိစ္စတို့၌ လိမ္မာ၏။ သင့်မသင့်၊ လျော်မလျော်ကို သိမြင်ချင့်ချိန်တတ်၏။ ခန္ဓာစသော တရားအားလုံးတို့၌ တွယ်တာ ငြိကပ်ခြင်းမရှိ။ သန့်စင်စွာ လွတ်မြောက်ပြီးသော စိတ်ရှိ၏။ ထိုသူအား အနီးကပ်ပူးသတ်မည့် ဘေးရန်အန္တရာယ်တို့လည်း မရှိကုန်။ ထိုပုဂ္ဂိုလ်ကို စရဏဟု ဆိုပါကုန်၏ဟူ၍ မှတ်ရာ၏။

(၄) အချင်း သဘိယ၊ အတိတ်၊ အနာဂတ်၊ ပစ္စုပ္ပန်ဟု ဆိုအပ်သော ကာလသုံးပါးစလုံး၌ ဆင်းရဲဒုက္ခကို ဖြစ်စေတတ်သော အကြင်အမှုသည် ရှိ၏။ ဆင်းရဲဒုက္ခကို ဖြစ်စေတတ်သော ထိုအမှုအားလုံးကို စွန့်၍ ပညာဖြင့် ဖြတ်တောက်၍ လှည့်လည်လေ့ရှိ၏။ ဤသူသည် မာန်ထောင်လွှားခြင်း၊ လောဘရမ္မက်တပ်ခြင်း၊ ဒေါသထွက်ခြင်းလည်း မရှိ။ နာမ်ရုပ်၏ အဆုံး နိဗ္ဗာန်ရောက်ကြောင်း အမှုကို ပြု၏။ ထိုပုဂ္ဂိုလ်ကို ပရိဗိုဇ်ဟု ဆိုကုန်၏ဟူ၍ မှတ်ရာ၏။

သဘိယ ပရိဗိုဇ်သည် မိတ်ဆွေဟောင်း သွေးသောက်ရောင်းရင်း ဗြဟ္မာ မင်းက သင်ကြားပို့ချပေးထားသော ပြဿနာနှစ်ဆယ်ကို ပိုက်၍ ဖြေဆိုနိုင်မည့် သူကို လိုက်ရှာလာခဲ့ရာ ယင်းပြဿနာများ ဖြေဆိုနိုင်သူ တစ်ဦးတစ်ယောက်မျှ မတွေ့လေသည့်အဆုံးတွင် ဂေါတမရှင်တော်ဘုရားထံ ချဉ်းကပ်၍ မေးလျှောက် လေသောအခါ အဖြေကို ရရှိလေသဖြင့် များစွာနှစ်ထောင်းအားရ ပီတိသောမနဿ ဖြစ်လာသဖြင့် ထိုင်ရာမှထ၊ သင်္ကန်းကို လက်ကတော့ထိုးလျက် ဘုရားသခင်အား လက်အုပ်ချီပြီးလျှင် ဤသို့သော ဂါထာဖြင့် ချီးကျူးစကား လျှောက်ထားခြင်း ပြုလေသတည်း။

"ဆင်းရဲ၏ဆုံးရာ၊ ခေမာနိဗ္ဗူ သောင်ကမ်းငှသို့ ရောက်တော်မူလေပြီးသူ၊ အို–ပါရဂူ ရှင်တော်မြတ်ကြီး ဘုရား။ အရှင်သည်ကား ဗြဟ္မာ၊ နတ်၊ လူ သုံးဘုံ သူတို့၏ ကြည်ဖြူဦးခိုက် ပူဇော်အထူးကို ခံတော်မူထိုက်ပါပေ၏။ တရားအချက်ကို ပြက်ပြက်ထင်ထင် ကောင်းစွာသိမြင်တော်မူပါပေ၏။ ကိုယ်ပိုင်ဉာဏ်ဖြင့် ထွင်း ဖောက်၍ ထိရောက်စွာ သိတော်မူပါပေ၏။ အာသဝေါကုန်ခန်းပြီးသူဟု အရှင့်ကို ကျွန်ုပ်ထင်၏။ အရှင်ကိုယ်တိုင်လည်း တလက်လက် တဝင်းဝင်း အရောင်ရှိသူ ဖြစ်ပါပေ၏။ သူခပ်သိမ်းတို့အားလည်း အမှောင်ခွင်း၍ အလင်းသို့ပို့ဆောင်တော် မူတတ်ပါပေ၏။ သူတစ်ပါးကို မယုံကြည်၊ ကိုယ်ပိုင်နှလုံးရည်ဖြင့် ပြည့်ဝသူ

ဖြစ်ပါပေ၏။ နှိုင်းတုမမျှ အလွန်ကြီးမားလှသော ပညာလည်း ရှိတော်မူပါပေ၏။ ဆင်းရဲခပ်သိမ်းကို ငြိမ်းသတ်တော်မူနိုင်သော အရှင်မြတ်ကြီးဘုရား၊ အရှင်သည် အကျွန်ုပ်ကို ကယ်တင်တော်မူလေပြီ။

"ပုရိသာဇာနည်၊ သုံးလောကနယ်စရိုင်တွင် ပြိုင်ဘက်မပြု တစ်ဆူတည်းသော ယောကျ်ားမြတ် အာဇာနည်ဘုရား၊ အရှင့်အား ကျွန်ုပ် ရှိခိုးပါ၏။ ပုရိသုတ္တမ ယောကျ်ားမြတ်တစ်ဆူ ဖြစ်တော်မူသော အို-အရှင်မြတ်ကြီးဘုရား၊ အရှင့်အား အကျွန်ုပ် အလေးပြုပါ၏။ နတ်နှင့်တကွသော လောကဓာတ်တစ်ခွင်လုံး၌ အရှင့်အား တုပြိုင်နိုင်သူ မရှိပါ။ အရှင်နှင့် တုနှိုင်းစရာ ပုဂ္ဂိုလ်မရှိပါ။ အရှင်သည်သာ ဘုရား၊ အရှင်သည်သာ ဆရာ၊ အရှင်သည်သာ မာရ်နတ်ကို နှိမ်နင်းနိုင်သူ၊ အရှင်သည်သာ အနုသယကို ဖြတ်၍ ကျွန်ုပ်နှင့်တကွသော သတ္တဝါအပေါင်းကို ဝဋ်မှ လွတ်မြောက်အောင် ကယ်တင်တော်မူသူ ဖြစ်ပါသည်"

ဤသို့ ချီးကျူးသောစကားတို့ဖြင့် လျှောက်ထားပြီးနောက် သဘိယပရိဗိုဇ်သည် ရှင်ရဟန်းအဖြစ် ရလိုပါကြောင်းဖြင့် မြတ်ဘုရားထံ တောင်းပန်သောအခါ မိန့်တော်မူလေသည်ကား-

ဗုဒ္ဓ။ ။အချင်း သဘိယ၊ တိတ္ထိဖြစ်ဖူးသူတစ်ယောက်သည် ငါ့ဘုရားသာသနာသို့ဝင်၍ ရှင်ရဟန်းပြုလိုမူကား လေးလတိုင်တိုင် ပရိဝတ် နေရ၏။ လေးလလွန်သောအခါကျမှ ရှင်ရဟန်းပြုပေးလေ့ ရှိကုန်သည် သဘိယ။

သဘိယ။ ။အရှင်ဘုရား၊ ထိုသို့ဖြစ်ခဲ့ပါသော် အကျွန်ုပ်သည် လေးလမျှသာမဟုတ်၊ လေးနှစ်တိုင်တိုင် ပရိဝတ်ဆောက်တည်ပါအံ့ဟူ၍ လျှောက်၏။

ဗုဒ္ဓ။ ။အချင်း သဘိယ၊ ထုံးတမ်းစဉ်လာရှိသည်ကိုသာ ငါဆိုခြင်း ဖြစ်၏။ သင်ကား မင်္ဂဖိုလ်ရထိုက်သောအကြောင်းနှင့် ပြည့်စုံသူဖြစ်ခြင်းကြောင့်[၁] ပရိဝတ်နေရန်မလို၊ သင့်ဆန္ဒအတိုင်း ရှင်ရဟန်းအဖြစ်ကို ရပေလတ္တံ့။

သဘိယ ပရိဗိုဇ်သည် ရဟန်းအဖြစ်ကို ရရှိပြီး ရဟန္တာတို့တွင် တစ်ပါး အပါအဝင် ဖြစ်သွားလေသတည်း။

(**မှတ်ချက်။** ။ဤပြဿနာ နှစ်ဆယ်ကား သိမ်မွေ့နက်နဲလှ၏။ ဤသို့ ပြန်ဆိုချက်များသည် အဓိပ္ပာယ်တိမ်ကောင်း တိမ်နေမည်။ ထိုထက်အဓိပ္ပာယ် နက်နက်ကို ကြံတွေးယူကြပါကုန်ဦး။)

(သုတ္တနိပါတ် ပါဠိတော်၊ ၃ မဟာဝဂ်၊ သဘိယသုတ် ၃၅၅၊
ငင်း အဋ္ဌကထာ၊ ၁၄၄၊ ဆဋ္ဌမူ။)

---

၁။ အတ္တတ္ထိကော တွံ့ မဂ္ဂဖလပဋိလာဘာယ ဟေတုသမ္ပန္နော။
(သုတ္တနိပါတ် အဋ္ဌကထာ၊ ၁၄၂၊ ဆဋ္ဌမူ)

( ၄၃ )

# ရတနာမွှန်

မဟာဝုန်တောသည် လွန်စွာသာယာလှ၏။ မှိုင်းမှိုင်းညိုညိုနှင့် ဝေသာလီမြို့တော်ဆီသို့ လှမ်းကြည့်နေသကဲ့သို့ ထင်ရ၏။ ဘုရားသခင် သီတင်းသုံးတော်မူရာ ကူဋာဂါရကျောင်းတော်သည် ထိုမဟာဝုန်တော၏ အဆင်တန်ဆာသဖွယ်ဖြစ်ပြီး စုလစ်မွန်းချွန် အထွတ်တပ်ထားသော ပြာသာဒ်များသည် မဟာဝုန်တောအုပ်ကြီးပေါ် ကျော်၍ မိုးကိုမျှော်လျက် ရှိနေကြလေသည်။

သာရန္ဒဒအမည်ရှိသော စေတီသည် ထိုမဟာဝုန်တောနှင့် ဝေသာလီမြို့တော်၏စပ်ကြားတွင် တည်ရှိသည်ဖြစ်ရာ မဟာဝုန်တောအုပ်အတွင်း၌ ကူဋာဂါရကျောင်းတိုက်မှ ဘုရားအမှူးပြုသော ရဟန်းသံဃာတော်များ ဆွမ်းခံကြွတော်မူလေသောအခါ အဆိုပါ သာရန္ဒဒ စေတီအပါးမှ ဖြတ်ဖြတ်သွားရလေသည်။

ထိုသာရန္ဒဒစေတီကို ဘုရင့်ဥယျာဉ်တော်ဟူ၍လည်း ခေါ်ဆိုနိုင်၏။ ဝေသာလီပြည် လိစ္ဆဝီမင်းသားများသည် ဤသာရန္ဒစေတီသို့ ထွက်၍ အပန်းဖြေခြင်း၊ စည်းဝေးတိုင်ပင်ခြင်း၊ ဥယျာဉ်ကစားခြင်း အမှုများကို အခါအားလျော်စွာ ပြုလေ့ရှိကြသည်ဖြစ်ရာ ထိုနေ့အဖို့ လိစ္ဆဝီမင်းသားများ (မင်းသားငါးရာ) ဤဒေသတွင် အဝင်အထွက်များသည်ကို ထောက်ခြင်းအားဖြင့် အစည်းအဝေးတစ်ခုရှိကြောင်း ထင်ရှားလေသည်။

အချိန်မှာ နံနက် ဆွမ်းခံချိန်ဖြစ်၏။ ထိုအချိန်တွင် ဘုရားသခင်သည် ဝေသာလီပြည်တွင်း၌ ဆွမ်းခံတော်မူနေဆဲ ဖြစ်၏။

ဥယျာဉ်တော်ပတ်လည်၌ အစောင့်တပ်များ ချထားချက်အရ လက်နက်စွဲစစ်သည်များမှာ ဟိုအနားစုစု၊ သည်အနားစုစုနှင့် ရှိနေကြကုန်၏။

အစည်းအဝေးပွဲတွင် ရတနာကို အကြောင်းပြု၍ လိစ္ဆဝီမင်းသားများ ဘဝင်မကျနိုင်ဘဲ ဖြစ်နေ၍သော်လည်းကောင်း၊ သို့မဟုတ် ယင်းရတနာကို အကြောင်းပြု၍

ဝမ်းပန်းတသာ ဘုရားသခင်အား လျှောက်ထားလိုရှိသော်လည်းကောင်း ဘုရားသခင်နှင့် တွေ့ဆုံခွင့်ကို အထူးမျှော်လင့်လျက် ရှိနေကြကုန်၏။

သို့ကြောင့်ပင် မင်းသားအချို့ ဥယျာဉ်ထဲမှ ထွက်လာကြပြီး တံခါးစောင့် စစ်သည်တော်တစ်ဦးအား ဤသို့ မှာထားကြလေသည်။

"ရဲဘော်၊ ဘုရားသခင် မြို့ထဲက ဆွမ်းခံ ပြန်ကြွလာတော်မူသည်ကို မြင်က ချက်ချင်း ငါတို့ထံ အကြောင်းကြားပါလှည့်"

ဤသို့ မှာထားပြီးလျှင် ဥယျာဉ်တွင်းသို့ ပြန်၍ ဝင်သွားကြလေကုန်၏။ စစ်သည်တော်လည်း 'ကောင်းပါပြီ'ဟူ၍ အာမဘာန္တေ ခံလိုက်ပြီး သူသည် ဘုရားသခင် ပြန်လာမည့်လမ်းကိုသာ အာရုံတမ်း မှန်း၍ စောင့်ကြည့်နေရှာလေ၏။

ခဏကြာသော် ဘုရားသခင် ကြွလာသည်ကို မြင်သောအခါ စစ်သည်တော်သည် လျင်မြန်စွာသွား၍ လိစ္ဆဝီမင်းသားများထံ သွားရောက်၍ "ဘုရားသခင် ကြွတော်မူလာပြီဖြစ်ကြောင်း" သတင်းပေးပို့လေ၏။

ထိုအခါ လိစ္ဆဝီမင်းတို့သည် ဥယျာဉ်တွင်းမှ ထွက်လာကြ၍ ဘုရားသခင့် ရှေ့တော်မှောက် ရောက်လတ်သော် ဒူးထောက်လျက် ရှိသေစွာ ဤသို့ လျှောက်ထားကြလေကုန်သတည်း။

"ဘုန်းတော်အနန္တ နှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရား၊ တောင်းပန်ပါကုန်၏။ တပည့်တော်တို့အား ငဲ့ညှာတော်မူသောအားဖြင့် ဤသာရန္ဒဒစေတီတော်သို့ ကြွတော်မူပါရန် အနူးအညွတ် ပင့်လျှောက်ပါကုန်သည် ဘုရား"

ဤသို့ တောင်းပန်လတ်သော် ဘုရားသခင်သည် ဆိတ်ဆိတ်နေတော်မူခြင်းအားဖြင့် ပင့်လျှောက်ချက်ကို လက်ခံတော်မူပြီးလျှင် သာရန္ဒဒစေတီသို့ ကြွတော်မူ၏။ ရောက်သောအခါ ခင်းထားအပ်သောနေရာ၌ ထိုင်တော်မူလျက် လိစ္ဆဝီမင်းသားတို့အား ဤသို့မေးတော်မူ၏။

"အို-မဟာနွယ်ဘွား လိစ္ဆဝီမင်းသားတို့၊ ငါကြွမလာမီစပ်ကြားတွင် မည်သည့်စကားဖြင့် သင်တို့ ဆိုပြော ဆွေးနွေးနေကြကုန်သနည်း။ မပြီးမပြတ်၊ လက်စတန်းလန်းနှင့် ရပ်ထားလိုက်ရသော စကားများ ရှိသေးသလား"

ဤသို့မေးလတ်သော် လိစ္ဆဝီမင်းသားတို့သည် ဤသို့လျှောက်ကြကုန်၏။

"ဘုန်းတော်ကြီးလှသော မြတ်စွာဘုရား၊ ယနေ့စည်းဝေးကြရာတွင် အသည်းအဝေးနှင့် မဆိုင်သော စကားတစ်မျိုး ထိုးဖောက်ဝင်ရောက်လာပါသည်။ ထိုစကားမှာ ဤသို့ပါ ဘုရား-

"ဤလောက၌ ရတနာအမျိုးမျိုး ရှိလေသည့်အနက် (၁) ဆင်ရတနာ၊ (၂) မြင်းရတနာ၊ (၃) ပတ္တမြားရတနာ၊ (၄) မိန်းမရတနာ၊ (၅) သူဌေး

သူကြွယ်၊ ဤရတနာ ငါးမျိုးတို့သည် လွန်စွာရခဲကုန်၏။ ရရန် မလွယ်ကူသော ရတနာများ ဖြစ်ကုန်၏။

"အစည်းအဝေးနှင့် မဆိုင်သော ဤစကားများ ကြားဖောက်ဖြစ်ပေါ်လာပါသည်။ ဤစကားထူး၊ စကားဆန်းများကို ဆိုပြောနေကြပါကုန်သည်။ ထိုအကြောင်းကို လျှောက်ထားလိုပါသောကြောင့် အရှင်ဘုရားအား ဤနေရာသို့ ပင့်ဆောင်ခဲ့ခြင်းဖြစ်ပါသည် ဘုရား။ တပည့်တော်များ၏ အယူအဆ၊ တွေးခေါ်ထင်မြင်ချက်များ သင့်မသင့်၊ လျော်မလျော်ကို မိန့်တော်မူစေချင်ပါသည် ဘုရား"

ယင်းသို့ မေးလျှောက်ချက်နှင့် ပတ်သက်၍ ဗုဒ္ဓသည် လိစ္ဆဝီမင်းသားတို့အား ဤသို့မြွက်ကြားတော်မူလေသတည်း။

"အို–ဒါယကာ မင်းသားတို့၊ ကာမဂုဏ်စလေ့၌ မွေ့လျော်နေကုန်သော (ဝါ) ကာမဓာတ်ခံ ပြင်းထန်စွာစွဲတည်လျက် ရှိနေကြကုန်သော သင်တို့အား ကာမဂုဏ်ကိုသာ ဦးတည်၍ ကြားဖြတ်စကားများ ထင်ရှားစွာ ဖြစ်ပေါ်လာသည်ကား ထူးဆန်းသည်ဟူ၍ မဆိုသာ။

"အို–လိစ္ဆဝီမင်းသားတို့၊ ကာမအစွန်းဘက်မှနေ၍ တွက်ချက်သော် သင်တို့ တွေ့ရှိရသော ရတနာများလည်း ဟုတ်တန်ရာပေသည်။

သို့သော် ငါဆိုလိုသော ရတနာမျိုးကား အို–လိစ္ဆဝီမင်းသားတို့၊ လောက၌–

(၁) သူခပ်သိမ်းတို့၏ ပူဇော်အထူးကိုလည်း ခံထိုက်၊ တရားစစ်၊ တရားမှန်ကို ကိုယ်ပိုင်ဉာဏ်ဖြင့် ထိုးထွင်း၍လည်း သိတော်မူသော ဘုရားတစ်ဆူ ပွင့်လာမှုကို လွန်စွာ ရခဲ၏။

(၂) ဗုဒ္ဓ၏ ဓမ္မဝိနယကို ဗုဒ္ဓ အာဘော်ကျကျ ပြောဟောတတ်သူကို လွန်စွာရခဲ၏။

(၃) ဗုဒ္ဓ၏ ဓမ္မဝိနယကို ဗုဒ္ဓ၏ အာဘော်ကျကျ သိတတ်သူကို လွန်စွာ ရခဲ၏။

(၄) ဗုဒ္ဓ၏ တရားစစ်၊ တရားမှန်ကို သိသည့်အတိုင်း ကျင့်တတ်သူကို လွန်စွာ ရခဲ၏။

(၅) လောက၌ သူ့ကျေးဇူးတရားကို သိတတ်သူ၊ သိသည့်အားလျော်စွာ ကိုယ်ထိလက်ရောက်တုန့်ပြန်တတ်သူကို လွန်စွာရခဲ၏။

အို–လိစ္ဆဝီမင်းသားတို့၊ ငါ ဆိုလိုသော ရတနာငါးမျိုးကား ဤရတနာတို့ ပေတည်း" ဟု မိန့်တော်မူသောအခါ လိစ္ဆဝီမင်းသားတို့သည် ဗုဒ္ဓ၏ စကားတော်ကို နှစ်ထောင်းအားရ ဝမ်းပန်းတသာ ဖြစ်ကုန်လေသတည်း။

(ပဉ္စကနိပါတ်၊ အင်္ဂုတ္တိုရ်ပါဠိတော်၊ ၅၀–တိကဏ္ဍဝဂ်၊ သာရန္ဒဒသုတ်၊ ၁၄၈၊ ဆဋ္ဌမှ)

စပယ်ဦးစာပေ

( ၄၄ )

# (၂) သေသည်မှ နောက်၌ ဖြစ်, မဖြစ် ပြဿနာ

သေသည်မှ နောက်၌ သတ္တဝါပြန်၍ ဖြစ်,မဖြစ်ဟူသော ပြဿနာမှာ မသေးရုံမက လွန်စွာကြီးထွားလှသည့်ပြဿနာကြီးတစ်ရပ်ဟူ၍ပင် ဆိုအပ်၏။

ယင်း ပြဿနာနှင့် ပတ်သက်၍ ပုဂ်ရာဇဝင်ကို တုတ်ထမ်းပြောရသည့်ပမာ ငြင်းကြ၊ ခုံကြ၊ ဆွေးနွေးလာခဲ့ကြသည်မှာ ကြာပြီဖြစ်သော်လည်း လက်စသတ်သည် ဟူ၍ မရှိခဲ့။ နောက်တွင်လည်း လက်စသတ်ဦးမည် မထင်။ လူ့သက်တမ်း တစ်လျှောက် 'မဆုံး ပြဿနာ' အဖြစ်ဖြင့် ငြင်းမြဲ ငြင်းကြ၊ ခုံမြဲ ခုံကြ၊ ဆွေးနွေး နေကြဦးမည့် ပြဿနာသာ ဖြစ်ချေ၏။

ပုထုဇဉ်လူသားများအနေဖြင့် ယင်းပြဿနာကို စကားစပ်မိတိုင်း ကိုယ်တွယ် နေခြင်းမှာ အဆန်းမဟုတ်။ ထိုပြဿနာကား ရဟန္တာလောက၌ပင် လှိုင်းရိုက် သလို ရိုက်ခတ်လာခဲ့သည်။ ရောမ ရဟန္တာကိုယ်တော်ကြီးများသည်ပင် အချင်းချင်း မေးလား၊ ဖြေလားနှင့် ခေါင်းအေးအေးထားကာ ကိုယ်တွယ်လာခဲ့ကြသည်။

ထိုစကားကို ဆိုသင့်၍ ဆိုလိုက်ပါသည်။ နေရာကား ဗာရာဏသီပြည်၊ မိဂဒါဝုန်တော။ အချိန်ကား အ,ကာလ ညအခါ။ ဆွေးနွေးကြသူများကား ရဟန္တာ ကိုယ်တော်ကြီးနှစ်ပါး၊ အရှင်သာရိပုတ္တရာနှင့် အရှင်မဟာကဿပတို့ ဖြစ်ကြ၏။

ထိုအရှင်နှစ်ပါးသည် သာသနာအတွင်းဝယ် နေလို လာလို လင်းခဲ့သည် သာမက အမြင့်မားဆုံးသော "တေဒဂ်ဘွဲ့"ရ ဗုဒ္ဓသာသနာတော်ကြီးကို တည်ထောင် ခဲ့ကြသည့် သာသနာ့ခေါင်းဆောင် ရဟန္တာကြီးများ ဖြစ်ကြသည်။ ဤအရှင်ကြီး များသည်ပင် သေသည်မှ နောက်၌ သတ္တဝါပြန်၍ ဖြစ် မဖြစ်ကို ပြဿနာတစ်ရပ် အနေဖြင့် ကိုင်တွယ်ဆွေးနွေးတော်မူကြသည်ကို ထောက်လျှင် ထိုပြဿနာ၏ သြဇာမှာ အဘယ်မျှ ကြီးဟွားကြောင်းကို ရိပ်စားမိနိုင်ပါ၏။

ထိုအချိန်က အရှင်သာရိပုတ္တရာနှင့် အရှင်မဟာကဿပ၊ ဤရဟန္တာ အရှင်မြတ်ကြီး နှစ်ပါးသည် မိဂဒါဝုန်တောသို့ ရောက်ရှိနေကြလေရာ တစ်ညတွင် အရှင်သာရိပုတ္တရာသည် ကမ္မဋ္ဌာန်း ထိုင်ရာမှထ၍ အရှင်မဟာကဿပ သီတင်းသုံးရာ ကျောင်းသခ်မ်းသို့ သွားကာ စကားစမြည်ပြောကြရင်းမှ ထိုပြဿနာဆီသို့ ရောက်သွားလေ၏။ ယင်းပြဿနာကို အမေးအဖြေပြုကြလေ၏။ အရှင်သာရိပုတ္တရာက မေး၍ အရှင်မဟာကဿပက ဖြေလေသည်။

ပုဂ္ဂိုလ်အနေဖြင့် မမြင်ရသော်လည်း သူတို့၏ မေးဖြေသံ၊ ဆွေးနွေးသံများကား မိဂဒါဝုန်တောလုံးလျှံအောင် တုန်ခါ၍ လွှမ်းထွက်လာချိမ့်မည် ထင်ပါသည်။

မေး။ ။ငါ့ရှင် ကဿပ၊ သတ္တဝါသည် ဤဘဝ၊ ဤခန္ဓာ ချုပ်ဆုံး၍ သေသည်မှ နောက်၌ သတ္တဝါတစ်မျိုးမျိုးအနေဖြင့် ပြန်၍ဖြစ်ပါသလော။

ဓမ္မဘဏ္ဍာဂါရိက–တရားဘဏ္ဍာစိုးဖြစ်တော်မူသော အရှင်သာရိပုတ္တရာက အရှင်မဟာကဿပအား မေးလေသောအခါ–

ဖြေ။ ။ငါ့ရှင် သာရိပုတ္တရာ၊ သတ္တဝါသည် သေသည်မှနောက်၌ ဖြစ်သည်ဟူ၍ ရှင်တော်မြတ်ဘုရားက ဟောတော်မမူပါ။

မေး။ ။ငါ့ရှင် ကဿပ၊ သည်လိုဆိုလျှင် သတ္တဝါသည် သေသည်မှ နောက်၌ သတ္တဝါတစ်မျိုးမျိုးအနေဖြင့် မဖြစ်တော့ဘူးလော။

ဖြေ။ ။ငါ့ရှင် သာရိပုတ္တရာ၊ သတ္တဝါသည် သေသည်မှနောက်၌ မဖြစ်တော့ဟူ၍လည်း မြတ်ဘုရားက ဟောတော်မမူပါ။

မေး။ ။ငါ့ရှင် ကဿပ၊ သည်ဆိုလိုလျှင် သတ္တဝါသေသည်မှ နောက်၌ ဖြစ်သည်လည်း ရှိ၊ မဖြစ်သည်လည်း ရှိဟု မှတ်ရတော့မည်လော။

ဖြေ။ ။ငါ့ရှင် သာရိပုတ္တရာ၊ သတ္တဝါသည် သေသည်မှနောက်၌ ဖြစ်၏ ဟူ၍လည်းကောင်း၊ မဖြစ်၏ဟူ၍လည်းကောင်း ဤသို့လည်း မြတ်ဘုရားက ဟောကြားတော်မမူပါ။

မေး။ ။ငါ့ရှင် ကဿပ၊ သို့ဖြစ်ဘိသော် သတ္တဝါသည် သေသည်မှ နောက်၌ ဖြစ်သည်လည်းမဟုတ်၊ မဖြစ်သည်လည်း မဟုတ်ဟု မှတ်ရမည်လော။

ဖြေ။ ။ငါ့ရှင် သာရိပုတ္တရာ၊ သတ္တဝါသည် သေသည်မှနောက်၌ ဖြစ်သည် လည်း မဟုတ်၊ မဖြစ်သည်လည်း မဟုတ်၊ ဤသို့လည်း မြတ်စွာဘုရားက ဟောတော်မမူပါ။

ထိုအခါ ရှင်သာရိပုတ္တရာသည် ခေတ္တမျှတွေ၍ စဉ်းစားဟန်ပြုနေပြီးမှ ဆက်၍ မေးပြန်လေသည်။

မေး॥ ။ငါ့ရှင် ကဿပ၊ မြတ်စွာဘုရားသည် အဘယ်ကြောင့် ထိုအကြောင်းကို ဟောတော်မမူပါသနည်း။

ဖြေ॥ ။ငါ့ရှင် သာရိပုတ္တရာ၊ ဤဖြစ်ရပ်သည် အကျိုးစီးပွားနှင့် စပ်သော စကားလည်း မဟုတ်၊ မဂ် ဖိုလ်ရရာ ရကြောင်း အထောက်အကူ ဖြစ်စေသော အကျင့်လည်း မဟုတ်၊ ငြီးငွေ့ဖွယ်လည်း မဖြစ်၊ တပ်မက်ခြင်းကင်းဖွယ်လည်း မဖြစ်၊ ရာဂချုပ်ငြိမ်းဖွယ်လည်း မဖြစ်၊ အေးငြိမ်းဖွယ်လည်း မဖြစ်၊ ထူးသောဉာဏ်ဖြင့် သိဖွယ်လည်း မဖြစ်၊ ထိုးထွင်း၍ သိဖွယ်လည်း မဖြစ်၊ နိဗ္ဗာန်အကျိုးငှာလည်း မဖြစ်၊ ထို့ကြောင့် ထိုစကားကို မြတ်ဘုရားဟောကြားတော်မမူခြင်း ဖြစ်ပါသည် ငါ့ရှင်။

မေး॥ ။ငါ့ရှင် ကဿပ၊ ဤသို့ဖြစ်ဘိသော် မြတ်စွာဘုရားသည် အဘယ်သို့ ဟောတော်မူလေသနည်း။

ဖြေ॥ ။ငါ့ရှင်သာရိပုတ္တရာ၊ ဤသည်ကား ဆင်းရဲ(ဒုက္ခ)ဟူ၍လည်းကောင်း၊ ဤသည်ကား ဆင်းရဲ၏ ဖြစ်ပေါ်ကြောင်း (သမုဒယ)ဟူ၍လည်းကောင်း၊ ဤသည်ကား ဆင်းရဲ၏ ချုပ်ငြိမ်းရာ (နိရောဓ) ဟူ၍လည်းကောင်း၊ ဤသည်ကား ဆင်းရဲချုပ်ရာ နိဗ္ဗာန်သို့ရောက်ကြောင်း (မဂ္ဂ)ဟူ၍လည်းကောင်း မြတ်ဘုရား ဟောကြားတော်မူပါသည်။

မေး॥ ။ငါ့ရှင် ကဿပ၊ ဤစကားကိုကား အဘယ့်ကြောင့် ဟောတော်မူလေသနည်း။

ဖြေ॥ ။ငါ့ရှင်သာရိပုတ္တရာ၊ ဤစကားသည်ကား အကျိုးစီးပွားနှင့်လည်း စပ်၏။ မဂ်၏အစ မြတ်သောအကျင့်လည်း ဖြစ်၏။ ငြီးငွေ့ဖွယ်ရာ၊ ရာဂကင်းဖွယ်၊ ငြိမ်းအေးဖွယ်၊ ထူးသောဉာဏ်ဖြင့် သိဖွယ်၊ ထိုးထွင်း၍ သိဖွယ်၊ နိဗ္ဗာန်သို့ရောက်ဖွယ်လည်း ဖြစ်၏။ ထို့ကြောင့် ထိုတရားကို မြတ်စွာဘုရား ဟောတော်မူပါသည် ငါ့ရှင်။

သတ္တဝါသည် သေသည်၏နောက်၌ ပြန်၍ ဖြစ်၊ မဖြစ်ဟူသော ပြဿနာနှင့် ပတ်သက်၍ ရဟန္တာအရှင်မြတ်ကြီး နှစ်ပါးတို့၏ ဆွေးနွေးချက်၊ အမေးအဖြေကား ဤမျှဖြင့် လက်စပြတ်သွား၏။

သို့သော် ယင်းပြဿနာ၏အဖြေမှာ မတင်မကျ အခြေအနေမျိုးတွင် ရပ်တည်နေသဖြင့် ဆက်ရန်ရှိသေးသည်ဟူ၍သာ ဆိုရမည် ထင်ပါသည်။

(သံယုတ္တနိကာယ်၊ နိဒါနဝဂ္ဂသံယုတ် ပါဠိတော်၊
ကဿပဝဂ်၊ ပရိမရဏသုတ်၊ ၄၁၂၊ ၄၁၂၊ ဆဋ္ဌမူ။)

စံပယ်ဦးစာပေ

( ၄၅ )

# ရာ၊ ဒေါ၊ မော သင်တန်း

ခြေလှမ်းများက စားလိမ့်မည်။

သမိုင်းကြောင်းကို သုံးသပ်ကြည့်လျှင် ထိုခေတ် (လွန်ခဲ့သော နှစ်ပေါင်း ၂၅၀၀ ကျော်ခန့်) ထိုအချိန်တွင် ဘာသာရေးဆိုင်ရာ ဝါဒတိုက်ပွဲများ၏ အခြေအနေမှာ အတော်ကလေး ပြင်းထန်ခဲ့ပုံရသည်။ ပုဂ္ဂိုလ်အရ တစ်ဦးနှင့် တစ်ဦးမှသည် တစ်ဖွဲ့နှင့် တစ်ဖွဲ့၊ တစ်ဂိုဏ်းနှင့် တစ်ဂိုဏ်းအထိ ခြေလှမ်းအမှားကို စောင့်နေချိန်ဟု ခန့်မှန်းနိုင်ပေသည်။

အကြောင်းကိုဆိုသော် ထိုအချိန်တွင် မဇ္ဈိမဒေသ (အိန္ဒိယပြည်) ၌ သာဝတ္ထိ၊ ရာဇဂြိုဟ်၊ ဝေသာလီ၊ ဗာရာဏသီ စသောမြို့ကြီးများကို ဗဟိုပြု၍ ဘုရားအဆူဆူ ပွင့်တော်မူလျက် ရှိနေ၏။

၁။ ပူရဏကဿပ၊ ၂။ မက္ခလိဂေါသာလ၊ ၃။ အဇိတကေသ ကမ္ဗလ၊ ၄။ ပကုဓကစ္စာယန၊ ၅။ နိဂဏ္ဍနာဋပုတ္တ၊ ၆။ သဉ္စယဗေလ ဋ္ဌပုတ္တ၊ ဤပုဂ္ဂိုလ်ကြီး ခြောက်ဦးတို့သည် ဗုဒ္ဓအမည်ကိုခံယူလျက် ခေတ်ပြိုင်ပွင့်နေသော ဘုရားကြီးများ ဖြစ်ကုန်၏။ တပည့်ပေါင်း ထောင်နှင့်ချီ၍ အသီးသီးရှိကြကုန်၏။ မိမိစိတ်ကြိုက် ဝါဒတစ်မျိုးစီ တီထွင်ပြီးလျှင် မိမိဝါဒပြန့်ပွားမှုနှင့် မိမိသာသနာ စည်ပင်ထွန်းကားမှုကို ရှေးရှုကာ အနယ်နယ်သို့ လှည့်၍ တရားဟောခြင်း၊ စည်းရုံးခြင်းများကို အားသွန်ခွန်စိုက် လုံးပန်းလျက် ရှိနေကြကုန်၏။

ဂေါတမရှင်တော်မြတ်ဘုရားသည် ထိုဘုရားကြီး ခြောက်ဆူတို့ အကြားတွင် နောက်မှ ပွင့်လာပြီး ဝါဒအားဖြင့် "အနတ္တဝါဒ" ဟု ကြေညာလျက် သီးခြား ဘာသာရေးဂိုဏ်းကြီးတစ်ဂိုဏ်း ဖြစ်ပေါ်လာသည်။

စပယ်ဦးစာပေ

ထိုအခါ လက်ရှိ ပွင့်နှင့်ပြီး ဘုရားကြီးတို့အနေဖြင့် ဂေါတမဗုဒ္ဓနှင့် ၎င်း၏ အနတ္တဝါဒ လှုပ်ရှားမှုကို နားရွက် တစောက်စောက်နှင့် မျက်လုံးကို တုတ်ထောက်၍ ကြည့်နေချိန်ဖြစ်လေသည်။

ဗုဒ္ဓ၏ အနတ္တဝါဒမှာ စစ်မှန်သော ဝါဒ ဖြစ်သောကြောင့် ဟောပြော စည်းရုံးရာတွင် ခက်ခက်ခဲခဲ မရှိလှဘဲ အလွယ်တကူနှင့် အံ့သြလောက်အောင် အောင်မြင်လေသည့်အလျောက် ဗုဒ္ဓဂေါတမ သြဇာခံ အနတ္တဝါဒီများ တရှိန်ရှိန် ထွန်းကားလာလေ၏။

ထိုအချိန်၌ ဂေါတမဗုဒ္ဓသည် ဘုရားအဖြစ်သို့ ရောက်တော်မူ လာသည်မှာ ကြာသေးဟန်မတူ။ နှစ်ပရိစ္ဆေဒအားဖြင့် တွက်သော် ဘုရားသက် နုနုကလေးသာ ရှိပေဦးမည်။ ရဟန်းတပည့်တပန်း အနေဖြင့်ရှိနေပြီ ဖြစ်သော်လည်း အသစ်များ ဖြစ်နေသောကြောင့် ဟောပြောမှုအတတ်၌ ကျွမ်းကျင်သေးဟန်မတူ။ ကျွမ်းကျင်သော ဓမ္မကထိက ပုဂ္ဂိုလ်များရှိသော်လည်း အရေအတွက်အားဖြင့် များများစားစား ရှိသေးပုံမရ။

သို့ကြောင့်သာ မြတ်ဗုဒ္ဓသည် တပည့်တပန်း ရဟန်းများအား တရားကို စနစ်တကျ ဟောတတ် ပြောတတ်စေခြင်းငှာ ကိုယ်တော်တိုင် ကြပ်မ၍ သင်တန်း ပေးတော်မူခြင်း ဖြစ်တန်ရာသည်။

ထိုစကား မှန်လောက်စရာ ရှိပေသည်။ အောက်ဖော်ပြပါ အချက်အလက် ဖြစ်ရပ်များသည် ဗုဒ္ဓ၏ သင်တန်းနှင့် ပတ်သက်၍ ထုတ်ပြအပ်သော ပြယုဂ်ဟု ဆိုနိုင်ပါသည်။

ဗုဒ္ဓသည် ရဟန်းတို့အား ဘိက္ခဝေဟူသော အာလုပ်စကားဖြင့် ခေါ်တော် မူလိုက်ပြီးနောက် မိမိ၏ တပည့်များ၏ အရည်အသွေး၊ ပညာပမာဏ၊ ဟောပြောမှု အတိုင်းအတာကို သွေးတိုးစမ်းကြည့်လိုသဖြင့်အနေဖြင့် ဤသို့ မေးမြန်းကြည့်တော် မူလေသည်။

"ရဟန်းတို့၊ ငါတို့နှင့် ဝါဒချင်းမတူ၊ ဂိုဏ်းဂဏချင်းလည်း မတူ၊ ငါတို့မှ သီးခြားဖြစ်သော ရဟန်းနွယ်ဝင် ပရိဗိုဇ်[၁]များ တက္ကတွန်းများနှင့်တွေ့၍ သူတို့က သင်တို့အား ဤသို့ မေးခဲ့သော်–

"ငါ့ရှင်တို့၊ ရာဂ၊ ဒေါသ၊ မောဟ ဟူ၍ တရားသုံးပါးရှိလေ၏။ ယင်း သုံးမျိုးကို ငါ့ရှင်တို့အနေဖြင့် မည်သို့သဘောရကြသနည်း။ ယင်းတရားသုံးပါး၏ ထူးခြားမှု၊ ပယောဂလွန်ကဲမှု၊ သီးခြားပြုမှုကား အဘယ်ပါနည်း" ဟူ၍ အမေး အမြန်းပြုခဲ့သော် သင်တို့ မည်သို့ဖြေကုန်မည်နည်း။

---

၁။ ပရိဗိုဇ်=ဦးပြည်း ခေါင်းတုံး တုံး၍ ရဟန်းယောင် သက်န်းဝတ် ပုဂ္ဂိုလ်။

ထိုသို့ စမ်းသပ်မေးမြန်းကြည့်လေသောအခါ ကျေနပ်ဖွယ်ရာသောအဖြေကို ရရှိတော်မမူလေဘဲ ရဟန်းတို့က ဗုဒ္ဓကိုပင် ပြန်၍ လွှဲလိုက်ကြကုန်သည်။

"အရှင်ဘုရား၊ သဲဘောတရားရေးရာ ဟူဟူသမျှတို့သည် ဘုရားသခင်သာ လျှင် ပင်မဖြစ်ပါကုန်၏။ ဘုရားသခင်သာလျှင် ဦးဆောင်မှုရှိပါကုန်၏။ ဘုရားသခင် သာလျှင် အားထားရာရှိပါကုန်၏။

"အရှင်ဘုရား၊ မြတ်ဘုရားကိုပင် တပည့်တော်တို့ တောင်းပန်ပါရစေ။ မြတ်ဘုရား အမိန့်တော်ရှိသည့် ရာဂ၊ ဒေါသ၊ မောဟ ဤတရားသုံးပါးတို့၏ သဘောအချက်အလက် အနက်အဓိပ္ပါယ်ကို မြတ်ဘုရားသည်ပင် တပည့်တော် တို့အား သိထင်မြင်သာအောင် ပြတော်မူပါဘုရား။ မြတ်ဘုရားဟောတော်မူပုံကို ကြားနာသိရှိကြရသော် တပည့်တော်များ မှတ်သားနိုင်ကြပါကုန်လိမ့်အံ့" ဟူ၍ တောင်းပန်ခြင်းပြုကုန်လေ၏။

ယင်းသို့ ရဟန်းတို့ တောင်းပန်ခြင်းကား ဤသင်တန်း၏ အခြေခံ နိဒါန်း ဖြစ်လာ၏။

"အို–ရဟန်းတို့၊ ယင်းသို့ဖြစ်ဘိသော် သင်တို့ နာကြလေကုန်။ ကောင်းစွာ နှလုံးသွင်းကြကုန်။ ဟောပုံ၊ ဟောနည်းကို သိထင်၊ မြင်သာအောင် သင်တို့အား ငါပြပေးအံ့။

အို–ရဟန်းတို့၊ အကယ်၍ သင်တို့အား တိတ္ထိ၊ ဓာဏ္ကတွန်း၊ ပရိဗိုဇ် တို့က ငါ့ရှင်တို့၊ ရာဂ၊ ဒေါသ၊ မောဟ ယင်းသုံးမျိုးတို့၏ ထူးခြားချက်၊ သီးခြား ပြုမှုချက်သည် အသို့ပါနည်း ငါ့ရှင်တို့ ဟူ၍ မေးလာခဲ့သော် ဤသို့ သင်တို့ ဖြေကြကုန်။ ဖြေပုံကား–

"ငါ့ရှင်တို့၊ ရာဂသည် အပြစ်နည်း၏။ ရာဂဖြစ်ပေါ်လာသော် ရှုတ်တရက် ပြေပျောက်ခဲ၏။ တဖြည်းဖြည်းမှာသာ ပြယ်၏။ ဒေါသသည် အပြစ်ကြီး၏။ ပျောက်လွယ် ပြယ်လွယ်၏။ မောဟသည် အပြစ်ကြီး၏။ တဖြည်းဖြည်းမှ ပြယ်၏ ဟူ၍ ဤသို့ဖြေကြလေကုန်။

"ရဟန်းတို့၊ သင်တို့အား အကယ်၍ ငါ့ရှင်တို့၊ ရာဂသည် အကြောင်းမဲ့ ဖြစ်မည်မဟုတ်။ အကြောင်းရှိရပေမည်။ ထိုအကြောင်းကား အဘယ်ပါသနည်း ဟူ၍လည်းကောင်း၊ ရာဂဖြစ်ပေါ်ခဲ့သော် တရှိန်ရှိန် တိုးပွား၍ ကြီးထွားကာ အားကောင်းလာရာ၌လည်း အကြောင်းရှိရပေမည်။ အကြောင်းမဲ့ဖြစ်လာမည်မဟုတ်။ ထိုအကြောင်းကား အဘယ်ပါနည်း ဟူ၍လည်းကောင်း၊ မေးလာခဲ့သော် **သုဘနိမိတ်** ဟူ၍ ဖြေကြကုန်လော့။ တင့်တယ်သော အဆင်းရုပ်ပါရုံ၊ သာယာစွာသောအသံ၊

မွှေးပျံ့သောရနံ့၊ နူးညံ့သော ထိတွေ့မှု အာရုံအဖုံဖုံတို့သည် ရာဂဖြစ်ခြင်း၏ အကြောင်းတို့ပေတည်း။ ရာဂဖြစ်ပေါ်လာခြင်း၏ ရင်းမြစ်ကိုရှာသော် သုဘနိမိတ်ကိုသာ တွေ့၏။ သုဘနိမိတ်မှ တစ်ပါး ရာဂဖြစ်ပေါ်ရန် အကြောင်းမရှိဟု ဖြေကြားကုန်လော့။

"ထို သုဘနိမိတ် (ဝါ) လှပတင့်တယ် ရှုမငြီးဖွယ်ရာသော ရူပါရုံစသည်တို့ကို မသင့်သောအားဖြင့် နှလုံးသွင်းသူအား (ချစ်စရာ၊ ကြိုက်စရာ၊ စုံမက် မြတ်နိုးစရာပါတကားဟု တပ်မက်သူအား) မဖြစ်သေးသော ရာဂလည်း ဖြစ်ပေါ်လာ၏။ ဖြစ်ပြီး၊ ဖြစ်နေဆဲ ရာဂသည်လည်း တိုးပွားကာ အရှိန်အဟုန်နှင့် တကွ ကြီးထွားလာ၏။ ဤသည်တို့ကား ဒေါသ၊ မောဟတို့နှင့် မတူသော ရာဂ၏ ထူးခြားမှု၊ စွမ်းဆောင်မှု၊ တခြားတခြား ပြုမှုများ ဖြစ်ကုန်၏။

"အို–ရဟန်းတို့၊ အကယ်၍ သင်တို့အား ပရိဗိုဇ်တို့က 'ငါ့ရှင်တို့၊ ဒေါသသည် အကြောင်းမဲ့ဖြစ်မည် မဟုတ်။ ဒေါသဖြစ်နိုင်လောက်သော အကြောင်းတစ်ခုခု ဧကန်ရှိလေအံ့။ ထိုအကြောင်းကား အဘယ်ပါနည်း, ဤသို့ မေးခဲ့သော်လည်းကောင်း၊ ဒေါသဖြစ်ပေါ်ခဲ့သော် တရှိန်ရှိန်တိုးပွား၍ အားကောင်းလာရာ၌လည်း အကြောင်းရှိလေအံ့။ ထိုအကြောင်းကား အဘယ်ပါနည်း။ ဤသို့မေးခဲ့သော်လည်းကောင်း **ပဋိဃနိမိတ်** (ဒေါသဖြစ်ကြောင်း အာရုံ)ဟု ဖြေကြကုန်။ (ဒေါသထွက်လောက်အောင် ဖြစ်ပေါ်လာသော မျက်စိအာရုံ၊ နားအာရုံ၊ နှာခေါင်းအာရုံ စသည်ဟူသမျှကို ပဋိဃဟု ခေါ်ရ၏။)

"ထိုပဋိဃနိမိတ်ကို မသင့်သောအားဖြင့် နှလုံးသွင်းလေသူအား (ကိုယ်ကြမ်း၊ နှုတ်ကြမ်း၊ ကြမ်းခက်ထရော်သော အပြုအမူများကို ကြံတွေးနေသူအား) မထွက်သေးသော ဒေါသလည်း ထောင်းခနဲ ထွက်လာ၏။ ထွက်ပြီး ထွက်ဆဲ ဒေါသလည်း ဖြုန်းခနဲ ရုတ်ရက် ကြီးထွားကာ အားကောင်းလာ၏။ ဤသည်တို့ကား ရာဂ၊ မောဟတို့နှင့် မတူသော ဒေါသ၏ ဝိသေသ ဂုဏ်ပုဒ်၊ ထူးခြားသော အချက်အလက်၊ ကွဲပြားခြားနားသော အပြုအမူတို့ ဖြစ်ကုန်၏ဟု ဖြေကုန်လော့။

"အို–ရဟန်းတို့၊ သင်တို့အား အကယ်၍ ပရိဗိုဇ်တို့က 'ငါ့ရှင်တို့၊ မောဟဟူ၍ ရှိလေ၏။ ထိုမောဟသည် အကြောင်းမဲ့ဖြစ်မည် မဟုတ်။ မောဟဖြစ်နိုင်လောက်စရာ အကြောင်းတစ်ခုခု ဧကန် ရှိလေအံ့။ ထိုအကြောင်းကား အဘယ်ပါနည်း။ ဤသို့ မေးခဲ့ကုန်သော်လည်းကောင်း၊ ဖြစ်လေပြီး ဖြစ်နေဆဲ မောဟသည် လေမုန်တိုင်းကြီးများပမာ တရှိန်ရှိန် အင်အားကြီးထွား တိုးပွားလာရာ၌လည်း အကြောင်းရှိလေအံ့။ ထိုအကြောင်းကား အဘယ်ပါနည်း' ဤသို့ မေးခဲ့ကုန်သော်လည်းကောင်း **အယောနိသော မနသိကာရ** မသင့်သော နှလုံးသွင်းခြင်းဟု ဖြေကုန်လော့။ ရူပါရုံ၊ သဒ္ဒါရုံ စသော အာရုံဟူဟူသမျှကို

မသင့်သောအာရုံဖြင့် နှလုံးသွင်းလေသူအား (အာရုံထဲ၌ စိတ်နှလုံးကို ဆွဲနှစ်ထားသူအား) မောဟ မဖြစ်သေးလျှင်လည်း ဖြစ်လာ၏။ ဖြစ်ပြီး ဖြစ်လျှင်လည်း တိုးပွားကြီးထွားလာ၏။ ဤသည်တို့ကား ရာဂ၊ ဒေါသနှင့် လုံးဝမတူ၊ တစ်မူထူးခြားကွဲလွဲသော မောဟ၏ ဝိသေသဂုဏ်ပုဒ်၊ မောဟ၏အရည်အသွေး၊ မောဟ၏ သီးခြားလုပ်ဆောင်ချက်တို့ ဖြစ်ကုန်၏ဟု ဖြေကုန်လော့။

"အို–ရဟန်းတို့၊ အကယ်၍ သင်တို့အား တိတ္ထိ၊ တက္ကတွန်း၊ ပရိဗိုဇ်များက ဤသို့မေးလာခဲ့သော် 'ငါ့ရှင်တို့၊ မဖြစ်သေးသော ရာဂဖြစ်မလာမှု၌ အကြောင်းရှိရပါမည်။ အကြောင်းနှင့် ကင်း၍မဖြစ်နိုင်ပါ။ ဖြစ်ပြီးသော ရာဂပျက်ပြယ်မှု၌လည်း အကြောင်းရှိရမည်ပင် ဖြစ်ပါသည်။ အကြောင်းနှင့် မကင်းနိုင်ပါ။ သို့ပါ၍ ထိုအကြောင်းကား အဘယ်ပါနည်း' ဟူ၍ အမေးအမြန်းရှိလာခဲ့သော် **အသုဘနိမိတ်** (မတင့်တယ်သော အာရုံ) ဟု ဖြေကုန်လော့။

အသုဘနိမိတ်ကို သင့်သောအားဖြင့် နှလုံးသွင်းသူအား (စက်ဆုပ်ဖွယ်ပါကလား ဟူ၍ ထိထိရောက်ရောက် သဘောပေါက်လေသူအား) မဖြစ်သေးသော ရာဂလည်း ဖြစ်၍မလာ။ ဖြစ်ပြီးသား ရာဂလည်း ပျက်ပြယ်သွားရလေ၏။ ဤသည်ကား ရာဂမဖြစ်မှုနှင့် ဖြစ်ပြီးသား ရာဂ ပျက်ပြယ်မှု၏ အကြောင်းပေတည်း ဟူ၍ ဤသို့ဖြေကုန်လော့။

"အို– ရဟန်းတို့၊ အကယ်၍ သင်တို့အား ဤသို့မေးလာခဲ့သော် 'ငါ့ရှင်တို့၊ မဖြစ်သေးသော ဒေါသမဖြစ်ပေါ်မှု၌ အကြောင်းရှိရပါမည်။ ဖြစ်ပြီးသော ဒေါသ ချုပ်ပျောက်ပျက်ပြယ်မှု၌လည်း အကြောင်းရှိရမည်ပင် ဖြစ်ပါသည်။ ထိုအကြောင်းကား အဘယ်ပါနည်း' ဟူ၍ ဤသို့အမေးအမြန်းရှိလာခဲ့သော် စိတ်၏ဗျာပါဒမှ လွတ်မြောက်ကြောင်း **မေတ္တာ** ဟု ဖြေရာ၏။ မေတ္တာကို သင့်သောအားဖြင့် နှလုံးသွင်းသူအား (ကြီးပွားချမ်းသာစေလိုသောစိတ်မျိုး ထားရှိသူအား) မဖြစ်သေးသော ဒေါသလည်း ဖြစ်မလာ။ ဖြစ်ပြီး ဒေါသလည်း ချုပ်ပျောက်ပျက်ပြယ်သွားရလေ၏။ ဤကား ဒေါသဖြစ်မလာမှုနှင့် ဖြစ်ပြီးဒေါသ ပျက်ပြယ်သွားရမှု၏ အကြောင်းပေတည်း ဟု ဖြေကြကုန်လော့။

"အို– ရဟန်းတို့၊ အကယ်၍ သင်တို့အား ဤသို့ မေးလာခဲ့သော် 'ငါ့ရှင်တို့ မဖြစ်သေးသော မောဟ ဖြစ်ပေါ်မလာမှု၌ အကြောင်းရှိရပါမည်။ ဖြစ်ပြီး မောဟ ချုပ်ပျောက်ပျက်ပြယ်မှု၌လည်း အကြောင်းရှိရမည်ပင် ဖြစ်ပါသည်။ ထိုအကြောင်းကား အဘယ်နည်း' ဟူ၍ ဤသို့အမေးအမြန်းရှိလာခဲ့သော် **အသင့်အားဖြင့် နှလုံးသွင်းခြင်း** ဟု ဖြေရာ၏။ အာရုံဟူသမျှကို အသင့်အားဖြင့် နှလုံးသွင်းသူအား မဖြစ်သေးသော မောဟလည်း ဖြစ်မလာ။ ဖြစ်ပြီး မောဟလည်း

ချုပ်ပျောက်ပျက်ပြယ်သွားရလေ၏။ ဤကား မောဟဖြစ်မလာမှုနှင့် ဖြစ်ပြီးမောဟ ချုပ်ပျောက်ပျက်ပြယ်သွားမှု၏ အကြောင်းပေတည်းဟု ဖြေကုန်လော့"

သင်တို့အား ရာဂ၊ ဒေါသ၊ မောဟတို့အကြောင်း၊ ယင်းတို့၏ ခြားနားချက်၊ ကွဲလွဲချက်၊ ထူးခြားချက်များကို တစ်စုံတစ်ယောက်က အမေးအမြန်းရှိလာခဲ့သော် သင်တို့ မည်သို့ ဖြေကုန်မည်နည်းဟူ၍ ဖြေတတ်၏၊ မဖြေတတ်၏ကို သိလို၍ သွေးတိုးစမ်းသည့်အနေဖြင့် တပည့်ရဟန်းတို့အား ဗုဒ္ဓက မေးမြန်းကြည့်ခဲ့၏။

ထိုအခါ ရဟန်းတို့ထံမှ အားရကျေနပ်ဖွယ်ရာသော အဖြေကို မရခဲ့။ ပတ်ဝန်းကျင်ကိုကြည့်သော် ပင်လယ်လှိုင်းလုံးကြီးများ ထလေသည့်အလား ဝါဒ တိုက်ပွဲဆင်နေသူတို့ ဒုနှင့်ဒေး ရှိနေကုန်သည်။ တရားအချက်အလက်တို့ကို အဓိပ္ပာယ်သက်ရောက် ထိမိအောင်၊ အသိရှင်း အမြင်ရှင်းအောင် ဟောပြောခြင်း မပြုနိုင်ခဲ့သော် ကျရှုံးအံ့သည်ကို မြင်၍ ထိုအန္တရာယ်ကို ကြိုတင်ကာကွယ်နိုင်ရန် အလို့ငှာ ဗုဒ္ဓသည် ကိုယ်တော်တိုင် ကြမ်းမ၍ ရဟန်းတို့အား ဟောပြောမှုအဘောကို ပို့ချပေးတော်မူခြင်း ဖြစ်၏။

တစ်နေရာ၌ ဗုဒ္ဓသည် ဘုရားရတနာကို ရခဲကြောင်း၊ တရားတော်သိသူကို ရခဲကြောင်း၊ သိသည့်အတိုင်း တရားတော်ကို သဘောပေါက်အောင်၊ ရှင်းလင်းအောင် ဟောတတ်သူကို ရခဲကြောင်းဖြင့် ဟောတော်မူဖူးသည်ဖြစ်ရာ တရားတော်ကို သဘောပေါက်အောင် ဟောစွမ်းနိုင်သူပေါ်ထွက်ရေးအတွက် စနစ်တကျဟောပြော တတ်အောင် သင်ကြားပို့ချ၍ ပေးတော်မူခြင်းပင်တည်း။

(အင်္ဂုတ္တိုရ်ပါဠိတော်၊ တိကနိပါတ်၊ မဟာဝဂ်၊ အညတိတ္ထိယသုတ်၊ ၁၉၉၊ ၂၀၁၊ ဆဋ္ဌမှ)

( ၄၆ )

# ပုဗ္ဗာရုံကျောင်းတော်က လှေကားထစ် ဥပမာ

"မိဂါရမာတာ" ဟူသောဝေါဟာရသည် ဝိသာခါ၏ ဂုဏ်ပုဒ် တစ်ခုဖြစ်၏။ မှန်၏။ မိဂါရသူဌေးသည် သူ့အား ဘာသာရေးနှင့် ပတ်သက်၍ မိစ္ဆာဒိဋ္ဌိမှ သမ္မာဒိဋ္ဌိဖြစ်လာအောင် ညွှန်ကြားပြသ ဩဝါဒပေးဖူးသော ကျေးဇူးတရားကို ထောက်၍ ဝိသာခါကို မိခင်အမှတ်ဖြင့် ကိုးကွယ်ခြင်းပြုထား၏။ ထို့ကြောင့် မိဂါရမာတာ=မိဂါရ သူဌေးသည် "အမိအရာ၌ ထားအပ်သော ဝိသာခါ" ဟူ၍ ဆိုစမှတ်ပြုကြကုန်သတည်း။

ဝိသာခါ ဆောက်လုပ်လှူဒါန်းသော ပုဗ္ဗာရုံကျောင်းတော်ကြီးသည် သာဝတ္ထိမြို့တော်၏ အရှေ့ဘက်၌ တည်ရှိ၏။ တည်ဆောက်ထားပုံမှာ သုတ်ပါဠိ္ဌေယျ အဋ္ဌကထာ၊ ဝါသေဋ္ဌ၊ ဘာရဒွါဇသုတ် အဖွင့်တွင် တောင်နှင့် မြောက် အလျား ရှည်သည်ဟု ဆိုပေသည်။

ကျောင်းတော်အမြင့်၊ ဓောက်ပမာဏကို ပြဆိုထားခြင်း မတွေ့ရသော်လည်း အတော်ကလေး မြင့်ပုံရသည်။ အဘယ်ကြောင့်ဆိုသော် ကျောင်းတော်၏ လှေကားသည် စာဖွဲ့ယူရသည်အထိ "ဂန္ဓဝင်ကျော်လှေကား" ဖြစ်သောကြောင့်တည်း။

ထိုမှတစ်ပါး ယနေ့ခေတ်၌ ရေပန်းစားနေသော လှေကားထစ် သင်နည်း၊ လှေကားထစ်သဖွယ် စိုက်ပျိုးနည်းစသော ဝေါဟာရများမှာ ယခုပေါ်လာသော ရွှေကြာပင်ဝေါဟာရများ မဟုတ်လေဘဲ လွန်ခဲ့သော နှစ်ပေါင်း ၂၅၀၀ ကျော် ခေတ်ကတည်းက ဖွက်ကြမ်းအောင် သုံးစွဲလာခဲ့ပြီး ဖြစ်ကြောင်းကိုလည်း သမိုင်း အထောက်အထားနှင့်တကွ ကိုးကား၍ ပြစရာ လက်ဆောင်မွန်သဖွယ် ဖြစ်နိုင် ပေသည်။

လှေကားထစ် သမိုင်းကြောင်းကား ဤသို့ ဖြစ်ပါသတည်း။

စပယ်ဦးစာပေ

ထိုအချိန်တွင် မြတ်စွာဘုရားသည် မိဂါရသူဌေး၏ မယ်တော် ဝိသာခါ၏ ပုဗ္ဗာရုံကျောင်းတော်၌ သီတင်းသုံးနေတော်မူ၏။ ထို သာဝတ္ထိမြို့၌ ဂဏန်းအတတ် ကျွမ်းကျင်သူ 'သင်္ချာပါရဂူ' ဆရာကြီး ဂဏကမောဂ္ဂလာန ဟူ၍ ရှိလေသတတ်။ သူသည် ဗြာဟ္မဏနွယ်ဖွား ပုဏ္ဏားမျိုးဖြစ်၍ ပညာရှိပဏ္ဍိတ်တစ်ဆူဟူ၍လည်း ထင်ရှားကျော်စောသူ ဖြစ်၏။

တစ်နေ့သောအခါ ထိုဆရာ ဗြာဟ္မဏမောဂ္ဂလာနသည် ပုဗ္ဗာရုံကျောင်းသို့ သွား၍ ဘုရားသခင်နှင့် ဝမ်းမြောက်ဖွယ်စကား၊ မှတ်လောက်သားလောက် စကားများကို ပြောဆိုပြီးနောက် ကျောင်းတော်လှေကားထိပ်တွင် ဗုဒ္ဓအား ဤစကား ကို လျှောက်ထားလေသည်။

ဗြာဟ္မဏ။ ။အရှင်ဂေါတမ၊ ဤကျောင်းတော်၏ လှေကားထစ် ဥပမာဖြင့် တပည့်တော်မေးလျှောက်ပါရစေ။ ဤပုဗ္ဗာရုံကျောင်းတော်၏ အောက်ဆုံး လှေကားထစ်တိုင်အောင်–

၁။ အစဉ်အတိုင်း သင်ကြားခြင်း၊[၁]

၂။ အစဉ်အတိုင်း ပြုလုပ်ခြင်း၊[၂]

၃။ အစဉ်အတိုင်း ကျင့်ခြင်း၊[၃]

ဤသုံးမျိုးကို တပည့်တော် တွေ့မြင်ရပါ၏။

အရှင်ဂေါတမ၊ ပုဏ္ဏားလူမျိုးတို့ ဝေဒကျမ်းများ သင်စဉ်၌လည်း အစဉ် အတိုင်း သင်ခြင်း၊ အစဉ်အတိုင်း ပြုလုပ်ခြင်း၊ အစဉ်အတိုင်း ကျင့်ခြင်းဟူသော ဤသုံးမျိုးကို တွေ့ရပါသည်။

ထိုမှ တစ်ပါးတုံလည်း အရှင်ဂေါတမ၊ လေးသည်တော်များ လောက၌ လည်း လေးအတတ်ကို သင်ကြားရာတွင် အစဉ်အတိုင်း သင်ခြင်း၊ အစဉ်အတိုင်း ပြုလုပ်ခြင်း၊ အစဉ်အတိုင်း ကျင့်ခြင်းဟု ဆိုအပ်သော ဤသုံးမျိုးကိုပင် တွေ့ရပါသည်။

အရှင်ဂေါတမ၊ ဂဏန်းအတတ်ကို တတ်ကုန်သော ဂဏန်းအတတ်ဖြင့် အသက်မွေးကြကုန်သော အကျွန်ုပ်တို့ ရေတွက်ကြရာ၌လည်း အစဉ်အတိုင်း သင်ခြင်း၊ အစဉ်အတိုင်း ပြုလုပ်ခြင်း၊ အစဉ် အတိုင်း ကျင့်ခြင်းဟု ဆိုအပ်သော ဤသုံးမျိုးကိုပင် တွေ့ရပြန်ပါသည်။

အရှင်ဂေါတမ၊ ထင်ရှားအောင် လျှောက်ပါအံ့။ အကျွန်ုပ်တို့သည် ပညာသင် တပည့်များအား ရှေးဦးစွာ–

တစ် တစ်လီ တစ်။

နှစ် နှစ်လီ လေး။

---

၁။ အနုပုဗ္ဗသိက္ခာ၊ ၂။ အနုပုဗ္ဗကိရိယာ၊ ၃။ အနုပုဗ္ဗပဋိပဒါ။ (ဥပရိပဏ္ဏာသပါဠိ။ ၅၃)

သုံး သုံးလီ ကိုး။
လေး လေးလီ တစ်ဆယ့်ခြောက်။
ငါး ငါးလီ နှစ်ဆယ့်ငါး။
ခြောက် ခြောက်လီ သုံးဆယ့်ခြောက်။
ခုနစ် ခုနစ်လီ လေးဆယ့်ကိုး။
ရှစ် ရှစ်လီ ခြောက်ဆယ့်လေး။
ကိုး ကိုးလီ ရှစ်ဆယ့်တစ်။
တစ်ဆယ် ဆယ်လီ တစ်ရာ။

ဟူ၍ ဤသို့ ရေတွက်စေကြပါကုန်သည်။ အရှင်ဂေါတမ၊ တစ်ရာကိုလည်းကောင်း၊ တစ်ရာထက် အလွန်ကိုသော်လည်းကောင်း ရေတွက်စေကြပါကုန်သည်။

အရှင်ဂေါတမ၊ ဓမ္မဝိနယ ဖြစ်သော အရှင်ဂေါတမ၏ သာသနာ၌လည်း ဤနည်းတူ အစဉ်အတိုင်း သင်ခြင်း၊ အစဉ်အတိုင်း ပြုလုပ်ခြင်း၊ အစဉ်အတိုင်း ကျင့်ခြင်းများကို ပညတ်ခြင်းငှာ စွမ်းနိုင်ပါသလား ဟူ၍ လျှောက်လေ၏။

မောဂ္ဂလာန ပုဏ္ဏားသည် လောကီထိစ်နည်းကို အလွန် စိတ်ဝင်စား၍ မေးလျှောက်ခြင်းဖြစ်ဟန် တူ၏။ စိတ်ဝင်းစားမည်ဆိုကလည်း ဝင်စားထိုက်ပေသည်။ ဤနည်းသည် နောက်ပေါ် ရွှေကြာပင်နည်း မဟုတ်ကြောင်းကိုလည်း ထောက်ကွက် အမျိုးမျိုးပြကာ ပြကာနှင့် လျှောက်ထားချက်များအရ ထင်ရှားပေသည်။

ထိုအမေးကို ဗုဒ္ဓက မည်သို့ဖြေတော်မူသည် ထင်သနည်း။

ဗုဒ္ဓ။ ။ အချင်းမောဂ္ဂလာန၊ တရားသဖြင့် ဆုံးမရာဖြစ်သော ဤငါဘုရား သာသနာ၌လည်း–

(၁) အစဉ်အတိုင်း သင်ခြင်း။ (အနုပုဗ္ဗသိက္ခာ)
(၂) အစဉ်အတိုင်း ပြုခြင်း။ (အနုပုဗ္ဗကိရိယာ)
(၃) အစဉ်အတိုင်း ကျင့်ခြင်း။ (အနုပုဗ္ဗပဋိပဒါ)

ဤသုံးမျိုးကို ပညတ်နိုင်စွမ်း ရှိပေ၏။

အချင်းမောဂ္ဂလာန၊ ဥပမာဖြင့် ငါပြအံ့။ မြင်းကို ဆုံးမခြင်းအတတ်၌ ကျွမ်းကျင်လိမ္မာသော မြင်းဆရာသည် အာဇာနည်မြင်းကောင်းတစ်ကောင်ကို ရလေသည်ရှိသော် ရှေးဦးမဆွ မြင်းထက်၌ပြုဖွယ်ကိစ္စများကို ပြုစေ၏။ ထိုမှတစ်ပါး အဆင့်ဆင့်ပြုဖွယ်ကိစ္စများကို ပြုစေ၏။

ထို့အတူလျှင် ငါသည်တို့လည်း ဆုံးမထိုက်သူကို ရလတ်သော် ရှေးဦးစွာ ဤသို့ဆုံးမပေ၏။ ချစ်တပည့်ရဟန်း၊ ငါ့ထံလာလော့။ သီလရှိသူ ဖြစ်လော့။ ပါတိမောက္ခ သံဝရသီလကို စောင့်ထိန်းသူဖြစ်လျက် အကျင့်၊ ဂေါစရဂါမ်နှင့်

ပြည့်စုံသူ ဖြစ်လျက်နေလော့။ မပြောပဖွယ်အနည်းငယ်သော အပြစ်ပင်ဖြစ်စေဦးတော့ ဘေးဟု ရှု၍ ကျင့်လော့။ ဝိနည်းသိက္ခာပုဒ်တို့၌ လုံခြုံအောင် ဆောက်တည်၍ ကျင့်လော့ဟူ၍ ရှေးဦးမဆွ ငါဆုံးမပေ၏။

အချင်း မောဂ္ဂလာန်၊ အကြင်ရဟန်းသည် ငါဆုံးမသည့်အတိုင်း ကျင့်ပေ၏။ ထိုရဟန်းကို ထိုထက်အလွန် ငါဆုံးမပြန်၏။ ချစ်တပည့်ရဟန်း၊ ငါ့ထံလာလော့။ ဣန္ဒြေတို့၌ တံခါးမရှိ၊ ဓားမရှိ မဖြစ်စေလင့်။ တံခါးပေါက်များကို လုံအောင် စောင့်လော့။ ဆို့ပိတ်ခြင်းပြုလော့။ မျက်စိဖြင့် ရူပါရုံကို မြင်လတ်သော် 'သည်ဟာ ယောကျာ်း၊ သည်ဟာ မိန်းမ' ဟူ၍ အမှတ်မထားလေနှင့်။ ပြောပုံဆိုပုံ အမူအရာ စသည်ကို မှတ်မှတ်သားသား စိတ်မဝင်စားလေနှင့်။ စက္ခုန္ဒြေကို မစောင့်စည်းလေဘဲ နာဖားကြိုး ကျွတ်လွတ်၍ထားသော ထိုရဟန်းအား ဘိဇ္ဈာ၊ ဒေါမနဿဟု ဆိုအပ်သော အကုသိုလ်အယုတ်တရားတို့သည် စုပြုံအုံခဲ၍ လာတတ်ကုန်၏။ ထိုစက္ခုန္ဒြေကို ကြပ်ကြပ်စောင့်စည်းလော့။ စက္ခုန္ဒြေ၌ စောင့်စည်းခြင်းသို့ ရောက်လော့။

| | | |
|---|---|---|
| နားဖြင့် | သဒ္ဒါရုံကို | ကြားလတ်သော်လည်းကောင်း |
| နှာခေါင်းဖြင့် | ဂန္ဓာရုံကို | နံလတ်သော်လည်းကောင်း |
| လျှာဖြင့် | အရသာကို | လျက်လတ်သော်လည်းကောင်း |
| ကိုယ်ဖြင့် | ဖောဋ္ဌဗ္ဗရုံကို | ထိတွေ့လတ်သော်လည်းကောင်း |
| စိတ်ဖြင့် | ဓမ္မာရုံကို | သိလတ်သော်လည်းကောင်း |

နိမိတ်ကို မယူလေနှင့်။ အသေးစိတ်မှတ်သား၍ စိတ်မဝင်စားလေနှင့်။ မနိန္ဒြေကို စောင့်စည်းခြင်းမရှိသော ထိုရဟန်းအား ထိုသို့ မစောင့်စည်းမှုကို အကြောင်းပြု၍ အဘိဇ္ဈာ၊ ဒေါမနဿ၊ ပါပညစ်ကျူ၊ အကုသိုလ်အထုတို့သည် စုပြုံအုံခဲ၍ လိုက်လာတတ်ကုန်၏။ ထိုမနိန္ဒြေကို စောင့်စည်းခြင်း၌ ကျင့်လော့။ မနိန္ဒြေကို စောင့်စည်းခြင်းသို့ရောက်လော့ဟူ၍ ငါဆုံးမတော်မူ၏။

အချင်း မောဂ္ဂလာန၊ အကြင်ရဟန်းသည် ငါ့စကားကိုနာယူ၍ ဣန္ဒြေတို့ကို စောင့်စည်း၏။ ဆို့ပိတ်ခြင်းကို ပြု၏။ ထိုရဟန်းကို ထို့ထက်အလွန် ငါဆုံးမပြန်ပေ၏။ ချစ်တပည့်ရဟန်း ငါ့ထံလာလှည့်။ စားသောက်ရာ၌ အတိုင်းအတာ ပမာဏကို သိလော့။ သင့်လျော်အောင် နှလုံးဆင်ခြင်၍ အစားအစာကို စားလော့။ မြူးထူးလိုခြင်းငှာ ငါစားသည် မဟုတ်။ အားခွန်ဗလတောင့်တင်း ဆူဖြိုးခြင်းငှာ ငါစားသည် မဟုတ်။ အင်္ဂါကြီးငယ် လှပတင့်တယ်စေခြင်းငှာ ငါစားသည် မဟုတ်။ အသားအရေစိုပြည်၍ တသွေးတမွေး လှပစေခြင်းငှာ ငါစားသည်မဟုတ်။ ဤခန္ဓာကိုယ်ကာယ တည်ပါစေခြင်းအကျိုးငှာ၊ မျှတစေခြင်းငှာ၊ ပင်ပန်းစေခြင်းကို ဖြေဖျောက်စေခြင်းငှာ၊ မြတ်သောအကျင့်ကို ချီးမြှောက်ခြင်းငှာ သုံးဆောင်ခြင်း

ဖြစ်သည်။ ဤသို့ သုံးဆောင်ခြင်းအားဖြင့် အဟောင်းဖြစ်သော ဝေဒနာကို ပယ်ဖျက် ဟန့်တားနိုင်လေအံ့။ ဝေဒနာအသစ်လည်း နောက်ထပ်ဖြစ်မလာနိုင် ဖြစ်လေအံ့။ ငါ့အား မျှတခြင်းသည်လည်းကောင်း၊ အပြစ်မရှိသည်လည်းကောင်း၊ ချမ်းသာစွာနေရခြင်းသည်လည်းကောင်း ဖြစ်လတ္တံ့။ ဤသို့ အသင့်အားဖြင့် နှလုံးသွင်း၍ စားလေလော့ဟု ငါဆုံးမတော်မူ၏။

အချင်း မောဂ္ဂလာန၊ အကြင်ရဟန်းသည် ငါ၏ဩဝါဒအတိုင်း လိုက်နာ၍ အစားအသောက်နှင့် ပတ်သက်ရာ၌ အတိုင်းအတာ ပမာဏကို သိ၏။ ထိုရဟန်းကို တစ်ဖန် ထိုထက်အလွန် ငါဆုံးမပြန်လေ၏။ ချစ်တပည့်ရဟန်း၊ လာလော့။ တက်တက်ကြွကြွ၊ နိုးနိုးကြားကြားရှိသည်ဖြစ်၍ နေလော့။ နေ့အခါ စင်္ကြံသွားခြင်းဖြင့် လည်းကောင်း၊ ထိုင်နေခြင်းဖြင့် လည်းကောင်း၊ ကုသိုလ်တရားတို့ကို ဆို့ပိတ် ဟန့်တားတတ်ကုန်သော တရားတို့မှ မိမိ၏စိတ်ကို ဖြူစင်အောင်ပြုလော့။ သုတ်သင် လော့။ ညဉ့်ဦးယံကာလပတ်လုံး သန်းခေါင်ယံ ကာလပတ်လုံး၊ လက်ယာခြေ၌ လက်ဝဲခြေကို အနည်းငယ်လွန်ထားလျက် သတိမလွတ်စေဘဲ ဆင်ခြင်တုံတရားနှင့် ပြည့်စုံသည်ဖြစ်၍ ထမည်ဟူသော သညာကို နှလုံးသွင်းလျက် လက်ယာနံတောင်းဖြင့် လျောင်း၍ ခြင်္သေ့မင်း၏ အိပ်ခြင်းနှင့်တူသော အိပ်ခြင်းဖြင့် အိပ်လော့။ မိုးသောက်ယံ၌ စောစောထပြီးလျှင် စင်္ကြံသွားခြင်းဖြင့်လည်းကောင်း၊ ထိုင်နေခြင်းဖြင့်လည်းကောင်း၊ ကုသိုလ်ကို ဆို့ပိတ်ဟန့်တားတတ်သော တရားတို့မှ စိတ်ကို ဖြူစင်အောင်ပြုလော့။ သုတ်သင်လော့ဟု ငါဆုံးမတော်မူ၏။

အချင်း မောဂ္ဂလာန၊ အကြင်ရဟန်းသည် ငါ၏ ဩဝါဒကို ဦးလည်မသုန် လိုက်နာလျက် တက်ကြွနိုးကြားသူ ရဟန်းကောင်း ဖြစ်လာ၏။ ထိုရဟန်းကို တစ်ဖန် ငါသည် ထို့ထက်အလွန် ဆုံးမပြန်ပေ၏။ ချစ်သားရဟန်း လာလော့။ သတိသမ္ပဇဉ်နှင့် ပြည့်စုံသည် ဖြစ်လော့။ ရှေ့သို့သွားရာ၌ ဖြစ်စေ၊ နောက်သို့ ဆုတ်ရာ၌ ဖြစ်စေ၊ အသိဉာဏ်နှင့် ယှဉ်၍ ပြုလေ့ရှိသည် ဖြစ်လော့။ ရှေ့ရှုတည့်တည့် ကြည့်ရာ၌လည်းကောင်း၊ စောင်းငဲ့၍ ကြည့်ရာ၌လည်းကောင်း၊ အသိဉာဏ်နှင့် ယှဉ်၍ကြည့်လော့။ လက်ကို ကွေးဆန့်ရာ၌လည်းကောင်း၊ ဒုကုဋ်၊ သပိတ်၊ သင်္ကန်းဆောင်ရာ၌လည်းကောင်း အသိဉာဏ်နှင့် ယှဉ်၍ ပြုလော့။ ကျင်ကြီး၊ ကျင်ငယ်စွန့်ရာ၌လည်းကောင်း၊ သွားရာ၊ ရပ်ရာ၊ ထိုင်ရာ၊ အိပ်ရာ၊ နိုးရာ၊ စကားပြောရာ၊ ဆိတ်ဆိတ်နေရာတို့၌ အသိဉာဏ်နှင့် ယှဉ်၍ ပြုလော့ဟူ၍ ငါသည် ငါ့တပည့်အား ပြောပုံဆိုပုံကအစ၊ သွားပုံ လာပုံက အစ၊ ချေးယို သေးပေါက်ပုံက အစ မလစ်လပ်ရအောင် ငါဆုံးမတော်မူ၏။

အချင်း မောဂ္ဂလာန၊ အကြင်ရဟန်းသည် ငါ့ကြောင့် တည်၍ သတိသမ္ပဇဉ် ရှိသူဖြစ်လာ၏။ ထိုရဟန်းကို ငါသည် ထို့ထက်အလွန်ဆုံးမပြန်ပေ၏။ ချစ်တပည့်ရဟန်း၊ လာလော့။ လူသူတိတ်ဆိတ်သည့် သစ်ပင်ရိပ်သို့ ချဉ်းကပ်လော့။ တောသို့လည်းကောင်း၊ သစ်ပင်အောက်သို့ လည်းကောင်း၊ တောင်သို့လည်းကောင်း၊ မြောက်သို့ လည်းကောင်း၊ ဥမင်လိုဏ်ခေါင်း၊ သုသာန်၊ တောစိုးသစ်ပင်၊ လွင်တီးခေါင်၊ ကောက်ရိုးပုံသို့ ချဉ်းကပ်လော့ဟု ငါဆုံးမ၏။

ထိုငါ့တပည့်ရဟန်းသည် ငါ့စကားကို နာယူကာ ဆိတ်ငြိမ်ရာအရပ်သို့ ချဉ်းကပ်လေသည်။ ဆွမ်းခံရာမှ ပြန်လာသောအခါ သစ်တစ်ပင်ရင်း၊ ဝါးတစ်ပင် အောက် ဖင်ပျဉ်ခွေထိုင်လျက် ကမ္မဋ္ဌာန်းသို့ရှေးရှု သတိကို ဖြစ်စေ၍ နေ၏။ ထိုရဟန်းသည် စိတ်ကို အစွမ်းကုန်ဖြူစင်အောင် သုတ်သင်၏။

အချင်း မောဂ္ဂလာန၊ သေက္ခပုဂ္ဂိုလ်တို့သည် မရောက်သေးသော အရဟတ္တဖိုလ်ရှိကုန်သည်ဖြစ်၍ အတုမရှိသော ယောဂလေးပါးတို့၏ ကုန်ရာ အရဟတ္တဖိုလ်ကို တောင့်တကြလျက် နေကုန်၏။ ထိုရဟန်းတို့၌ ဤသို့ သဘောရှိသော ငါ့အဆုံးအမတော်သည် ဖြစ်တည်ခဲ့လေပြီ။ အကြင်ရဟန်းတို့သည် ရဟန္တာဖြစ်ကုန်၏။ ကုန်ပြီးသော အာသဝေါ ရှိကုန်၏။ ကျင့်သုံးအပ်ပြီးသော ၁၆ ချက် မဂ်ကိစ္စ ရှိကုန်၏။ ခန္ဓာ၏ ကိလေသာ ဝန်ထုပ်ကြီးကို ချပြီးဖြစ်ကုန်၏။ ရောက်အပ်ပြီးသော အရဟတ္တဖိုလ်ဟူသော အကျိုးရှိကုန်၏။ ကုန်ပြီးသော ဘဝသံယောဇဉ် ရှိကုန်၏။ ကောင်းစွာသိ၍ ကိလေသာတို့မှ ကျွတ်လွတ်ပြီး ဖြစ်ကုန်၏။ ဤရဟန်းတို့ အတွက် ဤငါဟောအပ်သော တရားတို့သည် မျက်မှောက်ဘဝ၌ ချမ်းသာစွာ နေရခြင်း အကျိုးငှာလည်းကောင်း၊ သတိသမ္ပဇဉ် အကျိုးငှာလည်းကောင်းဖြစ်ကုန်၏ ဟူ၍ မိန့်တော်မူ၏။

ဤသို့ လေ့ကားထစ်သဖွယ် အစဉ်အတိုင်းသင်ကြားပုံ၊ အစဉ်အတိုင်း ပြုပုံ၊ အစဉ်အတိုင်း ကျင့်ပုံများကို မြွက်ကြားလေသောအခါ အနှုပ်ရဂ္ဂ တစ်ဆူဖြစ်သော ဂဏကမောဂ္ဂလာန ပုဏ္ဏားသည် ဘုရားသခင်အား ဤစကားကို မေးလျှောက်ဖြစ်လေသတည်း။

ဗြာဟ္မဏ။ ။အရှင်ဂေါတမ၊ အရှင်ဂေါတမ၏ တပည့် သာဝကတို့သည် ဤသို့လျှင် နှုတ်တော်တွတ်တွတ်ဖြင့် အရှင်ဂေါတမက ဟောကြားတော်မူအပ်ကုန်သည်ရှိသော် တပည့်သာဝက အားလုံးရှိတို့သည် စင်စစ် ဆင်းရဲခပ်သိမ်းတို့မှ လွတ်ငြိမ်းရာဖြစ်သော နိဗ္ဗာန်ကိစ္စကို ပြီးစေနိုင်ပါကုန်သလော၊ သို့မဟုတ် အချို့ အဝတ်သော ရဟန်းတို့သာ ပြီးစေနိုင်ပါကုန်သလော။

စပယ်ဦးစာပေ

ဗုဒ္ဓ။ ။အချင်း မောဂ္ဂလာန်၊ ငါ့ တပည့်သာဝက များစွာတို့အနက် အချို့တို့သာ နိဗ္ဗာန်ကိစ္စကို ပြီးစေနိုင်ကုန်သည်။ အချို့တို့ကား မပြီးစေနိုင်ကြ ရှာကုန်သေး။

ဗြာဟ္မဏ။ ။အရှင်ဂေါတမ၊ နိဗ္ဗာန်သည်လည်း ထင်ရှားအရှိသား။ နိဗ္ဗာန်သို့သွားရာလမ်းသည်လည်း ဖြူးဖြူးဖြောင့်ဖြောင့် အဖွေးသား။ နည်းပေး လမ်းညွှန် ပြုလုပ်သူဆရာသည်လည်း အရှင်ဂေါတမ အထင်အရှား အရှိသား ဖြစ်ပါလျက် အရှင်ဂေါတမ၏ တပည့်တို့သည် ဘောက်မဲ့ကြောင့် နိဗ္ဗာန်ကိစ္စကို မပြီးစေနိုင်ကြကုန်သနည်း။ ထိုအကြောင်းကား မည်သို့ပါနည်းဟူ၍ မေးလျှောက်ခြင်း ပြုလေ၏။

ဗုဒ္ဓ။ ။အချင်းမောဂ္ဂလာန၊ သို့ဖြစ်ဘိသော် ဤပြဿနာအရာ၌ သင့်ကိုပင် ငါပြန်၍ မေးဦးမည်။ သင် ချမ်းသာသလို ဖြေပါလေ။ အချင်း ဗြာဟ္မဏ၊ ငါဆိုမည့်စကားကို သင် မည်သို့ထင်သနည်း။ သင်သည် ရာဇဂြိုဟ်သို့ သွားရာလမ်းကို သိသည် မဟုတ်ပါလော။

ဗြာဟ္မဏ။ ။သိကြောင်းမှပါ့ အရှင်ဂေါတမ။

ဗုဒ္ဓ။ ။အချင်း ဗြာဟ္မဏ၊ ငါ့ စကားကို မည်သို့ သင် ထင်သနည်း။ ရာဇဂြိုဟ်သို့ သွားလိုသူတစ်ယောက် သင့်ထံသို့ လာမေးသည်ဆိုပါတော့။ "အရှင်၊ ကျွန်ုပ် ရာဇဂြိုဟ်သွားလိုပါ၏။ ရာဇဂြိုဟ် သွားရာလမ်းကို ညွှန်ကြားတော်မူပါ"ဟု မေးလာခဲ့သော ထိုသူအား သင် မည်သို့ပြောမည်နည်း။

ဗြာဟ္မဏ။ ။အရှင်ဂေါတမ၊ ထိုသူအား 'အမောင်ယောကျ်ား၊ ဤလမ်းကား ရာဇဂြိုဟ်သွားရာလမ်းတည်း။ ထိုလမ်းအတိုင်း ခေတ္တရွေ့လျှောက်သွား၊ ခေတ္တ သွားမိသောအခါ ညို့ညို့မှိုင်းမှိုင်းနှင့် နိဂုံးကြီးကို လှမ်းမြင်လိမ့်မည်။ ထိုနိဂုံးလမ်း အတိုင်း တစ်မုဟုတ်လောက်သွား။ ခဏသွားမိသော် စေတီပုထိုး၊ ဘုရားတန်ဆောင်း၊ ကျောင်းကန်တို့ဖြင့်လည်းကောင်း၊ ဥယျာဉ်မန်းမန်တို့ဖြင့်လည်းကောင်း ရှုမငြီး ဖွယ်ရာ အလွန်တင့်တယ်သော ရာဇဂြိုဟ်မြို့တော်ကြီးကို လှမ်းမြင်ရလိမ့်အံ့' ဤသို့ ညွှန်ကြားမည် ဖြစ်ပါသည် အရှင်ဂေါတမ။

ဗုဒ္ဓ။ ။အချင်း ဗြာဟ္မဏ၊ ထိုခရီးသွားယောကျ်ားသည် သင့်က ဤသို့ ညွှန်ကြားလိုက်သော်လည်း ညွှန်သောအတိုင်း မသွားလေဘဲ လမ်းမှားကို ယူလျက် နောက်ပြန်သွားရာ၏။ ထို့နောက် ရာဇဂြိုဟ်သို့ သွားလိုသူနောက်တစ်ယောက် ကလည်း ရှေးနည်းတူလမ်း မေးလာသောအခါ သင်ကလည်း ယခင်နည်းအတိုင်း လမ်းညွှန်ရာ၏။ ထိုသူသည်ကား သင်ညွှန်ကြားချက်အတိုင်း သွားလေသော် ရာဇဂြိုဟ်သို့ ကောင်းမွန် ချောမောစွာ ရောက်သွားလေ၏။

အချင်း ဗြာဟ္မဏ၊ အကြောင်း အသို့ပါနည်း။ ရာဇဂြိုဟ်မြို့တော်သည်လည်း ထင်ရှားအရှိသား။ ရာဇဂြိုဟ် သွားရာလမ်းသည် ဖြူးဖြူးဖြောင့်ဖြောင့် အဖွေးသား။ လမ်းညွှန်သူလည်း သင်ကိုယ်တိုင် ထင်ထင်ရှားရှား အထင်းသား ရှိပါလျက်နှင့် သင်ညွှန်ကြား လွှတ်လိုက်သော ခရီးသွားနှစ်ယောက်အနက် တစ်ယောက်သူမှာ မရောက်လေဘဲ တစ်ယောက်တည်းသာ ဘောက်မဲ့ကြောင့် ရောက်လေသနည်း မေးတော်မူ၏။

ဗြာဟ္မဏ။ ။ အရှင်ဂေါတမ၊ ဤသို့လမ်းမှန်၊ လမ်းမှားသွားကြရာ၌ အကျွန်ုပ် မည်သို့တတ်နိုင်ပါမည်နည်း။ အကျွန်ုပ်ကား ခရီးညွှန်သူမျှသာ အရှင်ဂေါတမ။

(၁) နိဗ္ဗာန်လည်း ရှိလျက်သား၊

(၂) နိဗ္ဗာန်သွားရာလမ်းလည်း ရှိလျက်သား၊

(၃) နိဗ္ဗာန်လမ်းညွှန်သူလည်း ရှိလျက်သားနှင့်၊

ဗုဒ္ဓ။ ။ အချင်းဗြာဟ္မဏ၊ ဤဥပမာအတိုင်းသာပင်-

ငါ့တပည့် သာဝကတို့သည် ဤသို့ ငါတတွတ်တွတ် ဆုံးမအပ်ကုန် သော်လည်း အချို့တို့သာ နိဗ္ဗာန်ကိစ္စ ပြီးစေကုန်သည်။ အချို့တို့ကား မပြီးစေကုန်။ အချင်းဗြာဟ္မဏ၊ ဤနိဗ္ဗာန်ကိစ္စ ပြီးမပြီး၊ ပြဿနာ၌ ငါအသို့ တတ်နိုင်ပါချိမ့်နည်း။ ငါကား သင်ကဲ့သို့ပင် လမ်းညွှန်သူသာ ဖြစ်ချေသည် ရမ့်ဟူ၍ ဆိုတော်မူ၏။

ထိုသို့ မိန့်တော်မူလတ်သော် ဂဏကမောဂ္ဂလာန ပုဏ္ဏားသည် ဗုဒ္ဓ မြတ်ဘုရားအား ဤသို့ လျှောက်ထားလေသတည်း။

ဗြာဟ္မဏ။ ။အရှင်ဂေါတမ၊ အကြင်သူတို့သည် သဒ္ဓါတရား လုံးဝ မရှိကုန်ဘဲလျက် အသက်မွေးမှု ချောင်လည်သောကြောင့် ရဟန်းပြုကုန်၏။ သဒ္ဓါရှိကုန်သည်ဖြစ်၍ လူ့အိမ်ဖြစ်ကို စွန့်ကာ ရဟန်းပြုကြသည် မဟုတ်ကြကုန်။ ကောက်ကျစ်ကုန်၏။ လှည့်ပတ်ခြင်း ရှိကုန်၏။ ပျံ့လွင့်ကုန်၏။ ထောင်လွှားသော မာနရှိကုန်၏။ လျှပ်ပေါ် လော်လီကုန်၏။ နှုတ်၊ အာကြမ်းကုန်၏။ စကားဖွာ ကုန်၏။ ဣန္ဒြေတို့၌ စောင့်စည်းအပ်သော တံခါးမရှိ။ ဟင်းလင်းပွင့်ကုန်၏။ အစားအစာ၌ ပမာဏ မသိကြကုန်။ နိုးကြားမှု မရှိကုန်။ ရဟန်းကျင့်ဝတ် သိက္ခာ ပုဒ်များကို ငဲ့ကွက်ခြင်း မရှိကုန်။ အကျင့်သိက္ခာ၌ ထက်မြက်စွာ ရိုသေလေးစားခြင်း မရှိကုန်။ လာဘ်လာဘများအောင် အားထုတ်ကြကုန်၏။ သာသနာ့အယူကို ခပ်ပေါ့ပေါ့ဆဆ ယူကုန်၏။ လုံ့လဝီရိယမှ ဆုတ်ယုတ်ကုန်၏။ သတိမေ့လျော့

ပေါ့ပေါ့တန်တန် နေကုန်၏။ ဆင်ခြင်တုံတရားရှိသူများ မဟုတ်ကုန်။ တည်ကြည်စိတ် မရှိကုန်။ ပညာမဲ့ကုန်၏ တံတွေးယိုသော ခံတွင်းရှိကုန်၏။ အရှင်ဂေါတမသည် ထိုသို့သော အကျင့်ပျက် သိက္ခာမဲ့ ရဟန်းတို့နှင့် အတူမပေါင်းဖော်ခဲ့။ သဒ္ဓါပဗ္ဗဇိတ ရဟန်းတို့နှင့် အတူတကွ အရှင်ဂေါတမ ပေါင်းဖော်တော်မူ၏။

အရှင်ဂေါတမ၊ ဥပမာတစ်ခု ဆောင်ပြပါရစေ။ ခွင့်ပြုတော်မူပါ။

(၁) အမြစ် နံ့သာတို့တွင် ကရမတ်ကို အမြတ်ဆုံးဟု ဆိုအပ်ပါသည်။

(၂) အနှစ် နံ့သာတို့တွင် စန္ဒကူးနီကို အမြတ်ဆုံးဟု ဆိုအပ်ပါသည်။

(၃) ပန်းတကာတို့တွင် မြတ်လေးပန်းကို အမြတ်ဆုံးဟုဆိုအပ်ပါသည်။

(၄) ယခု လက်ရှိတရားထူးတို့တွင် အရှင်ဂေါတမ၏ ဩဝါဒကို အမြတ်ဆုံးဟု ဆိုအပ်ပါသည်။

အရှင်ဂေါတမ၊ အလွန်နှစ်သက်ဖွယ် ကောင်းပါပေစွ။ အလွန် နှစ်သက်ဖွယ် ကောင်းပါပေစွ။ အရှင်ဂေါတမ၊ မှောက်ထားသောအိုးကို လှန်၍ ပြဘိသကဲ့သို့၊ ဖုံးထားသော အရာဝတ္ထုကို ဖွင့်၍ ပြဘိသကဲ့သို့၊ အမှောင်ခန်းမကြီးအတွင်း မီးထွန်း၍ ပြဘိသကဲ့သို့၊ ထို့အတူ အရှင်ဂေါတမသည် ပရိယာယ် အသွယ်သွယ်တို့ဖြင့် ကျွန်ုပ်အား တရားပြအပ်ပါပြီ။ ထိုအကျွန်ုပ်သည် ဘုရား၊ တရား၊ သံဃာ ရတနာ သုံးပါးအား ဆည်းကပ်တတ်သော ဒါယကာဟု ယနေ့မှစ၍ အသက်ထက်ဆုံး အကျွန်ုပ်ကို မှတ်တော်မူပါဟူ၍ လျှောက်လေပြီတည်း။

(ဥပရိပဏ္ဏာသပါဠိတော်၊ ဒေဝဒဟဝဂ်၊ ဂဏကမောဂ္ဂလာနသုတ်၊ ၅၂၊ ဆဋ္ဌမှ)

ဒဂုန် ဦးစန်းငွေ